၀၁၄၃၉





နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ လစဉ်ထုတ်ဝေသည်

၁၃၁၅-ခု နှစ်ဆန်း ၁-ရက် (၁၆-၄-၅၃) အတွဲ-၁ အမှတ်-၁


# ဆဋ္ဌသံဂါယနာနှင့်ကမ္ဘောဒီးယားသာသနာပိုင်

## လူဦးရေငါးသန်းတွင်ရဟန်းတော်ဦးရေလေးသောင်းရှိသောနိုင်ငံ

### မြန်မာနိုင်ငံမှာကဲ့သို့အစိုးရအဖွဲ့၌သာသနာရေးဝန်ကြီးဌာနဟုရှိခြင်း

ထွဲပေ့အမေးများ၊

သံဂါယနာ ကိစ္စကို အကြောင်း ပြု၍ကမ္ဘောဒီးယားပြည်မှ သာသနာ ပိုင် ဆရာတော်ကြီးကိုယ်တိုင် မြန် မာနိုင်ငံသို့ ကြွလာရာဝယ် ကြိုဆို ဘည့်လည် ပွဲများ ပူဇော် ပွဲများ ဆွေးနွေး ပွဲများ ပြု ကြောင်းကို သတင်းစာများမှ ဖော်ပြကြ၏၊ အ သံလွှင့်ဌာနမှလည်း သတင်း ဖွင့် ခဲ့၏၊

၎င်းတွင် ကမ္ဘောဒီးသား ဆိုတာ ဘယ်ကလဲ အိန္ဒိယကလားဟု မေး သူတို့ကလည်းမေးကြသည်၊ကမ္ဘော ဒီးယားဟာဗမာလို တတ်သလား? သူတို့ဘိုင်းဖြည်မှာ ပိဋကတ် ၃-ပုံ ကိုဗမာလို ရေးထားသလား? ပါဠိ လိုရေးထားသလား? ဟုလည်း အ ချို့ကမေးကြသည်၊ကမ္ဘောဒီးယား ဘုန်းကြီး တွေဟာ ရှမ်းဘုန်းကြီး များလို အိမ်ထောင် ပြုကြတယ် မဟုတ်လား၊ညစာစားကြတယ် မ ဟုတ်လား ဟုလည်းအချို့ကမေး ကြသည်၊

နိုင်ငံချင်းလည်းများစွာမဝေးလှ မျိုးရေးအဆက် အနွယ်ချင်းလည်း များစွာမကွာဘာသာချင်းလည်းတူ ရှေးမှ ရာဇဝင်ချင်းလည်း အဆက် အနွယ်များစွာရှိခဲ့ပါလျက် ၎င်းကဲ့ သို့ထွဲပေ့ချော်ပေ့ဆိုသောမေးခွန်း များကို မေးကြသည့်အတွက် ဝမ်း နည်းဖွယ် ကောင်းလှ တော့သည်၊ ထို့ကြောင့် ကမ္ဘောဒီးယားပြည်အ ကြောင်းကို (အကြမ်းအားဖြင့် အ မြွက်မျှ)ဖော်ပြပါအံ့၊

မြန်မာကပိုင်ခဲ့ဘူးပုံ

တန်ခိုးကြီးသော ပုဂံဘုရင်တို့ သည်၎င်း, ဟံသာဝတီဘုရင့်နောင် နှင့် ညောင်ရမ်းဆက် ဘုရင် တို့ သည်၎င်း,သံလွင်မြစ်အရှေ့ဘက်ရှိ ကမ္ဘောဒီးယားနိုင်ငံနှင့်တကွအခြား နိုင်ငံများကိုပါ စိုး ပိုင်ခဲ့ကြသည်ဖြင့် သာသနာပြုတော်မူခဲ့ကြကုန်၏၊

ပြင်သစ်အင်ဒိုချိုင်းနား

တရုပ်ပြည်နှင့်ဗြိတိသျှဗမာပြည်တို့၏ အကြား(အာရှအရှေ့ တောင်ပိုင်း) ရှိ နိုင်ငံတို့တွင် ပြင်သစ်ပိုင် နိုင်ငံ များကိုပြင်သစ်အင်ဒိုချိုင်းနားပြည် ထောင်ဟု ခေါ်ကြလေသည်၊

တိုင်ပြည်အနေအထား

ယခုအခါ ကမ္ဘောဒီးယားသည် ပြင်သစ်ပြည်ထောင်စုနှင့် တွဲလျက် လွတ်လပ်သော ပြည် တပြည် ဖြစ်

မင်္ဂလာဒုံလေဆိပ်တွင် သာသနာပိုင်နှင့်ဥက္ကဋ္ဌကြီး ဆာ ဦးသွင်




တစောင် ၂၅ပြား

ပေ၏၊ ကမ္ဘောဒီးယား၏အရှေ့ဘက်၌ (၁)အနမ်းပြည် Annam ပြည်ရှိ၏၊ (၂) တောင်ဘက်နှင့် အရှေ့တောင်ဘက်၌ ကိုချင်ချိုင်းနားပြည်ရှိ၏(၃)အနောက်ဘက်၌ယိုးဒယားပြည်ရှိ၏၊(၄)မြောက်ဘက်၌ လာဝိုစ် Taos ပြည်ရှိ၏၊

(လာဝိုစ့်ကိုရှေးမြန်မာဘိုးဘွားတို့က လင်းဇင်းဟုလည်းကောင်း လဝ ဟုလည်းကောင်း ခေါ်ကြသည်။ ။အယ်ဒီတာ။)

ကမ္ဘောဒီယားသည် စတုရန်းမိုင်ပေါင်း ၆၅၀၀၀ ခန့်ကျယ်ဝန်းသောပြည်ငယ်တခုဖြစ်၍၊မဲခေါင်း (Mekong) စသော မြစ်များ နှင့် (အရှေ့တောင်မှအနောက်မြောက်အထိ)၁၅ မိုင်မျှ ကျယ်ဝန်းသည့် လုန် လေ ဆဲ့ (Lonle Sap) စသော အိုင်ကြီးများရှိလေသည်၊

**နေထိုင်သည့်လူမျိုးများ**

ထိုပြည်၌ယခုအခါ ကမ္ဘောဒီးယားလူမျိုး,တရုပ်လူမျိုး,အနမ်းလူမျိုး, ချမ်ခေါ် စမ္ပါလူမျိုး, မလေး (ပသျှူး)လူမျိုးများ နေထိုင်လျက်ရှိကုန်၏၊ ၁၇၃၉ ခုနှစ် စာရင်းအရ လူဦးရေ ၃-သန်းကျော်ရှိသည့်အနက် ကမ္ဘောဒီးယားလူမျိုး များမှာ လေးပုံ-သုံးပုံမျှ ရှိလေသည်၊ (ယခုကြွလာသောကမ္ဘောဒီးယားသာသနာပိုင်၏ မိန့်ကြားချက်အရ ယခုအခါ လူဦးရေ ငါးသန်း ခန့် ရှိကြောင်းသိရ၏၊)

**ခမာလူမျိုးများ**

ယခု ကမ္ဘောဒီးယား လူမျိုးတို့သည်''ခမာ''လူမျိုးအနွယ်များ ဖြစ်ကြ၏၊ ခမာနှင့် မြန်မာနိုင်ငံမှ မွန်လူမျိုးများ၏ ရှေးဟောင်း အနွယ်တူကြသည်ဟု ရာဇဝင်ဆရာတို့က ဆိုကြသည်၊ ခမာတို့သည် မူလက ဟိမဝန္တာတောင်ခြေ၌ တရုပ်ပြည်ကိုဖြတ်ကာလာသူများ ဖြစ်မည်ဟု ခန့်မှန်းကြ၏၊

**စမ္ပာလူမျိုးများ**

၁၇-ရာစုနှစ်အတွင်း ကမ္ဘောဒီးယားပြည်၌စမ္ပါ (ချန်ပါ) လူမျိုးများလည်း နေထိုင်ခဲ့ကြဘူး၏၊ စမ္ပါတို့သည် ဂျာဗါးမှာဆင့် ဟိန္ဒူယဉ်ကျေးမှု များကို လက်ခံခဲ့ကြသည်၊ ကမ္ဘောဒီးယားတွင် စမ္ပါတို့ ကြီးပွားချိန်က တရုပ် လက်အောက်၌ ဖြစ်နေသော အနမ်းပြည်ကိုပင် သိမ်းပိုက်ရန်ချီတက်ခဲ့ဘူး၏၊ သို့သော်မရခဲ့ပေ၊ စမ္ပါများကိုလည်း ခမာတို့က တိုက်ထုတ်ခဲ့လေသည်၊ ကမ္ဘောဒီးယားနိုင်ငံ၌ ဗြာဟ္မဏဘာသာများ ထွန်းကားခဲ့ပုံ သက်သေအများပင် ယခုတိုင်ရှိနေရစ်၏၊ ကမ္ဘောဒီးယား၏ ရှေးဟောင်းမြို့တော်ကြီးများအနက်''အန်ကော သုမ်''မြို့သည်အလွန်ထင်ရှား၏၊ ၎င်းမြို့ဟောင်း၌ ဗုဒ္ဓဘာသာဆိုင်ရာ အဆောက်အဦဟောင်း (အထိမ်းအမှတ်ဟောင်း) အများအပြားရှိသည့်အနက် ''အန်ကောဝပ်'' ကျောင်းတော်ကြီးကို



ကမ္ဘောဒီးယားဘုရင့်နန်းတော်ကြီးနှင့် ကိုယ်ရံတော်တပ်ဖွဲ့

အချို့က ဟိန္ဒူ ဒုတ် ကျောင်းတော်ကြီးဟု ယူဆကြ၏၊အချို့က မိလိန္ဒမင်း ကောင်းမှု အရှင်နာဂသေန သီးတင်း သုံးရာ ကျောင်းတော်ကြီးဟုယူဆကြ၏၊ (နောက်အယူသည်ယုတ္တိမရှိကြောင်းကို ဤ၌အကျယ်မရေးသာပါ)

နယ်ချဲ့ ခဏ်းနှင့် ရင်ဆိုင် ရ လေတော့၏၊ နောက်ဆုံး ပြင်သစ် ကလွှမ်းမိုးသွားသဖြင့် ပြင်သစ် အင်ဒိုချိုင်းနားဟု ခေါ်ကြခြင်း ဖြစ်လေသည်၊

**ဖနွမ်းပင်မြို့တော်**

ကမ္ဘောဒီးယား၏ လက်ရှိမြို့တော်ကို ''ဖနွမ်းပင်''ဟု ခေါ်၏၊ ဘုရင်တို့သည် အတိုင်ပင်ခံအမတ်ကြီး ငါးဦးတို့နှင့်တကွ တိုင်းပြည်ကိုအုပ်ချုပ်ခဲ့ကြ၏၊

**သီပေါမင်းပါသည့်နှစ်က**

၁၈၆၃-ခုနှစ်၌ ''နရုတ်တမ်'' ဘုရင် မင်းမြတ်သည် ပြင်သစ်တို့



ဘုရင်ကိုယ်တိုင်နန်းတွင်း၌သံဃါတော်များအားအလှူပေးနေစဉ်

**ပြင်သစ်တို့လွှမ်းမိုးလာခြင်း**

ပြင်သစ်အင်ဒိုချိုင်းနား နိုင်ငံစု၌ နိုင်ငံရှိ:ချင်းအပြန်ပြန် အလှန်လှန် ဝိုလ်လုပွဲကျင်းပခဲ့ကြများ အစဉ်သတ်၌၊ ဥရောပ တိုက်သား တို့၏ ၏အလိုအတိုင်း စာချုပ်ခဲ့ရ၏။ အစတော်ကြီးများအဖွဲ့၌ ပြင်သစ် ကိုယ်စားလှယ် တဦးပါဝင်ရုံမျှမက ၎င်းပင် ဦးစီး၍အုပ်ချုပ်၏၊ မြန်မာနိုင်ငံ၌ သီပေါမင်းကို အင်္ဂလိပ်တို့ ဘမ်းချိန်တွင် ကမ္ဘောဒီးယား၌ပြင်သစ်တို့၏ဖိနှိပ်ချုပ်ချယ်မှုများကြောင့် ၁၈ လခန့်သူပုန်ထကြလေတော့၏၊ပြင်သစ် ကိုယ်စားလှယ်များကိုလည်း သတ်ဖြတ်ခဲ့ကြ၏၊ ဤတွင်မှပြင်သစ်တို့ကအနည်းငယ်ပြန်၍လက်လျှော့သည့်နည်းဖြင့် ကမ္ဘောဒီးယားကို စောင့်ရှောက် ထိန်းသိမ်းကြ၏၊ ယိုးဒယား နှင့်ပြင်သစ်တို့က ကမ္ဘောဒီးယား နယ်များကို လုကြသဖြင့် ၁၉၄၀-ပြည့်၌ ဂျပန်ကချုပြု၍ ဆုံးဖြတ် ပေးခဲ့ရလေသည်၊

**ဗုဒ္ဓဘာသာထွန်းကားပုံ**

ကမ္ဘောဒီးယား၌ ဗုဒ္ဓဘာသာကို အများဆုံး ကိုးကွယ်ကြ သည့်ဖြင့် မြန်မာနိုင်ငံကဲ့သို့ပင် ထေရဝါဒ ဗုဒ္ဓဘာသာလည်းဖြစ်၏၊ ဘုန်းတော်ကြီးများအား''ဘွန်ဇက်'' Bonxe ဟု ခေါ်ကြလေသည်။ ဘုန်းတော်ကြီး ဦးရေလည်း မနည်းလှပေ၊ ယခု ကြွလာသော သာသနာပိုင်ဆရာတော်၏ မိန့်ကြားချက် အရ ရဟန်းတော် ပေါင်း ၅စ် သောင်းထက် မနည်း ရှိသည်ဟုသိရ၏၊ထိုကဲ့သို့များပြားရခြင်းမှာလည်း ယိုးဒယား ကဲ့သို့ ဘုရင်မှစ၍ ဗုဒ္ဓဘာသာဝင်အားလုံး ရဟန်းခံလေ့ရှိကြသော ကြောင့်ဖြစ်၏၊ ယခု လက်ရှိဘုရင်ကိုယ်တိုင် သုံးလမျှ ရဟန်းဘောင်သို့ ဝင်ရောက်ခဲ့ လေသည်၊ ရှေးမြန်မာနိုင်ငံမှာကဲ့သို့ပင် သူငယ်များသည် ဘုန်းတော်ကြီးကျောင်းများ၌ အနေများခဲ့ကြ၏၊ ရဟန်းတော်များသည် လက်ထပ်ပွဲ အသုဘ ကိစ္စနှင့်ဘိသိက်ခံပွဲများ၌အရေးကြီးသော နေ့ ု များ မှာ ပါဝင်တော်မူကြရ၏၊

**သာသနာရေးအမတ်ကြီး**

၁၉၄၉-ခု၊နိုဝင်ဘာလ ၈ ရက်နေ့၌ ပြင်သစ် ပြည် ထောင်စု အတွင်း လွတ်လပ်သော ကမ္ဘောဒီးယား နိုင်ငံတော် အဖြစ် ပါရစ်မြို့၌ စာချုပ်ခဲ့ကြလေသည်၊ ထို စာချုပ် အရ အရေးကြီးသော အာဏာ ဟူသမျှကို ကမ္ဘောဒီးယား ဘုရင့် အစိုးရအဖွဲ့က အုပ်ချုပ်ပိုင်ခွင့် ရရှိ လေတော့ သည်၊ ကမ္ဘောဒီးယား ဘုရင့် အစိုးရ ၏ အဖွဲ့၌ လက်ရှိ သာသနာရေး ဆိုင်ရာ အမတ်ကြီးမှာ အု-ချုဟိုအိယန် (Au-chhoeun) ဖြစ်သည်ဟု သာသနာပိုင်၏အကျိုးဆောင်က အမိန့်ရှိ၍သိရ၏၊

**ပိဋကစာပေများ**

ဗုဒ္ဓဘာသာ ပိဋက တော် များနှင့် ဂန္ထဝင်ရများကို ကမ္ဘောဒီးယား

စာမျက်နှာ ၁၉-သို့ဆက်ကြည့်ပါ။



# သံဃါယနာ

၁၃၁၅–၃၊နှစ်ဆန်း ၁–ရက်

## ပါဠိဝိသောဓနကိစ္စ

အချို့ပုဂ္ဂိုလ်များက လွန်ခဲ့သော သံဃါယနာငါးကြိမ်တို့ကိုအကြောင်းအလျောက် တင်တော်မူခဲ့ကြသည်၊ ယခု သံဃါယနာကို အဘယ်အကြောင်းထူးရှိ၍ တင်ပါသနည်း- ဟု မေးမြန်းကြလေသည်၊

ဤ အမေးနှင့် ပတ်သက် ၍ အဘယ်ကြောင့်ဆဋ္ဌ သံဃါယနာ တင်ရသည် ဟူသော အကြောင်း သုံးချက်တို့ကို ဤစာစောင် တနေရာ၌ ဖော်ပြ၍ထားပေသည်၊အချုပ်အားဖြင့် ယခုတင်မည့်ဆဋ္ဌ သံဃါယနာသည်ပါဠိ ဝိသောဓနကိစ္စကို အဓိက အားဖြင့် အကြောင်းပြု၍ တင်သောသံဃါယနာဟုဆိုနိုင်ပေသည်။

ထိုအကြောင်း မှာလည်း သေးငယ်သောအကြောင်း မဟုတ်ချေ။ အဋ္ဌော အက္ခရ သညာတော–ဟူသော ပရိဘာသာနှင့်အညီ အနက်ကိုအက္ခရာတို့ဖြင့် သိနိုင်လေသည်၊ အက္ခရာမမှန်လျှင်ပုဒ်မှန်မည်မဟုတ် ပုဒ်မမှန်လျှင် ဝါကျမှန်မည်မဟုတ်၊ ဝါကျမမှန်လျှင်ကျမ်းဂန်မှန်မည် မဟုတ်၊ကျမ်းဂန်မမှန်လျှင်အနက်မှန်ကို သိနိုင်မည်မဟုတ်။ အနက်မမှန်လျှင် အကျင့်မှန်ကို သိနိုင်မည် မဟုတ်၊ အကျင့်မှန်ကို မသိနိုင်လျှင် နိဗ္ဗာန်ရောက်ရန် နည်းလမ်းအမှန်ကို တွေ့ရမည် မဟုတ်ချေ။ ဤအချက်ကို ထောက်ထား လိုက်ပါက အက္ခရ ဝိသောဓန ကိစ္စကိုမည်မျှအရေးကြီးကြောင်း သိသာနိုင် လေသည်။

သီဟိုဠ်ကျွန်းမှ တိဿ မထေရ်သည် ပင်လယ်ခရီးကို ဖြတ်သန်းကာ ယောနကတိုင်း ဓမ္မရက္ခိတအရှင်မြတ်ထံသို့ ပိဋကတော်ကို ကြွရောက်သင်ကြားတော်မူလေသည်၊ တတ်မြောက်၍ ယောနကတိုင်းမှ သီဟိုဠ်ကျွန်းသို့အပြန် သင်္ဘောဆိပ်သို့အရောက်တွင် ပုဒ်တခု၌ ယုံမှားသက်ာဖြစ်ပေါ်၍ နေသဖြင့် ယူဇနာ တရာမျှဝေးကွာသော ဓမ္မရက္ခိတ အရှင်မြတ်၏ အထံသို့ ပြန်ကြွတော်မူလေသည်၊ဓမ္မရက္ခိတအရှင်မြတ်က အဘယ်ကြောင့် ပြန်လာသနည်းဟု မေးတော်မူရာတွင် ပုဒ်ကလေးတခု အတွက် ယုံမှားသက်ာ ရှိမှုကြောင့် ယူဇနာတရာဝေးကွာသော ခရီးကို ပင် ပြန်လည် မေးမြန်းလေသည်ဟု နောက်လာနောင်သားတို့ပြောပြုရစ်စေလိုသည့်ပြင် တပည့်တော်ကဲ့သို့ လိုက်နာ ကျင့်ကြံကြပါစေဟု သဘောထားကာ ပြန်လာရခြင်း ဖြစ်ကြောင်းကို လျှောက်ထား တော်မူလေသည်၊ ဤအကြောင်းကို ဝိဘင်းအဋ္ဌကထာကြီး၌ အသေအချာဖော်ပြလျက်ရှိလေသည်။

ဤကား ပါဠိဝိသောဓန ကိစ္စအတွက် ရှေးပညာရှိများ အလေးမူပုံသာဓကတရပ်ပေတည်း၊

ယခုတင်မည့် 'ဆဋ္ဌသံဃါယနာ' မှာ ခေတ်ကာလအလျောက် ရှေးလွန်လေပြီးသော သံဃါယနာ တို့ထက်များစွာပင်ကျယ်ပြန့်ကြောင်းကို အလွယ်တကူ အကဲခတ်နိုင်ကြပေလိမ့်မည်၊ ကမ္ဘာပေါ်ရှိ ဗုဒ္ဓဘာသာဝင် နိုင်ငံအသီးသီးတို့နှင့် တကွ ဗုဒ္ဓဘာသာရဟန်း ပညာရှိ လူပညာရှိအများပင် စုပေါင်းညှိနှိုင်း၍ တင်မည့် သံဃါယနာကိစ္စကြီး ဖြစ်လေရာ ထိုကိစ္စကြီး ထမြောက် အောင်မြင်ရေးအတွက် ဆောင်ရွက် ချက်အရင်ရပ်တို့သည်လည်း လွန်စွာပင် ကျယ်ဝန်း များပြားလှပေသဖြင့် သိသင့်သိထိုက်သမျှ အကြောင်း အရာတို့ကိုသိရခြင်းအားဖြင့် ဝမ်းမြောက်နိုင်ကြစေရန် အကျိုးငှါရင်း၊ ကူညီနိုင်ကြစေရန်အကျိုးငှါရင်း ''သံဃါယနာ'' အမည်ဖြင့် ဤစာစောင်ကို ထုတ်ဝေ ဖြန့်ချိလိုက်ရခြင်း ဖြစ်ပေသတည်း၊

# နိုင်ငံခြားသာသနာပြုတက္ကသိုလ်

## ကမ္ဘာ့စေတီအနီး၌ဖွင့်လှစ်ထားပြီ။ ၅နှစ်အတွင်း သာသနာပြုပုဂ္ဂိုလ်များ ပေါ်လာလိမ့်မည်

ဓမ္မဒူတဝိဇ္ဇာလယ

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၏ ပရိယတ္တိဆိုင်ရာ အဖွဲ့ငယ်မှ လုပ်ဆောင်ရသည့် တာဝန် များ တွင် နိုင်ငံခြားဒေသများသို့ သာသနာပြုစုရေး ကိစ္စ နှင့် စပ် လျဉ်း သော ကျောင်းကြီး ဖွင့်လှစ် တည်ထောင်ရေးလုပ်ငန်း တရလည်းပါဝင်လေရာ ဥက္ကဋ္ဌကြီး ဆာဦးသွင် အမှူးရှိ သော အဖွဲ့ဝင် လူ ကြီး များ သည် ၁၃၁၄-ခုနှစ်ပြာသိုလ အတွင်းက ကမ္ဘာ့စေတီတော်အနီး၌,ဓမ္မဒူတ ဝိဇ္ဇာလယ' ဟူ သော အမည် ဖြင့် သာသနာပြုသင်တန်း သိပ္ပံကျောင်း ကိုအခမ်းအနားဖြင့် ဖွင့်လှစ် ခဲ့လေသည်။ထိုဖွင့်ပွဲသို့နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်ကြီးများ, သာသနာရေးဝန်ကြီးဦးဝင်း,အဖွဲ့ဝင်လူကြီးများနှင့်အခြား ပုဂ္ဂိုလ်ကြီးများ ကြွရောက်ကြလေသည်။

ဓမ္မဒူတ ဝိဇ္ဇာလယခေါ် နိုင်ငံခြားသာသနာပြု ကျောင်းကြီး ဖွင့်လှစ်ရခြင်းအကြောင်းရင်းမှာ-နိုင်ငံရပ်ခြား တိုင်းပြည်များသို့ ဗုဒ္ဓသာသနာပြုစုရန်ပင် ဖြစ်လေသည်၊ အဆိုပါကျောင်းကို မဟာ ဝိဇ္ဇာဘွဲ့ရ ဆရာတော် ဦးကေလာသက အုပ်ချုပ်၍သင်တန်းသားများမှာဓမ္မာစရိယအောင်မြင်ပြီးရဟန်းတော်များသာဖြစ် လေသည်၊ သင်တန်းသားရဟန်းတော် များအား အင်္ဂလိပ်ဘာသာနှင့် နှိုဟိ ဘာသာကို ခွဲခြားကာသင်ကြားစေရာ အင်္ဂလိပ်ဘာသာကို ပင်စင် ရိက္ခာတော်ရ ဦးကိုကိုလေး ဘီအေ-ဘီအယ်လ်က တာဝန်ယူ ပို့ချ၍ ဟိန္ဒီ ဘာသာကို ဟိန္ဒီဝိစနကျမ်းပြု ဦးညွန့်မောင်ကတာဝန်ယူ ပို့ချနေသည်။ အခြားဒေသန္တရဘာသန္တရဆိုင်ရာ ဗဟုသုတ များ ကို ဆရာ တော် ဦးကေလာသကပင်ညွှန်ပြတော်မူ၍ အဆောင်မှူး အဖြစ် သကျသီဟ ဝင့်သကာ နှင့် ဓမ္မာစရိယ ဘွဲ့ရ ဦးလက္ခဏ (ယခုနှစ် ဘီအေနောက်ဆုံး) ကဆောင်ရွက်လျက် ရှိပေသည်၊

ယခုနှစ်တွင် အဆိုပါ ဓမ္မဒူတ ဝိဇ္ဇာလယ၌ ယနေ့အထိသင်ကြားခွင့် ရရှိသော လက်ရွေးစင် သင်တန်းသား ပေါင်း ၁၇-ပါးမှ ရွေးချယ်ခြင်းခံရ၍ သင်ကြားမှု အခြေအနေမှာ ခန့်မှန်းခြေထက် များစွာပင်ပိုမို တွင်ကျယ်နေကြောင်း တွေ့ရသည်။ နှစ်ကုန်သည်အထိဘတ်ရမည့်သင်္ချိုးစာအုပ်များမှာတပို့တွဲလလယ်လောက်ကပင်နှစ်လနှင့်ပြီးဆုံးသွားပြီ ဖြစ်သည်၊ထို့ပြင် သင်ကြားပြီးသောသင်္ချိုးစာများကိုအသံသွင်းစက်ဖြင့်အသံသွင်းယူထားကာ ညစဉ် အားလပ်ချိန်များ တွင် သင်တန်းသားများသည် ဆရာ၏

(စာမျက်နှာ ၁၀ သို့ ဆက်ကြည့်ပါ)



ဓမ္မဒူတဝိဇ္ဇာ လယသင်တန်းသားများအတွက် ကျိန်းဝက်ရာအခန်းများ၊



ဓမ္မဒူတဝိဇ္ဇာလယ ကျောင်းအုပ် ဆရာတော် အရှင်ကေလာသသည်ရုံးခန်း၌အလုပ် လုပ်နေပုံ



ကျောင်းအုပ် ဆရာတော် ကိုယ်တိုင်သင်တန်း သားများအား စာပေပို့ချ၍နေပုံ



ဦးကိုကိုလေးက အင်္ဂလိပ်ဘာသာအတွက် သင်တန်းပေးနေစဉ်တွေ့မြင်ရပုံ

## နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့မှ ကျင်းပသော

# အဘိဓမ္မာစာမေးပွဲဆုနှင်းသဘင်

အာရှ အရှေ့တောင်ပိုင်း ဗုဒ္ဓဘာသာထွန်းကားရာ နိုင်ငံတို့တွင် မြန်မာနိုင်ငံသည် အဘိဓမ္မာ အရာ၌ ထူးချွန်တတ်မြောက်သော ပုဂ္ဂိုလ်ပေါ်များကြောင်း ရှေးကပင် ကျော်ကြားခဲ့၏။ ရှေ့ကိုလည်း တိုးတက်ထွန်းကားစေရန် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ ၁၃၁၄-ခုတန်ဆောင်မုန်းလပြည့် ၇-၈-၉-ရက် တို့တွင် ခရိုင်ပေါင်း ၃၆-ခရိုင် စာဖြေဌာနပေါင်း ၉၀-တို့၌ အဘိဓမ္မာစာမေးပွဲများ ကျင်းပခဲ့လေသည်၊

ပထမအဆင့်၌ ဝင်ရောက်ဖြေဆိုသူပေါင်း ၁၀၀၀၇-ယောက်မှ ရှိပေရာ အောင်မြင်သူပေါင်း ၃၇၀၉-ယောက်ရှိလေသည်။ ပထမဆင့်၌ပထမရသူများမှာ (၁)ပဲခူးတိုင်း ရန်ကုန်ခရိုင် ကြည့်မြင်တိုင် စာဖြေဌာနမှခုံနံပါတ် ၃၅၁- မခင်ဖွာသိ (၂)ပြည်ခရိုင် ရွှေတောင်စာဖြေဌာနမှ ခုံနံပါတ် ၆၃၆-မောင်ငွေရှမ်(၃)ပဲခူးတိုင်း ပြည်ခရိုင်ရွှေတောင်စာဖြေဌာနမှခုံနံပါတ် ၆၄၀ ဦးလှသောင် (၄) မကွေးတိုင်း ပခုက္ကူခရိုင် ဂန့်ဂေါ စာဖြေဌာနမှ ခုံနံပါတ် ၁၆၈-မောင်ကိုတို့ ဖြစ်လေသည်။

ဒုတိယဆင့်၌ ဝင်ရောက်ဖြေဆိုသူပေါင်း ၁၈၂၂-ယောက်အနက် အောင်မြင်သူပေါင်း ၇၈၃-ယော်ရှိလေသည်၊ ဒုတိယဆင့်၌ပထမရသူမှာ မန္တလေးတိုင်း မြင်းခြံခရိုင် မြင်းခြံစာဖြေဌာနမှခုံနံပါတ် ၅၇၉ ဦးအုန်းဆင့် ဖြစ်လေသည် ဆုငွေ ၁၅၀ိ-ချီးမြှင့်သည်။

တတိယဆင့်၌ ဝင်ရောက် ဖြေဆိုသူပေါင်း ၈၅၉-ယောဝ်ရှိသည့်အနက်အောင်မြင်သူပေါင်း ၅၅၈-ယောက်ရှိလေသည်။ တတိယဆင့်၌ အမှတ်ဟူ ပထမ ရသူများမှာ တနင်္သာရီတိုင်း ကျိုက္ကမိခရိုင် မော်လမြိုင်စာဖြေဌာနမှ ခုံနံပါတ် ၁၂၉ မောင်အုန်းလှိုင်နှင့် ပဲခူးတိုင်း အင်းစိန်ခရိုင် အင်းစိန်စာဖြေဌာနမှ ခုံနံပါတ် ၃၃-ဦးညွန့်တို့ဖြစ်လေသည်၊ ဆုငွေ ၂၀ိ-စီချီးမြှင့်လေသည်၊

ပထမဆင့်ဒုတိယရသူများအား ဆုငွေ ၇၅ိ-စီ တတိယရသူများအား ၅ဝိ-စီ သာမန်အောင်သူများအား ၁ဝိ-စီ ချီးမြှင့်လေသည်။

ဒုတိယဆင့် ဒုတိယ ရသူများအား ဆုငွေ ၁၀ဝိ-စီ တတိယရသူများအား ၇၅ိ-စီ သာမန်အောင်သူများအား ၁၅ိ-စီချီးမြှင့်လေသည်။

တတိယဆင့်၌ ဒုတိယရသူများအားဆုငွေ ၁၅ဝိ-စီ တတိယရသူများအား ၁၀ဝိ-စီ သာမန်အောင်သူများအား ၂ဝိ-စီ ချီးမြှင့်လေသည်။

ပထမဆင့်၌ ပုသိမ် အကျဉ်းထောင်မှအကျဉ်းသား ၂၅-ယော် ဝင်၍ဖြေဆိုသည့်အနက် သုံးယော် အောင်မြင်လေသည်။

ဦးအုန်းဆင့်သည် သုံးဆင့်လုံးတွင် ပထမရသောကြောင့် ဆုငွေ ၃၀ဝိ-နှင့်ရွှေဘံဆိပ် တခုအပြင်အခြား အဘန်းလိုက် အောင်မြင်သည့်ဆုပေါင်း၂၄၅ိ-နှင့် တကွအဓိ ၅၄၅ိ-မှုရလေသည်။

သုံးဆင့်လုံးတွင် ဒုတိယ ရသူဦးအုန်းလှိုင်သည်အသည် ရွှေထည့်ငွေတံဆိပ်နှင့် ဆုငွေ ၃၀ဝိ-နှင့်အတန်းအလိုက်ဆုငွေ ၃၂ဝိ-တို့ကိုရလေသည်၊

သုံးဆင့်လုံးတွင် ဒုတိယရသူကိုမောင်ကိုသည်လည်း ဦးအုန်းလှိုင်နည်းတူ ဒုတိယရသော်လည်း အတန်းလိုက်ရသောဆုနည်းသဖြင့်ရ ၃၄၅ိ-မှုရလေသည်။

သုံးဆင့်လုံးတွင် တတိယရသူကိုညီပုသည် ငွေတံဆိပ်တခု ဆုငွေ ၁၀ဝိ-နှင့်အတန်းလိုက်အောင်ဆု ၁၂၀-(နှစ်ရပ်ပေါင်း ၂၂၀) မှုရလေသည် (ကိုမောင်ကိုနှင့် ကိုညီပုတို့မှာ အမွှာပူး ညီအစ်ကိုများဖြစ်ကြ၏။)

အဘိဓမ္မာ စာမေးပွဲ အောင်သူများအတွက် ဆုနှင်းသဘင်ကြီးကို ၂၈-၂-၅၃-နေ့တွင်သာသနာ့ ရိပ်သာရှိ ဓမ္မာရုံကြီး၌ ကျင်းပခဲ့လေသည်။



ဆုနှင်းသဘင်ကို သာသနာရေးဌာန အတွင်းရေးမှူး ဦးဘဆွေ ကဇယမင်္ဂလာ ဂါထာဖြင့်ဖွင့်လှစ်နေပုံ



နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ဒုတိယဥက္ကဋ္ဌ တရားဝန်ကြီးချုပ် ဦးသိမ်မောင် မိန့်ခွန်းမြွက်ကြားနေပုံ



ပထမဆင့်-ပထမရသူ လေးဦးအနက်ကြည့်မြင်တိုင်စာဖြေဌာနမှ မခင်လှသီအား အမျိုးသားစီမံကိန်းနှင့် သာသနာရေးဝန်ကြီးက ဆုချီးမြှင့်နေပုံ

### သာသနာပြုရာတွင်

ဗုဒ္ဓဝါဒသည် ဇွတ်ဝါဒ, အာဏာဝါဒ မဟုတ်သဖြင့် ကိုယ့်အယူဝါဒနှင့်မတူသည့်အခြားအယူဝါဒရှိသူများကို နှိပ်စက်ညှဉ်းဆဲခြင်း, သတ်ဖြတ်ခြင်းဟူ၍မည်သည့်အခါမှမရှိခဲ့ဘူးချေ၊ ဗုဒ္ဓသာသနာပြန့်ပွါးအောင် သာသနာ ပြုကြ သော ပုဂ္ဂိုလ်တို့သည်လည်း တရားလမ်းမှန်ကိုပြရန်သာ ရည်ရွယ်တော် မူကြ၍ အခြားသူများအား ထောက်ထားသည်းခံကြပြီးလျှင် မေတ္တာနှင့် သာသနာပြုကြလေသည်၊

အရှင်သေဋ္ဌိလ

### လူထုသံဂါယနာ

ရှေးက ငါးကြိမ်ဘိုင်ဘိုင် တင် ပြီးခဲ့ တဲ့ ပထမ,ဒုတိယ, တတိယ, စတုတ္ထ, ပဉ္စမ သံဂါယနာ ခေတ်များမှာ ဘုရင် ခေတ်ဖြစ်သည့်အတွက် လူထုနှင့်ဘုရင်ဟာ အဆက်အသွယ် မရှိသကဲ့သို့ဖြစ်ပြီး ဘုရင်က ရှေ့ဆောင်ပြီးတင်တဲ့ သံဂါယနာမှာ လူထုက "သံဂါယနာဆိုဒါဘုရင်ကသာ တင်ရဒါ၊ငါတို့လူထုပြုနိုင်တဲ့ ကုသိုလ်မျိုးမဟုတ်'' လို့သဘောထားပြီး လူထုဟာသံဂါယနာတင် ဒါယကာ မဖြစ်နိုင်သလောက် မဖြစ်ကောင်းသလောက်ပင် စွဲလမ်းမှတ်ထင်ပြီး လူထုနဲ့ သံဂါယနာ အဆက်အစပ်မရှိသကဲ့သို့ ဖြစ်ခဲ့ပါတယ်။ ယနေ့ ကျွန်တော်တို့ရဲ့ ပြည်ထောင်စုကြီးမှာလူထုအာဏာအပ်နှင်းခြင်း ခံရတဲ့ အစိုးရ သမ္မတခေတ် ဖြစ်သည့်အတွက် ပြည်ထောင်စုအစိုးရဟာ လူထု၏ကိုယ်စား အစိုးရဖြစ်ပါတယ်။ လူထု၏အစိုးရက ရှေ့မှူးကမားမားမတ်မတ် ရပ်တည်ပြီး ဆောင်ရွက်သွားမဲ့ ဆဋ္ဌသံဂါယနာသာသနာပြုကိစ္စကြီးမှာ အရင်းခံ အထေယ်ကိုယ်ဖြစ်တဲ့ ရှမ်း ကချင်,ကရင်,မွန်,နာဂ, ကယား,ဗမာ, အစရှိတဲ့ ပြည်ထောင်စုအတွင်းမှာရှိကြတဲ့ လူထုကြီးအရပ်လုံးက မိမိတို့၏သာသနာပြု ကိစ္စကြီးဘဲလို့ သဘောထားပြီး သဒ္ဓါတတ်အားသမျှ အလှူတော် ပါဝင်ကြပါလို့ တိုက်တွန်းနှိုးဆော်လိုပါတယ်။

ဘာ့ကြောင့် ဒီလို တိုက်တွန်း နှိုးဆော်ရပါသလဲဆိုရင် ဗုဒ္ဓဘာသာများအတွက် ဒီလိုသံဂါယနာတင်ခြင်းဆိုတဲ့ သာသနာပြု ကိစ္စကြီးမျိုးကို အလွန်တရာ ကြုံကြိုက်ခဲပါတယ်။ မြတ်စွာဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးသည့်အချိန်က စပြီး ယနေ့အထိ နှစ်ပေါင်း ၂၅၀၀-နီးနီးအချိန်အတွင်းမှာ ၅-ကြိမ်သာတင်ခဲ့ပါတယ်၊ ယခုတင်မဲ့ ဆဋ္ဌသံဂါယနာကိုပါထည့်ရင်၆-ကြိမ်ဘဲရှိပါတယ်။အဲဒီ ၆-ကြိမ်ကို လူတို့ဘဝအသက်တန်းနဲ့ ဖျမ်းမျှပြီးကြည့်လိုက်ရင် အနှစ်လေးရာကျော်မှ တကြိမ်သာပေါ်ပေါက်နိုင်တဲ့အတွက် လူ့ဘဝအားဖြင့် ငါးဘဝ ခြောက်ဘဝ လောက်မှာမှ ကံကောင်းထောက်မလို့ တကြိမ်လောက် ကြုံတွေ့နိုင်တဲ့သာသနာပြုကိစ္စကြီး ဖြစ်ပါတယ်။

ဒီသို့ကြုံကြိုက်ခဲတဲ့ သာသနာပြု ကိစ္စကြီးမှာ ပြည်သူလူထုကြီးတရပ်လုံးထဲက သံဂါယနာပြုဒါယကာအဖြစ် ခံယူလိုကြတဲ့ သဒ္ဓါရှင်များ ထည့်ဝင်လှူဒါန်းနိုင်ကြဘို့ရန် အလှူတော်ထည့်ဝင်ရန်ဌာနအဖြစ်နဲ့ (၁) ရန်ကုန်မြို့ သာသနာ့ရိပ်သာ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၊အုပ်ချုပ်ရေးအရာရှိချုပ်ဦးစိန်းမောင် (၂) ရန်ကုန်မြို့ ရေကျော် ကမ္ဘာအေး စေတီ ဆဋ္ဌ သံဂါယနာတင်ကျောက်လိုဏ်ဂူဆောက်လုပ်ရေးမှူး မီးသတ် ညွှန်ကြားရေးဝန်ဦးလှကျော် ဟူ၍ ဌာနနှစ်ခု ထားရှိပါသဖြင့် ထိုဌာနနှစ်ရပ်တွင် အကြောင်း ညီညွတ် ရာ တဌာန၌ကြုံကြိုက်ခဲ့လှသောသံဂါယနာတင်ဒါယကာဖြစ်နိုင်သည့် ကုသိုလ် အခွင့်အရေးကြီးကို လက်မလွှတ်ကြပါစေရန် သဒ္ဓါတတ်အားသမျှ ကုသိုလ်တော် ပါဝင်ကြသောအားဖြင့် သာသနဒါယကာအဖြစ်ခံယူကြပါ၊ ဒုလ္လဘကုသိုလ်ထူးကိုဆည်း ပူးကြပါ—လို့ နိဂုံးချုပ်အနေနဲ့ လေးလေး နက်နက်ကြီး တိုက်တွန်းနှိုးဆော်လိုက်ပါတယ်။

(၁၈—၃-၅၃ နေ့ နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့ ဥက္ကဋ္ဌကြီး သတိုးသိရိသုဓမ္မ ဆာဦးသွင်၏အသံလွှင့်မိန့်ခွန်းမှ ကောက်နှုတ်ချက်။)

# စရည်းပင်ရောက်ရာ လိုဏ်ဂူကြီး၏အသွင်

## ဆဋ္ဌသံဂါယနာတင်မည့်အဆောက်အဦကြီး

### ငွေသိန်းပေါင်း ၁၅၀ ကျော်ခန့် အကုန်အကျခံ၍ ဆောက်လုပ်နေပြီ

**အသောကဘုရင်**

အဆောက်အဦသည်အနာဂတ်ကာလတွင်နောင်လာ နောက်သားတို့အတွက် အတိတ်ကအကြောင်းကို ပြန်ပြောင်းလေ့လာရန်အဘိုးမဖြတ်နိုင်သည့် ရိုးသားသောသာဓကဖြစ်လေသည်။ လွန် လေပြီး သောအခါက ကမ္ဘာ့အရပ် ရပ်တွင်ဗုဒ္ဓသာသနာရောင် ထွန်းပြောင်ခဲ့ကြောင်းကို မြေပေါ်-မြေအောက်ရှိရှေးဟောင်းအဆောက်အဦများဖြင့် သိရှိရလေသည်။ အသောကဘုရင်၏ သာသနိက အဆောက် အဦများမှာ ဗုဒ္ဓသာသနာ တော် တွင် များစွာပင်ကျေးဇူး ဖြစ်ထွန်း ခဲ့သည် မဟုတ်ပါလော။

**မင်းတုန်းဘုရင်**

မြန်မာရာဇဝင်လာ ပုဂံ, မြင်းစိုင်း,စစ်ကိုင်း,ပင်းယ,အင်းဝ,ကုန်းဘောင်စသော သာသနာ့ဒါယကာမင်းကောင်း မင်းမြတ် လောကနတ်တို့သည် စေတီ ပုထိုး စသော အမျိုးမျိုးသော အဆောက် အဦများဖြင့် သာသနာတော်ကို ချီးမြှောက် ထောက်ပံ့ တော်မူခဲ့ကြ၏။ ထို အဆောက်အဦများမှာယနေ့မြန်မာတို့အတွက် အရေး ပါ သော ဂုဏ် ထူးဆောင်များ အဖြစ် တည်ရှိနေ၏။ မင်းတုန်းမင်းတရားကြီး၏ ပဉ္စမသံဂါယနာတင် ကျောက်စာတော်များမှာ ယခုအခါတွင် အဘယ်မျှအားထားရာဖြစ်နေပါသနည်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့သည် သာသနာတော် အနှစ် ၂၅၀၀-ပြည့်နှစ်တွင် အပြီး ဆင်ယင်ကျင်းပမည့် ဆဋ္ဌသံဂါယနာတင် မဟာသဘင် အတွက် ကမ္ဘာ့အေးစေတီတော်၏ ပတ်ဝန်းကျင်တွင်တည်ရှိသော ဧကပေါင်း ၁၀၀-ကျော်မျှကျယ်ဝန်းသောကုန်းမြေတွင် အဆောက်အဦများ တည်ဆောက်ကာနေ၏။ ဗုဒ္ဓသာသနာ့အဖွဲ့သည်အဆိုပါဆဋ္ဌသံဂါယနာတင်ရန်အဆောက်အဦများကို စီမံ ခန့်ခွဲမှုပြုလုပ်ရန်အဖွဲ့ငယ် တခုသီးသန့်ဖွဲ့စည်း၍ထား၏။

**အဆောက်အဦအဖွဲ့ငယ်ဝင်**

**လူကြီးများ**

သတိုးသီရိသုဓမ္မ- ဆာဦးသွင် (ဥက္ကဋ္ဌ)မဟာသီရိသုဓမ္မ- ဟသ်ာတဦးမြ၊ သာသနာရေးဝန်ကြီး-ဦးဝင်း,ဝန်ကြီးဗိုလ်မင်းခေါင်,ဝန်ကြီးဦးဘဆွေ, ဝန်ကြီး- ဗိုလ်ခင်မောင်လေး, ချုပ်သင်း–ဦးဘတင်, မီးရထား အင်ဂျင်နီယာချုပ်- ဦးကြည်ဝင်း, သတိုး မ ဟာ သရေစည်သူ ဦးချန်ထွန်း (အကျိုးဆောင်စာချီ) ဦးဘဆွေ, (အကျိုးဆောင်စာချီ)။

**လုပ်ငန်းဆိုင်ရာအဖွဲ့ခွဲဝင်**

**လူကြီးများ**

ဆဋ္ဌသံဂါယနာတင်အဆောက်အဦအဖွဲ့ငယ်ဝင်လူကြီးများမှ လုပ်ငန်းဆိုင်ရာအဖွဲ့ခွဲတခုခွဲကာ ကိုယ်ဘိ-ရင်ဘ်ဆောင်ရွက်စေပြန်၏။ ထိုအဖွဲ့ခွဲတွင် ချုပ်သင်း ဦးဘတင်,မီးရထားအင်ဂျင်နီယာချုပ် ဦးကြည်ဝင်းနှင့် ခရိုင်လမ်းပန်း အဆောက်အဦအင်ဂျင်နီယာ ဦးသာဒုတ်တို့ပါဝင်လေသည်။

**အဆောက်အဦများ**

သံဃာပေါင်း ၂၅၀၀–ထက်မနည်းစည်းဝေးနိုင်မည့် ဆဋ္ဌသံဂါယနာတင်ခန်းမကြီး, ဓမ္မသင်္ဂါဟ

( ာမျက်နှာ ၁၅ သို့ ဆက်ကြည့်ပါ )




(အထက်ပုံ)
ဆဋ္ဌသံဂါယနာတင်မည့်လိုဏ်ဂူတော်ကြီးကို
ခေါင်းရင်းမှရင်း, ခြေရင်းမှရင်း,
ဘေးမှရင်း,
အပေါ်မှရင်းမြင်ရပုံ



(အောက်ပုံ)
ဆဋ္ဌသံဂါယနာတင်
လိုဏ်ဂူတော်ကြီးကို အပြင်မှ
နေကြည့်လျှင်.......

ဗုဒ္ဓသာသနာအတွင်း၌ ဘုန်းကံပါရမီထူး ဉာဏ်ပညာထူးနှင့်ပြည့်စုံသော ပုဂ္ဂိုလ်ထူးတို့ကို ဖော်ထုတ်ရာရောက်သည့်ပြင် ပရိယတ္တိသာသနာတော်ကို အားပေးချီးမြှောက်ရာတွင် အထက်တန်းအကျဆုံး ချီးမြှောက်ရာရောက်သော

# ပဌမ အကြိမ် မြောက် တိပိဋကဓရ ရွေးချယ်ပွဲ

## ပိဋကတ်သုံးရဲကောင်းအရှင်နှစ်ပါးအား သမ္မတကြီးအိမ်တော်တွင် ဘွဲ့တံဆိပ်နှင့် အောင်လက်မှတ် ဆက်ကပ်လှူဒါန်း၍ သာသနာ့ရိပ်သာတွင် အဖွဲ့အသီးသီးက ချီးကျူးကြခြင်း

### သာသနာ့အောင်လံ

ဗုဒ္ဓသာသနာနုဂ္ဂဟ အဖွဲ့က နိုင်ငံတော် ဗုဒ္ဓသာသနာ့ အဖွဲ့၏ ကိုယ်စား ကျင်းပအပ်သော ပဌမ အကြိမ်မြောက် တိပိဋက ဓရ ရွေးချယ်ပွဲတွင် အောင်မြင်တော်မူကြသော မင်းကွန်းမြို့အရှင် ဝိစိတ္တသာရာဘိဝံသနှင့် ပခုက္ကူမြို့ အရှင် ကောသိဒတို့အားနိုင်ငံတော် အစိုးရကအခမ်းအနားဖြင့် အောင် လက် မှတ် တော် တံဆိပ်တော်နှင့် သာသနာ့ အောင်လံတော် ဆက်ကပ်ပွဲကိုသမ္မတအိမ်တော်တွင် ၁၃၁၄-ခု တပေါင်းလပြည့်ကျော် ၁-ရက် ၂၈-၂-၅၃ နေ့က ကျင်းပခဲ့လေသည်။

အဆိုပါ အခမ်းအနားတွင် သံဃာတော်များနှင့်မင်းပရိသတ်များ ရုံးညီ ကြ သော အခါ နိုင်ငံတော် သမ္မတကြီးက စာမေးပွဲအောင်အာဇာနည်ပုဂ္ဂိုလ်ထူးများအားချီးကျူးစကားလျှောက်ထားပြီးလျှင် အောင်လက်မှတ် ထံဆိပ်တုံးနှင့်အလံတော်များကို ဆက်ကပ်တော် မူခဲ့လေသည်။

### သမတကြီး၏လျှောက်လွှာ

ရိုလေ လေးမြတ်စွာ လျှောက်ထား အပ်ပါသည် ဆရာတော် သံဃာတော် အရှင်မြတ်တို့ဘုရား၊

နိုင်ငံတော် အစိုးရအဖွဲ့ဝင် မင်းပရိသတ်နှင့်တကွ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ဗုဒ္ဓသာသနာ နုဂ္ဂဟအဖွဲ့ အမှူးရှိသော သာသနာရေးအဖွဲ့ပေါင်းရုံတို့မှ လူကြီးမင်းများနှင့် ညီညွတ်တော် အပေါင်းတို့ ရုံးညီသည့်ဤခန်းမ ဆောင်ကြီး၌ ဆရာတော် သံဃာတော် အရှင်မြတ်များနှင့် သာသနာ့အာဇာနည်ပုဂ္ဂိုလ်ထူး အရှင်မြတ် ၂-ပါးတို့ကိုဖူးမြင်ကြည်ညိုရခြင်းသည်ကြက်သရေမင်္ဂလာအပေါင်းတို့နှင့် ပြည့်စုံလှ ပါသည် ဘုရား။

သဗ္ဗညုရှင်တော်ဘုရား၏စကားတော်အစဉ်ဖြစ်သောပိဋကတ်တော်များကို ဆရာအစဉ် အဆက်အားဖြင့် မပျက်ပြား မယိုယွင်းစေဘဲ ထိန်းသိမ်းစောင့်ရှောက်တော်မူကြကာပိဋကတ္တံဆောင် သာသနာ့အာဇာနည်များ ထွန်းကား ပေါ်ပေါက် လာအောင် အားကြိုးမာန်တက် ဆောင်ရွက် စောင့်ရှောက်တော်မူလာကြသော ဂဏာစရိယ ဂဏာပါမောက္ခတိပိဋက ကောဝိဒ မဟာ ထေရ်မြတ်ကြီး တို့၏ ဂုဏ်ကျေးဇူးတော်တို့ကား လွန်စွာကြီးမားလှပါသည်ဘုရား။

ယခုအခါ တပည့်တော်၏ နိုင်ငံတော် အစိုးရ လက်ထက်၌လည်း ဆဋ္ဌသံဂါယနာ မဟာ သဘင် ဆင် ယင် ကျင်းပ ရန် စီစဉ် ဆောင် ရွက် နေဆဲ အချိန်တွင် နိုင်ငံတော် အစိုးရ၏ သာသနာ့အကျိုး ဥပဒေအရ တည်ထောင် ဖွဲ့စည်း ထား အပ်သော နိုင်ငံတော် ဗုဒ္ဓ သာသနာ့အဖွဲ့ကြီး၏ ကိုယ်စားအနေအားဖြင့် ဗုဒ္ဓ သာသနာနုဂ္ဂဟအဖွဲ့ချုပ်ကြီးက ငါးကြိမ် မြောက် ကျင်းပဖြူလှင်အပ်သော တိပိဋကဓရ ရွေးချယ်ပွဲကြီးတွင် အဘိဓမ္မာပိဋကန္တတ်ငုံဆောင် သာ သ နာ့ အာ ဇာ နည် အရှင်မြတ် ၂-ပါး ထွန်းကာ ပေါ် ထွက်လာ သည့် အ တွက် လွန် စွာ အား ရ ရွှင်လန်းဝမ်းမြောက်လှပါသည်ဘုရား။

ထိုသာသနာ့ အာဇာနည်အရှင်မြတ် ၂-ပါးတို့တွင် စစ်ကိုင်းမြို့ မင်းကွန်း ဓမ္မနာဒတိုက်မှ အရှင် ဝိစိတ္တသာရာဘိဝံသသည်-

၁၃၁၂-ခုနှစ်ကပဋိသမ္ဘိဒါကအာဂုံဖြန့်ဆိုပွဲသဘောရေးဖြေပွဲ ၂-ရပ်လုံးတွင်ဂုဏ်ထူးနှစ်ဆင့်ဖြင့် အောင်မြင်ခဲ့၍ ဝိသိဋ္ဌဝိနယဓရ မဟာဝိနယ ကောဝိဒ" ဘွဲ့တံဆိပ်တော် အောင်လက်မှတ်တော်သာသနာ့အောင်လံတော်တို့ကိုခံယူရရှိပြီးဖြစ်သည့်ပြင်

၁၃၁၃-ခုနှစ်ကလည်း အဘိဓမ္မာပိဋက ပဋ္ဌာနပိုင်း ၅-ကျမ်း အာဂုံဖြန့်ဆိုပွဲ သဘောရေးဖြေပွဲ ၂-ရပ်လုံးတွင် ဂုဏ်ထူးနှစ်ဆင့်ဖြင့်ပင်အောင်မြင်တော်မူခဲ့ပြီးနောက်-

ယခုနှစ်လည်း အဘိဓမ္မာပိဋက ရတိယပိုင်း အာဂုံဖြန့်ဆိုပွဲ သဘောရေးဖြေပွဲ ၂-ရပ်လုံးမှာပင်ဂုဏ်ထူးနှစ်ဆင့်ဖြင့် အောင်မြင်တော် မူပြန်သည့် အ တွက် " ဝိသိဋ္ဌ အာဘိ

(စာမျက်နှာ ၁၅ သို့ဆက်ကြည့်ပါ)



အရှင်ဝိစိတ္တသာရာဘိဝံသ



အရှင်ကောဝိဒ



သာသနာ့ရိပ်သာတွင်
နိုင်ငံတော်ဝန်ကြီးချုပ်က ချီးကျူးစကားလျှောက်ထားနေစဉ်

# သံဂါယနာဆိုသည်မှာ

[မာလရေးသည်]




## ၁ ပထမသံဂါယနာ

**က။ တင်ရသောအကြောင်းရင်း**

ဗုဒ္ဓရှင်တော်ဘုရား ပရိနိဗ္ဗာန်ဝင်စံတော်မူပြီးနောက် ခုနစ်ရက်မျှအကြာ၌ ရဟန်းသံဃာ အပေါင်းတို့သည် များစွာငိုကြွေးကြကုန်၏၊ ထိုအခါ အာတုမာမြို့သား ဆတ္တာသည်မျိုး သုဘဒ္ဒခေါ် တောထွက်ရဟန်းကြီး တပါးက ငါ့ရှင်တို့ မငိုကြွေးကြနှင့်၊ဂေါတမရှိစဉ်က မည်သို့မကျင့်ရ၊ မည်သို့ ကျင့်ရမည်စသဖြင့်များစွာပညတ်၏၊ ယခုသော်ငါတို့ကျင့်လိုရာ ကျင့်ကြံနေထိုင်နိုင်ကြပြီ၊အဘယ် ဗိုးရိမ်ဘွယ် ရှိသေးသနည်း ? ဟု မရိုမသေပြော ဆိုလေ၏၊ ထိုရဟန်းကြီး၏စကားကို အသျှင် မဟာကဿပကြားတော်မူသော ကြောင့် ဤ ပုဂ္ဂိုလ် မျိုး တို့ကြောင့် သာသနာတော်ကွယ်ပဘ်ွ ရာအကြောင်း ရှိချေသည် တကား၊ ရှင်တော်ဘုရား ပရိနိဗ္ဗာန် လားသော် လည်း ဟောကြားတော် မူသော တရားတော်များကား ထင်ရှားရှိပေ သေးသည်၊ ဓမ္မတော်တရားမထွန်းကားမီ သာသနာတော်မြတ် မြဲမြဲစွာ တည် နိုင် အောင် သံဂါယနာတင်မည်-ဟူသော ရည်ရွယ်ချက်ဖြင့် ပထမ သံဂါယနာ တင်တော်မူကြကုန်၏၊

**ခ။ ဦးစီးပုဂ္ဂိုလ်**

ထိုတင်ပွဲ၌ ဦးစီးခေါင်းဆောင်တို့ကား ဗုဒ္ဓရှင်တော်-ဘုရားကိုယ်တော်တိုင် ဝတ်ရုံတော် မူသော ဒုကုဋ်ဘော်ကို သင်္ကန်းတော်မြတ် ခံတော်မူခဲ့ရသည့်ပြင်ဓုတင်၁၃-ပါးတို့ကိုကျင့်ဆောင်တော်မူရာ၌ဧတဒဂ် ရဖြစ်တော်မူသော အသျှင် မဟာ ကဿပ မထေရ်မြတ်ကြီးနှင့်တကွ အသျှင်ဥပါလိ, အသျှင် အာနန္ဒာ,အသျှင်အနုရုဒ္ဓ စသော ဆဋ္ဌာဘိည ပဋိသမ္ဘိဒါပတ္တ ရဟန္တာအရှင်မြတ်ကြီးဘို့ပေတည်း၊

**ဂ။ သံဃာတော်ဦးရေ**

ပုထုဇဉ်ဟူ၍ မပါ၊ ရဟန္တာကြီးပေါင်း ၅၀၀-မျှ ပါဝင်တော်မူကုန်၏၊

**ဃ။ တင်ရာဌာန**

မဂဓတိုင်း-ရာဇဂြိုဟ် ပြည်-ဝေဘာရ(?)တောင်ခြေ ... (see note)

**င။ အမှီပြုသောမင်း**

ဗုဒ္ဓရှင်တော်ဘုရား၏ ဒါယကာတော်ဖြစ်သော ဗိမ္ဗိသာရမင်းကြီး၏ သား အဇာတသတ် ပေတည်း၊ အရှင်ဘုရားတို့ ခမ္မစက်သည်း ဖြစ်ပါစေ၊ တပည့်တော်၏ အာဏာစက်လည်း ဖြစ်ပေစေအံ့၊ ရဲရဲ ... သံဂါယနာ တင်တော်မူကြပါ'' ဟု အားပေး လျှောက်ထားလျက် အစွမ်းကုန် ထောက်ပံ့ ပြုစုတော် မူလေ၏၊

**စ။ တင်သောကာလအကြာ**

၁၀-စနေ့ကိုး- သကရစ်ရှည် ၁၄၈-ခုဖြစ်၏၊ငင်းကို မဟာသကရစ် ဟုလည်း ခေါ်သည်၊ သာသနာတော် သက္ကရာဇ် တနှင်အဝင် အဇာတသတ်မင်း နန်းစံ ရှစ် နှစ် မြောက် (ဘုရားရှင်ပရိနိဗ္ဗာန်ဝင်စံတော်မူပြီးနောက် သုံးလမြောက်) ဝါခေါင်လပြည့်ကျော် ငါးရက်နေ့ကစ၍ ၇-လ တိုင်တိုင်ကြာလေ၏၊

**ဆ။ တင်ပုံတင်နည်း**

နှုတ်ဖြင့် အတည်ပြုခန်ရပေါင်း ရွတ်ဆိုတော်မူကြကုန်၏၊ (သံ=စုပေါင်း+ဂါယနာ=ရွတ်ဆို)

## ၂ ဒုတိယသံဂါယနာ

**က။ တင်ရသောအကြောင်းရင်း**

ဝေသာလီပြည် ဝဇ္ဇီတိုင်းသား ရဟန်းတို့သည် ဝိနည်းတရားတော်နှင့်မညီသော အခွင့်ဝတ္ထု ၁၀-ပါးတို့ကိုပြု၍ ကျင့်ဆောင်ကြကုန်၏၊ ထို့ကြောင့် သာသနာတော်၏ ညစ်နွမ်းရာ အကြောင်းရင်းကြီး ဖြစ်ပေါ်လာလေ၏၊ အခွင့်ဝတ္ထု ၁၀-ပါးကား–

၁၊ သားချိုဖြင့် ဆားကိုဆောင်၍ဆားမရှိသော ဟင်းနှင့်စားလျှင် သင့်ဒါမဖြင့်၊

၂။ ပွန်းလွဲပြီး နောက် အရိပ်လက်နှစ်သစ်ထွက်သည်တိုင်အောင် စားသော်လည်း ဝိကာလဘောဇနမဖြစ်၊

၃၊ တရပ်တရွာသို့ သွားလိုမှ ပဝါရိတ်သင့်လျက်နှင့် အတိ ရိက် မပြုဘဲစားကောင်း၏၊

၄၊ တသိမ်ထည်းအတွင် တကျောင်းတခြားစီ သံဃာ့ကံဆောင်ကောင်း၏၊

၅၊ မလာသေးဘဲလာမှာဆန္ဒယူအံ့ ဟုရှေးဦးကသံဃာ့ ကံဆောင်သော်ဝဂ်မဖြစ်၊

၆၊ ဆရာ ဥပဇ္ဈာယ်တို့၏ အလေ့ အကျင့်ဖြစ်ပါက အပ်သည်ချည်း၊

၇၊ နို့ရည် အဖြစ်ကိုလည်း မစွန့်သေး, နို့ခမ်းအဖြစ်သို့လည်း မရောက်သေးသော နို့ရည်ကို ပဝါရိတ်သင့်လျက် အတိရိက် မပြုဘဲစားကောင်း၏၊

၈၊ သေရည် စိမ်းစိမ်း အဖြစ်သို့ မရောက် သေးသော သေနုကို သောက်ကောင်း၏၊

၉၊ အဆာမရှိသော နိသီဒိုင်ကိုသုံးဆောင်ကောင်း၏၊

၁၀၊ ရွှေငွေကို ခံကောင်း၏၊

ထိုအယုဝါဒ များနှင့်ပတ်သက်သည်များကို အသျှင် မဟာယသမထေရ် မြတ်ကြီး ကြားသိတော် မူသောကြောင့်အသျှင်ရေဝတ,သက်တော် ၁၂၀–ရှိအသျှင် သဗ္ဗကာမိစသော ရဟန္တာကြီးများနှင့် တကွ သံဂါယနာတင်တော်မူကုန်၏၊

ခ။ ဦးစီးပုဂ္ဂိုလ်

ထိုသံဂါယနာတင်ပွဲ၏အကြီးအမှူးကားအသျှင်မဟာယသ အသျှင်မြတ်ကြီးပေတည်း၊ ထိုအသျှင်မြတ်ကြီးကား ဗုဒ္ဓဘုရားရှင်၏ ညီတော်ဖြစ်သော အရှင်အာနန္ဒာ၏ အတူနေတပည့်ဖြစ်တော်မူ၏၊

ဂ။ တင်သောသံဃာဦးရေ

ထိုသံဂါယနာတင်ပွဲ၌လည်း ပုထုဇဉ်ဟူ၍ မပါပေ၊ ရဟန္တာအရှင်မြတ်ကြီးပေါင်း ၇၀၀-မျှပါဝင်တော်မူကြကုန်၏၊ အရံသံဃာကား တသန်းနှစ်သိန်းခန့်ရှိသတတ်၊

ဃ။ တင်ရာဌာန

အဆိုပါ အဓမ္မဝတ္ထု ၁၀–ပါးသော် ဝိနည်းတော်နှင့် မလျော်ညီသော အယူအဆ ၁၀–မျိုးတို့ကို ကြားသိတော်မူသော အသျှင်မဟာယသသည်အသျှင်ရေဝတ အသျှင်သဗ္ဗကာမိ စသောရဟန္တာ အရှင်မြတ်ပေါင်း ၇၀၀-တို့ကို နှိုးဆော်တော်မူ၍ ဝေသာလီပြည်ဝါလိကာရာမ ကျောင်းတော်သို့ ကြွတော်မူကြကုန်၏၊ ထိုအခါ ဝေသာလီပြည်မဟာဝုန်ကျောင်း၌ ရှိနှင့်ကြသော ဝဇ္ဇီတိုင်းသား ရဟန်းတို့က အကောက်ကြံကြပြီးလျှင် ကာလာသောက မင်းတရားကြီး ထံသို့ဂုန်းချောတိုက်ခိုက်ကြလေကုန်၏၊ ဂုန်းချော တိုက်ခိုက်ပုံကား ကျွန်ုပ်တို့သည် မဟာဝုန်ကျောင်း ဂန္ဓကုဋိတိုက်ဘော်ကို စောင့်ရှောက် နေထိုင်ပါကုန်၏၊ ၎င်းကို အသျှင်မဟာယသဦး စီးသော ရဟန်းများက လုယူယက်ငင်ရန်လာနေကြပါပြီ၊ဘားဆီး၍ပေးပါဟု ဆိုကြကုန်၏၊ ကာလာသောကမင်းလည်းအမှတ်ဲ့ ယုံစားမိသောကြောင့်အသျှင်မဟာယသအမှူးရှိသောရဟန်းဘို့ကိုမလာရအောင်ဆီးတားကြချေဟု စေခိုင်းတော်မူမိလေ၏၊ အမတ် များနှင့် နောက်ပါတို့ သွားကြ သော်လည်း လမ်းလွဲ၍နေကြလေကုန်၏၊ ထိုသို့လမ်းလွဲ ရခြင်းမှာလည်း နတ်တို့၏ တန်ခိုးတော်ကြောင့် ဖြစ်သည်-ဟု ဆို၏၊ ၎င်းညဉ့်မှာပင်ကာလာသောကမင်းကြီးသည်လောဟကုမ္ဘီ ငရဲအိုး၌ ကျရောက်သည်-ဟု အိပ်မက်မြင်မက်လေ၏၊ ထိုမင်း၏ နှမတော်ဖြစ်သော နန္ဒာထေရီ ရဟန္တာအသျှင်မလည်း ကောင်းကင် ခရီးဖြင့်လာပြီးလျှင် မဓမ္မဝါဒီရဟန်းတော်တို့ကိုပြစ်မှား၍ အဓမ္မဝါဒီရဟန်းများကိုအသင်းအပင်းပြုလျှင် အပြစ်ကြီးလေဟုကြောင်းကို ဟောကြားဆုံးမတော်မူ၏။ ထိုအခါမှ ကာလာသောကမင်းလည်း ထိတ်လန့်ပြီးလျှင် ဝေသာလီပြည် ဝါလိကာရုံ ကျောင်းတော်သို့လာ၍ အသျှင် မဟာယသစသော ရဟန္တာမြတ်တို့အား ကန်တော့ပူဇော်တော် မူပြီးလျှင် စောင့်ရှောက်အားပေးတော်မူလေ၏၊

င။ အမှီပြုသောမင်း

ဆိုခဲ့သောကာလာသောက မင်းပေတည်း၊

စ။ တင်သောကာလအကြာ

သာသနာသက္ကရာဇ်အနှစ် ၁၀၀ ပြည့်၌တင်ရာ ၈လတိုင်တိုင်ကြာမှပြီးစီး၏၊မည်သည့်လ နေ့မှစတင်ကြောင်းကိုကား စာပေများ၌မတွေ့ရပေ၊ အနှစ် ၁၀၀–ပြည့်၌ တင်ကြောင်းမှုကိုသာသိရပေ၏၊

ဆ။ တင်ပုံတင်နည်း

ထိုဒုတိယ သံဂါယနာ၌ လည်း ပဌမ သံဂါယနာမှုကဲ့သို့ပင် နှုတ်ဖြင့်သာချင်အတည်ပြုရန် ရပေါင်းရွတ်ဆိုဘော်မူကြကုန်၏၊

## ၃ တတိယ သံဂါယနာ

က။ တင်ရသော အကြောင်းရင်း

ဤသို့လျှင်(၁) မဟာသံဂီတိနှင့် (၂)ထေရဝါဒဟူသော ဂိုဏ်းကြီးနှစ်ဂိုဏ်းတို့မှ ဂိုဏ်းခွဲပေါင်း ၁၈-ဂိုဏ်းအထိကွဲပြားသွားလေသည်၊ ကမ္ဘာကျော် အသောကမင်းကြီးကြီးကိုယ်တိုင် ဗုဒ္ဓသာသနာဘော်အား သက်ဝင် ကြည်ညို သောကြောင့် လာဘ်လာဘ များ ပြားသည်ကို အကြောင်းပြုပြီးလျှင် ရဟန်းတု ရဟန်းယောင်အများ အပြားပေါ်ပေါက်၍လာလေ၏၊ ပရိသတ် မစင်ကြယ်ကြောင်းကို သိတော် မူကြသော ရဟန်းကောင်းတို့သည်ရောနှောလျက် ဥပုသ်မပြုကြသဖြင့်ခုနစ်နှစ်တိုင်တိုင် ကြာ၍သွားလေ၏၊ ထိုအကြောင်း ကိုအသောက မင်းကြီးကြီး ကြား သိတော် မူသောကြောင့် အမတ် တဦးအား"အဓိကရုဏ်းကိုငြိမ်းချေ၍ ဥပုသ်ပြုပေစေ" ဟု တိုတိုကျဉ်းကျဉ်းမျှ အမိန့်ပေးတော် မူလိုက်လေ၏၊ အမိန့် အတိုင်းဆောင်ရွက်သည့် အမတ်ကား "ဥပုသ်မပြုသော ရဟန်းများအား သတ်စေ" ဟု မိန့်တော်မူသည် အထင်နှင့် ဥပုသ် မပြုသည့် ရဟန်းကောင်းတို့အား သတ်ဖြတ်လေ၏၊ ထိုအခါမင်းကြီး ကြီးသည် ငါစေလိုက်ရင်း အာဘော်ကို မှိ၍ သတ်သဖြင့် ငါ့အားအပြစ်များရှိလေရော့မည်လား" ဟု ယုံမှား ရှိသောကြောင့် ဂင်္ဂါမြစ် အထက် ပိုင်းရှိ ရှင်မဟာ မောဂ္ဂလိပုတ္တတိဿအားပင့်၍လျှောက်လေ၏၊ အရှင် မြတ်လည်း အပြစ်မရှိ ကြောင်း မိန့်တော်မူပြီးလျှင် အသောက မင်းကြီးကြီးအား ဘုရားရှင်၏ အယူကို ၇-ရက် တိုင်တိုင် သင်ကြား၍ ပေးတော်မူလေ၏၊ ပြီးမှ ရဟန်းတု ရဟန်းယောင်(တိတ္ထိ)ခြောက်သောင်းတို့အား နှင်ထုတ်စေတော်မူပြီးလျှင် ရဟန်းတော် ခြောက်သိန်းတို့နှင့်တကွ ဥပုသ် ပြုဘော်မူလေ၏၊

ဘုရားရှင် ဟောကြားတော်မူခဲ့သည့် ဗောဓိမွှာခြောက်ကျမ်းအနက် ကထာဝတ္ထုကျမ်းကိုလည်း သကပက္ခ ၅၀၀-ပရပက္ခ ၅၀၀ (အရေ ဝါဒတထောင်) တို့ဖြင့် တန်းဆာဆင်လျက် ပြည့်စုံ သွင်းဟောကြားတော်မူလေ၏၊

ခ။ ဦးစီးပုဂ္ဂိုလ်

ဗုဒ္ဓဘုရားရှင်၏ တပည့် ရင်း (၁) အရှင်ဥပါလိ (၂)ရင်း၏ တပည့် အရှင်ဒါသက(၃) ရင်း၏ တပည့်အရှင် သောဏ(၄) ရင်း၏တပည့်အရှင် သိဂ္ဂဝ(၅) ရင်း၏ တပည့် အရှင်စန္ဒဝဇ္ဇိမထေရ်ဘို့၏ တပည့်ရင် အရှင်မဟာ မောဂ္ဂလိပုတ္တတိဿ ဖြစ်ကြောင်းကို အဋ္ဌကထာ၌ဆိုသည်၊

ဂ။ တင်သောသံဃာဦးရေ

အ ရှင် မဟာ မောဂ္ဂ လိပုတ္တတိဿ, အရှင်မဇ္ဈန္တိက,အရှင် မဟာ ဒေဝ-စ သော ရဟန္တာ တထောင်မျှပါဝင်တော်မူကုန်၏၊

ဃ။ တင်ရာဌာန

ပါဋလိပုတ် ပြည်-အသောကာရုံကျောင်းတော်၊ (ယခုပဋ္ဋနာမြို့ဟောင်း အတွင်း၌နေရာ ထင်ရှားရှိသေးသည်)

င။ အမှီပြုသောမင်း

ဗုဒ္ဓဘာသာသာသနာပြုမင်း အပေါင်းတို့တွင် အထင်ရှားဆုံး အကျော်ဇောဆုံး ဖြစ်သော အသောက(သိရီဓမ္မာသောက)မင်းကြီးပေတည်း၊

စ။ တင်သောကာလ အကြာ

သာသနာ ၂၃၅-ကစ၍တင်ရာ ၉-လတိုင်တိုင်ကြာမှပြီးစီး၏၊

ဆ။ တင်ပုံတင်နည်း

နှုတ်ဖြင့်သာလျှင် ရွတ်ဆို၍တင်တော်မူကြကုန်၏၊

## ၄ စတုတ္ထ သံဂါယနာ

က။ တင်ရသောအကြောင်းရင်း

သီဟိုဠ်ကျွန်း၌ စဋ္ဋာလတိဿ ပုန်ကန်သောဘေးကြီး ထကြွသည့်ဖြင့်မိယ်းကလည်းကောင်း၊ စာမရွာသွန်းသောကြောင့် တော်မွတ်ခေါင်းပါးကြကုန်၏၊ ထိုအခါ ရဟန္တာကြီးခြောက်ကျိပ်တို့သည် ပထမ ဇမ္ဗူဒိပ်ကျွန်း (အိန္ဒိယပြည်) သို့ ကူးတော်မူကြရန်ကမ်းပါးသို့ကြွတော်မူလာကုန်၏၊ ပေါင်မဆန့် သဖြင့်ကျန် ရစ်ခဲ့သော ရ ဟ န္တာ ကြီးခြောက်ကျိပ်တို့သည် သီဟိုဠ်ကျွန်း၌ပင် ပိဋကဘော်ကို ဆောင်ရွက်စောင့်ရှောက်ကြကုန်အံ့ဟု ကတိကဝတ် ပြုတော်မူကြပြီးလျှင် သီဟိုဠ်ကျွန်း၏ အပိပ် အုပ်ဖြစ်သော မလယ ဇနပုဒ်သို့ ကြွရောက်တော်မူကြကုန်၏၊ သစ်ဥ-သစ်ဖု-သစ်ရွက်များ

(စာမျက်နှာ ၁၄ သို့ဆက်ကြည့်ပါ)

# ကမ္ဘာ့ ၁လုံး ဆိုင်ရာ ဗုဒ္ဓဘာသာ သာမဂ္ဂီ

## တတိယ မြောက် ကွန်ဖ ရင့် ကြီး ကို မြန်မာပြည်တွင်ကျင်းပမည်

World fellowship of Buddhists. ခေါ် ကမ္ဘာ့လုံး ဆိုင် ရာ ဗုဒ္ဓဘာသာ အဖွဲ့ချုပ်ကြီးကိုဖွဲ့စည်းရန် ၁၉၅၀-ပြည့်၊ မေလ အတွင်း ကွန်ဖရင့်ကြီးတရပ်ကို သီဟိုဠ်ကျွန်း၌ခေါ်ယူကျင်းပခဲ့လေသည်၊ ထိုကွန်ဖရင့်ကြီးကို—

၁—ကမ္ဘာ့အပေါ်ရှိ ဗုဒ္ဓဘာသာဝင်များ ပို၍ စွဲမြဲနိုးကြားလာစေရန်၊

၂-နိုင်ငံအသီးသီးတို့၏ဗုဒ္ဓဘာသာ အခြေအနေများကို အချင်းချင်းသိမြင် နားလည်စေရန်၊

၃—ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် ဗုဒ္ဓဘာသာဝင်များက မည်ကဲ့သို့ အထောက်အပံ့ပေးနိုင်မည့်နည်းလမ်းများကို ဆွေးနွေး၍ ဆောင်ရွက်ရန်၊

၄—သာသနာ ၂၅၀၀—(၁၉၅၆—၇) ပြည့်တွင် ဗုဒ္ဓဘာသာတရားတော်အရ တကမ္ဘာလုံး ကျင့်ဆောင်လိုက်နာနိုင်ကြစေရန်၊

ဟူသော ရည်ရွယ် ချက်များဖြင့် ခေါ် ယူခဲ့လေသည်။

ထိုကွန်ဖရင့်ကြီးသို့ ၂၉-နိုင်ငံမှ ကိုယ်စားလှယ်များ တက်ရောက်ကြလေသည်၊ ထိုနိုင်ငံများမှာ(၁)အာဖရိက (၂)အမေရိက(၃)ဩစတြေးလျှ ယား(၄) ဩစတြီးယား (၅)ဘူတန် (၆)မြန်မာ(၇)ကမ္ဘောဒီးယား (၈) သီဟိုဠ်(၉)တရုပ် (၁၀ )ချက်ကိုဆလိုဗားကီးယား(၁၁)အင်္ဂလန်(၁၂) ဖင်လန်(၁၃)ပြင်သစ်(၁၄)ဂျာမဏီ (၁၅)ဟာဝေ(၁၆) အိန္ဒိယ (၁၇) အီတလီ (၁၈) ဂျပန် (၁၉)လာအို (၂၀) မလေး(၂၁) မွန်ဂိုလီးယား (၂၂) နီပေါ(၂၃)ပါကစ္စတန်(၂၄) ဆွစ်ဇာလန်(၂၅) ယိုးဒယား (၂၆) တိဗက် (၂၇) ဗီယက်နမ် (၂၈) ဟော်လန် (၂၉) ကိုရီးယားတို့ဖြစ်လေသည်၊

၎င်းကွန်ဖရင့်ကြီးကို ကန္ဒီမြို့၌ ကျင်းပကြရာတွင်-

၁၊ ဗုဒ္ဓဘာသာဝင်များသည် ဗုဒ္ဓဝါဒကို မုံ၍တရားတော်နှင့်အညီ ကျင့်ကြံ နေထိုင်ရေးကိုအစွမ်းကုန်လိုက်နာရန်၊

၂၊ ဗုဒ္ဓဘာသာဝင်ချင်းညီရင်း အစ်ကိုကဲ့သို့ချစ်ခင်စိတ်မွေးရန်၊

၃၊ ကမ္ဘာ့လူထုနှင့်အိုးရအားလုံး ဗုဒ္ဓတရားတော်အလေ့လိုက်နာနေထိုင်ရေး အတွက် ဗုဒ္ဓသာသနာ ပြန့်ပွားအောင်အစွမ်းကုန်ကြိုးစား ရေးရန် ကမ္ဘာ့ ဗုဒ္ဓ ဘာသာ သာမဂ္ဂီ အဖွဲ့ကြီးကိုဖွဲ့စည်းရန်၊

ထုစွယ်တော်အမတ်ကြီးကအာဆိုလွှင်းရာ ဖြင်သစ် ကိုယ်စားလှယ်လူ ငယ်စ်ဘယ်ရီနှင့်အခြားကိုယ်စားလှယ်များက ထောက်ခံကာဖွဲ့စည်းခဲ့ကြလေသည်၊

အဖွဲ့ချုပ်ကြီး၏အမှုဆောင် ၂၉ ဦးပါသည့်အဖွဲ့၌ပရိုပက်ဆာဒေါက်တာ -ဂျီပီမာလာလာ ဆေကရမှာ ဥက္ကဋ္ဌဖြစ်လေသည်၊ ဒုတိယဥက္ကဋ္ဌတို့တွင်မြန်မာနိုင်ငံမှ နိုင်ငံတော်ရှေ့နေချုပ်ကြီး သတိုးမဟာသရေစည်သူ ဦးချန်ထွန်းလည်းပါလေသည်၊

ညီလာခံကြီးမှချမှတ်လိုက်သည့် ဆုံးဖြတ်ချက် ၁၅ချက်တို့ကိုဆောင်ရွက်နိုင်ရန်အဖွဲ့ငယ်ပေါင်း ၁၅ဖွဲ့ ဖွဲ့စည်းခဲ့၏၊

၁၉၅၂-ခု ဒု တိယ အကြိမ် မြောက်ကွန်ဖရင့်ကြီးကို ဂျပန်ပြည်၌ကျင်းပရာ အာရှ, ဥရောပ, အမေရိက တိုက်များရှိ နိုင်ငံပေါင်း ၂၅-နိုင်ငံ တို့မှ ကိုယ် စား လှယ် တော်ပေါင်း ၂၀၀— မှတက်ရောက် ခဲ့ကြလေသည်၊

မြန်မာနိုင်ငံမှ အ မျိုး သား စီ မံကိန်းနှင့်သာသနာရေးဌာန ဝန်ကြီး ဦးဝင်း ခေါင်း ဆောင်သည့် အဖွဲ့လည်းထိုကွန်ဖရင့်သို့ တက်ရောက်ခဲ့လေသည်၊

တတိယ အကြိမ်မြောက် ကွန်ဖရင့်ကြီးကိုမြန်မာနိုင်ငံတော်၌ကျင်းပလိမ့်မည်ဟုသိရှိရကြောင်း၊

# နာဂ နှစ် ဦး နှင့် မိဘမဲ့ ကလေး များ

နာဂတောင်တန်းမှ-နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု-ခေါ်ဆောင်လာသည့်နာဂအမျိုးသားကလေး ၂-ဦးတို့အား နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့၏ အဖွဲ့ခွဲဖြစ်သော တောင်တန်းသာသနာပြုအဖွဲ့မှ မကြာမီအတွင်း ရှင်ပြု ပေးလိမ့် မည်ဟု သိရှိရကြောင်း၊

ရန်ကုန်မြို့ ဒေါ်တိတိလု (စ်) ၏ မိဘမဲ့ ကလေးများ ကျောင်းမှ ကျောင်းသား ၂၇- ယောက်တို့အားရှင်ပြုရန်ကိစ္စကိုနိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီး၏(၁၀-၄-၅၃) အထူးအမှုဆောင် အစည်း အဝေးကြီးတွင် စဉ်းစားကြရာ ထိုကိစ္စနှင့်ပါတ်သက်၍ (ပိုင် အမ် ဘီအေ) အသင်းဥက္ကဋ္ဌ ဦးဒုန်းပေ၊ အတွင်းဝန်များရုံးဗုဒ္ဓဘာသာအသင်းမှဦးကြန်ရ၊ ပရိယတ္တိသာသနာ့ဂုဟာအသင်းမှ ဦးဘိုးမြ၊ စေတိယင်္ဂဏ ပရိယတ္တိအသင်းကြီးမှ ဦးစင်းရှိန်တို့က ဖြစ်မြောက်အောင် ဆောင်ရွက်ရန်တာဝန်ယူ၍ သွားကြကြောင်း၊

ဤရှင်ပြုပွဲအတွက် နိုင်ငံတော်အစိုးရသာသနာရေးဌာနမှလည်း ငွေ ၅၀ဝိ(ငွေငါးရာကျပ်တိတိ) ကိုထည့်ဝင် လှူဒါန်းလိုက်သည်ဟု သိရ ကြောင်း၊ ၎င်း ဖြင် ဝါဆိုလဆိုင်မီ ရှင်ပြုပွဲကိုပြုလုပ်နိုင်ရန်ရည်ရွယ်ထားသည့်ဖြင် ရှင် အဖြစ်သို့ရောက်ပြီး နောက်အနည်းဆုံး တဝါခန့် သာမဏေအဖြစ်နှင့် နေထိုင်ကြရန် တိုက်တွန်းကြလိမ့်မည် ဟုသိရကြောင်း၊

## ဗုဒ္ဓဘာသာနှင့်နီပေါ

ဗုဒ္ဓ ရှင်တော်ဘုရား မွေး ဖွါးတော်မူရာ နီပေါပြည်၌ ယခုအခါလူဦးရေ ၁၀ သန်းခန့် ရှိရာတွင် ထေရဝါဒ ဗုဒ္ဓဘာသာ ကျောင်းပေါင်း ၁၃ ကျောင်းမျှရှိလေသည်၊ ရဟန်းတော် နှင့် ရှင် သာ မ ဏေ ၂၃ ပါး မျှ ရှိ သည်၊ နီပေါပြည် ခမ္မောဒယ အသင်းကြီးမှ အကျိုးဆောင် အမရိတာနန္ဒ ဆရာတော်သည် ဗုဒ္ဓဘာသာ တိုင်းပြည် များသို့ သာသနာရေး ကိစ္စများကို အကြောင်းပြု ဖူးလည်နေရာမှ ယခုအခါ မြန် မာ နိုင် ငံ သို့ ရောက်ရှိနေကြောင်း၊

## အာဂုံ ရွတ် ဆို မည့် အဖွဲ့

ဆင္ဌသံဂါယနာတင်မည့်အချိန်တွင် ပိဋကသုံးပုံကိုအသီးအသီးတာဝန်ယူ၍ အာဂုံ ဖြန်ဆို မည့် ဆရာတော်များ စာရင်းကို နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးသို့ ပေးပို့လျက်ရှိရာ ယနေ့ အထိ သံ ဃာတော် ပေါင်း (၈၄၃) ပါး ရရှိ ပြီဖြစ်ကြောင်း၊ ပါဠိ သုဒ်သင်ရေး အဖွဲ့မှ အ ကောင်း ဆုံးနှင့် အမှန် ဆုံးတည်းဖြတ် သုဒ်သင်ပြီး ပိဋက ဘောဒ်များကိုအာဂုံ ရွတ်ဆိုကာ သံဂါယနာ တင်မည့်ပုဂ္ဂိုလ်များ ဖြစ်လေသည်၊

—၀—




ကမ္ဘာ့ဗုဒ္ဓဘာသာအဖွဲ့ချုပ်ကြီး၏ဒုတိယအကြိမ်မြောက်ကွန်ဖရင့်ကြီးဂျပန်ပြည်၌ ကျင်းပစဉ်

# ကမ္ဘာ့ဒီးယားသာသနာ့ပိုင်ကြွရောက်တော်မူ

သံလလည်းမြဲစွာ သမာဓိသည်း ခိုင်ကျည် ပညာရည်လည်းရှိ သဏ္ဌာန်သုံးပါး ထင်လျှားကုံသုံ ပြည့်

အနှစ် နှစ်ဆယ်အတွင်း ဗုဒ္ဓသာသနာ နေ့ဝါလရောင် ပမာဆောင်၍ ပြောင်ပြောင်ဝင်း

အားထုတ်တော်မူခဲ့ပုံများကိုရင်း ထိုသို့သော ဂုဏ်တော်ကျေးဇူး အဆူးထူးတို့

အစိုးရတို့နှင့်တကွ ပြည်သူပြည်သား လူအများ၏ ညွှတ်ဝပ်ဦးမြိုခိုကြည်

အရှင်ဘုရား၏ ဂုဏ်တော် ကျေးဇူးတော်များ

အရှင်ဆရာတော်ဘုရားကြွလာတော်မမူမီကပင်ပန်းသတင်း လေညှင်းဆောင်

ကြားသိနှင့်ကြရပါသည်ဘုရား

(လူထုပူဇော်ပွဲတွင်ဥက္ကဋ္ဌကြီး ဆာဦးသွင်၏သြဘာစာမှ)





(၁) သာသနာပိုင်အား မင်းခမ်း မင်းနားဖြင့် ကြိုဆိုပင့်ဆောင်ရာတွင် ငွေချောင်ဘကဲကြီးနှင့် ထီးဖြူတော် နှစ်လက်မိုးထားသည့်ကားပေါ်တွင် တင်၍မင်္ဂလာဒုံလေဆိပ်မှ ထွက်ခွာမည့်ဆဲဆဲတွင်တွေ့ရပုံ၊





(၂) သာသနာပိုင်အား နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့မှ ကြိုမျှ၍လေဆိပ်မှ မြို့တွင်းသို့သွားသည့် ပင့်ဆောင်ရာတွင် ဆူးလေဘုရားလမ်းမကြီးသို့အရောက်၌တွေ့ရပုံ၊





(၃) ဥက္ကဋ္ဌကြီး ဆာဦးသွင်၏နေအိမ်၌ ဆင့္ဃသံဃာယနာ ဝန်ဆောင်သံဃအဖွဲ့နှင့်တကွ သာသနာပိုင်အား ယာဂုဆွမ်း ဆက်ကပ်လှူဒါန်းပြီးနောက် ဆင့္ဃသံဃာယနာပဏာမဆွေးနွေးပွဲကိုပြုလုပ်လေသည်။





(၄) နိုင်ငံတော်သမ္မတကြီး၏နေအိမ်၌မြန်မာဆရာတော်များနှင့်ကမ္ဘောဒီးယား သာသနာပိုင်အားသမ္မတကြီးကနံနက်ဆွမ်းဆက်ကပ်ပြီးနောက်ရေစက်ချနေစဉ်တွေ့ရပုံ၊

# ာသည့်ခါတ်ပုံသတင်းများ

ာ်မှုသည့်နှင့်အညီ ကမ္ဘောဒီးယား နိုင်ငံတော်တွင်
း ထွန်းလင်းစေရန် ရည်သန်ကြိုးကုတ်
ခြင့် ကမ္ဘောဒီးယား နိုင်ငံတော်
လေးမြတ် ခံယူအပ်သော
ငိး
သတင်းလူချင်းဆောင်ဟူသကဲ့သို့





(၂) သာသနာပိုင်သည် ဆူးလေ စေတီတော်သို့ ကြွ ရောက်ဖူးမြော်ရာတွင် ဘဏ္ဍာထိန်းအဖွဲ့ရုံးခန်း၌ရောက်ရှိ နေသော ဝိသူအားနီးသား ဘုန်းတော်ကြီးများနှင့်အတူ တွေ့ ရပုံ။





(၄) နိုင်ငံတော်ဝန်ကြီးချုပ်၏နေအိမ်တွင် သာသနာပိုင် နှင့်ဝန်ဆောင် သံဃာ့အဖွဲ့ဝင် ဆရာတော်များ ဗုဒ္ဓသာသနာ အဖွဲ့အမှုဆောင်များအား ဆွမ်းလှူဒါန်း ကျွေးမွေးပြီးနောက် ဆဋ္ဌသံဂါယနာ စသော သာသနာရေးကိစ္စများကို ဆွေးနွေး တော်မူကြပုံ။



(၁) ၂၂-၃-၅၃-နေ့ မွေ့ဒူတပိဋကလသ ကျောင်းသို့ကြွ ကာ နံနက်ဆွမ်းဘုန်းပေးပြီးနောက်ကမ္ဘာ့ဧစေတီကိုဖူးမြော်ရာ တွင် သာသနာပိုင်ဆရာတော်အားတွေ့ရပုံ။





(၃) မြို့တော် ခန်းမကြီး ၌ Civic Reeption ခေါ် မြို့တော်ခေါင်းဆောင်များ၏ ပူဇော်ပွဲအခမ်းအနားခဝါ မြို့ တော်ဝန်က ဆွမ်းဆက်ကပ်နေစဉ်။





(၅) သာသနာပိုင်အား နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ ကြီး မှူး ၍ Public Reception ခေါ် လူထု ပူဇော်ပွဲ ကြီးကို မိုးညှင်း မွေ့ရုံကြီး၌ ပြုလုပ်ရ တွင် တွေ့မြင်ရပုံ။

# စေတိယင်္ဂဏ ပရိယတ္တိ အသင်းကြီး

## ၁၂၅၆ ခုနှစ်မှစတင်၍ တည်ထောင်ခဲ့သည်

**နာယကများ၊**

ဘာသာရေးနယ်ပယ်တွင် အစိုးရစာမေးပွဲနှင့် သကျသီဟ စာမေးပွဲတို့မှတပါး နာမည်ကြီးလှသော စာမေးပွဲတရပ်မှာ စေတိယင်္ဂဏ စာမေးပွဲပင်ဖြစ်လေသည်၊ စေတိယင်္ဂဏစာမေးပွဲဝင်ရောက် ဖြေဆိုမည့် ပုဂ္ဂိုလ်ဆိုလျှင်ပင် ပရိယတ္တိ လောကတွင် ပေါ့ပေါ့တန်တန်ပုဂ္ဂိုလ် မဟုတ်ကြောင်းအထင်ဖြင့် လေးစားခံကြရသည်၊ စေတိယင်္ဂဏ အောင်ပြီး ပုဂ္ဂိုလ်ဆိုပါလျှင်ကား ဂုဏ်သတင်းမှာ ပြောဘွယ် မရှိတော့ပေ၊ ဘယ်ကဲ့သို့ ရောက် ရောက် တန်ခိုး တောက်လျှက်ရှိသည်ကို တွေ့ရပေ၏။

**ဥက္ကဋ္ဌများ**

စေတိယင်္ဂဏ စာမေးပွဲကို ရန်ကုန်မြို့ ရွှေတိဂုံ ကုန်းတော်ပေါ်တွင် တည်ရှိသော စေတိယင်္ဂဏ ပရိယတ္တိအသင်းကကျင်းပပြုလုပ်လေသည်၊ ထိုအသင်းကြီးကို ၁၂၅၆-ခုနှစ်မှ စတင်တည်ထောင်ခဲ့ရာ ယနေ့တိုင် တနှစ်ထက်တနှစ်တိုးတက်လျှက်ရှိ၏၊ အသင်းကြီး၏ ကြက်သရေဆောင် နာယက လူကြီးများမှာ ဆာဂျေအေ- ဦးမောင်ကြီး, သတိုးသီရိသုဓမ္မဆာဦးသွင်, အငြိမ်းစား တရားဝန်ကြီး ဆာမြဘူး, အငြိမ်းစားဝန်ထောက်မင်းဦးကြီးဘော,သတိုးသီရိသုဓမ္မဦးသိမ်းမောင်တို့ဖြစ်လျက်အသင်းသားများမှာ ၁၃၁၃ ခုနှစ် အစီရင်ခံစာအရ တထောင်ကျော်မျှ ရှိပြည့်စွာရှိနေသည်ကိုတွေ့ရပေ၏၊ ဦးချစ်ရ, ဦးခုန်းခိုင်, ဦးဘာဆိုင်,ဦးဘိုးသာ,ဦးဘိုးသောင်း ဦးကြီးဘောနှင့်ဦးထွန်းဘောတို့မှာ အတည့်ကျ ဥက္ကဋ္ဌများ ဖြစ်ကြလေသည်၊ လက်ရှိအကျိုးဆောင်မှာ ဦးစင်းရှိန်ပင်ဖြစ်၏။

**လုပ်ငန်းများ**

အသင်းကြီး၏ အဓိကလုပ်ငန်းကြီး ၃-ခုမှာ ၁-ဗုဒ္ဓသင်္ဂြိုဟ်-ဘုရားကိစ္စဆောင်ရွက်ခြင်း, ၂-ဓမ္မသင်္ဂြိုဟ်-တရားတော် ကိစ္စကို ဆောင်ရွက်ခြင်း, ၃-သံဃသင်္ဂြိုဟ်-သံဃာတော်များကိစ္စကို ဆောင်ရွက်ခြင်းများဖြစ်ပေရာ ထိုကိစ္စများကို နိဗဒ္ဓလူကြီးများကထောဝစဉ်ဆောင်ရွက်လျက်ရှိ၏။

တနှစ်အတွင်း ပြုလုပ်ခဲ့သောဘာသာရေး သာသနာရေးဆိုင်ရာကိစ္စများကို အောက်ပါ အတိုင်း တွေ့ရှိအကဲခတ် နိုင်ပေကြောင်း၊

**လစဉ်ကုသိုလ်**

ကဆုန်လ နှင့် တန်ဆောင်မုန်းလများတွင် ဆွမ်းတော်ကြီးညှော်ခံပွဲဆင်ယင်၍ ညဥ့်ဝတ်ဘက် ဝတ်ကပ်နံနက်အရုဏ်ဆွမ်းတော်သစ်သီး ယိုမုန့်မျိုးစုံတို့ကို မြတ်စွာ ဘုရားအားရည်မှတ်ကပ်လှူခြင်းနှင့် ကဆုန်လပြည့်နေ့တွင် မဟာဗောဓိ ညောင်ရေသွန်းအဖွဲ့က ဘုရားကြီး ကုန်းဘောင် ဗောဓိ ညောင်ရေသွန်းရန် လာသမျှသူအား တန်ဆောင်းကြီးအတွင်းမှ မုန့်ဟင်းခါး ကျွေးမွေးညှော်ခံခြင်း၊

နယုန်လတွင် ဗုဒ္ဓသာသနာ နုဂ္ဂဟအဖွဲ့နှင့် စေတိယင်္ဂဏ ပရိယတ္တိ အသင်း တို့က ၃-ရက် တိုင်တိုင် ရက်ဆက် မဟာသမယနေ့ကျင်းပ ပဋ္ဌာန်းရွတ်ဘတ်သရဇ္ဈာယ်ကြခြင်း၊

ဝါဆိုလတွင် ၈- ရက်ပတ်လုံး ဗုဒ္ဓသာသနာနုဂ္ဂဟ အဖွဲ့နှင့် စေတိယင်္ဂဏ ပရိယတ္တိ အသင်းကြီးတို့က မေတ္တာစကြာအခါတော် ပရိတ်ရွတ်ဘတ် သရဇ္ဈာယ်ကြခြင်း၊

သီတင်းကျွတ်လတွင်ဆီမီးထွန်းပွဲကျင်းပည့ှော်ခံခြင်းကိုပြုခဲ့လေသည်၊

တန်ဆောင်မုန်းလတွင် သင်္ဃာတော်များအား အရုဏ်ဆွမ်းဆက်ကပ်လှူဒါန်း၏၊

နတ်တော်လတွင် စေတိယင်္ဂဏ ပရိယတ္တိအသင်းကြီး၏ပရိယတ္တိစာချောက်မေးပွဲကျင်းပ၏၊

တပို့တွဲလတွင် စာမေးပွဲအောင်မြင်တော်မူကြသော ရဟန်းတော်များနှင့် လူပုဂ္ဂိုလ်တို့ကို ပွဲကြီးယင်ကာ စာအောင်ဆုချင်းသဘင် ဆင်ယင်ကျင်းပ၏၊

ကဆုန်လမှ တန်ခူးလအထိ လပြည့်နေ့တိုင်း အရဟံအဖွဲ့မှ ဗုဒ္ဓဘာသာတရားပွဲများကျင်းပ၏၊

အထူးသဖြင့် ပရိယတ္တိအသင်းမှ ဦးဆောင်၍ခနဲ့ကုန်မြို့ရပ်ကွက် ကြီးငယ်အသီးသီးမှ ကောက်ခံရသော ဆွမ်းဆန်နှင့် အသင်းမှ ဝယ်သော ဟင်းလျာတို့ကို ပေါင်းစပ်၍ လစဉ်လဆန်းတနင်္ဂနွေနေ့တိုင်း ရန်ကုန်မြို့ စာချစာသင်ကျောင်းတိုက်များရှိသံဃာတော်များအား နိဗဒ္ဓဆွမ်း ဆန့်စိမ်းလှူဒါန်းလေသည်၊

### ၃၅–ကြိမ်မြောက်စာမေးပွဲ

စေတိ ယင်္ဂဏ အသင်းကြီး၏ ဂုဏ်သတင်းကျော်စောခြင်းမှာ ပရိယတ္တိစာမေးပွဲပင်ဖြစ်၏၊ ထိုစာမေးပွဲမှာ ယခုနှစ်တွင် ၃၅-ကြိမ်မြောက်ရှိပြီဖြစ်ရာ အတန်းမှာ စာသင်တန်း စာချတန်းဟူ၍ နှစ်တန်းခွဲခြားထားလေသည်၊ စာသင်တန်း၌ ဖြန့်ဆိုဖြေကြားရသော ကျမ်းစာများမှာ ဒွေမာတိကာ,သဒ္ဒါကြီး, ပုဒ်စစ်, သုတ်စစ်, သဒ္ဒါစစ်, ဂါထာဖွင့် ၆-ပါ, နည်းလေးဆယ်, သံဝဏ္ဏနာ,သဒ္ဒတ္ထဘေဒစိန္တာ,ကစ္စာယနသာရ, ဆန်း, အဘိဓာန်,သင်္ဂြိုဟ်,မာတိကာ, ဓာတုကထာနှင့် ယမိုက်အောက် ငါးကျမ်းတို့ဖြစ်လေသည်၊ စာချတန်းတွင်ပါရာဇိကဏ် အဋ္ဌကထာ,သုတ်သီလက္ခန် အဋ္ဌကထာနှင့် အဋ္ဌသာလိနီ အဋ္ဌကထာတို့ဖြစ်လေသည်၊

အဆိုပါအသင်းကြီး၏ စာမေးပွဲ အမည်မှာ'စေတိယင်္ဂဏ ပရိယတ္တိ' ဖြစ်သော်လည်း'စေတီယင်္ဂဏ' ဟူ၍သာလျှင် အတိုချုပ် ခေါ်ဆိုကြ၏၊ စာသင်တန်းကိုအောင်မြင်ပါက 'အဘိဝံသ' ဘွဲ့တံဆိပ်ကို ဆက်သ၍ စာချတန်းအောင် ပုဂ္ဂိုလ်များ ကိုကား 'စေတီယင်္ဂဏ ပရိယတ္တိမှော စရိယဂဏဝါစက' ဟူသောတံဆိပ်တော်ကိုဆက်ကပ်ကြလေသည်၊

(ဗုဒ္ဓဘာသာ အသင်းအဖွဲ့များသည် မိမိတို့အသင်း၏ တည်ထောင်သောနှစ် ဆောင်ရွက်ပြီးဆောင်ရွက်ဆဲ လုပ်ငန်းအကြောင်းသားနှင့်ရေးသည့်တို့ကို ဓာတ်ပုံများနှင့်တကွ အတိုချုပ်ရေးသား ပေးပို့ပါက ထည့်သွင်း ပေးပါမည်၊ အယ်ဒီတာ၊)

# မင်္ဂလာ အခါတော်နေ့ရှိုးဆော်ချက်

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က ယခုလာမည့် နှစ်ဆန်း ၁–ရက် (၁၃၁၅–ခုနှစ် ကဆုန် လဆန်း ၄-ရက် ၁၆-၄-၅၃-)နေ့ကိုမင်္ဂလာအခါတော်နေ့ အဖြစ်ဖြင့် သတ်မှတ်၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရှိ မြို့နယ် ရင်ရွာများကွင်အသင်း အဖွဲ့ အနေအားဖြင့် ၎င်း, မြို့ရွာရပ်ကွက် အနေအားဖြင့်၎င်း, နံနက် ၆-နာရီ တိတိ အချိန်တွင် မင်္ဂလာအခါတော်ကျင်းပရန်တိုက်တွန်းနှိုးဆော်ထားကြောင်း၊

၁။ နတ်ကောင်း နတ်မြတ်များ ပင့်ဘိတ်ရန်၊

၂။ မင်္ဂလသုတ် အမွှန်းကိုရွတ်ဘတ်ရန်၊

၃။ မင်္ဂလသုတ် ပါဠိတော်ကို ရွတ်ဘတ်ရန်၊

၄။ မင်္ဂလာကဗျာများကို ရွတ်ဆိုရန်၊

၅။ မေတ္တာ ဘာဝနာပွါးများ၍ အမျှပေးဝေရန်၊

ထို့ပြင်အိမ်တိုင်းအိမ်တိုင်းတွင်လည်းဘုရားရှေ့တွင်မင်္ဂလာပရိတ်ရေ မင်္ဂလာပန်းများ ကပ်လှူကြ၍ မင်္ဂလာသုတ်ပရိတ်တော်ကို ရွတ်ဆိုကြကာမေတ္တာ ဘာဝနာပွါးများကြကာ ကြီးစဉ်ငယ်လိုက် အားဖြင့် ပူဇော်ကန်တော့ကြပြီးလျှင် မင်္ဂလာအခါတော် ယူကြရန် တိုက်တွန်းနှိုးဆော်ထားကြောင်း၊

## ပါဠိ သုတ်သင်ရေး

၁၃၁၆–ခုနှစ် ကဆုန်လပြည့်နေ့မှ စတင်ကျင်းပမည့် ဆဋ္ဌသံဂါယနာတင် ပွဲတော်ကြီးအတွက် မြန်မာပြည် တခွင်လုံးရှိ ခရိုင်တိုင်း မြို့နယ်တိုင်းမှ ပါဠိတော် သုတ်သင်ရေး ကိစ္စကို ဆောင်ရွက်လျှက် ရှိတော်မူသော ပိဋက ကျမ်းဆောင်ကလတ္ထိပေသာလ သိက္ခာ ကာမ ဖြစ်တော်မူကြသော ပါဠိဗိ သောဓကအဖွဲ့ပေါင်းမှာ ယနေ့အထိ (၁၁၁)ဖွဲ့ရှိ၍ အဖွဲ့ဝင်ဆရာတော် များမှာ (၁၁၃၃)ပါးရှိလေသည်၊ ယခုအခါ နောက်ထပ်တိုးချဲ့ရန်အတွက် အချိန်ပင် မရတော့ပေ၊

## ကမ္ဘောဒီးယားသို့

၂-၄-၅၃ နေ့က ဓမ္မဒူတ ဝိဇ္ဇာလယ မဟာနာယက ဆရာတော်နှင့် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ အထူးအရာရှိ ဦးဆိုင်ကျော် တို့ သည် ကမ္ဘောဒီးယား သာသနာပိုင်နှင့် အတူ ယိုးဒယား-ကမ္ဘောဒီးယား နှင့် ယောနယ်များသို့နိုင်ငံခြား သာသနာပြုရေး လုပ်ငန်းများ ထွေလာရန် လိုက်ပါသွားကြကြောင်း၊

## သံဂါယနာ စာစောင်

နောက်လ သံဂါယနာစာစောင်ကို ဓာတ်ပုံစာလုံးများနှင့် ရိုက်မည်ဖြင့် ဆပြီးအဆင်များကိုလည်းယခုထက်ပို၍ဆက်ကောင်းမွန် အောင်စီစဉ်နေပြီဖြစ်ကြောင်း၊

# ပါဠိစာပေမှ-မြန်မာစာပေသို့

## ပိဋကမြန်မာပြန် စံနစ်ကြီး ၄-ချက်

### ပါဠိမှမြန်မာသို့ပြန်ရာ၌ နံ့စာပြန်နိသျပြန် မြန်မာစကားပြေပြန်ဟု ၃ မျိုးရှိပုံ

လေးဆယ့်ငါးနှစ်တိုင်တိုင် ဗုဒ္ဓရှင်တော်ဘုရား ဟောကြားတော်မူအပ်သော တရား စကားတော်တို့သည် မဂဓဘာသာ (ပါဠိဘာသာ) အားဖြင့်သာလျှင် ဟောကြားတော်မူခဲ့ခြင်းဖြစ်ကြောင်းကို ဗုဒ္ဓဘာသာ စာပေများအရ သိရပေသည်။

ဗုဒ္ဓရှင်တော်ဘုရားပရိနိဗ္ဗာန်ဝင်စံတော်မူပြီးနောက် ယခုအထိ(နှစ်ပေါင်း(၂၄၀၀) ကျော် အတွင်း၌လည်း ဗုဒ္ဓဘုရားရှင်၏တရားစကားတော်တို့သည်ပါဠိဘာသာအားဖြင့်သာလျှင် အများဆုံး တည်နေခဲ့ကြောင်းကို သမိုင်း စာပေများအရ သိရပြန်ပေသည်။

(ဒုတိယ) သက္ကရိုက်ဘာသာ သီဟိုဠ်ဘာသာစသည်တို့နှင့်လည်း အများဆုံးတည်နေခဲ့ကြောင်းကိုသိရပြန်ပေသည်။

၎င်းနောက် တိဗက်, မြန်မာ, တရုပ်, ယိုးဒယား, ဂျပန်, အင်္ဂလိပ် စသော ဘာသာတို့ဖြင့်လည်း ဗုဒ္ဓရှင်ဘော် ဘုရား၏ တရား စကားတော်များအားပြန်ဆိုခဲ့ကြပုံများကို တွေ့မြင်နိုင်ကုန်၏။

မြန်မာနိုင်ငံ အဖို့ ပိဋက ဘာသာပြန် လုပ်ငန်းနှင့် ပတ်သက်ရာတွင်ရှေးအခါက စ၍ ယခုခေတ်အထိ ၃-မျိုး၃-စားပြန်ဆိုလေ့ရှိခဲ့ကြပုံများကို တွေ့မြင်ရပေ၏။ သုံးမျိုး ၃-စားဆိုသည်မှာ—

၁။ နံ့စာ

၂။ နိသျ

၃။ မြန်မာသက်သက်

ဟုဖြစ်လေသည်။

ဤ ၃-မျိုး တို့တွင် နံ့စာကို "နံ့စောင်း"ဟုလည်းခေါ်လေ့ ရှိကုန်၏။ နံ့စာပြန်ဆိုနည်းမှာလည်းအဓိကအားဖြင့်ပါဠိ ဘာသာကို သာလျှင် သင်ကြားလေ့လာလေ့ ရှိကုန်သော ပုဂ္ဂိုလ်တို့အတွက် ရည်မှန်း၍ ခက်ဆစ် လောက်ကိုသာ ပြန်ဆိုနည်းမျိုးဖြစ်လေသည်။ ထို့ကြောင့် ဤ မြန်ဆိုနည်းမျိုးအရ မြန်မာဘာသာ



အဂ္ဂမဟာပဏ္ဍိတ ဆရာလင်း

ဆရာကြီးသည် မန္တလေးမြို့ တောင်ငြိမ်မဟာနွယ်စင် (ဗောဓိကုန်း)ရပ်တွင် ၁၂၃၇-ခုနှစ်တွင်မွေးဖွါးခဲ့သဖြင့်၊ယခုအခါတွင်အသက် ၇၇-နှစ် ရှိပြီဖြစ်၏။ မန္တလေးမြို့တောင်ပြင်မိုးတားမင်းတုန်း သီဘောတံဆိပ်နှစ်ထပ်(၊ သမုတိသာသနာ့ဆိုင်)ဆရာတော်ဘုရားထံတော်တွင် ပညာသင်ကြားလာခဲ့၏။ ဟံသာဝတီနှင့် ကဝိမျက်မှန် ပိဋကတ်ပုံနှိပ်တိုက်များတွင်ပါဠိဆရာကြီး၊ အဖြစ်ဖြင့်၎င်း, ညောင်မင်းကြီး ရုံးတော်တွင် စ.အုပ်ထုတ်လုပ်ရေးဌာနစာရေးကြီးအဖြစ်ဖြင့်၎င်း တက္ကသိုလ်တွင် မြန်မာစာပေဘက် ဆိုင်ရာ နည်းပြဆရာနှင့် လက်ထောက်ကထိက အဖြစ်ဖြင့်၎င်း ဆောင်ရွက်ခဲ့၏။ ရေးသားထုတ်ဝေခဲ့သောစာအုပ် စာတမ်းများမှာသူငယ်တန်းမှ ဆဋ္ဌမတန်းအထိ ဘတ်စာအုပ်များကိုကွယ်လွန်သူ ဦးရွှေကြူးနှင့်တွဲဖက်ရေးသားခဲ့ရွှေတိဂုံစိန်ဖူးတင်မော်ကွန်း အထက်တန်း၊ မြန်မာကဗျာ ကောက်နုတ်ချက် အဖြေစသည်တို့ကို ကိုယ်တိုင်ရေးသားခဲ့၏။ ၁၂၇၇-ခုနှစ်တွင်အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကို အပ်နှင်းခြင်းခံယူရ၍ ယခုအခါတွင် နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့ ပိဋကဘာသာပြန်ဌာနတွင် အယ်ဒီတာချုပ် အဖြစ်ဖြင့် ကျန်းမာစွာအမှုထမ်းလျက် ရှိပေသည်။ ထူးခြားသည်မှာ ဆရာကြီးသည် တက္ကသိုလ်တွင်(၂၇) နှစ်မျှဆောင်ရွက်ခဲ့သည် အတွင်းတွင် ကျန်းမာရေးနှင့်ပတ်သက်၍ တကြိမ်တခါမျှအခွင့်မယူခဲ့ကြောင်းပင် ဖြစ်ပေ၏။

---

သက်သက်ကိုသာ တတ် မြောက်ကြကုန်သော မြန်မာလူမျိုးများ အတွက်ပိဋကအရသာကို မခံစားနိုင်ကြောင်းသင့်ရှားပေသည်။

ပါဠိတချက်,အနက်တချက် ပြန်နည်းမျိုးကို နိသျပြန်ဟု ခေါ်လေသည်။ ဤဒုတိယ ပြန်နည်းမျိုးသည်လည်း ပါဠိသင် ပါဠိတတ် ပုဂ္ဂိုလ်များအတွက်သာ အဓိကအားဖြင့် ရည်မှန်း၍ ပြန်ဆိုနည်း ဖြစ်သောကြောင့် မြန်မာစာဘတ် ပရိသတ်အတွက် ကျေးဇူးမများလှချေ။

တတိယ နည်းသည် သာသျှင် မြန်မာစာဘတ် ပရိသတ် အတွက် ကျေးဇူးအများဆုံးပြန်နည်းမျိုး ဖြစ်ပေသည်။ သို့သော် ပုဂံ, ပင်းယ, အင်းဝ,ကုန်းဘောင်–စသောခေတ်များ၌ ထိုတတိယပြန်ဆိုနည်းမျိုးအတိုင်း ပြန်ဆိုချက်များ အလွန်ပင်နည်းပါးခဲ့ပေသည်၊ ငါးရာ့ငါးဆယ်နိပါတ်တော်, ဓမ္မပဒ, မိလိန္ဒပဉှာ, ဗုဒ္ဓဝင်,မဟာဝင် စသည်တို့ကိုသာလျှင် တတိယ နည်းအတိုင်းပြန်ဆိုခဲ့ကြကုန်၏။

၎င်းပြင် ဤ တတိယ ပြန်နည်း၌ (၁)ကဗျာဖြင့်ပြန်ဆိုခြင်း(၂)စကားပြေဖြင့်ပြန်ဆိုခြင်းဟု နှစ်နည်းရှိခဲ့ပြန်ပေရာ ပိဋက စာပေ များကို ကဗျာဖြင့် ပြန်ဆိုခြင်းသည် စကားပြေ သက်သက်ပြန်ဆိုခြင်းထက် မနည်းလှပေ။

ထို့ ကြောင့် မြန်မာ လူမျိုးတို့သည် မြန်မာသက်သက်ဖြင့် ပိဋကအရသာများကို အားရပါးရ ခံစားနိုင်ခွင့်မရခဲ့ကြကုန်။

ဗုဒ္ဓဘာသာ ပါဠိပိဋက ဘော်များကို တတ်မြောက်ကြကုန်သော ရဟန်းတော်များနှင့် လူပုဂ္ဂိုလ်များ၏ ဟောကြားချက်များ, လိုရာ အချို့အဝက် ကောက်နုတ် ရေးသားချက်များ, ပြုံးပြွမ်းရေးသား ချက်များ အရသာလျှင် ပိဋက အရသာများကို ခံစားခဲ့ကြရပေကုန်၏။

မြန်မာနိုင်ငံတော်ကို အင်္ဂလိပ်လူမျိုးများဝင်ရောက် အုပ်စိုးချိန် အတွင်း၌ အဂ္ဂမဟာ ပဏ္ဍိတ တရားဟောဆရာကြီး ဦးမြို့အမှူးပြုသော အ သည့် မော်လမြိုင်မြို့ သူဌေးကြီး ဦးဘွှရေး၏ အကူအညီ ကို၎င်း,အခြားပုဂ္ဂိုလ်ကြီးများ၏အကူအညီ ကို၎င်း ရယူ၍ ပိဋက ဘော်များကို မြန်မာစကားပြေဖြင့်ပြန်ဆိုခဲ့ကြကြောင်းကို တိုင်းပြည်က သိပြီး၍ အထူးပေါ်ပြရန် မလိုတော့ပေ။

ထိုသော်ဆရာကြီး ဦးမြဲကြီးမှူး ပြန်ဆိုခဲ့သော ပိဋကတော်များကို မြန်မာလူမျိုးများ ကိုယ်တိုင် ဘတ်ကြ၍ သဘော ပေါက်နားလည်နိုင်ရန် များစွာ ခက်ခဲ၍ နေပြန်လေတော့၏။ ဤသို့ဖြစ်ရခြင်းကား မြန်မာပြန်ရာတွင် ပါဠိ ဂတိ (ပါဠိအသုံး ပါဠိဝါကျ)ဖြင့် ပြန်ဆိုထားခြင်းကြောင့် မြန်မာ မြန်မာအသွား (မြန်မာအသုံး မြန်မာဝါကျ) ကိုသာ ကောင်းစွာ နားလည်နိုင်သော မြန်မာပရိသတ်နှင့် မဟာပ်မိဖြခြင်းပင် ဖြစ်သည်ဟု ထင်မှတ်ဖွယ်ရှိ၏။(ဤသည်းတချက်)

၎င်းပြင်ဆရာမြို့အမှူးပြု၍ပြန်ဆိုကြရာ၌နိကယ်ငါးရပ် အနက်အချို့အဝက်သာပြီး ခဲ့ပေသည်၊ မပြန်ဆိုရသေးသော ပိဋကဘော် အများပင်ရှိနေသေး၏။(ဤလည်းတချက်)

၎င်းပြင် ဆရာမြို့ကြီးမှူးပြန်ဆိုခဲ့သည့် ပိဋက မြန်မာပြန်များသည် ယခုအခါများစွာရှားပါးလျက် ရှိရုံမျှမက ပြန်လည်ရိုက်နှိပ်ရန် လုံးပန်းမှုများကို မတွေ့ရချေ။ (ဤသည်းတချက်)

ထို့ကြောင့်ယခုအခါနိုင်ငံတော်အစိုးရ၏အကူအညီဖြင့်နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့ကြီးမှ ၍ဆဋ္ဌသံဂါယနာသဘင်ဆင်ယင်ကျင်းပရန်လုံးပန်း လျက် ရှိရာပါဠိပိဋက တော်များကို(၁)စံနစ်တကျသုတ်သင်ရန်မှမက (၂)မြန်မာပြန်ရန်(၃) အချိန်ရလျှင် ဟိန္ဒီအင်္ဂလိပ်စသောဘာသာများသို့လည်း ပြန်ဆိုရန်ရည်ရွယ်ခဲ့ပေသည်။

မြန်မာဘာသာပြန် ဆိုရေး အတွက် ဆရာကြီး ဦးလင်းအမှူးပြုသော ပိဋကမြန်မာပြန် အဖွဲ့ကိုဖွဲ့စည်းခန့်အပ်ခဲ့လေရာ ယခုအခါများစွာစခန်းရောက် လျက်ရှိပေပြီ၊ ယခုအချိန် အထိ ပိဋကမြန်မာပြန်အဖွဲ့၌ပါဝင်သော ဆရာတို့၏ အရေအတွက်မှာ အောက်ပါအတိုင်းဖြစ်လေသည်။

အယ်ဒီတာချုပ်

ဆရာလင်း (အဂ္ဂမဟာပဏ္ဍိတမဟာသိဒ္ဓာ)

ဒုတိယ အယ်ဒီတာချုပ်

| | |
|---|---|
| ဆရာဖုန်းကျော် | (ပါဠိဆရာကြီး) |
| ဦးဘရှိ | (ဓမ္မာစရိယ) |

အယ်ဒီတာများ၊

| | |
|---|---|
| ဆရာဆိုင် | (ဓမ္မာစရိယ) |
| ဆရာအုပ် | ( – ) |
| ဦးလှန်းအောင် | (မှူးဓမ္မာစရိယ) |
| ဦးကျော်ထွတ် | (ဓမ္မာစရိယ) |
| ဦးငြိန် | ( – ) |
| ဦးကြင်မောင် | ( – ) |
| ဦးထွန်းဖေ | (အဘိဓမ္မာ) |

---



ပိဋကဘာသာပြန် အယ်ဒီတာများနှင့် ရှေ့နေချုပ်ကြီး ဦးချန်ထွန်း အတွင်းဝန် ဦးဘိုးလတ်တို့သည် အပတ်စဉ် စည်းဝေး၍ ပါဠိ မြန်မာဝေါဟာရများ ကို ဤသို့ စိစစ်ကြ၏။

ဘာသာပြန်စာပြု(အယ်ဒီတာ)များ

| | |
|---|---|
| ဆရာတင် | (မွှာစရိယ) |
| ဦးညိုမြ | ( ။ ) |
| ဦးတားရွှေ | ( ။ ) |
| ဦးအေးမောင် | ( ။ ) |
| ဦးတင်မြင့် | ( ။ ) |
| ဦးမြသိန်း | ( ။ ) |
| ဦးစံဘင် | ( ။ ) |
| ဦးဖိုးငင်း | ( ။ ) |
| ဦးဘန်ထွန်း | ( ။ ) |
| ဦးမောင်ကြီး | ( ။ ) |
| ဦးအုန်းဖေ | ( ။ ) |
| ဦးဝါး | ( ။ ) |
| ဦးခိုလ်မောင် | ( ။ ) |
| ဦးမျိုးမြင့် | ( ။ ) |
| ဦးသန်းမော် | ( ။ ) |
| ဦးခိန်းမောင် | ( ။ ) |
| ဦးတင်ဦး | (မှုလမွှာစရိယ) |
| ဦးဖမြင့် | (မွှာစရိယ) |
| ဦးထွန်းကြည် | ( ။ ) |
| ဆရာထွန်း | (အပါးတော်မြဲ) |

ပိဋကတော်များကို မြန်မာဘာသာပြန်ဆိုရေးအတွက် နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့ကြီးမှ အဂ္ဂမဟာပဏ္ဍိတ၊ မဟာဝိဇ္ဇာဘွဲ့ရ ဦးလင်းကြီးမှူးသော ပိဋကမြန်မာပြန်အဖွဲ့ကိုခန့်အပ်ခဲ့ပေသည်။ ပိဋကတော်များကို မြန်မာဘာသာ ပြန်ဆိုရာ၌ ဩဝါဒါစရိယ သံဃနာယကအဖွဲ့၏ သဘော တူညီချက်အရ ပိဋကမြန်မာပြန် စစ်ဆေးရေး အဖွဲ့တဖွဲ့ကို ၁၃၁၃-ခုနှစ် တပို့တွဲလပြည့်နေ့တွင် ဖွဲ့စည်းတော်မူခဲ့ကြလေသည်၊ ထိုအဖွဲ့မှ ပိဋကတော်များကို မြန်မာပြန်ဆိုရာတွင် လိုက်နာရန်အချက်ကြီး (၉) ချက်တို့ကို ပြဋ္ဌာန်း ထုံးကြားတော်မူခဲ့ကြလေသည်။

ပိဋက မြန်မာပြန် စည်းကမ်း (၉) ချက်

၁၊ ပါဠိတော်တွင် ရှိသည့် အတိုင်း တိတိကျကျ အဓိပ္ပါယ် ရအောင်ပြန်ဆိုရမည်၊

၂၊ မြန်မာစာ ဘတ်တတ် သူတိုင်း သိရှိနားလည် နိုင်သော စကားဝါကျဘို့ဖြင့် ပြေပြစ်ချောမောအောင်ပြန်ဆိုရမည်၊

၃၊ ပါဠိတော်ရင်းအတိုင်း စာချောမော ပြေပြစ်ခဲ့လျှင် ရင်းပါဠိ ဝါကျအတိုင်းပင် ပြန်ဆိုရမည်၊

၄၊ ရှေ့နောက် အဆက်အစပ်လိုသော အရာ၌ဖြစ်စေ၊ မြန်မာစကား၌မပေါ်လွင်သောအရာ၌ဖြစ်စေလက် သည်းကွင်းပြ၍ ဥပ်နေသောအဓိပ္ပါယ် ကို ထည့်သွင်းပြီး ပြန်ဆိုရမည်၊

၅၊ ပါဠိတော်အတိုင်း မပေါ်လွင်မထင်ရှားသော အဓိပ္ပါယ်ကို အောက်ခြေ၌ မှတ်ချက်ပြ၍ ပြန်ဆိုရမည်၊

၆၊ မြန်မာဝေါဟာရဖြစ်နေသော ပုဒ်များကိုရင်း မြန်မာသက်သက်ပြန်ဆိုလျှင် နားမလည် နိုင်သော (အဓိပ္ပါယ်တိတိ ကျကျ မရ နိုင်သော) ပုဒ်များကိုရင်း ပါဠိတော်ဝေါဟာရ အတိုင်းထားရမည်၊

၇၊ ထိုထို ကျမ်းတို့၌ဆပ် တူလာသော ပါဠိပဒ ဝါကျ များကို မြန်မာပြန်ဆိုရာတွင် ထပ်တူထပ်မျှ တမျိုးတည်းဖြစ်စေရမည်၊

၈၊ မြန်မာစကား အသုံးအနှုန်းများကို ခန့်ခန့်ညားညား ဖြစ်စေရမည်၊

၉၊ အကြောင်းအား လျော်စွာ ကဏ္ဍ အပိုင်းတို့၌ စာအညွှန်ခေါင်းများထည့်သွင်းရမည်၊သို့သော် အလွန် မများစေရ၊

အထက်ပါ စည်းကမ်း (၉) ချက်တို့မှာအကြမ်းအားဖြင့် လိုက်နာရန် စည်းကမ်းများသာ ဖြစ်နေသောကြောင့် လက်တွေ့ပြန်ဆိုကြသောအခါ အခက်အခဲ အမျိုးမျိုးတို့နှင့် တွေ့ကြုံကြရ ပြန်လေသည်၊ လက်တွေ့ပြန်ဆိုကြရာတွင်-

(၁) ပါဠိအတိုင်း တိကျသည် မကျသည်ကိုရင်း၊

(၂) မည်သည့် စကားလုံးဖြင့် ပြန်ဆိုလျှင် သင့်မည် မသင့်မည်ကိုရင်း၊

(၃) မည်ကဲ့သို့ပြန်ဆိုလျှင်ဖိုမိ၍ ပြေပြစ်မည် မပြေပြစ်မည်ကိုရင်း၊

(၄) ရှေးနိဿယပြန်များအတိုင်း အချို့ ဝေါဟာရများ အတွက် မှန်မည်မှားမည်ကိုရင်း၊ ဆုံးဖြတ်ရန် လွယ်ကူသောကိစ္စမဟုတ်ချေ၊ထို့ကြောင့် ပါဠိမြန်မာ ဝေါဟာရများကိုစစ်ဆေးရန် သီးသန့် အဖွဲ့ဘခုကို ဖွဲ့စည်းလျက် ကြာသပတေး

စာမျက်နှာ ၈-မှအဆက်

ကိုသုံးဆောင်တော်မူကြလျက် အဋ္ဌကထာ နှင့် တကွ ပိဋကတော်ကို သရဇ္ဈာယ်တော်မူကြရကုန်၏၊ အလွန်ပင် ဆာလောင် မွတ်သိပ်လှသောကြောင့် မသရဇ္ဈာယ် နိုင်ကြသောအခါ၌ကား သဲကို ဝမ်းဗိုက်အောက်ကထား၍ ခေါင်းချင်း ဆိုင်ကြပြီးလျှင် ပိဋကစာပေကို စိတ်ဖြင့်သာလျှင်ဆင်ခြင်တော်မူ နိုင်ကြကုန်၏၊ ဤနည်း အတိုင်း ၁၂-နှစ် မှုကြာတင်၍သွားပေ၏၊

၁၂-နှစ် အကြာ သူပုန် ရန်

နေ့နှင့် စနေနေ့တိုင်းအစည်းအဝေး ပြုလုပ်ခါ ဆွေးနွေးဆုံးဖြတ်ခြင်းကို ပြုလုပ်ကြရပြန်လေသည်၊ ထိုအဖွဲ့၌ ပါဝင်သည့် ပုဂ္ဂိုလ် များ မှာ အောက်ပါအတိုင်းဖြစ်လေသည်၊

(၁) ယဉ်ကျေးမှုဌာန အတွင်းဝန် ဦးဘိုးလတ်(၂)နိုင်ငံတော် ရှေ့နေချုပ်ကြီးသတို့ မဟာသရေစည်သူဦးချန်ထွန်း (၃) ရန်ကုန် တက္ကသိုလ် မြန်မာစာပါမောက္ခ ဦးအေးမောင် (၄)တက္ကသိုလ် ပါဠိကထိက ဦးဘကလေး စသော ပုဂ္ဂိုလ်များနှင့် ပိဋက မြန်မာပြန် အဖွဲ့မှ အယ်ဒီတာများ ပါဝင်ကြလေသည်၊

၁၉၅၃-ခုနှစ် ဒီဇင်ဘာလ အတွင်း ပိဋက မြန်မာပြန်များအားလုံး အကြမ်း အား ဖြင့် ဆုံး ခန်း တိုင်ရောက်မည်ဖြစ်၏၊

၁၉၅၅-ခု ဇူလိုင်လ ကစ၍ ပြုလုပ် မည့်တတိယ သန္နိပါတ ပါဠိ ပိဋက မြန်မာ ပြန် များ ဖြစ် သည့် ဝိနည်းငါးကျမ်း ပါဠိတော် ဒီဃ နိကာယ်ပါဠိတော်သုံးကျမ်း သံယုတ်ပါဠိတော် ငါးကျမ်း နှင့် အင်္ဂုတ္တိုရ်၏ ပထမအုပ်တို့ကို ၁၉၅၃—နှစ်နိုဝင်ဘာလအတွင်းပြီးစီးမည်ဖြစ်၏၊

၁၉၅၆-ခု ဖေဖော်ဝါရီလကစ၍ပြုလုပ်မည့် စတုတ္ထ သန္နိပါတ ပိဋက မြန်မာပြန်များ ဖြစ် သည့် အင်္ဂုတ္တိုရ်၏ ဒုတိယအုပ် တတိယအုပ်နှင့် ခုဒ္ဒကနိကာယ် ကျမ်း များ ကို ၁၉၅၄—ခုနှစ် ဇန်နဝါရီလ အတွင်းပြီးစီးမည်ဖြစ်၏၊

၁၉၅၆—ခုမေလကစ၍ ပြုလုပ်မည့် ပဉ္စမ သန္နိပါတ ပိဋက မြန်မာပြန်များ ဖြစ်သည့် ပဋ္ဌာန်း ပါဠိတော်များနှင့် အဘိဓမ္မာပါဠိ တော်များကို ၁၉၅၅-ခုနှစ် ဇန် နဝါရီ ဘာလအတွင်း ပြီးစီးမည် ဖြစ် ရာ မကြာမီ မြန်မာလူမျိုးတိုင်း ပိဋကအရသာများကို မြန်မာဘာသာဖြင့် ခံစားနိုင်ကြတော့မည် ဖြစ် ပေ သတည်း၊

ငြိမ်းသဖြင့် ဇမ္ဗူဒိပ်(အိန္ဒိယပြည်)သို့ ကြွရောက် တော်မူ၍ ပိဋကကို စောင့် ရှောက် တော် မူ ကြ သည့် ရဟန္တာ ၇၀၀-ဘို့သည် ကလျာ ရာမ ဇနပုဒ်-မဏ္ဍလာရာမ ကျောင်းသို့ပြန်လည်ကြွရောက်တော်မူလာကြကုန်၏၊

ရဟန္တာ ၆-ကျိပ် နှင့် ရဟန္တာ ၇၀၀-ဘို့သည် အဋ္ဌကထာနှင့်တကွသော ပိဋကတော်ကို တိုက် ဆိုင် တည်းဖြတ်တော် မူကြ ကြောင်းကို အဋ္ဌကထာ ဋီကာတို့၌ ဖွင့် ဆိုပြသတော်မူကုန်၏၊

ရှေးအခါက ပိဋကတော်များကိုနှုတ်ဖြင့်သာဆောင်လေ့ရှိတော်မူခဲ့ကြကုန်၏၊နောင်အခါ သတ္တဝါတို့ သတိ- ပညာ-သမာဓိယုတ်လျော့သဖြင့် ပိဋက တော် ကို နှုတ်တက်မဆောင်ရွက်နိုင်ကြမည်ကိုမြင်တော်မူကြသောကြောင့်စတုတ္ထ သံဂါယနာတင်တော်မူကြကုန်၏၊

(ခ) ဦးစီးပုဂ္ဂိုလ်

ထိုတင်ပွဲ၌ အရှင် မဟာဓမ္မရက္ခိတ ဦးစီးတော်မူသည်၊သီဟိုဠ်သို့ကြွရောက်၍ သာသနာပြုတော်မူသော အသောကမင်းကြီး ၏ သားတော် (၁) အရှင်မဟိန္ဒ (၂) အရှင်အရိဋ္ဌ၊ (၃) အရှင်တိဿဒတ္တ (၄) အရှင်ကာလသုမန (၅) အရှင်ဒီဃသုမန (၆) ဒုတိယ အရှင်ကာလ သုမန (၇) အရှင်နာဂ (၈) အရှင်ဗုဒ္ဓရက္ခိတ (၉) အရှင်တိဿ (၁၀) အရှင်ဒေဝတ (၁၁)အရှင်သုမန (၁၂)အရှင် စူဠနာဂရေဟာန (၁၃) အရှင်ဓမ္မပါလိတ (၁၄) အရှင် ခေမ (၁၅)အရှင်ဥပတိဿ (၁၆)အရှင်ဖုဿဒေဝ (၁၇)အရှင်သုမန (၁၈) အရှင်မဟာပဒုမ (၁၉) အရှင်မဟာသိဝ (၂၀)အရှင်ဦးပါလိ (၂၁) အရှင်မဟာနာဂ (၂၂) အရှင်အဘယ (၂၃) အရှင်တိဿ (၂၄) အရှင်သုမန (၂၅) အရှင်စူဠာဘယ (၂၆)အရှင်တိဿ (၂၇) အရှင်ဖုဿဒေဝ (၂၈) အရှင်သိဝ (၂၉) အရှင်မဟာဓမ္မရက္ခိတ-ဟူ၍ဆရာ တပည့်အစဉ်အဆက်ကို အဋ္ဌကထာ၌ ပြတော်မူ၏၊

(ဂ) သံဃာတော်ဦးရေ

သံဃာတော် ၅၀၀-တည်း၊

(ဃ) တင်ရာဌာန

သီဟိုဠ်ကျွန်း မလယဇနပုဒ် အာလောကလိုဏ်၊

(င) အမှီပြုသောမင်း

သီဟိုဠ် မင်း ၁၈- ဆက်မြောက်ဝဋ္ဋဂါမဏိမင်း(ရှင်း

(စာမျက်နှာ ၁၈ သို့ ဆက်ကြည့်ပါ)

ပဉ္စမအကြိမ်မြောက်တိပိဋကဓရ ရွေးချယ်ပွဲမှအဆက်

ဓမ္မိက မဟာအဘိဓမ္မကောဝိဒ'' ဘွဲ့တံဆိပ်တော် အောင် လက်မှတ်တော်တို့နှင့် နိုင်ငံတော် အစိုးရ၏ အရိုးဝါ ကနုတ္တဒဏ် ထီးဖြူးတော် ၂-လက် အမှတ်တံဆိပ် ပါရှိသော သာသနာ့ အောင်လံတော် တို့ကို ဆက်ကပ်ပူဇော်လိုပါသည်ဘုရား၊

ပခုက္ကူမြို့ သာသနဝိပုလာရာမ တိုက် အရှင်ကောဝိဒသည်—

၁၃၁၃-ခုနှစ်ကဝိနယပိဋကအာဂုံပြန်ဆိုပွဲတွင် သာမန်အောင်မြင်၍ သဘောရေးဖြေပွဲတွင် ဂုဏ်ထူးဖြင့် အောင်မြင်တော်မူသည့်အတွက် 'ဝိနယဓရ မဟာဝိနယ ကောဝိဒ' ဘွဲ့ တံဆိပ်တော်အောင်လက်မှတ်တော်တို့နှင့် သာသနာ့ အောင်လံထော်တို့ကို ရရှိပြီးဖြစ်သည့် အပြင် ယခုနှစ်တွင်လည်း အဘိဓမ္မာပိဋက ပဋ္ဌမ ဗိုင်း ၅- ကျမ်း အာဂုံပြန်ဆိုပွဲနှင့် သဘော ရေးဖြေပွဲတွင် အောင်မြင်တော်မူဖြန်သည့် အတွက် အသိအမှတ်ပြု အောင်လက်မှတ် တော်ကို ဆက်ကပ်ပူဇော်လိုပါသည်ဘုရား၊

လာမည့် ၁၃၁၅ ခုနှစ် ၁၃၁၆-ခုနှစ်ဘွဲ့၌ ဤအရှင်မြတ် ၂- ပါးတို့သည် ''တိပိဋက ဓရ''ဘွဲ့နှင့် ''တိပိဋကကောဝိဒ'' ဘွဲ့ထူးတို့ကို ပန်ဆင်တော်မူကြပြီးလျှင် ၁၃၁၆-ခုနှစ် ကဆုန်လပြည့်နေ့၌စတင်ကျင်းပမည့် ဆဋ္ဌသံဂါယနာ ဓမ္မသဘင်ကြီးတွင်သံဂါယနာ ဟူသောအမည်နှင့်လိုက်လျောညီညွတ်အောင်နှုတ်ရအာဂုံဆောင် တိပိဋကဓရဆာသနာ့အာဇာနည်များ အဖြစ်ဖြင့်ပါဝင်တော်မူကြ၍ ဓမ္မသံဂီတိသဘင်ဆင်ယင်တော်မူကြလိမ့်မည်ဟုယုံကြည်ကိုးစား အားထားမျှော်လင့်ပါသည်ဘုရား၊

နိဂုံးချုပ် အနေအားဖြင့် ဘုရားတပည့်တော် လျှောက် ထားလိုပါသည်မှာ တိပိဋကဓရ ရွေးချယ်ရေးအဖွဲ့ခွဲ၏ နာယက ဆရာတော်ဘုရားကြီးများနှင့် တကွ ဗုဒ္ဓသာသနာ့ခုဂ္ဂဟာအဖွဲ့ဝင်လူကြီးမင်းအပေါင်းတို့သည် တနှစ်ထက်တနှစ်ဆထက်ထမ်းပိုးတိုးကာ တိပိဋကဓရသာသနာ့အာဇာနည်များ တိုးတက်ထွန်းကား ပေါ်ပေါက်လာအောင် ရွက်ဆောင်နိုင်ကြ၍ မြတ်စွာဘုရား၏ စကားတော်အစဉ်ဖြစ်သောပိဋကတ်တော်တို့ကို စောင့်ရှောက် ထိန်းသိမ်းတော်မူနိုင်ကြပါစေသောဝ်ဟု ဆုတောင်းပဋ္ဌနာပြုပါသည်ဘုရား၊

အခမ်းအနားကို ၈-နာရီ ၅၅-မိနစ်တွင်စ၍ ၉-နာရီ ၃၅-မိနစ်တိတိ အချိန်တွင် ဧည့်ပရိသတ်များအား မြန်မာ ခေါက်ဆွဲကာဖီတို့ဖြင့်ဧည့်ခံကျွေး မွေးပြီးလျှင် ရုပ်သိမ်း လိုက်ကြောင်း၊

**အာဇာနည် ချီးကျူးပွဲ**

ထိုနောက် အဆိုပါ ပုဂ္ဂိုလ်ထူး ၂-ပါးအား ချီကျူး ပူဇော်ပွဲ အခမ်းအနား သဘင်ကို ရန်ကုန်မြို့ ကုက္ကိုင်း သာသနာ့ရိပ်သာ ဓမ္မာရုံကြီး၌ မတ်လ ၁-ရက်နေ့က နိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့ကိုယ်စား ဗုဒ္ဓသာသနာ့ခုဂ္ဂဟာအဖွဲ့ကကျင်းပရာ နိုင်ငံတော် ဝန် ကြီး ချုပ် ဦးနု သာ သနာ ရေး ဝန် ကြီး ဦးဝင်း စသော ခေါင်း ဆောင် ကြီး များ နိုင်ငံ တော် ဗုဒ္ဓ သာ သနာ အဖွဲ့ မှ လူ ကြီး များ သာ သ နာ့ ရေး အ သင်း အဖွဲ့ များ

ယိုင်ပျက်ကွယ်ခဲ့ပါလျှင် လူတွေ လူရိုင်းများဖြစ်ကာမိစ္ဆာမှောင်အတွင်း ဝယ် မျက်စိမရှိ ထင်ရာစွဲလမ်း နေသော အကန်းများပမာချည်း ဖြစ်ကုန်စရာရှိကြောင်း။''

''ထို့ကြောင့် လူထုအချင်းချင်း အသင်းအဖွဲ့အချင်းချင်းဂုပေါင်းပြီး သာသနာရေးကို အားပေး စောင့်ရှောက်ကြရန်လိုကြောင်း၊

''သာသနာရေး ကိစ္စ များကို လည်း ရှေး သာသနာပြု မင်းများ လက် ထက် က လိုဆ က်လက် ၍ လုပ် ဆောင် သွားကြမည့် အ ပြင်ရှေ့ကို ယခု ထက် တိုးတက် ဆော င် ရွ က် သွားကြမည်ပင် ဖြစ်ကြောင်း၊

''မြန်မာပြည် သည် ဗုဒ္ဓသာသ နာ နိုင် ငံ တော် ရင်း ဖြစ် သည် အား ထျော် စွာ



အရှင် ဝိစိတ္တသာရာဘိဝံသ အား ဆက်ကပ်သည့် ဝိသိဋ္ဌ အာဘိ ဓမ္မိကမဟာအဘိဓမ္မ ကောဝိဒဘွဲ့တံဆိပ်တော်



အရှင် ဝိစိတ္တသာရာဘိဝံသအား ဆက်ကပ်သည့်အရိုးဝါ ကနုတ္တဒဏ် ထီးဖြူတော် တံဆိပ်ပါရှိသော သာသနာ့အလံတော်

နှင့်အခြား ပုဂ္ဂိုလ်များ တြွ ရောက် ပူဇော်ကြကြောင်း။

သာသနာရေးဝန်ကြီးဦးဝင်းက ကြွရောက် လာသော ဆရာတော် သံဃာတော်များနှင့် လူ ပရိသတ် များအား နှုတ်ခွန်းဆက် စကားမိန့်ကြား၍ နိုင်ငံတော် ဝန်ကြီးချုပ်က သာသနာ့ အာဇာနည် ပုဂ္ဂိုလ်ထူး ၂-ပါးအား ချီးကျူးလျှောက်ထား ကြောင်း၊

နိုင်ငံတော် ဝန်ကြီးချုပ် ဦးနုက ''လောကတွင်ကြာဖြူကြာနီစသော ကြာမျိုးရုံတို့သည် ရေမျက်နှာပြင် သို့ရှုချင်စဖွယ်တင့်တင့်တယ်တယ် တန်ဆာဆင်ထားသကဲ့သို့လူထုနှင့် ဘုရား ဘုရားနှင့် သာသနာသာသနာနှင့်လူတို့မှာ အချင်းချင်းအတုံ့ အ ဖှာယ် အမှီသဟဲပြုနေကြကြောင်း၊

''သာသနာ မတည်မြဲဘဲ ယိမ်း

ဗုဒ္ဓ သာ သနာ ကို ယုံကြည် ကိုးစားသောအစိုးရများကသာ လူထု ခေါင်းဆောင် အစိုးရအဖြစ် အုပ်ချုပ်သွားရန်လိုအင်ကြောင်း၊

''နိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့ ချုပ်ကြီးကို ဆရာတော်ကြီး များ အား နာယကအဖြစ်ပါဝင် ဖွဲ့ စည်းလျက် အစိုးရသည် သာသနာရေး ကိစ္စများကို အထူး ဆောင်ရွက် လျက်ရှိရာ အထူးသဖြင့် ဆဋ္ဌသံဂါယနာတင်ရေးကိုပါ စိုင်းပြင်းနေဆဲ ဖြစ်ကြောင်း၊

၁၉၅၄—ခုနှစ် မေလ ၁၇-ရက်နေ့ကစမည့် ဆဋ္ဌသံဂါယနာ တင်ပွဲကြီး မပြု လုပ်မီလည်း ဤသာသနာ့ အာဇာနည် ရွေးပွဲကို ရှေ့ပြေးအ ဖြစ်ရွေးချယ်ခဲ့ကြောင်း၊

ဤသို့ ပြုလုပ်ရခြင်းမှာ နေဝန်း မပေါ်မီ နေ အရုဏ်ခေါ် အလင်း

စာမျက်နှာ ၅-မှအဆက်

က ဆရာတော်များ အနည်းဆုံး အ ပါး ၄၀၀—ခန့် သီတင်းသုံးနိုင်မည့် ခံကျောင်း တော် များ, ဆွမ်းစားကျောင်း,ပိဋကတ်တိုက်,နိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့ရုံးနှင့်ရုံးသားများ နေရန်ဆဆောက်အဦများ,ပိဋကတ် မြန်မာပြန်ရုံးနှင့် ရုံးသားများ နေရန် အဆောက်အဦများ စာပုံနှိပ်တိုက်နှင့် အလုပ် သမား များ နေရန် အ ဆောက်အဦများ,ဆေးရုံစသည်တို့ ဖြစ်လေရာ ငွေသိန်းပေါင်း ၁၅၀ ကျော်ခန့်အကုန်အကျခံ၍ ဆောက် လုပ်မည်ဖြစ်၏၊

ဆဋ္ဌသံဂါယနာကို ၁၃၁၆-(၁၉၅၄)ခုနှစ် ကဆုန်လပြည့်နေ့ တွင် စတင် နိုင်ရန် စီစဉ်လျက်ရှိ ပေရာ မကြာမီ ခန့်ညား ထယ်ဝါ သောအဆောက် အဦကြီးများကိုဖူး တွေ့ကြရ တော့မည် ဖြစ်ကြောင်း၊ စာပုံနှိပ်လုပ်ငန်းနှင့်သက်ဆိုင်သော အ ဆောက် အဦမှာမူ အ တန် ပင် ဆောက်လုပ် ပြီးစီးနေပြီဖြစ်၍ လာမည့်မေလ အတွင်းတွင် အစသတ် နိုင်လိမ့်မည်ဖြစ်ကြောင်း၊

ဆဋ္ဌသံဂါယနာ တင် လိဏ်ဂူကြီးကို ပေပေဝ်ဝါရိလကပင်ဒုတ် မြစ်ချပြီးပြီဖြစ်ကြောင်း၊ပုံစံမှာ ဝန်ကြီးချုပ် ဦးနု၏အကြံပေးချက်အရ ပထမသံဂါယနာ တင်စဉ် အခါက အရှင်မဟာကဿပထေရ်အဇာတသတ်မင်းတို့အသုံးပြုသည့် စရည်းပင်ရောက်ရာ လိဏ်ဂူတော်ကြီးသဏ္ဌာန်ကို ပုံဖွယ်အဝေးကကြည့်ပါလျှင်ပကာ တိကျောက်သား လိဏ်ကြီးနှင့် မခြား မြင်ရမည်ဖြစ်၏၊ ထိုလိဏ်ကြီးကို ကျွမ်းကျင်သည့် ခေတ်မှီ အင်ဂျင်နီယာများဖြင့်တိုင်ပင်ကာ ငွေပေါင်း သိန်း ၅၀-ခန့် အ ကုန် အ ကျခံ ၍ ဆောက်လုပ်နေပြီဖြစ်ကြောင်း၊

ရောင်ချည်ပေါ်ရသကဲ့သို့ပွဲဦးထွက်အနေမျိုးပင် ဖြစ်ကြောင်း၊ ပဋ္ဌာန်း ၂၄-ကျမ်းကိုအထက်အောက်မွှေနှောက် သိမြင်တော်မူသော အရှင် ဝိစိတ္တသာရာ့ ဘိဝံသ ကိုယ်တော် ရှိနေသမျှ သာ သနာတော်လည်း ကွယ်ပျောက် နိုင်မည် မဟုတ်ကြောင်း၊ဤကဲ့သို့ပုဂ္ဂိုလ်ထူးမျိုး အ စဉ်မပြတ်ပေါ်ပေါက် တည်ရှိတော် မူကြပါစေဟု ဝမ်းမြောက်ဝမ်းသာ ဆုတောင်း ပဋ္ဌနာ ပြုလိုက် ပါကြောင်းဖြင့်ချီးကျူးသွားကြောင်း၊

ပုဂ္ဂိုလ်အသီးသီးနှင့် အသင်းအဖွဲ့များအလှည့်ကျချီးကျူးပူဇော်ကြ ပြီးနောက် ချီးကျူးပွဲ အခမ်းအနားကိုရုပ်သိမ်းလိုက်ကြောင်း၊

# ၉၀၀ ပါဠိဝိသောဓနလုပ်ငန်း

## နိကာယ်ငါးရပ်–ပိဋကသုံးပုံတို့ကို ကမ္ဘာပေါ်ရှိ (မူ) အမျိုးမျိုးတို့ဖြင့် ပါဠိဝိသောဓက အဖွဲ့ပေါင်း ၉၀ တို့က တိုက်ဆိုင် တည်းဖြတ်၍နေကြပြီ။

**ပိဋကတ်–သုဓ်သင်ရေး**

သံဃါယနာတင်ခဲ့သောအကြိမ်တို့သည်ငါးကြိမ်မျှရှိခဲ့ပြီဖြစ်လေသည်၊ တင်ခဲ့သမျှ သံဃါယနာတို့သည်အကြောင်းမဲ့တင်ခဲ့ကြသော သံဃါယနာများမဟုတ်ခဲ့ကြပေ။

ယခုအခါ နိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့မှ ကြီးမှူး၍ တင်လတ္တံ့ဖြစ်သော ဆဋ္ဌသံဂါယနာတင်ကိစ္စကြီးကိုလည်း အကြောင်းမရှိဘဲ တင်ခြင်းမဟုတ်ကြောင်းကို သတိပြုအပ်လိုပေသည်၊ ရင်းဆဋ္ဌသံဂါယနာ သဘင် ဆင်ယင် ကျဉ်းပရခြင်း၏ အကြောင်းရင်းကြီး(၃) ချက်တို့သည်ကား–

၁။ မြတ်စွာဘုရား ဟောကြားတော်မူအပ်သော နိကာယ်ငါးရပ်ကို အ ထပ် ထပ် အဆင့် ဆင့် ရေးကူးကြရာ၌ သတိချွတ်ယွင်းရေးမှာမိခြင်းဟုဆိုအပ်သော ပမာဒလေခ ပါဠိ ပျက်ချား ကို အထူး သန့်ရှင်းစင် ကြယ် စေလိုသောကြောင့်ရင်း။

၂။ ထို စင် ကြယ် သော ပိဋကတ် တော် များ ကို စက်တင် ပုံနှိပ်ပြီးလျှင် ဆဋ္ဌ သံဂါယနာတင် ၍ ကမ္ဘာ အရပ်ရပ်သို့ပြန့်ပွား စေခြင်း အားဖြင့် အ ဓွန့်ရှည် စွာ တည်စေလိုသော ကြောင့်ရင်း။

၃။ လွတ်လပ်သော မြန်မာနိုင်ငံ တော်နှင့် တကွ ဗုဒ္ဓ ဘာသာ နိုင်ငံ အား လုံး တို့ ကသာ သ နာ တော်ကို ပြု ရ အားပေး ချီးမြှောက် လိုသော ကြောင့်ရင်း တင်ရ ခြင်း ဖြစ် ကြောင်းကို ၁၃၁၄-ခု နှစ် တပို့တွဲလပြည့်ကျော် ၁-ရက် (၁၁-၂–၅၃) ရက်နေ့တွင် ဩဝါဒါစရိယ သံဃာ့နာယကအစည်း အဝေးမှ ဆုံးဖြတ် တော်မူခဲ့ကြလေသည်။

ယခု အ ခါ အ ဆို ပါ အ ကြောင်းပြချက်ကြီး ၃-ချက် တို့တွင် ပ ထ မ အ ချက် ကြီး ကို အ ပူ တ ဖြင်း ဆောင် ရွက် လုပ် ကိုင်လျက်ရှိကြကုန်၏၊ ဆောင်ရွက် ၍ နေပုံ ကိုသိသာ ရုံမျှ ပေါ်ပြပါအံ့။

နိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့မှ ဆရာကြီး ဦးလင်း အမှူး ရှိ သော အယ်ဒီတာများစွာ တို့အား (၁)ပါဠိ ပိဋကတ်တော်များကို သုဓ်သင်ရန်၊ (၂) ပါဠိပိဋကတ်တော်များကိုမြန်မာဘာသာ ပြန် ဆို ရန် ခန့် ထား၍ ဆောင် ရွက် စေခဲ့ကြလေသည်၊

၎င်းတွင်ပိဋကတ်တော် များ ကို တည်းဖြတ်ရေးအတွက် Y.M.B.A. ခေါ် ဗုဒ္ဓဘာသာကလျာဏယုဝ အသင်းကြီးမှ နိုင်ငံတော် ဗုဒ္ဓသာသ နာ့အဖွဲ့သို့ မည်ကဲ့သို့ ကျေးဇူးပြုခဲ့ ကြောင်းကိုလည်း ပေါ်ပြရန် တာဝန်ရှိပေသေးသည်၊ ဝိုင်-အင်- ဘီ အေ အသင်းကြီး၏ လျှောက်ထားချက်အရ မန္တလေးမြို့မှ ဆရာတော်ကြီးအပေါင်းတို့သည် ပဋ္ဌမ သံဂါယနာတင် ကျောက်စာတော်မူများ ကိုလက်ခံစာအုပ်မူများနှင့် အထပ် ထပ် တိုက်ဆိုင်တော်မူကြပြန်ကုန် ၏၊ သီဟိုဠ်မူ, ယိုးဒယားမူများနှင့် လည်း တဖန်တိုက်ဆိုင် တည်းဖြတ် တော်မူကြပြန်၏။ ထိုပြင်ရှေးနိသျမူ များနှင့်ရင်း,အဋ္ဌကထာ ဋီကာဖွင့် များနှင့်ရင်း တိုက်ဆိုင် တော် မူကြ ပြန်ကုန်၏၊ထို့ အပြင်ပုဒ်ပါဌ် အက္ခ ရာ ကျ န မှန် ကန် ရေး အတွက် ရူပ သိဒ္ဓိ,သဒ္ဒ နီ တိ, မော ဂ္ဂ လာန် အဘိဓာန်ဋီကာ, ဓာတွတ္ထသင်္ဂဟ, အမရကောသ, အက္ခရဝိသောဓ နီစသော ကျမ်းတို့နှင့် တပါတည်း ညှိနှိုင်း တည်းဖြတ်တော်မူကြ ပြန် ကုန်၏၊ ထိုသို့တည်းဖြတ်ပြီး စာ မူ များကို ဗုဒ္ဓဘာသာကလျာဏယုဝ အသင်းကြီးသို့ ပုံနှိပ်ရန် အပ်နှင်း ချီးမြှင့်တော်မူကြသည်ဟု သိရပေ ကြောင်း၊

ဗုဒ္ဓဘာသာ ကလျာဏယုဝ အ သင်းကြီး၏လျှောက်ထားချက်အရ ဆရာတော်ဘုရားကြီးများ တည်း ဖြတ်တော်မူပြီးသော ကျမ်းများမှာ

၁။ ဝိနည်းငါးကျမ်း၊

၂။ သုတ္တန်ပိဋကမှ သုတ် သီလက္ခန် နှင့် သုတ် ပါထေ ယျပါဠိ တော်၊

၃။ အဘိဓမ္မာ ပိဋကမှ ဝိ ဘင်း,ဓာတုကထာ, ပုဂ္ဂလ ပညတ် နှင့်ကထာဝတ္ထု ပါဠိတော်များဖြစ် ပေသည်။

အဆိုပါ သုဓ်သင်ပြီး ပါဠိ ပိဋ က တော် များကို ဗုဒ္ဓ ဘာသာ ကလျာဏယုဝအသင်းကြီးမှ နိုင်ငံ တော် ဗုဒ္ဓသာသနာ့အဖွဲ့သို့ လွှဲအပ် ပါရန် မေတ္တာ ရပ်ခံခဲ့သည့်အတိုင်း ရက်ရောစွာနှင့် လွှဲအပ်ခဲ့ကြ လေ သည်။နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့ မှ မသုဓ်သင်ရသေးဘဲ ကျန်ရှိ နေ သော ပိဋကတ်ကျမ်းစာ များ တို ဆက်လက် သုဓ်သင်တော်မူကြရန် နိုင်ငံတော် ဗုဒ္ဓသာသနာ့ အဖွဲ့၏ ကိုယ်စား သာသနာရေး ဝန်ကြီး ဦးဝင်းက မန္တလေးမြို့ရှိဆရာတော် ဘုရားကြီးများအား လျှောက်ထား တောင်းပန်ခဲ့လေသည်။မန္တလေးမြို့ ရှိ ဆရာ တော်ဘုရားကြီး များက လည်း လျှောက်ထားချက်ကိုလက် ခံတော်မူကြ၍ ကျန်ရှိနေသေး သော ပိဋကတ်တော်များကိုဆက်လက်၍ တည်းဖြတ် သုဓ်သင် တော် မူကြပြန်ကုန်၏။

ဆဋ္ဌ သံဂါယနာတင် အ တွက် ဩဝါဒပေးတော်မူရန် ဆရာတော်ကြီးများ ပါဝင် ဖွဲ့ စည်းထားသည့်“ဩဝါဒါစရိ ယသံဃာနာယကအဖွဲ့ကြီး”၏ အမိန့် အရ နိုင်ငံ တော် အရပ် ရပ်တွင် အ ရည် အချင်းနှင့် ပြည့်စုံ သည့် ဓမ္မာ စရိယ စာ ချဆရာတော်များ ပါဝင်သည့် ပါဠိဝိသောဓက အဖွဲ့ ပေါင်း (၇၀)ကျော်မျှ ဖွဲ့စည်းပြီး ဖြ ဖြစ်ကြောင်း၊

မန္တလေး မြို့ရှိကျောက်စာ တော်မူနှင့် ညှိနှိုင်းတိုက်ဆိုင် ထားသည့်နိကာယ်ငါးရပ်,ပိဋ ကတ် ပါဠိတော်များကို ဆိုင် ရာအဋ္ဌကထာ,ဋီကာ,သီဟိုဠ် မူ, ယိုးဒယားမူ, လန် ဒန် မူ, ကမ္ဘောဒီယားမူများနှင့် တကွ ပါဠိဝိသောဓကအဖွဲ့အသီးသီး အား ခွဲဝေပြီး ဆက် ကပ်ထား ရာ အဖွဲ့ဝင် ဆရာတော်များ သည် မိမိတို့တာဝန် ကျသည့် ကျမ်းစာ များကို သုဓ် သင် တည်းဖြတ် တော် မူနေ ကြပြီ ဖြစ်၏။

(စာမျက်နှာ ၁၇ သို့ဆက်ကြည့်ပါ)



တာဝန်ကျသောဆရာတော်များသည်မန္တလေးမြို့ကျောက်စာမူများဖြင့် ၎င်းသို့ တိုက်ဆိုင်တော်မူနေကြ၏



# နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီးမှ ပရိယတ္တိသာသနာတော်ထွန်းကားရေးအတွက်မည်မျှအထိ မည်ကဲ့သို့ဆောင်ရွက် နေပါသနည်း ?

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့သည် သာသနာရေးနှင့် စပ်ဆိုင်ရာ လုပ်ငန်းကြီး များကို အဖွဲ့ငယ် အသီးသီးခွဲ၍ ဆောင်ရွက်နေရာ ၎င်းတို့အနက် ပရိယတ္တိ အဖွဲ့ငယ်တွင် သတိုး သီရိသုဓမ္မ ဦးသိန်းမောင် (ဥက္ကဋ္ဌ) တရားဝန်ကြီး-ဦးအုန်းဖေ ဦးဘခင်(ကချင်ပြည်နယ်)ဦးစံဖေ, ဦးကြီးဖေ,ဦးသိန်းအောင်(မဒုလေး) ဦးတင်အောင်နှင့် ဦးမြင့်ဟန်တို့ပါဝင်ကြလေသည်၊

အဆိုပါ ပရိယတ္တိ အဖွဲ့ငယ်၏ ဆုံးဖြတ်ချက်များကိုအမှုဆောင်အဖွဲ့မှ သင့်လျော်သည်တို့ကို လက်ခံအတည်ပြုကာ ယနေ့အထိဆောင်ရွက်ပြီး ဆောင်ရွက်ဆဲ ပရိယတ္တိ သာသနာ ရေး လုပ်ငန်း များ မှာ ကျမ်းစာများပုံနှိပ်ဖြန့်ချိခြင်း, အဘိဓမ္မာစာမေးပွဲ ကျင်းပပေးခြင်း, အကျဉ်းထောင် ဗုဒ္ဓဘာသာ သင်တန်းပြုလုပ်ပေးခြင်း, တောင်တန်း သာသနာပြုရေး, ဓမ္မဒူတသိပ္ပံ တည်ထောင်ခြင်း, တိပိဋကဓရ စာမေးပွဲပြုလုပ်ခြင်း,နိုင်ငံခြားသို့ဖြန့်ချိရန်အတွက် ကျမ်းစာများကိုအင်္ဂလိပ်ဘာသာသို့ပြန်ဆိုနှိပ်ခြင်း,ဗုဒ္ဓဘာသာ ရတနာ သုံးပါးနှင့် စပ်လျဉ်းသောပုံ့များ ပုံနှိပ်ခြင်း, ကျောင်းသားများအတွက်စာပေဆုများပေးခြင်းနှင့် ဘုန်းတော်ကြီး ကျောင်းများတွင် တိုင်းရင်းဘာသာ ပညာသင်ကြားရေးတို့ဖြစ်လေသည်၊

**ကျမ်းစာများပုံနှိပ်ဖြန့်ချိခြင်း၊**

ဗုဒ္ဓသာသနာအဖွဲ့သည်ရဟန်းရှင်လူများအတွက်အကျိုးကျေးဇူးများမည်ဖြစ်သော တိမ်မြုပ် နေသည့် ပါဠိနှင့် ရှေးဟောင်း မြန်မာကျမ်းစာများကိုအဆက်မပြတ်ပုံနှိပ်သွားမည်ဖြစ်ရာ ပဌမ အသုတ် အနေဖြင့် မူလပဏ္ဏာသဋီကာ(ပ-ဒု) မဇ္ဈိမနှင့် ဥပရိပဏ္ဏာသဋီကာ၊ ပဋိသမ္ဘိဒါမဂ်ဘာသာဖြန့်(စံကျောင်းမှု)ဗားကရာ သဂြိုဟ်ပါဠိ နိဿယ-ဗားကရာ သဂြိုဟ် အဓိပ္ပါယ်ကောက် အဘိဓမ္မတ္ထသင်္ဂဟဒီပနီနှင့် ပါရမီ တော်ခန်းပျို့-ဆုတောင်းခန်း ပျို့များကို အဘိုး အနည်းငယ် မှုဖြင့် ၎င်းဖြန့်ချိလျက် ရှိပြီဖြစ်ကြောင်း၊

**အဘိဓမ္မာစာမေးပွဲ**

မြန် မာ ပြည် အရပ်ရပ် တွင် သံဃာတော်များအတွက် ပရိယတ္တိစာမေးပွဲများကို နိုင်ငံတော် အစိုးရကရင်း သာသနာရေး အသင်းအဖွဲ့များကရင်း နှစ်စဉ်ကျင်းပလျက်ရှိ၏၊ ထို့ပြင်လူပုဂ္ဂိုလ်များ အတွက် အရပ်ရပ် တွင် ကျင်းပ လျက် ရှိသော စာမေးပွဲများမှာမင်္ဂလသုတ် စမွစကြာစသော သုတ္တန် စာမေးပွဲများသာ ဖြစ်လေသည်၊ သာသနာ ကွယ်ပ သည့် အခါအဘိ ဓမ္မာ-ဂ ကျမ်းက ရှေးဦးစွာ ကွယ်ပမည်ဟု ကျမ်းဂန် များတွင် အဆိုရှိသဖြင့် အဘိဓမ္မာဒေသနာကို သာသနာ အ နှံ့ရှည်စွာ တည်စေရန် လူပုဂ္ဂိုလ်များအတွက် အဘိဓမ္မာစာမေးပွဲတရပ်ကို ယခုနှစ်ပြီးခဲ့သော သီတင်းကျွတ်လက စ တင် ၍ ကျင်းပ ခဲ့ကြောင်း၊ ထိုလတွင် နှစ်စဉ် ကျင်းပသွားရန်လည်းစီစဉ်ပြီးဖြစ်ကြောင်း၊ (အဘိဓမ္မာစာမေးပွဲ သတင်းကို ဤစာ စောင် တနေရာ၌ အ ကျယ် ကြည့်ပါ)၊

**အကျဉ်းထောင်**

**ဗုဒ္ဓဘာသာအသင်း**

မြန်မာပြည်တွင် အကျဉ်းထောင် ပေါင်း ၃၅-ခုရှိ၍ အကျဉ်း သားပေါင်း ၆၀၀၀ ကျော်မျှ ရှိရာ များသောအားဖြင့် အကျဉ်းသား များသည် ဗုဒ္ဓဘာသာအခြေခံဖြစ်သော သရဏဂုံ နှင့် ငါးပါးသီလ ၏ အဓိပ္ပါယ်, ဂုဏ်တော်စသည်တို့ကိုမျှ နားမလည်ကြဟု သိရှိရသဖြင့် ထောင်များတွင် အကျဉ်းသား များကိုယ်တိုင် ဗုဒ္ဓဘာသာ၏ အခြေခံများကို ပိုမိုနားလည်သိရှိကြပြီးနေ၍ အကျင့်စာရိတ္တ ကောင်းမွန်လာစေခြင်းငှါ နိုင်ငံတော် အစိုးရ အား မေတ္တာရပ်ခံ၍ မြန်မာပြည် အရပ်ရပ်ရှိအကျဉ်းထောင်များတွင် ယခုနှစ် တန်ဆောင်မုန်းလက စတင်၍ ဗုဒ္ဓဘာသာ သင်တန်း စာမေးပွဲများကျင်းပပေးခဲ့ကြောင်း၊

သင်ကြားပြသဆိုရသည့် ကျမ်းစာမှာ ဗုဒ္ဓဘာသာလက်စွဲ စာအုပ်များဖြစ်၍အတွဲအသိုက် အဆင့်အတန်းလေးမျိုးခွဲခြားကာအောင်မြင်သူတို့အား အောင်လက်မှတ် နှင့် ဆောင်လျှော့ရက်ဆုများကိုပေးခဲ့ကြောင်း၊ ယခုနှစ်တွင် အကျဉ်းထောင် ၂၉ ထောင်မှ ဖြေဆိုကြသူ ဦးရေမှာ ပဌမဆင့် ၄၉၃-ဒုတိယဆင့် ၂၆၃-တတိယဆင့် ၁၅၅-စတုတ္ထဆင့် ၁၂၂-အသီးသီး ရှိ၍ အောင်မြင်ကြသူများမှာ ပဌမဆင့်တွင် ၄၃၅-ဒုတိယဆင့်တွင် ၁၄၈ တတိယဆင့်တွင် ၁၅၀-နှင့်စတုတ္ထဆင့်တွင် ၈၈-ဦးရှိကြောင်း၊

ကျန်အကျဉ်း ထောင်များတွင်လည်း အသားတရ သင်တန်းပေး၍ စာမေးပွဲ ကျင်းပနိုင်ရန် သက်ဆိုင်ရာ ခရိုင်ဝန်များထံ မေတ္တာရပ် ခံထားပြီးဖြစ်ကြောင်း၊

**တောင်တန်းသာသနာပြု**

ဗုဒ္ဓသာသနာအဖွဲ့၏ သာသနာရေးကိစ္စများတွင် တောင်တန်းသာသနာပြုကိစ္စသည်လည်းအရေးကြီးသောလုပ်ငန်းတရပ်အနေဖြင့်ပါဝင်ခဲ့လေသည်၊သို့အတွက် ထိုလုပ်ငန်းများကိုရှေးယခင်ကစ၍ ယနေ့တိုင်အောင် အောင်မြင်စွာဆောင်ရွက်လာခဲ့သော ဂိုဏ်းပေါင်းစုံမဟာသံဃာအဖွဲ့ချုပ်နှင့် မြန်မာပြည်လုံးဆိုင်ရာ ဗုဒ္ဓ ဘာ သာ အဖွဲ့ချုပ်တို့၏ တောင်တန်း သာသနာပြုအဖွဲ့သို့လွှဲအပ် ဆောင်ရွက်စေပါက ခရီးပိုမိုတွင်ကျယ်မည်ဟု ယူဆသည့် အတိုင်း ဗုဒ္ဓသာသနာအဖွဲ့မှ ကယားပြည်နယ်- ဦးဘအေး, ကချင်ပြည်နယ်- ဦးဘခင်, ချင်းဝိသေသတိုင်း ဦးအောင်ညွန့်နှင့် ကော်သူလေး- ဦးစံညွန့်တို့အားထည့်သွင်းကာငွေအားဖြင့်ကူညီခဲ့ကြောင်း၊

ယခုအခါတွင် အဆိုပါ တောင်တန်း သာသနာပြုလုပ်ငန်းအတွက် ဗုဒ္ဓသာသနာ အဖွဲ့မှပထမ အရစ် ငွေ၅၀၀၀ိနှင့် ဒုတိယ အရစ် ငွေ ၅၀၀၀ိ ကို ထောက်ပံ့ပြီးဖြစ်၍မကြာမီအတွင်းမှာ တတိယအရစ်အဖြစ်ဖြင့် ၅၈၁၄ိ- ပေးအပ်မည်ဖြစ်ကြောင်း၊

**ဓမ္မဒူတသိပ္ပံ**

နိုင်ငံရပ်ခြား တိုင်းပြည်များသို့ ဖျည့်လည်၍သာသနာ ပြုနိုင်စေရန် ဓမ္မာစရိယ အောင်မြင်ပြီး ရဟန်းတော်အပါး ၂၀-ကို ရွေးချယ်ကာ အင်္ဂလိပ်စာနှင့် ဟိန္ဒီစာ သင်ကြားရေးအတွက်ဓမ္မဒူတ သိပ္ပံအမည်ဖြင့် ကမ္ဘာအေး စေတီတော် အနီးတွင် သင်တန်းကျောင်းတခုဖွင့်လှစ်ထားကြောင်း၊ ကျောင်းကို မဟာဝိဇ္ဇာဘွဲ့ရဆရာတော်အရှင်ကောလသ က အုပ်ချုပ်၍ ၅-နှစ် သင်တန်းပြီးဆုံးသောအခါ အနည်းဆုံး ၅-နှစ်မျှ ကမ္ဘာ့အရပ်ရပ်သို့ လှည့်လည် သာသနာ ပြုကြရမည် ဖြစ်ကြောင်း၊ (သတင်း|အကျယ်ကို ဤစာစောင် တနေရာ၌ကြည့်ပါ၊

**တိပိဋကဓရစာမေးပွဲ**

ဗုဒ္ဓသာသနာ နုဂ္ဂဟအဖွဲ့က ကြီးမှူး၍ သုံးနှစ်တိုင်တိုင် သာသနာ့ရိပ်သာ၌ ကျင်းပခဲ့သောတိပိဋကဓရ စာမေးပွဲကိုယခုနှစ် ဗုဒ္ဓသာသနာအဖွဲ့သို့လွှဲပြောင်းအပ်နှင်း၍ ဗုဒ္ဓသာသနာအဖွဲ့ကပင်ဆက်လက်ကျင်းပသွားလိမ့် မည်ဖြစ် ကြောင်း၊ သို့ရာတွင် စာမေးပွဲ ကျင်းပရေးနှင့်စပ်လျဉ်း၍

---

**ပါဠိမိသောစနစ် လုပ်ငန်း စာမျက်နှာ ၁၆ မှအဆက်**

ထို့ပြင် သံဂါယနာ ဆိုသည်မှာ ကောင်းမွန်သန့်ရှင်းစွာ ရွတ်ဆိုခြင်း ဟု ဆိုသည့်အတိုင်း နိကာယ်ငါးရပ် ပိဋကတ်တော် များကို နှုတ်ဖြင့် လည်း အာဂုံ ရွတ် ဆိုကြမည်ဖြစ်ပေရာ တာဝန်ကျရာ သံဃာတော် များမှာ အဆိုပါသံဂါယနာ ကိစ္စအတွက် နှုတ်လွတ် အာဂုံ လေ့လာတော်မူနေကြပြီဖြစ်ကြောင်း၊

သိဟိုဠ်ကျွန်းမှ သံဃာတော် များ သုဒ်သင် တည်း ဖြတ်ကြရန် အတွက် ကျောက် စာမူ နှင့် တိုက်ဆိုင် ပြီး ဖြစ်သော နိကာယ် ငါးရပ်ပိဋကတ်ပါဠိတော်ငါးစုံကို လွှန်ခဲ့သည့် ဇန္နဝါရီလကညောင်းရမ်း ဆရာ တော် ကြီး မှူးသည့် ဆဋ္ဌသံဂါယနာဝန်ဆောင် သံဃာ အဖွဲ့ဝင်ဆရာတော် ၇-ပါး နှင့် သာသနာရေးဝန်ကြီးအမှူးရှိသော သာသနာရေး အရာရှိ များ ပါ ဝင် သည့် ဆဋ္ဌသံဂါယနာ မိတ်ဆက်အဖွဲ့က သိဟိုဠ်သို့ ဆောင် ကြဉ်း သွားကြပြီးလျှင်အပ် နှင်းခဲ့ ပြီ ဖြစ် ကြောင်း၊

ထို့ပြင် ယိုးဒယား, ကမ္ဘောဒီးယားနှင့် လာ အို ပြည် ရှိသံဃာတော် များ သုဒ်သင် တည်း ဖြတ်တော်မူကြရန် ပိဋကတ်တော်များကို ဆက် လက် စီစဉ် လျက် ရှိကြောင်း၊ ထိုအစီအစဉ်မှာ မြန်မာနိုင်ငံမှသွားဘဲသက် ဆိုင်ရာ ပြည်မှ သံဃာရာဇာ အမှူး ရှိသည့် သာသနာရေး မိတ်ဆက် အဖွဲ့များကို မြန်မာပြည်သို့ဘိတ်ကြားကာ ဆွေးနွေး မည် ဖြစ်ရာ ကမ္ဘောဒီးယားမှ သာသနာပိုင်ဆရာတော်ကိုယ်တိုင် ကြွလာဆွေးနွေးအပ်နှင်းလိုက်လေပြီ၊

ဆောင်ရွက်ဘွယ်ကိစ္စ အဝဝကို မှ နှစ်စဉ်ဆောင်ရွက်လာခဲ့သော ဗုဒ္ဓ သာသနာနုဂ္ဂဟ အဖွဲ့ကပင် ဆက် လက်ဆောင်ရွက်သွားမည်ဖြစ်၏။

**ကျောင်းသားစာပေဆုများ**

ကျောင်းသားသူငယ်လူရွယ်များ ဗုဒ္ဓ ဘာသာ သင်္ချိုင်းစာပေါင်းစာပေ နှင့်အဘိဓမ္မာ စာပေသင်ကြားရေး တို့၌ ပို၍ စိတ်ဝင်စား လာစေရန် တက္ကသိုလ် နှင့် အောက် တန်း ကျောင်းစာမေးပွဲများတွင် ထိုဘာ သာရပ်များ၌ထူးချွန်စွာ အောင်မြင် သော ကျောင်းသားများအားထိုက် သင့်သောဆုများချီးမြှင့်ရန် ဤအဖွဲ့ မှဆုံးဖြတ်ထား၏။

ပထမကာနဦး အနေဖြင့်ရန်ကုန် တက္ကသိုလ်ဓာပ်ချုပ်ဓေ့,မှူး ဦးထင် အောင်၏ အကြံပေး မေတ္တာရပ်ခံ ချက်အရ ဥပစာနှင့် ဝိဇ္ဇာတန်းတွင် ဗုဒ္ဓဘာသာသင်္ချိုင်းစာ အဘိဓမ္မာ နှင့် ပါဠိဘာသာများတွင်ပထမ ရရှိ သောကျောင်းသားများအားစကော လားရှစ်ဆုများပေးခဲ့ကြောင်း၊ ယခု နှစ်တွင်ဒုတိယနှစ် ဝိဇ္ဇာ တန်းသား များဖြစ်သော ခင်မောင် ထွေးနှင့် တင်မောင်ညွန့် တို့မှာ ဗုဒ္ဓဘာသာ သင်္ချိုင်းစာတွင် ပထမ ရရှိကြ၍တ လချင်၃ဝ-စီဖြင့်တနှစ်အတွက် ရ ရှိကြကြောင်း၊

ဒေမျက်နှာ ၃-မှအဆက်

သင်ကြားချက်ကိုထပ်မံကြားနာကြ ပြန်လေသည်၊

သင်တန်းကို အဖိတ်နေ့တဝက် နှင့်ဥပုသ်နေ့များတွင် ပိတ်ကာ အ စမ်း စာမေးပွဲပြုလုပ်ပေး၏။ သင် တန်း သား ရဟန်း တော် များ၏ ကျန်းမာရေးကို ဒေါက်တာဦးမြင့် ဆွေ(အမ်-ဘီ-ဘီ–အက်စ် ကတာ ဝန်ယူ၍တပတ်လျှင်တကြိမ်ကျလာ ရောက်ကြည့်ရှု စစ်ဆေးကာ သင့် တော်သော ဓာတ်စာဆေးဝါးများ ဖြင့်ညွှန်ကြားကုသပေးသည်၊ သင် တန်းသားရဟန်းတော်များအားသိ တင်းသုံးရာ ဌာနများနှင့်ဆွမ်းဘုဉ်း ပေးရာဌာနများကိုကျန်းမာ ရေးနှင့် ညီညွတ်စေရန် သန့်ရှင်းစွာခွဲခြား၍ ထားသည်၊ရဟန်း တော်များသည် ဥပုသ်နေ့များတွင်သက်သတ်လွတ် ဆွမ်းဘုဉ်းပေ.တော်မူကြသည်၊

သင်တန်းသား ရဟန်းတော်များ သည် ဤဓမ္မဒူတ ဝိဇ္ဇာလယ တွင် ၅-နှစ်မှ သာသနာပြု လုပ်ငန်း ကို အဝဝတို့ကို သေ.လာသင်ကြားပြီး နောက် နိုင်ငံခြား အရပ်ဒေသများ သို့ ဗုဒ္ဓသာသနာပြုန့်ပွါးရန် ကြွကြရ မည်ဖြစ်လေသည်။

## သံဂါယနာ ဆိုသည်မှာ

(စာမျက်နှာ ၁၄ မှအဆက်)

မင်းနန်းစံ ၆-နှစ် မြောက်၌ တင်သည်)၊

**(စ) တင်သောကာလအကြာ**

အဋ္ဌကထာများ၌ မတွေ့ရ ပေ၊

**(ဆ) တင်ပုံတင်နည်း၊**

ပေသက်အက္ခရာ တင်တော် မူကြပြီးလျှင်အကြိမ် ၁၀၀- တိတိ သုဓ်သင် တည်း ဖြတ် တော်မူကြကုန်၏၊

## ၅။ ပဥ္စမသံဂါယနာ

**(က) တင်ရသောအကြောင်းရင်း**

အခြားအကြောင်းရင်းမရှိလှပေ၊ ပေပရပိုက်ရှိ မူတို့ ထက် တည်တံ့ စွာ ခိုင်ခန့်ရေး– မူအကွဲကွဲ ရှိသည် များကိုညီညွတ်ရေး-- စသည်တို့ကို ရည်ရွယ်၍တင်ကြကုန်၏၊

**(ခ) ဦးစီးပုဂ္ဂိုလ်**

(၁) တောင် ဆောင် မိဖုယား ကြီး၏ဆရာ-ဇာဂရာဘိဝံသ တိပိဋ ကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု၊

(၂) မြဲတောင်မြို့စား သေနတ် ဝန်ကြီးဆရာနရိန္ဒာဘိဓဇသိရီသဒ္ဓမ္မ ဇောတိပါလဓဇ မဟာဓမ္မရာဇာ ဓိ ရာဇဂုရု၊

(၃) စိုး တော် မြင်း ဝန် တိုက် ဆ ရာ တော် သုမင်္ဂလသာမိသိရိပ ဝရမဟာဓဇ မဟာဓမ္မရာဇာဓိ ရာဇ ဂုရု-ဟူ၍ရဟန်းတော်ဘက်မှ ၃-ပါး မှုရှိကုန်၏၊

(၁) အတွင်း ဝန်ခန်းပတ်မြို့စား မင်းကြီးမဟာသိရိဥဇနာ။

(၂) အ တွင်း ဝန် ယောမြို့စား မင်းကြီး မဟာမင်းသုစည်သူ၊

(၃) ခင်မင်းဝန်ရိုင်းခိုင်မြို့စား မဟာသိရိဇေယျသူ၊

(၄) သံတော်ဆင့် နေမျိုး ရာဇ စည်သူ၊

(၅) အမိန့် တော် ရေး မင်းထင် ဇေယျသူ၊

(၆) အသုံးစာရေး နေမျိုး သိရိ ကျော်သူ၊

ဟူ၍လူဘက်မှ ၆-ဦးမှုရှိ ကုန်၏၊ ဤ ရှင် လူ ၉–ဦးမှူးကျောက်ထက်အက္ခ ရာအဖြစ်ကြီးကြပ်၍ တင်တော်မူကြ ကုန်၏၊

ရှင်းပြင်သာသနာပြုသုဓမ္မာဆရာ တော် ၈-ပါးနှင့်တကွတံဆိပ်ရ မရ သံဃာတော် ၂၄၀၀– တို့သည် နှုတ်ဖြင့် ရွတ် ဆို၍ တင်တော်မူကြ ကုန်၏၊

**(ဂ) သံဃာတော်ဦးရေ**

၂၄၀၀-မျှရှိကုန်၏၊

**(ဃ) တင်ရာဌာန**

(၁) မြန်မာနိုင်ငံ မန္တလေး နေ ပြည်တော်မဟာလောကမာ ရဇိန် ခေါ် မင်းတုန်း မင်း တြား ကြီး၏ ကုသိုလ်တော် စေတီတော်တံတိုင်း အတွင်းဂူငယ်များ၌ ကျောက်ရေး ဖြင့်တင်ကုန်၏၊(၂)ရွှေနန်းပြာသာဒ် တော်ဦးမြနန်းတော်တွင် နှုတ်ဖြင့် ရွတ်ဆို၍တင်တော်မူကြသည်၊

**(င)အမှီပြုသောမင်း**

ကုန်းဘောင်ဆယ်ဆက်မြောက် မင်းတုန်းမင်းတြားကြီး၊

**(စ) တင်သောကာလအကြာ**

(၁) ကျောက်ရေးကို ၁၂၂၂ခု တန်ဆောင်မုန်းလဆန်း ၁-ရက်နေ့ ကစတင်လုပ်ဆောင်ရာ ၁၂၃၀ ခု ကဆုန်လဆန်း ၁၄-ရက်နေ့၌ ပြီး ဆုံး၏၊ (၂) နှုတ်ဖြင့် တင် သည် ကို ၁၂၃၃-ခု တန်ခူး လပြည့် ကျော် ၁၁-ရက်(နှစ်ဆန်း ၁-ရက်) စနေ နေ့ကစ၍တင်ရာ ၁၂၃၃-ခု တော် သလင်း လပြည့်ကျော် ၁၄-ရက် နေ့ (၅-လနှင့် ၃-ရက်အကြာတွင်) ပြီး၏၊

**(ဆ) တင်ပုံတင်နည်း၊**

(၁) ကျောက်ပြား.ရေ ၇၂၉ ပေါ်၌ အဋ္ဌကထာနှင့် တကွ ပိဋက ၃- ပုံကိုရေးတင်ကုန်၏၊ (၂) မြေ နန်းတော်၌နှုတ်ဖြင့်လည်း ရွတ်ဆို၍ တင်တော်မူကြကုန်၏၊

ကျောက်စေတီ ၇၂၉၊

ဂူပြာသာဒ် ပေါင်း- ၄၄၂၊ ခု- ၁၆၈တ- ၅၀၉၊

ဝိနည်းပါဠိတော် ကျောက် ချပ် ရေ ၁၁၁၊

အဘိဓမ္မာ ၈၈၊

နိကာယသုတ္တန်ပါဠိတော်၄၁၀၊

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏ ဆဋ္ဌသံဂါယနာဆိုင်ရာ

## ဩဝါဒါစရိယသံဃနာယကအဖွဲ့ဝင်ဆရာတော်ဘုရားကြီးများ။



# ဗုဒ္ဓနေ့နှင့် ညောင်ရေသဘင်

## တန်ခူးလပြည့်နေ့တွင် ဘုရားဖြစ်ခဲ့မယ်ဆိုလျှင်

ယနေ့နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးက ကြီးမှူးကျင်းပမဲ့ ညောင်ရေသဘင်ပွဲတော်ကြီးနဲ့ ဗုဒ္ဓနေ့အကြောင်းကို မပြောခင် (၁) ကဆုန်လပြည့်နေ့ကိုမှ ဘာ့ကြောင့်ဗုဒ္ဓနေ့ရယ်လို့သတ်မှတ်ရသလဲ။ (၂) အဲဒီနေ့တွင် ရေသွန်းလောင်းတဲ့ အခါမှာလဲ ကမ္ဘာပေါ်မှာသစ်ပင်များစွာရှိပါလျက် ညောင်ဗုဒ္ဓဟေပင်ကိုမှ ဘာ့ကြောင့် ရေသွန်းလောင်းရသလဲ။ (၃) ကဆုန် လပြည့်နေ့မှာ ညောင်ရေသွန် လောင်းတဲ့အလေ့ကို ဘယ်အခါက စတင်ခဲ့သလဲ။ (၄) ညောင်ရေသွန်းလောင်းတဲ့ အတွက်ဘယ်လို အကျိုးရနိုင်သလဲ ဆိုတဲ့ပြဿနာတွေကို နဲနဲလောက်ရှင်းပြချင်ပါတယ်။

**ဗုဒ္ဓနေ့ဟုခေါ်ရပုံ**

ဟို–လွန်ခဲ့တဲ့နှစ်ပေါင်း ၂၄၉၀ ကျော်လောက်က ကဆုန် လပြည့်နေ့ ဗိုးသောက်ယံ မှာ အခု ကျွန်တော်တို့ ဗုဒ္ဓဘာသာ မှန်သမျှတွေရဲ့ ကိုးကွယ်ရာဖြစ်တော်မူတဲ့ ဂေါတမ ဗုဒ္ဓရှင်တော်ဘုရားဟာ ဘုရားအဖြစ်ကို ဆိုက်ရောက်တော်မူခဲ့ပါတယ်၊ တနှစ်မှာ ၁၂-လရှိတဲ့အနက် ကျွန်ဘော်တို့ဂေါတမဗုဒ္ဓ ဘုရားရှင်ဟာ ကဆုန်လ မှာသာ ဘုရားအဖြစ်သို့ ဆိုက်ရောက် ခဲ့တဲ့ အကြောင်းကို စာပေများမှာ တညီတညာထဲ မိန့်ဆိုတော် မူကြ ပါတယ်၊

ဒါလောက်သာမကသေးပါဘူး ကဆုန် လမှာ ရက်ပေါင်း ၃၀-တောင်မှရှိပါတယ်တခြားရက်တွေမှာ ဘုရားအဖြစ်သို့ ဆိုက်ရောက်တော် မမူခဲ့ပါဘူး၊ လပြည့်နေ့ ဗိုးသောက်ယံမှာသာ ဘုရားအဖြစ်သို့ ဆိုက်ရောက်ဘော် မူခဲ့ပါတယ်၊ ဒါကြောင့်အဲဒီနေ့ကို ဗုဒ္ဓနေ့ရယ်လို့ ကမ္ဘာ့ ဗုဒ္ဓဘာသာလူထုကြီးကလဲ သတ်မှတ်ကြပါတယ်၊တကယ်လို့ တန်ခူးလပြည့်နေ့မှာ ဘုရားအဖြစ်သို့ ဆိုက်ရောက်တော်မူခဲ့မယ် ဆိုလျှင်ယခုအခါမှာတန်ခူးလပြည့်နေ့ကိုသာ ဗုဒ္ဓနေ့(ဘုရားနေ့) ရယ်လို့ သတ်မှတ်ကြဘို့ အကြောင်း ရှိပါတယ်၊ နက္ခတ္တပရိဿဒအားဖြင့် ဝိသာခါနက္ခတ်နဲ့ ယှဉ်ပြီးဘုရား အဖြစ်သို့ ဆိုက်ရောက်တော် မူခဲ့တဲ့ အတွက် ဗုဒ္ဓနေ့ကို ဘိပဟိုဋ္ဌ်ကျွန်းမှာ ဝိဆာခ်ဒေးလို့လဲ ခေါ်ကြပါသေးတယ်၊ ဆဲသလို အင်မတန်အရေးကြီးတဲ့ ဘုရားဖြစ်တဲ့ အခါမှာသာ ဝိသာခါ နက္ခတ်နဲ့ယှဉ်တာ မဟုတ်သေးပါဘူး ဖွားတော်မူတုန်းကလဲ ဝိသာခါ နက္ခတ်နဲ့ဘဲယှဉ်ပြီး ဖွားခဲ့ပါတယ် ပရိနိဗ္ဗာန်ပြုတဲ့အခါမှာလဲ ဝိသာခါ နက္ခတ်နဲ့ဘဲ ယှဉ်ပြီး ပရိနိဗ္ဗာန် ပြုတော် မူခဲ့ပါဘယ်၊ (ဒါပထမပြဿနာရဲ့ လိုရင်း အဖြေပါဘဲခင်ဗျား၊)

**ညောင်ဗုဒ္ဓဟေကိုသာ**

နောက်တချက်ကတော့ ကဆုန်လပြည့်နေ့တွင် ဘုရားရှင်တိုင်း မစွန့်လွှတ်တဲ့ ဗုဒ္ဓဂယာ မဟာဗောဓိမဏ္ဍိုင်အရပ်မှာ ဘုရား အဖြစ်ကို ဆိုက်ရောက်တော် မူကြတယ် ဆိုပေမဲ့ ဘုရားတဆူနဲ့တဆူ သစ်ပင်ချင်း မတူ ကြပါဘူး သခွပ်ပင် အောက်မှာ ပွင့်တော်မူကြတာလဲရှိပါတယ် ကသစ်ပင်အောက်မှာပွင့်တော်မူကြတာလဲ ရှိပါတယ် ကျွန်တော်တို့ ဂေါတမ ဗုဒ္ဓဘုရားရှင်ကတော့ ညောင်ဗုဒ္ဓဟေ ပင်ကြီး အောက်မှာ ပွင့်တော်မူခဲ့ ပါဘယ်၊ အထူးသဖြင့် ဆဲဒီညောင်ဗုဒ္ဓ ဟေပင်ကြီးဟာဖွားဘက်တော် ၇-ပါးမှာလဲ အပါအဝင်ဖြစ်ပါတယ်၊ ပရိဘောဂ စေတီတော် ထိုက်တဲ့ အပင်ထူး အပင်မြတ်လဲ ဖြစ်ပါတယ်၊ ဒါကြောင့် ကဆုန်လပြည့်နေ့မှာတခြား သစ်ပင်တွေကို ရေမလောင်းဘဲ ညောင်ဗုဒ္ဓဟေပင်ကို ရေသွန်းလောင်းကြတယ်လို့ မှတ်ယူသင့်ပါတယ်။(ဆဲဒါက ဒုတိယပြဿနာရဲ့လိုရင်းအဖြေပါဘဲခင်ဗျား၊)

**ဘယ်ကစသလဲ**

ညောင်ရေသွန်း လောင်းတဲ့ အလေ့ကတော့ကြာလှပါပြီ၊ ကျမ်းဂန်များမှာ စေတိယင်္ဂဏဝတ် ဗောဓိယင်္ဂဏ ဝတ်ဆိုတာတွေ အထင်အရှား ရှိပါတယ်။သို့သော်လဲ ရှေးက မဇ္ဈိမ ဒေသမှာ ကဆုန် လပြည့်နေ့မှာမှ ညောင်ရေ သွန်းလောင်းကြတယ်လို့တော့ တိုက်ရိုက်မိန့်ဆိုတဲ့ စာပေများကို မတွေ့မိပါ၊ အနှန်ကတော့ ဘယ်လဆယ်ရက်မှာ မဆို ရေသွန်းလောင်းမယ်ဆိုရင်ကုသိုလ် ကတော့ရတာချည်းပါဘဲ၊

အထူးသတိပြုဘို့ကတော့ မူလ ဗုဒ္ဓဂယာ မဟာ ဗောဓိပင်ကြီးရဲ့ အစေ့တွေ အကိုင်းတွေကို ယူပြီး တိုင်းနိုင်ငံ အသီးသီးမှာ စိုက်ပျိုးလေ့ရှိခဲ့ကြတာကို တွေ့ရပါတယ်၊ ဗမာပြည်မှာတော့ ပုဂံခေတ် နရပတိစည်သူမင်းကြီး လက်ထက်မှာ ပင့်ဆောင်စိုက်ပျိုးခဲ့တဲ့အကြောင်းကိုရာဇဝင်များမှာ အကျယ်တဝင့် ဆိုထား ပါတယ်၊ ဗမာ ပြည်မှာ ညောင်ရေသွန်းတဲ့အလေ့ကို ပုဂံခေတ်ကဘဲ စတင်ခဲ့သိမ့် မယ်လို့ ယူဆစရာ အကြောင်း ရှိပါတယ်၊ ဘာ့ကြောင့်လဲဆိုရင် မြန်မာထုံးစံ ၁၂-ရာသီပွဲတော်များတွင် ကဆုန်လအတွက် ညောင်ရေသွန်းပွဲ ရယ်လို့ ရှေးအင်းဝခေတ် ကဗျာစာပေတွေမှာ အများအပြား စပ်ဆိုချက်တွေ တွေ့ရတဲ့ပြင် ဆဲဒီ စာပေတွေက အစဉ်အလာတရပ်အနေနဲ့ပေါ်ပြူကြပြန်ပါတယ်၊ (ဆဲဒါ တတိယ ပြဿနာရဲ့ လိုရင်း အဖြေပါဘဲခင်ဗျား)

အထူးကတော့ သစ်ပင် များရဲ့ အစာနဲ့တူတဲ့ ရေအားဖြတ်းတဲ့လမှာ ဘာသာရေးနဲ့စပ်တဲ့ ဗောဓိပင်နဲ့ သုံးစည်းပြီးရေသွန်းခဲ့တဲ့ အလေ့ပေါ်လာ တယ်လို့ မှတ်ယူ သင့်ပါတယ်၊

ပရိဘောဂ စေတီ အပါအဝင်ဖြစ်တဲ့ ဒီဗောဓိပင်ဟာ သာမညအားဖြင့် သစ်ပင်တပင်မျှသာဖြစ်ပါတယ်၊ သို့သော်လဲ ဘာသာရေးအတွက် ဘုရားရှင်နဲ့ စပ် ပြီးဖွားဘက်တော်လဲဖြစ်ပါတယ်၊ ဘုရားအဖြစ်သို့ ဆိုက်ရောက်ရာ ဖြစ် တဲ့ သစ်ပင်လဲဖြစ်ပါတယ်၊ ဒါ့ကြောင့် ညောင်ရေသွန်းလောင်းတဲ့အခါမှာ သက်တော် ထင်ရှား ဘုရားရှင်ကို ရေသပ္ပါယ်တဲ့ ကုသိုလ် ပြုရသလို စိတ်ထားသင့်ပါတယ်၊ ရှိခိုးတဲ့ အခါ တံမြက်လှဲတဲ့ အခါမှာလဲ သက်တော်ထင်ရှား ဘုရားရှင်ကို ပြုရရသလို စိတ် ထားသင့် ပါတယ်၊ အဲသလိုစိတ်စေတနာထားမယ်ဆိုလျှင် သက်တော်ထင်ရှားဘုရားရှင်ကို ပြုရသလိုကုသိုလ် ရနိုင်တယ်လို့ ကျမ်းဂန်များမှာ ဆိုပါတယ်၊ ယခုစကားများအတွက်''တိဋ္ဌန္တေ နိဗ္ဗုတေ-စာပိ၊ သမေ စိတ္တေ သမံ ဖလံ''ဆိုတဲ့ ဝိမာန ဝတ္ထုပါဠိတော် ''ဗုဒ္ဓဿ ဘဂဝတော သမ္မုခါ ဝိယ နိပစ္စကာရံ ဒဿေတွာ ဗောဓိ ဝန္ဒိတဗ္ဗာ''သို့ဆိုတဲ့ ဝိဘင်း အဋ္ဌကထာ၊ ''မဗ္ဗောနေဋ္ဌပေတွာန၊ ခဘုံ ဗောဓိ ဓမုဇိတုံ၊ အနဲ့ဇာနာသိ တုမှာကံ၊ သာဓနဋ္ဌံ သိဝဥ္ဇသံ'' သို့မိန့်ဆိုတဲ့ ဇိနာလင်္ကာရ၊ စာမျက်နှာ ၃၂၉၊ ဂါထာနံပါတ်-၂၅၅၊ များကို ထောက်ထားပြီး သဘာလ ယုံကြည်သင့် ဖွာပါတယ်၊ (ဆဲဒါ စတုတ္ထပြဿနာရဲ့ လိုရင်း အဖြေပါဘဲခင်ဗျား)

ငင်းပြင် ''သသံဒီ-ပါကံ-ဇနေတိ'' ကျမ်းဂန်များမှာ မိန့်ဆိုတော်မူကြတဲ့အတိုင်း စေတီ ထိုက် တဲ့ ညောင်ပင်ကို အေးမြတဲ့ ရေစင်နဲ့ ညောင် ပင် ရဲ့ အသက် ကို ရှည် အောင်ပြုရသလို တူသော အကျိုးဖြစ်တဲ့ ကိုယ်စိကိုယ်ဌ ကိုယ်စိတ် နှစ်ပါးအေးမြ ချမ်းသာခြင်း နိုင်ငံတော်ကြီး တခုလုံး အေးမြချမ်းသာခြင်း ဆိုတဲ့ အကျိုးများကို (အထူးတလည်) ခံစားရသိမ့်မယ် ဆိုတဲ့ယုံကြည်ချက်ကိုထားပြီးညောင်ရေသဘင်ပွဲကို ဆင်နွှဲကျင်းပ နိုင်ပါစေလို့ ဆုတောင်း လိုက် ရပါတယ်ခင်ဗျား၊

(သာသနာရေးအရာရှိဦးဘဆွေ အသံလွှင့်ချက်မှ)

---

(စာမျက်နှာ ၂ မှအဆက်)

အင်္ဂလိပ်ဘာသာဖြင့် ရေးသား ထားရှိမှုမှာ များစွာသော ဗုဒ္ဓဘာသာ ပါဠိစာပေများကို ကမ္ဘောဒီးယား ဘာသာ စကားဖြင့်ပြန်ဆိုပြီး ဖြစ် လေသည်၊ ဆိမ်သရတ်မှ, ရဟန်းခံမှ, ဥပသိပြုမှ,စသော သံဃာ့ကိစ္စများ၌ မြန်မာနိုင်ငံရှိ ရဟန်း တော်များနှင့် တူဖွာပေသည်၊

**လက်ရှိသာသနာပိုင်**

ယခုလက်ရှိကမ္ဘောဒီးယား သာသနာပိုင် ဆရာတော်အရှင်သူမြတ်သည် သီလ,သမာဓိ,ပညာဂုဏ်တို့နှင့်ပြည့်စုံတော်မူသော ဆရာတော်ဖြစ်သည့်အလျောက် ဗုဒ္ဓသာသနာကြီးပွါးရေးအတွက်အနှစ် ၂၀-ခန့်ကာလပတ်လုံး မနားမနေ ကြိုးစားအားထုတ်ခဲ့သော ဆရာတော်ကြီးဖြစ်ပေသည်၊ထို့ကြောင့်ပင်အစိုးရနှင့်တကွကမ္ဘောဒီးယား သံဃာထုကြီးအပေါ်၌ရင်း လူထုကြီးအပေါ်၌ရင်း ဩဇာရှိသော ဆရာတော်ကြီး တပါးအဖြစ်သို့ ဆိုက်ရောက်တော်မူခဲ့လေသည်၊

**ဆဋ္ဌသံဂါယနာကို**

မကြာမီက မြန်မာနိုင်ငံမှ ဆဋ္ဌသံဂါယနာ အတွက် ညောင်ရမ်းဆရာတော် ဘုရားကြီးနှင့် မဟာစည် ဆရာတော် ဘုရားကြီးများသည် ကမ္ဘောဒီးယား ပြည်သို့ ကြွရောက်တော်မူခဲ့ကြပေ၏၊

ယခုတပန် နိုင်ငံဘော် ဗုဒ္ဓသာ

သနာအဖွဲ့မှ ဆဋ္ဌသံဂါယနာ ကိစ္စ အတွက် ပင့်သျှောက်ချက် အရ ကမ္ဘောဒီးယား သာသနာပိုင် ဆရာတော် ဘုရားကြီး ကိုယ်တော်တိုင် ခေါင်းဆောင်သည့် မစ်ရှင် အဖွဲ့ သည် (၁၉-၃-၅၃)နေ့၌လေယာဉ် ပျံဖြင့် ကြွလာတော်မူခဲ့လေသည်။ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှရှေးမှု ခပျက်ခင်းခမ်းမင်းနားဖြင့် မင်္ဂလာ ခုံလေဆိပ်သို့ သွားရောက် ကြိုဆို ကာမြို့တွင်းသို့ ဖူးလည်၍ သာ သနာ့ရိပ်သာသို့ ပင့်ဆောင် ခဲ့ကြ လေသည်။

နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ ဥက္ကဋ္ဌကြီး၏နေ့အိမ်၌ရင်း, သမ္မတ ကြီး၏ အိပ်ဘောင်၌ရင်း, မြို့တော် ခန်းမကြီး၌ရင်း, မိုးညှင်း ဓမ္မသာ လာ၌ရင်း,နိုင်ငံတော် ရှေ့နေချုပ် ကြီး၏နေ့အိမ်၌ရင်း,ဆွမ်းဆန်းဆက် ကပ်ခြင်း, ပူဇော်ပွဲကျင်းပခြင်းများ ပြုကြပြီးနောက်(၂-၄-၅၃)နေ့တွင် ပြန်ကြွတော် မူလေသည်။ ဤစာ စောင်တနေရာ၌ ဓာတ်ပုံ သတင်း များ၌အသေးစိပ် သိနိုင်အောင် ပြ ထားသည်။

ဆရာတော် ကြီးသည် မြန်မာ နိုင်ငံသို့ရောက်နေစဉ် မန္တလေးမြို့ သို့လည်း ကြွရောက် ဖူးလည် တော်မူသွားလေသည်။

## ယခုတိုင်ရှိနေသော ဗုဒ္ဓအနွယ်တော်များ

လူဦးရေ သန်းပေါင်း၂၀-ကျော် ရှိသည့်ကောလိ-ရာဇပုတ် Koli-Rajputs. ခေါ် ဗုဒ္ဓ ဂေါတမ ဆွေတော်မျိုးတော်အဆက် အနွယ် များ ယနေ့တိုင်အစဉ် မပျက်ရှိ နေ ပေသေးသည်။၎င်းတို့သည်ဗုဒ္ဓ၏အ ဆက်အနွယ် များ ဖြစ် သည် အား လျော်စွာ သစ္စာဉာဏ် အမှန် တရား များကိန်းအောင်း လျှက်ပင် ရှိသော် လည်းအမျိုးမျိုးသော အနှောက်အ ရှက် တို့ကြောင့် အချို့မှာ ဟိန္ဒူ ဘာသာသို့ကူးပြောင်းလျက် အချို့ မှာ ဝမ်းရေးကြောင့် ခရစ်ယာန် ဘာ သာဝင်များဖြစ်နေကြလေသည်ဟူ ရာတွင် လူတိုင်း၏စိတ်တွင် မိမိတို့ ၏ မူလဘူတဖြစ်သော ဗုဒ္ဓဘာသာ ကိုပြန်လည် အားပြုရန် ရှုးစိုက်နေ ကြလေသည်။

ကောလိ-ရာဇပုတ်သည် ရာဂျစ တန်နယ်များ၏အလယ်တွင် သာ ယာဝိုပြေသော တော,တောင်,မြစ် ချောင်းတို့ဖြင့် ဖုံးပစွာတည်ရှိလျှက် အဂျမီရ် Ajmer မှာ မြို့တော်ဖြစ် လေသည်။

ဆာရ်နထ်အရှင်ဓမ္မရက္ခိတ,နာလန္ဒ အရှင်ကဿပနှင့်ယုံးဒယားအရှင်ဗိရ ဓမ္မပါလ ရဟန်းတော် အရှင်များ၏ စွမ်းပကားဖြင့် ယခုအခါအဂျမီရ်မြို့ တွင် ဗုဒ္ဓသာသနာရောင်ထွန်းဖြောင် စပြုလာပြီဖြစ်ကြောင်းကို ဆသိးသိး ပေါ်ပေါက်လာသော ဘာသာရေး အသင်းအဖွဲ့များဖြင့် သိနိုင် ပေ၏။ ရှရီနထုးဆင်း ဆိုသူကလည်း ဘာ သာရေးစာစောင် ထုတ်ဝေကာ ဗုဒ္ဓ ဘာသာ ကို ကြွေးကျော် လျက် ရှိ လေသည်။

အဂျမီရ်တွင် စာသင်ကျောင်း၃စ် ကျောင်းရှိသော်လည်းဘာသာရေး သင်္ခန်းစာပေးချိန်တွင် ဟိန္ဒူဘာ သာကိုသာ သင်ကြားရသဖြင့် ဗုဒ္ဓ ဘာသာဝင်များသည် ဘာသာရေး သင်ချိန်၌ မိမိတို့ ခလေး သူငယ် များအား၊ ဗုဒ္ဓဘာသာ သင်္ခန်းစာ များ သင်ကြားပေးရန် လိုလားနေ ကြ၏။ ဗုဒ္ဓ၏ အနွယ်တော် များမှာ ယခု အခါတွင် ဆင်းရဲ ဖွ သော တောင်သူ လယ်သမားများသာဖြစ် ကြ၍ ဘာသာရေး အဆောက်အဦ အတွက်မြေကွက် တခုဝယ်ယူရန် ဖြည်ပဗုဒ္ဓဘာသာနိုင်ငံများမှအကူ အညီလိုနေကြလေသည်။ ထိုနယ်မှ ကောလိယ ပုတ္တ ရာဟုလ ဆုမန် ချဝရာ Ko li ya Putta Rahula Suman Cha Wara, အား နိုင်ငံ တော်ဗုဒ္ဓသာသနာအဖွဲ့မှ တာဝန် ယူ၍ရန်ကုန်မြို့ သာသနာ့ရိပ်သာ တွင်ဘာသာရေးကိုလက်တွေ့လေ့ လာစေခဲ့ရာ၃၃-ရက်တိုင်မျှ သာမ ဏေ အဖြစ်နှင့် နေထိုင်ပြီးနောက် မဟာစည်ဆရာတော်၏ ဝိပဿနာ တရားများကို လက် တွေ့ ဆည်းပူး သွား လေသည်။ မကြာမီ အတွင်းမှာပင် ပင် ကို ယ် ဓာ တ် ခံ ကောင်း ပြီး သားဖြစ် သည့် ဗုဒ္ဓ အနွယ် တော်များလုံးဝ ဗုဒ္ဓ ဘာသာဝင်များ ဖြစ် တော့မည် ဟု ယုံ ကြည် လျက် ရှိကြ ကြောင်း။

။ဝ။

### သံဂါယနာစာစောင်
### အယ်ဒီတာအဖွဲ့

(၁) မြန်ကြားရေးဌာန ဝန်ကြီး-ဦးထွန်းဝင်း (ဥက္ကဋ္ဌ)

(၂) နိုင်ငံတော်ရှေ့နေချုပ်ကြီး ဦးချန်ထွန်း (အကျိုးဆောင်)

(၃) တရားဌာနအတွင်းဝန်ဟောင်း စည်သူ ဦးစံညွန့်

(၄) မြန်ကြားရေးဌာနအတွင်းဝန် သီရိပျံချီ ဦးသန့်

(၅) မြန်ကြားရေးဌာန ညွှန်ကြားရေးဝန်ထောက်ကျော်ထင် ဦးယော (ဇေယျ)

(၆) မန္တာ ဖရန်စစ်စတိုရီ

အယ်ဒီတာ—ဦးသာတင် [မာလ]



နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏ဆဋ္ဌသံဂါယနာကိစ္စအတွက်တတိယအကြိမ်သံဃအစည်းအဝေးကြီး

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှထုတ်ဝေသည်။ စကားပြောခ နံ့နှ်း— မြေပဲ ၃၉။ သာသနာ့ရိပ်သာ ကမ္ဘာအေး, ရန်ကုန်မြို့

ပြန်ကြားရေးလင်းသတင်းစာပုံနှိပ်တိုက်တွင်ပုံနှိပ်သည် (၃၅၀၃)

# သံဃာယနာ

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ လစဉ်ထုတ်သည်။ ၁၃၁၅—ခု နယုန်လ


## သာမဏေ ၁၀၀-ကျော် နိုင်ငံတော်ရှင်ပြုပွဲ

ဗုဒ္ဓဘာသာ ငါးပါးလုံးနှင့်ပြည့်စုံကြစေရန် နိုင်ငံတော်ဝန်ကြီးချုပ် ကိုယ်တိုင်ကြီးမှူး၍ သင်္ကြန်အခါရက်အတွင်း သံတွဲမြို့တွင်ရှင်ပြုပွဲကြီးကျင်းပပြုလုပ်ခဲ့လေသည်။


အတွဲ ၁– အမှတ် ၂


မာတိကာ





တစောင် ၂၅-ပြား





(အထက်ပုံ)
သံတွဲမြို့ ရှင်ပြုပွဲကြီးတွင်ဖြ
သစ်စ သာမဏေကလေးများ

(အောက်ပုံ)
ဝတ်ကြောင်မှ ဖန်ရောင်ဝတ်
သို့ပြောင်းရန် ဟန်ပြင်နေကြ
သည့်ရှင်လောင်းများ




# သံဃာယနာ

၁၃၁၅–ခုနယုန်လ၊　　အတွဲ ၁၊ အမှတ် ၂


## လူထုသံဃာယနာ

''သံဃာယနာ ဆိုတာ ဒေမြို့နှင့် သက်ဦးဆံပိုင် ဘုရင်များသာ တင်ခဲ့ကြ တယ်၊ ဒေမြို့ရှိသက်ဦးဆံပိုင် ဘုရင်မ ဟုတ်ဘဲတင်လို့ ရှိလျှင် အထမြောက် မှာ မဟုတ်ဘူး'' ဟုရှိရင်း ''သာသနာ ဒါယကာဘုရင်မှ တင်လို့ဖြစ်တယ် သာသနာ ဒါယကာဘုရင်မဟုတ်ဘဲတင် လို့ရှိလျှင်အောင်မြင်မှာမဟုတ်ဘူး'' ဟု ရှိရင်းအလွဲလွဲ ထင်မှတ်ပြောဆိုသူများ ရှိ ကြောင်းကြားသိရပေသည်။

ယခုခေတ်သည် မင်းနာခံ ခေါ် ဘုရင် အုပ်စိုးသော ခေတ်မဟုတ်တော့ ကြောင်း ကိုင်းအနွယ်တိုက ရေဒီခေါ်မင်း ဆွေမျိုးမျိုးတစုသောက် ကလေးကကြီး စိုးသော ခေတ်မျိုးသည်း မဟုတ်တော့ ကြောင်းကိုင်းသတိမပြုမိကြသောကြောင့် သာလျှင်အဆိုပါအတိုင်း ထင်မှတ်ပြောဆို မိကြခြင်းဖြစ်ပေလိမ့်မည်။

စင်စစ်အားဖြင့် သံဃာယနာဆိုသည် မှာ ဘုရင်ကသာ ဆိုင်သောက်ပွမျိုး မ ဟုတ်ချေ၊ သက်ဦးဆံပိုင်ဘုရင်များကိုသာ ဘိုင်သံဃာယနာ တင်ခဲ့သည်ဟု ဆိုရာ၌ လည်းသိုဘုရင်တို့သည် သံဃာတော်တို့ ၏ သာသနာရေး ကိစ္စကြီးတရပ်ကို ထ မြောက်အောင်မြင်စေရန် ထောက်ပံ့သည့် ဒါယကာ အဖြစ်၌သာ တည်ရှိခဲ့ကြ ကြောင်းကိုတွေ့ရပေသည်။

သံဃာယနာဆိုသည်မှာ ဘုရားရှင်၏ တရားစကားတော်များကို စင်ကြယ်စွာ တည်တန့်အောင်ပြုလုပ် ဆောင်ရွက်သည့် ကိစ္စကြီး ဖြစ်ပေ၏၊ ထိုကြောင့် သံဃာယ နာတင်သည့် ပုဂ္ဂိုလ်များအား ထောက် ပံ့သည့်ဒါယကာတို့သည် အဆိုပါဘုရား ရှင်၏ စကားတော်များကို စင်ကြယ်စွာ ကြာရှည်တည်တန့်အောင်ပြုလုပ်ရာရောက်မှု သာလျှင် အဓိကအချက်ကြီးဖြစ်ကြောင်း ထင်ရှားပေသည်၊ သက်ဦးဆံပိုင် ဘုရင်က ဒါယကာပြုလုပ်မှသာဘုရားရှင်၏ စကား တော်များကို သန့်ရှင်းအောင် ပြုလုပ်နိုင် သည့် တည်တန့်အောင် ပြုလုပ်နိုင်သည်ဟု မည်သည့် ကျမ်းဂန်ကမျှ မဆို ဆိုလျှင် လည်း သဘာဝကျလိမ့်မည် မဟုတ်ချေ၊

ထို့ကြောင့် လူ့ဘုံခေတ်၌လူ့ဘုံ သ ဘောကျ တင်မြှောက်အပ်သော နိုင်ငံ ဝန်ထမ်း ခေါင်းရာကဖြစ်စေ လူထုအစိုးရက အားပေးချီးမြှောက်အပ်သောအသင်း အ ဖွဲ့တခုခုက ဖြစ်စေတင်မည့် သံဃာယနာ မျိုးကိုလူထုသံဃာယနာဟု ခေါ်ဆိုရမည် ဖြစ်လေသည်၊ လူထုခေတ်၌ လူထုအစိုးရ လူထုအဖွဲ့အသင်းများမှ တင်မြှောက်အပ်သော သံဃာယနာများသည် သက်ဦးဆံ ပိုင်ဘုရင်တို့တင်မြှောက်အပ်သော သံဃါ ယနာများထက်ပင် လူထုအတွက်ပင်း အ ကျိုးရှိနိုင်ကြောင်း ထင်ရှားလေသည်။

ယခုတင်မည့် ဆဋ္ဌသံဃါ ယနာသည် ပြည်ထောင်စုတခွင်လုံးရှိလူထုကြီးတ ရပ် လုံးနှင့် သက်ဆိုင်သည့်သံဃာယနာ ဖြစ်ရုံ မှမက အပြည်ပြည်ရှိဗုဒ္ဓဘာသာလူထုကြီး များနှင့်လည်း သက်ဆိုင်သော သံဃါယ နာဖြစ်ပေသည်။

ပထမသံဃါယနာကို ကြည့်ပါ၊အဇာ တသတ်မင်းကိုယ်တိုင်ဒါယကာခံသည့်ဟု ဆိုသော်လည်း အိန္ဒိယပြည် အလယ်ပိုင်း လောကကလေးမှာသာ ပြန့်နှံ့ခဲ့သော သံဃါယနာ မဟုတ်ပါလော၊ ဒုတိယသံ ဂါယနာကိုကြည့်ပါဦး ကာလာသောက မင်းအားဗဟိုပြု၍ နှံ့နှံ့ရာ လောကသာ ကျယ်ဝန်းခဲ့သော သံဃါယနာ မဟုတ်ပါ လော၊ တတိယသံဃါယနာကို ကြည့်ပါက လည်း အိန္ဒိယနိုင်ငံမှ မြန်မာသို့ အဆက်အ သွယ်ရှိသည်ကိုတွေ့ရချေ၊ စတုတ္ထ သံဃါ ယနာဆိုပြန်ပါကလည်း သီဟိုဠ်ကျွန်းရှိ ရှင်လူများသာပါဝင်ခဲ့သည်ကို တွေ့ရပေ သည်၊ ကျွန်ုပ်တို့မြန်မာပြည် မင်းဘုန်းမင်း တြားကြီး၏ ပဉ္စမသံဃါယနာကို ကြည့် မည် ဆိုပြန်ပါကလည်း မြန်မာပြည်အ ထက်ပိုင်းလောက်နှင့်သာလျှင် အဆက်အ သွယ်ပြုလုပ်၍ပြီးဆုံးခဲ့ရကြောင်း ထင်ရှား လေသည်၊ အဘယ်ကြောင့်ဆိုသော်ဆို သံ ဂါယနာခေတ်၌ မြန်မာနိုင်ငံအောက်ပိုင်း တွင် အင်္ဂလိပ်လူမျိုးတို့အုပ်စိုး၍နေသော အချိန်ဖြစ်သောကြောင့်ပေတည်း၊

# ပါဠိပဋိဝိသောဓကအဖွဲ့ဝင်များ

၁၃၁၄–ခု တံခူးလဆုတ် ၂–ရက် ၃၁-၃–၅၃ အင်္ဂါနေ့–နေ့လည် ၂နာရီ အချိန်ဘွင်ရန်ကုန်မြို့ကုဘ်ကိုင်း၊ သာသနာ့ ရိပ်သာအဖွဲ့ တည်ရာဌာနန္တ ဆဋ္ဌသံဃာ ယနာဝင်ဆောင်သံဃာ အဖွဲ့ အစည်းအဝေး ကျင်းပရာ၊ဆရာတော်ပေါင်း ၁၇–ပါးမှ ကြွရောက် တော်မူကြ ရော ပါဠိ ပဋိဝိ သောဓကအဖွဲ့ အောက်ပါအတိုင်း ဆုံးဖြတ်တော်မူကြလေသည်၊

၁၊ ပါဠိဝိသောဓကအဖွဲ့အသီး သီးမှသုခ် သ ပြင်ဆင်ပြီးသော ကျမ်းစာများကိုထပ်မံ မြင်ဆင်ရန်အတွက်အောက်ပါဆရာတော် ၃၁–ပါးပါဝင်သော ပါဠိပဋိ ဝိသောဓက အဖွဲ့တခုကိုဖွဲ့စည်းထားတော်မူကြသည်၊

## ရန်ကုန်မြို့မှ

၁၊ ဇေယျဝတီဆရာတော် ဦးဉာဏ (ခရိုင်ဩဝါဒါစရိယ)၊ ၂၊ ဘုံမှုံ ကျောင်း၊ ကျောင်းကြီးတိုက်ဦးပညာသာ မိ(ဓမ္မာစရိယ)၊ ၃၊ ပဋ္ဌာန်းဆရာတော် ဦးနာရဒ [ဂန္ထကာရက]၊ ၄၊ ကန် တော်မင်္ဂလာကျောင်းဆရာတော် [ဓမ္မာစ ရိယ] ဝင်ဆာလမ်း၊ ၅၊ ဘုရားကြီးတိုက် ဦးအာဒိစ္စ (ဓမ္မာစရိယ)၊ ၆၊ နှစ်ကျိပ် ရှစ်ဆူဆရာတော်၊သရက်တောတိုက်(ဓမ္မာ စရိယ)၊ ၇၊ ဦးဓမ္မသေန၊ညောင်တုန်း တိုက် ဓမ္မာစရိယ)၊ ၈၊ ဦးဝါယမ၊ အရှင်အာဒိစ္စဝံသကျောင်း(ဓမ္မာစရိယ) ၉၊ ဦးရေဝတ မဓ္ဓိကာရာမ ကျောင်း (ဓမ္မာစရိယ)၊ ၁၀၊ ဖက်ပင်အိုင် ဆရာ တော် [ဓမ္မာစရိယ]၊

## မန္တလေးမြို့မှ

၁၊ ဦးနာရဒ (အဂ္ဂမဟာပဏ္ဍိတ) ဘုရားကြီးတိုက်၊ ၂၊ ဦးဇရိယ ဝင်း ၃၊ ဦးဥက္ကံသ ပဏ္ဍမြားကျောင်း၊ မြင်း ဝန်တိုက်၊ ၄၊ ဦးနန္ဒသေန၊မဟာနန္ဒ သေနာရာမတိုက်၊ ၅၊ ဦးကောသလ္လ၊ မင်းရှိမ်တိုက်၊ ၆၊ ဦးအာနန္ဒ၊ပဏ္ဍိတ၊ ဝိသုဒ္ဓါရုံတိုက်၊ ၇၊ ဦးနန္ဒာစရိယ၊ စကု တိုက်၊ ၈၊ ဦးကေသဝ၊ ဆောင်သမန် တိုက်၊ ၉၊ ဦးသုန္ဒရ၊ရွှေစတီ၊ရထန်ပုံ သာသနာ့ရိပ်သာ၊ ၁၀၊ ဦးကလျာဏ မေသံဘုံ သာတိုက်၊မန္တလေး၊

## စစ်ကိုင်းမြို့မှ

၁၊ ဆရာတော် ဦးဝိစိတ္တ၊ မင်းကွန်း သိမ်မဟုတ်၊ ပဏ္ဍိတ၊ရွှေဟသ်ာချောင်း၊

## ညောင်ရွှေမြို့မှ

၂၊ ဆရာတော် ဦးဝိမလ၊ ကန်ကြီး ကျောင်း (ဓမ္မာစရိယ)၊

## မြင်းခြံဆာမြို့မှ

၃၊ ဦးဥာဏိန္ဒ၊သာသနာ သောဘဏိ ကာရုံကျောင်းတိုက်၊

## မော်လမြိုင်မြို့မှ

၄၊ ဦးနာဂသေန (ဓမ္မာစရိယ) တောင်လေးလုံးတိုက်၊

## ပခုက္ကူမြို့မှ

၅၊ ဦးဇာန (သိမ်မဟုတ်) ဦးဥာဏိန္ဒ၊ အရှေ့တိုက်၊ ၆၊ ဦးသုန္ဒရ (သိမ်မဟုတ်) ဦးနန္ဒိယ၊အနောက်တိုက်၊

## ညောင်ဦးမြို့မှ

၇၊ ဦးဝါယမ၊ မဟာဝိသုတာ ရာမ တိုက်၊

## ရေနံချောင်းမြို့မှ

၈၊ ဦးပညာ (အဂ္ဂမဟာပဏ္ဍိတ)၊ ဝိနိပန်းပင်ကျောင်း၊

## စစ်တွေမြို့မှ

၉၊ စစ်တွေမြို့မှ ဆရာတော် တပါး၊ ၁၀၊ မန္တလေးတိုင်းမှနောက်ထပ် တပါး၊

၂၊ အထက်ပါအဖွဲ့ဝင် တိုးချဲ့ရန်လို သည်ဟုထင်မြင်သည့်အခါ ဥက္ကဋ္ဌ ဆရာ တော်များသည်၊ အကျိုးဆောင် ဆရာ တော်များနှင့်တိုင်ပင်၍အရည် အချင်းနှင့် ပြည့်စုံသည်ဟုထင်မြင်ယူဆသော ပုဂ္ဂိုလ် များကိုထည့်သွင်းခြင်းအားဖြင့် တိုးချဲ့နိုင် ခွင့်ရှိစေရန်၊

၃၊ ကျမ်း တကျမ်းကို အပြီး သတ် တည်းဖြတ်ရာ၌ပါဠိပဋိဝိသောဓကအဖွဲ့ မှ ၅-ပါး၊ဝင်ဆောင်သံဃာအဖွဲ့မှအနည်း ဆုံး ၃–ပါး ပါဝင်သောအဖွဲ့က တလ လျှင်တကြိမ်အလှည့်ကျ ဆောင်ရွက်စေရ မည်၊

ယခု တင်လတ္တံ့ဖြစ်သော ဆဋ္ဌသံဃါ ယနာ မဟာသဘင်ကြီးမှာမူကား ပြည် ထောင်စုတခွင်လုံး သာမက ကမ္ဘာပေါ် ရှိ ဗုဒ္ဓဘာသာ နိုင်ငံအသီးအသီးမှ လူထု အစိုးရများ သံဃာတော်များ လူပုဂ္ဂိုလ် များနှင့် ဆက်စပ်လျက်ရှိသော သံဃါယ နာဖြစ်ကြောင်းကို ယခုကပင် ကြိုတင်သိ ရှိနိုင်ကြသည့်အပြင် အချိန်ကျလျှင် မျက် မြင်တွေ့ကြရလိမ့်မည်ဖြစ်ကြောင်းကို နေး သားလိုက်ရပေသတည်း၊

ဆဋ္ဌသံဃါယနာ (ဝါ) လူထုသံဃါ ယနာကြီးအောင် မြင်ပါစေ၊

# ထပ်မံဆုံးဖြတ်ချက်

ပါဠိ ပဋိဝိသောဓက ကိစ္စ အတွက် ၁–၄–၅၃ နေ့ဝင်ဆောင် သံဃာ အဖွဲ့ အစည်း အဝေး၌ အောက်ပါဆုံးဖြတ်ချက် များကိုထပ်မံဆုံးဖြတ်တော်မူကြကြောင်း၊

၄၊ ပါဠိပဋိဝိသောဓက လုပ်ငန်းကို

စာမျက်နှာ ၁၉–သို့ဆက်ကြည့်ပါ

သံဃာ့ဦး ရုံးတင်ပွဲကြီးတွင်ဆုံမိကြသောဆရာတော်ကြီးများ နေ့စဉ်ဆွေးနွေးနေပုံ





# နိဗ္ဗာန်တံခါးဖွင့်ရာဌာနများကို နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ အားပေးနေပုံများ

### ပရိယတ္တိအဖွဲ့ငယ်

နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့၏အဖွဲ့ ငယ်များ အနက် ပရိယတ္တိ အဖွဲ့ငယ်တွင် ပါဝင်သည့် ပုဂ္ဂိုလ်များမှာစည်သူ ဦးဘခင် (ဥက္ကဋ္ဌ) ချပ်သင်းဦးဘတင်၊ စကားစော်ဘွားကြီးစည်သူဦးစံညွှန်၊ မန္တလေး ဦးစံရှိဦးစံ သန်းနှင့်ကော်သူလေး ဦးခံညွှန့်တို့ဖြစ်ကြလေသည်၊ထို အဖွဲ့ငယ်၏ အကြံပေးထောက်ခံချက်အရ ဗမူဆောင်အဖွဲ့က လက်ခံအတည်ပြုကာ ဆောင်ရွက်ပြီး ဆောင်ရွက်ဆဲ လုပ်ငန်းများမှာ အောက်ပါအတိုင်း ဖြစ်ကြောင်း၊

မြန်မာပြည် အနှံ့အပြားတွင် ကမ္မဋ္ဌာန်းတရားများကိုကျင့် သုံးအားထုတ်ရာ ဖြစ်သောပရိယတ္တိဌာနကြီးများ အဖွင့်ရှည်ခွာ တည်တန့်ရေးနှင့် ပရိယတ္တိဌာန မရှိသေးသော ဒေသများတွင် ဖွင့်လှစ်မည့် ပရိယတ္တိဌာနများ အတွက် လိုအပ်သည့် နည်းပြကမ္မဋ္ဌာန်း ဆရာ များ ပေါ် ထွက်ရေးအတွက် ပဌ္ဌယာနုဂ္ဂဟဖြင့် ထောက်ပံ့ခဲ့လေသည်။

### ၁၈-ချက်နှင့်လေးမျိုး

ဤသို့ထောက်ပံ့ရာတွင် ပရိယတ္တိဌာနများ၏ အကြောင်းရင်း အဆြ ပွင့်ဆိုများကို အချက် (၁၈) ချက်ပါဝင်သော မေးခွန်းများဖြင့် မေးမြန်းစုံစမ်း ရာတွင် ကျေနပ်ဘွယ် ဖြေဆိုသော ဌာနပေါင်း (၆၅) ဌာနအား ကမ္မဋ္ဌာန်းအားထုတ်လျက်ရှိသောယောဂီဦးရေ အလိုက် အတန်းအစား က၊ခ၊ဂ၊ဃ ဟု ၄-မျိုးခွဲခြား၍ ထောက်ပံ့ခဲ့လေသည်။ ထောက်ပံ့လှူဒါန်းလျက် ရှိသော ငွေများသည် ပရိယတ္တိ သာသနာတော် ပြန့်ပွါးတိုးတက်စေရန် အားထုတ်လျက် ရှိသော ပရိယတ္တိဌာနများ အတွက်သာ လှူဒါန်းသောငွေဖြစ်၏။

### က-အတန်းအစား

နေ့စဉ်ရှမ်းမျှခြင်း တရား အားထုတ်လျက် ရှိသောယောဂီ ဦးရေ(၅၁) မှ ကျော် လွန် သော ကမ္မဋ္ဌာန်းဌာနအား (က) အတန်း အစား တွင် ထားရှိကာ ငွေ ၅၀၀ိ ထောက်ပံ့ခဲ့၏။ ယမန်နှစ်က (က) အတန်းအစားတွင် ပါဝင်သော ကမ္မဋ္ဌာန်း ဌာနပေါင်း (၁၅) ဌာနရှိခဲ့၏။ ယခုနှစ်တွင် (၂၅) ဌာနမှ တိုးတက်လာသဖြင့် စုစုပေါင်းငွေ-၁၂၅၀ိ မှ ထောက်ပံ့ခဲ့ပြီးဖြစ်လေသည်။

### ခ-အတန်းအစား

နေ့စဉ်ရှမ်းမှုခြင်း တရား အားထုတ်လျက်ရှိသောယောဂီဦးရေ ၃၁ မှ ၅၀၊ အထိရှိသောကမ္မဋ္ဌာန်းဌာနများကို (ခ) အတန်း အစား တွင် ထားရှိ ကာ ငွေ ၃၀၀ိ စီ၊ ထောက်ပံ့ခဲ့ရာ (ခ) အတန်းအစားဝင် ဌာနပေါင်း (၁၀) ဌာနရှိ၍ ငွေပေါင်း ၃၀၀၀ိ ထောက်ပံ့ခဲ့ပြီး ဖြစ်လေသည်။

### ဂ-အတန်းအစား

နေ့စဉ်ရှမ်းမှုကြေးတရား အားထုတ်လျက်ရှိသော ယောဂီ ဦးရေ ၁၁-မှ ၃၀- အထက်ရှိသောကမ္မဋ္ဌာန်းဌာနများကို (ဂ) အတန်း အစားတွင်ထား၍ ငွေ ၂၀၀ိ စီ ထောက်ပံ့ခဲ့ရာ (ဂ) အတန်းအစားဝင်ဌာနပေါင်း(၁၆) ဌာနရှိ၍ ငွေပေါင်း ၃၂၀၀ိ ထောက်ပံ့ခဲ့ပြီး ဖြစ်လေသည်။

### ဃ-အတန်းအစား

(က) (ခ) (ဂ) အတန်း အစားဝင် ကမ္မဋ္ဌာန်း ဌာနများမှ တပါး (ဃ) အတန်း အစား ကမ္မဋ္ဌာန်းဌာနများ ကိုလည်းထောက်ပံ့လှူဒါန်းရန် ဆုံးဖြတ်ခဲ့ပေသည်။ (ဃ) အတန်းအစား ဝင်ဌာနလျှင် ၁၀၀ိ- စီဌာနပေါင်း ၁၄-ဌာနအား ငွေပေါင်း ၁၄၀၀ိ- ထောက်ပံ့လှူဒါန်းခဲ့ပြီးဖြစ်လေသည်

### ၆၅-ဌာနရှိသွားပြီ

ပရိယတ္တိအဖွဲ့ငယ်မှ တိုက် တွန်း ချက်အရနိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ ယနေ့အထိ နောက်ဆုံး ထောက်ပံ့ခဲ့ပြီးဖြစ်သော မြန်မာပြည် အရပ်ရပ်မှ ပရိယတ္တိဌာနပေါင်းမှာ ၆၅-ဌာနရှိ၍ အလှူငွေမှာ လည်း ၂၀၁၀ိ- ရှိသွားပြီ ဖြစ်ကြောင်း၊ထိုမှတပါးကျွင်းကျန်သေးသော ပရိယတ္တိဌာနများကိုလည်း အမြန် ဆုံးစာရင်း၊ ပေးသွင်းကာ ဆက်သွယ်ပါက အလားတူ ထောက်ပံ့ရန် ရည်ရွယ်လျက်ရှိလေသည်။

### မတည်ထောင်ရသေးလျှင်

ထို့ပြင် ပရိယတ္တိဌာန မတည် ထောင်ရသေးသည့် နေရာများ

စာမျက်နှာ ၁၈—သို့ဆက်ကြည့်ပါ



# နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ ဒုတိယအကြိမ် အဘိဓမ္မာ စာမေးပွဲ ကျင်းပမည်

ပြည်ထောင်စု မြန်မာ နိုင်ငံတော် ဗုဒ္ဓ သာသနာ အဖွဲ့ကြီးက ဗုဒ္ဓအဘိဓမ္မာသဘော ပညာကို တနိုင်ငံလုံးသိရှိနားလည်ကြစေရန်ဖြစ် ရည်ရွယ်ချက်ဖြင့်ခရိုင်အသီးသီးတို့၌ ဒုတိယ အကြိမ်မြောက် အဘိဓမ္မာစာမေးပွဲကို ၁၃၁၅-ခုနှစ် တန်ဆောင်မုန်းလဆုတ် ၇-ရက်၊ ၈-ရက်၊ ၉-ရက် (၁၉၅၃-ခု နိုဝင်ဘာလ ၂၈-ရက်၊ ၂၉-ရက် ၃၀-ရက်) အားဖြင့် သုံးရက် ကျင်းပမည်ဖြစ်ပါသည်။

### ဖြေဆိုရန်သတ်မှတ်ကျမ်းစာများ

၁။ ပထမဆင့် စာမေးပွဲ (သင်္ဂြိုဟ် ကျမ်း၊စိတ်ပိုင်း, စေတသိက်ပိုင်း ပကိဏ်းပိုင်း)

၂။ ဒုတိယဆင့်စာမေးပွဲ (သင်္ဂြိုဟ် ကျမ်း၊ ဝီထိ ပိုင်း, ဝီထိမုတ် ပိုင်း, ရုပ်ပိုင်း၊)

၃။ တတိယ ဆင့် စာ မေး ပွဲ (သင်္ဂြိုဟ် ကျမ်း၊သမုစ္စည်းပိုင်း, ပစ္စည်းပိုင်း၊ ကမ္မဋ္ဌာန်းပိုင်း)

သုံးဆင့်စလုံး၌သရုပ်နှင့် အဓိပ္ပါယ်ကိုသာ မေးမြန်းပါလိမ့်မည်၊အဋ္ဌကထာနှင့်၊ အနက် ယောဇနာ တို့ကို မေးမြန်း လိမ့် မည်မဟုတ်ပါ။

ဝင်ရောက်ဖြေဆိုလိုသော ပုဂ္ဂိုလ်များ သည်သက်ဆိုင်ရာအဘိဓမ္မာစာမေးပွဲကြီးကြပ်ရေး အဖွဲ့ဘွင်ရင်း၊ နိုင်ငံတော် ဗုဒ္ဓ သာသနာ အဖွဲ့ဒေသ ကိုယ်စားလှယ် များထံတွင်ရင်း၊ အဘိဓမ္မာ သင်တန်း ကျောင်းများတွင် ၎င်း၊လက်မှတ်ပုံစံများကိုတောင်းယူ၍ ဝင်ခွင့် ပုံစံဇယား တွင် အမည်စာရင်းထည့် သွင်းပြီးလျှင် ကိုယ်တိုင်လက် မှတ်ရေးထိုး၍ သက်ဆိုင်ရာ အဘိဓမ္မာစာမေးပွဲကြီးကြပ်ရေး အဖွဲ့မှ တဆင့်နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့အုပ်ချုပ်ရေးအရာရှိချုပ်ထံသို့ ၁၃၁၅-ခုတော် သလင်းလဆန်း ၁၅-ရက်နေ့ ထက်နောက်မကျစေဘဲ အရောက်ပေးပို့ကြရမည်ဖြစ်ပါကြောင်း၊

လက်မှတ်ထိုး စာရင်းတင်သွင်းသူများသည် အဓိုးရအထမငယ်တန်း(သို့မဟုတ်) အလားတူစာမေးပွဲများအောင်မြင်ဘူးသည့်ပုဂ္ဂိုလ် (သို့မဟုတ်) နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ ကျင်းပသော အဘိဓမ္မာ စာမေးပွဲတွင် မအောင် မြင် သေးသောအဆင့် အတန်း အတွက်ဖြေဆိုရန် လူပုဂ္ဂိုလ် (သို့မဟုတ်) သီလရှင် ဖြစ်ကြောင်းကို (အဘိဓမ္မာသင်တန်းကျောင်းသားဖြစ်လျှင်) ဆရာ၏ ထောက်ခံချက်နှင့် (အလွတ် ဖြေဆို လိုသူ ဖြစ် လျှင်) ဒေသ ဆိုင်ရာ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကိုယ်စားလှယ်၏ထောက်ခံချက်နှင့် တကွပါရှိစေရပါမည်၊

### ဆုငွေများ

၁။ ပထမဆင့်သာမန်အောင်ဆု ၁၀ိ တတိယ ၅၀ိ၊ဒုတိယ ၇၅ိ၊ ပထမ ၁၀၀ိ။ ၂။ ဒုတိယဆင့် သာမန် အောင် ဆု၊ ၁၅ိ၊ တတိယ ၇၅ိ၊ ဒုတိယ ၁၀၀ိ၊ ပထမ ၁၅၀ိ၊ ၃။ တတိယဆင့် သာမန်ဆု ၂၀ိ၊ တတိယ ၁၀၀ိ၊ ဒုတိယ ၁၅၀ိ၊ ပထမ ၂၀၀ိ၊

၄။ သုံးဆင့်စလုံးနှစ်ချင်း အောင်အမှတ်အများဆုံးပထမဆု ၃၀၀ိ၊ ရွှေတံဆိပ်တခု ၁၅၀ိ-တန်၊ ၅။ သုံးဆင့် စလုံး နှစ်ချင်းအောင်အမှတ်အများဆုံး ဒုတိယဆုငွေ ၂၀၀ိ၊ငွေတံဆိပ်အလယ်ရွှေတခု၊ ၆၊ သုံးဆင့်စလုံးနှစ်ချင်းအောင် အမှတ်အများဆုံး တတိယဆုငွေ၁၀၀ိ၊ ငွေတံဆိပ်တခု ၂၅ိ-တန်၊

အထက်ပါ အဘိဓမ္မာ စာမေးပွဲကို ထမြောက် အောင်မြင်စေ၍ ရွေးကိုရန်နှင့် ဆုနှင်း သဘင်များပြုလုပ် ကျင်းပနိုင်ရန်ဒေသဆိုင်ရာ ခရိုင်ဝန်၊ ပညာဝန်၊ ဗုဒ္ဓသာသနာအဖွဲ့ကိုယ်စားလှယ်နှင့်ပြဲဝါဒါစရိယများ ပါဝင်သော အဖွဲ့များမှ ပရိယတ္တိသာသနာတော် တိုးတက်မှုကိုရှုရှုရှုကူညီဆောင် ရွက်တော်မူကြရန် လေးနက်စွာတိုက်တွန်းပါကြောင်း။

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၊

အမှတ် ၁၆—ဟာမစ်တိတ်လမ်း၊

သာသနာ့ရိပ်သာ၊ ကုတ်ကိုင်း၊

ရန်ကုန်မြို့

## ထောင်သားများနှင့် ဓမ္မဘရှင်ပြပွဲ



သာယာဝတီမြို့ဇာတိုရ်အကျဉ်းထောင်ရှင်လောင်းများနှင့် ပရိက္ခရာကိုင်ဆောင်လာသည့် အကျဉ်းသားများ

# သံဂါယနာတင်မည့်ကာလနှင့်ကျမ်းစာများ

## ၁၃၁၆ ခုကဆုန်လပြည့်နေ့မှ ၁၃၁၈ ခုကဆုန်လပြည့်နေ့အထိကြာမည်

### စာမျက်နှာ ၁၃၈၀၄ ရှိနိကာယ်ငါးရပ်ပိဋကတ်ပါဠိတော်များကို ၅ ချိန်ခွဲ၍ရက်ပေါင်း ၃၂၆၊ နာရီပေါင်း ၁၆၀၀ အတွင်းပြီးစီးအောင်တင်နိုင်ရန် သတ်မှတ်၍ထားနှင့်ပြီ။

**စာမျက်နှာပေါင်း-၁၃၈၀၄-**

သံဂါယနာ တင်ပွဲ ဘော်ကြီးကို ၁၃၁၆- ခုနှစ် ကဆုန် လပြည့် နေ့ မှ ၁၃၁၈ ခုနှစ် ကဆုန်လပြည့်နေ့ အထိ၊ ရန်ကုန်မြို့ ကမ္ဘာအေး စေတီတော် အနီးရှိ လိုဏ်ဂူတော်ကြီးအဘွင်း၌တင်မည်ဖြစ်၏။

ထိုသို့တင်မည့် နိကာယ်ငါးရပ် ပိဋကတ်ပါဠိတော်များမှာ စာမျက်နှာအား ဖြင့် ၁-ဒီဃနိကာယ် ၂၊ ကျမ်း ၂၁၇၄၊ ၂။ သုတ်သုံးကျမ်း၊ ၆၀၆၊ ၃-ပဏ္ဏာသသုံး ကျမ်း ၁၀၁၃၊ ၄-သံယုတ်ငါး ကျမ်း ၁၂၀၆၊ ၅- အင်္ဂုတ္တိုရ် ၁၄၁၀၊ ၆ ခုဒ္ဒကနိကာယ်၃၃၈၀၊ ၇-အဘိဓမ္မာ ခုနစ်ကျမ်း ၄၈၅၀ ဖြစ်လေရာ အစုစု စာမျက်နှာ ပေါင်း ၁၃၈၀၄မျှရှိလေသည်။

**ပထမသန္နိပါတ**

သံဂါယနာတင်ရာတွင် သန္နိပါတ ငါးမျိုးခွဲခြား၍ တင်မည် ဖြစ်ရာ ပထမ သန္နိပါတမှာ ၁၃၁၆ ခုနှစ် ကဆုန်လ ပြည့်နေ့မှ ဝါဆိုလပြည့်နေ့အထိ ကြာမည် ဖြစ်လေသည်။ ထိုသန္နိပါတ၌ စာမျက်နှာ ၂၁၇၄ ဒီဃနိကာယ်ပါဠိတော်ကို ရက် အားဖြင့် ၂၇-ရက် နာရီ အားဖြင့် ၁၃၄-နာရီ၊ စာမျက်နှာ ၆၀၆ ရှိသုတ်သုံးကျမ်း ပါဠိတော်တို့ကို ရက် အားဖြင့် ၁၀-ရက် နာရီအားဖြင့် ၄၇-နာရီ၊ စာမျက်နှာ ၁၀၁၉-ရှိ ပဏ္ဏာသ ပါဠိတော်သုံး ကျမ်းတို့ကို ရက်အားဖြင့် ၁၅ ရက် နာရီအားဖြင့် ၇၂-နာရီ ကြာမည်ဟု ခန့်မှန်း၍ ထားလေသည်။

**ဒုတိယသန္နိပါတ**

ဒုတိယ သန္နိပါတမှာ ၁၃၁၆-ခုနှစ် တန်ဆောင်မုန်းလဆုတ်၁-ရက်နေ့မှ တပို့တွဲလပြည့်နေ့အထိကြာမည်ဖြစ်လေသည်။ ထိုသန္နိပါတ၌ စာမျက်နှာ ၁၂၀၆ ရှိ သံယုတ် ပါဠိတော် ငါးကျမ်းတို့ကို ရက်အားဖြင့် ၁၆-ရက် နာရီအား ဖြင့် ၈၀- နာရီ၊ စာမျက်နှာ ၁၄၁၀-ရှိ အင်္ဂုတ္တိုရ် ပါဠိတော် ၁၁-ကျမ်းတို့ကို ရက်အားဖြင့် ၁၉-ရက် နာရီ အား ဖြင့် ၉၅-နာရီ၊ စာမျက်နှာ ၁၃၀၁-ရှိ ခုဒ္ဒက နိကာယ် ပါဠိတော်တို့ကို ရက် အားဖြင့် ၄၃- ရက် နာရီအားဖြင့် ၂၁၂-နာရီ ကြာမည်ဟုရေးထားချက်ရှိလေသည်။

**တတိယသန္နိပါတ**

တတိယ သန္နိပါတ တို့မှာ ၁၃၁၇- ခုနှစ် တန်ခူးလပြည့်မှ ဝါဆို လပြည့်နေ့ အထိ ကြာမည် ဖြစ်လေသည်။ ထိုသန္နိပါတတို့၌ စာမျက်နှာ ၁၂၀၀-ရှိ အဘိဓမ္မာအောက်ငါးကျမ်းတို့ကို ရက်အား ဖြင့် ၁၆-ရက် နာရီအားဖြင့်၇၆-နာရီ ကြာမည်ဟု ရေးထားချက်ရှိလေသည်။ ထိုတတိယသန္နိပါတတို့ အတွင်းမှာပင် စာမျက်နှာ ၂၁၇၄-ရှိ ဝိနည်းငါး ကျမ်း မြန်မာပြန် များကိုရက်အားဖြင့် ၂၇-ရက် နာရီ အားဖြင့် ၁၃၄-နာရီစာမျက်နှာ ၆၀၆- ရှိ သုတ် သုံးကျမ်း မြန်မာပြန် များကို ရက်အား ဖြင့် ၁၀-ရက် နာရီ အားဖြင့် ၄၇-နာရီ စာမျက်နှာ ၁၂၀၆-ရှိ သံယုတ်ငါးကျမ်း မြန်မာပြန် များကို ရက်အားဖြင့် ၁၅-ရက်နာရီ အားဖြင့် ၇၆-နာရီ စာမျက်နှာ ၄၉၂-ရှိ ဓေ ဒုက တိက စတုက အင်္ဂုတ္တိုရ် မြန်မာပြန် များကိုရက်အားဖြင့် ၆-ရက် နာရီအားဖြင့် ၃၁-နာရီ ကြာမည်ဟု ရေးထားချက်ရှိလေသည်။

**စတုတ္ထသန္နိပါတ**

စတုတ္ထသန္နိပါတမှာ ၁၃၁၇-ခုနှစ် တန်ဆောင်မုန်း လဆုတ်၁ရက်နေ့မှတပို့တွဲလပြည့်နေ့အထိကြာမည်ဖြစ်လေသည်။ ထိုသန္နိပါတ တို့၌ စာမျက်နှာ ၁၂၄၆- ရှိ ယမိုက်ပါဠိတော်နှင့်ပဋ္ဌာန်းပါဠိတော် ပထမတွဲတို့မှာရက်အားဖြင့် ၁၇- ရက် နာရီ အားဖြင့် ၇၈-နာရီကြာမည်ဟု ရေးထားလေသည်။ ထို စတုတ္ထသန္နိပါတ၌ပင် စာမျက်နှာ ၉၂၆-ရှိပဉ္စကမှဧကာဒသမ အင်္ဂုတ္တိုရ် ပါဠိ တော် မြန် မာ ပြန် များ မှာ ရက် အား ဖြင့် ၁၂ - ရက် နာရီ အားဖြင့် ၅၈-နာရီ စာမျက်နှာ ၁၃၀၁-ရှိ ခုဒ္ဒကနိကာယ် ပါဠိတော် မြန်မာပြန်များမှာ ရက်အားဖြင့် ၄၃- ရက် နာရီအားဖြင့် ၂၁၂-နာရီ ကြာမည် ဟု ရေးထားချက်ရှိလေသည်။

**ပဉ္စမသန္နိပါတ**

ပဉ္စမ သန္နိပါတ တို့မှာ ၁၃၁၈-ခုနှစ် တပေါင်းလဆန်း၁ရက်မှကဆုန်လပြည့်နေ့အထိ ကြာမည်ဖြစ်လေသည်။ ထိုပဉ္စမသန္နိပါတ တို့၌ စာမျက်နှာ ၁၃၉၆-ရှိပဋ္ဌာန်းပါဠိ တော် ဒုတိယ တတိယ စတုတ္ထ ပဉ္စမတွဲ တို့မှာ ရက်အားဖြင့် ၁၈-ရက် နာရီ အားဖြင့် ၈၈-နာရီကြာမည်ဟု ရေးထား ချက်ရှိလေသည်။ ထိုပဉ္စမ သန္နိပါတတို့၌ ပင် စာမျက်နှာ ၂၅၅၀-ရှိပုဂ္ဂလပညတ် ကထာဝတ္ထု နှင့် ယမိုက် ပ-ဒု-တ မှ တပါးဖြစ်သောကျန်အဘိဓမ္မာပါဠိတော် များမှာ ရက်အားဖြင့် ၃၂-ရက် နာရီ အားဖြင့် ၁၆၀-နာရီမျှကြာမည်ဟု ရေး ထားချက်ရှိလေသည်။

ဤသို့လျှင် သန္နိပါတ ငါးမျိုးတို့ကို ရက်ပေါင်း ၃၂၆-ရက် နာရီ ပေါင်း ၁၆၀၀-အတွင်း ပြီးစီးအောင် တင်မည် ဖြစ်ပေသတည်း။

## ဃိုးဒေသားမြည်

### ဂိလာနရဟန်းများ

ဒုတိယ ကမ္ဘာစစ်ကြီးမပြီးဆုံး ခင် မဟာမိတ် လေယာဉ်ပျံ များက ဘန် ကောက်မြို့တော်ကိုအကြိမ်ကြိမ်ဗုံးကြဲ သဖြင့် များစွာသော ဗုဒ္ဓဘာသာ ဘုန်း တော်ကြီး ကျောင်းများနှင့် ဘုန်းတော် ကြီးများ ပျက်စီး ကာဒုက္ခဖြစ်တော်မူခဲ့ကြ လေသည်။ ထိုဒုက္ခကို သက်သာစေရန် ဗုဒ္ဓဘာသာ အသင်းကြီးမှ ဒုက္ခခံရသော ဘုန်းတော်ကြီးကျောင်းများသို့ ကိုယ်စား လှယ်များလွှတ်၍ ဆေးဝါးသော လိုအပ် သော အကူအညီ များကို ပေးခဲ့လေ သည်။ ဤကဲ့သို့ ကိုယ်စားလှယ်လွှတ်၍ ကြည့်ရှုခြင်းကိုဒုက္ခသည်ရဟန်းတော်များ နှင့် လှူဒါယကာ များကအလွန်နှစ်သက် ကြသောကြောင့် ဆေးရုံ အတွက် ရံပုံ ငွေများကို အလိုအလျောက် ငွေမိုထည့်ဝင် ကြလေသည်။

စစ်ပြီးသောအခါ (စစ်အတွင်းမှာ ကဲ့သို့) ဆက်လက် ဆောင်ရွက် လျက်ရှိ သည့်ပြင် ဆေးရုံနှင့် စပ်သော လုပ် ငန်း များကိုလည်း တိုးမြှင့်၍ ထွင်လုပ် ရှိလေ သည်။ ယခုအခါ ဗုဒ္ဓဘာသာ အသင်းကြီး က ဆောင်ရွက် နေသော လုပ်ငန်းများ မှာ အောက်ပါအတိုင်းပင် ဖြစ်ကြောင်း။

၁။ ဘန်ကောက်မြို့ တော်ရှိ ဆေးရုံ များ၌ ရောက်ရှိနေသော ဂိလာန ရဟန်း တော်များထံသို့ ဖြစ်စေ၊ ဂိလာန သာမ ဏေများထံသို့ဖြစ်စေ သွားရောက်ကြည့် ရှုခြင်း။

၂။ ဂိလာန ရဟန်း သာမဏေအသီး သီးထံသို့ အသင်း၏ ကိုယ်စားလှယ်များ ကိုယ်တိုင် အချိန်မှန်မှန်သွားရောက်ကြည့် ရှုခြ း။

၃။ ဂိလာန ရဟန်း၊ သာမဏေများ တစုံတရာ အလိုရှိသော အခါ ဂိလာန ရဟန်းသာမဏေများနှင့် သက်ဆိုင်ကြီးမှူး အုပ်ချုပ်သူ ဆရာဝန် များ ကျေနပ် သောက်အောင် စီမံဖန်တီးပေးခြင်း။

၄၊ ဆေးရုံသို့ ဆေးကုရန်ကြွရောက် လာတော်မူသော ရဟန်း၊ သာမဏေများ ကို အကူအညီပေးခြင်း။

ရဟန်း သာမဏေများသည် များ သော အားဖြင့်ဆေးရုံသို့ မတက် ဘူးကြ သဖြင့် ဆေးရုံ၏ စည်းမျဉ်းဥပဒေများ နှင့်အလုပ်များကို နားလည်တော် မမူကြ ပေ၊ ဆေးရုံအရာရှိများက အစွမ်းကုန် ကြိုးစားသုင်ကိုင်လျက် ရှိသော်လည်း အ ဆင်မပြေမှု နှောင့်နှေးမှုအလွဲကိုနားလည် မှုများ ခဏခဏ ဖြစ်ပေါ်တတ်ပါသည်။

ဤသို့မပေါ်ပေါက်သော အဆင် မပြေမှုများကိုပြေပြစ်စေရန် ဗွေ့ စိတ် ဖြင့်ဆောင်ရွက်မည့် အသင်းဝင် လူကြီး များအား ဆေးရုံကြီးသို့ သွား ရောက် ကြည့်ရှုရန်လွှဲအပ်ထားလေသည်။

အသင်းဝင်လူကြီးများသည် ကင်များ ကို လျှောက်တောင်းခြင်း၊ လူနာခန်းများ ကို စစ်ဆေးခြင်း၊ ဆရာဝန်များ ကစော် စပ်ပေးသည့် အတိုင်း ဆေးများကိုဆေး ခန်းမှ ရအောင် ဆောင် ရွက်ပေးခြင်း စသောတော်ကြီး ထင်ယင်များကို ပြုကြ လေသည်။

## သံဃနာဝန်ဆောင်သံဃအဖွဲ့

၁။ ညောင်ရမ်း ဆရာ တော် မိုး ကောင်းတိုက်မန္တလေးမြို့၊ ၂။ ဟံသာ ဝတီ ဆရာတော် ဘုရားကြီး တိုက် ရင်း၊ ၃၊ ငွေဘုန်းရှိန် ဆရာတော် ဘုရားကြီး တိုက် ရင်း၊ ၄။ ဆရာတော် ဦးဝိသုဒ္ဓ ဝိဋ္ဌာလင်္ကာရတိုက် ရင်း၊ ၅။ ဆရာတော် ဦးဇနက မဟာ ဂန္ဓာရုံတိုက် အမရပူရ၊ ၆၊ ဆရာတော်ဦးဣသရိယ အရှင် အာ ဒိစ္စဝံသကျောင်း ရန်ကုန်မြို့၊ ၇၊ သာသနာ လင်္ကာရဆရာတော် သရက်တောတိုက် ရင်း၊ ၈။ ဆရာ တော် ဦးနာဂဝံသ ဗားကရာတောရ မြန်ကုန်။ ၉၊ မဟာ စည် ဆရာ တော် သာသနဓဇ ရိပ်သာ ရန်ကုန်မြို့၊ ၁၀၊ ဆရာ တော် ဦးသော ဘန သ မြေ ပင်တိုက်ဟသ်ာတ၊ ၁၁။ ဆရာတော် ဦးနန္ဒဝံသ မဟာဝိသုဒ္ဓာ ရာမတိုက် ပခုက္ကူ၊ ၁၂၊ ဆရာတော် ဦးနန္ဒမာလ ခင်မကန်တိုက် မန္တလေး၊ ၁၃၊ ဆရာတော် ဦးသူရိယ မဟိုးရိမ်တိုက် မန္တလေး၊ ၁၄၊ ဆရာတော်ဦးဇောတိက ဝိသုဒ္ဓါရုံတိုက် မန္တလေး။ ၁၅၊ ဆရာ တော ဦးတိလောကာဘိဝံသ ဗားကရာ တိုက် ကြည့်မြင်တိုင်၊ ၁၆၊ ဆရာတော် ဦးဝေဘာသည ဘုရားကြီးတိုက် ရန်ကုန်၊ ၁၇၊ ဆရာတော် ဦးအာဒိစ္စ ကျောက် ကုန်းတောရ တိုက် ကံဘဲ့၊ ၁၈၊ ဆရာ တော် ဦး ဥေ ယျ လယ် တီ စံ ကျောင်း ပုဉ်းမနားမြို့၊ ၁၉၊ ဆရာတော်ဦးပဏ္ဍိတ အနီးစခန်းကျောင်းစစ်ကိုင်း။ ၂၀၊ ဆရာ တော် ဦးသီက ရွှေစေတီ တိုက် ရေနံ ချောင်း၊ ၂၁၊ ဆရာတော် ဦးဓမ္မနန္ဒ မြောင်းမြကျောင်းတိုက် ပုသိမ်မြို့၊ ၂၂၊ ဆရာတော် ဦးဝဏ္ဏ ပန်းဘဲတန်း မင်းကျောင်း မော်လမြိုင်မြို့၊ ၂၃၊ ဆရာ တော် ဦးနရသိဟ တောင်တန်းသာသနာ ပြုကျောင်း စစ်တွေမြို့၊ ၂၄၊ ဆရာ တော်ဦးနေမိန္ဒ ကန်ကြီးကျောင်း တိုက် ညောင်ရွှေမြို့၊ ၂၅၊ ဆရာတော်ဦးကေ သရမဂ်လာသုခတိုက် ကျောက်မြောင်း ရန်ကုန်မြို့၊

# နတ်ချစ်သည့် မဟာသမယ သုတ္တန်ကြီး

——ကိုယ်တော်ကလေးကလဲ ဘယ်လိုမျှားမေးတော်မူလိုက်ပါလိမ့်။ ဟု မဟာဝုန်တောက မဟာသမယသုတ်ကို ဟောကြားတော်မူနေတဲ့ဘုရားရှင်ဟာ (သီဟိုဠ်က) တပည့်တော်မဆီကို သာ ကြည့်ကြည့်ပြီး——

### စကြာဝဠာတသောင်းမှ

မဟာသမယသုတ်ကို သုတ္တပိဋက ကပ္ပိလ ဝတ်ပြည်အနီး မဟာဝုန် တောကြီး၌ ဘုရားရှင်နှင့်သာကီဝင်မင်းသား ရဟန္တာ ၅၀၀—ဦးကို ဖူးမြင်ရန် လာရောက်ကြကုန်သော နတ်ဗြဟ္မာ အပေါင်းတို့အား ဟောကြားတော် မူခဲ့လေသည်။ စကြာဝဠာတိုက် တသောင်းမှ လာရောက်ကြကုန်သော နတ်ဗြဟ္မာ အပေါင်းတို့သည်၊ ထိုစဉ်အခါက စကြာဝဠာတိုက်ကြီး တခုလုံးအပ်အပြည့်ထည့်ထား သော ကျည်တောက်ကဲ့သို့ ပြည့်ကျပ်လှသဖြင့် မြေမှ မြောက်လိုက်သော ပန်းများ ရေပေါက်များပင်ကောင်းကင် သို့မတက်နိုင်ကြောင်းကိုရင်း၊ တောင်းကင်မှ ပစ်ချလိုက်သော ပန်းများ ရေပေါက်များသည်း အောက်သို့မကျနိုင်ကြောင်းကိုရင်း၊ သုတ်မဟာဝါ အဋ္ဌကထာ၌ ဖေါ်ပြထားသည်ကို တွေ့ရ၏။

### ရဟန္တာကုဋေတသိန်း

မဟာသမယသုတ်သည်ကား အစည်းအဝေးသို့ လာရောက်ကြကုန်သော နတ်ဗြဟ္မာအပေါင်းတို့၏ အမည်နှင့်အမျိုး အနွယ်စသည်တို့ကို ထုတ်ဖေါ်ဟောကြားတော် မူချက်များပါသည့် သုတ်တော်ကြီးတခုဖြစ်လေသည်။ ထိုသုတ်တော်ကြီးကို ကြားနာရသဖြင့် နတ်ဗြဟ္မာပေါင်း ကုဋေ တသိန်းမျှရဟန္တာဖြစ်တော်မူကြကြောင်း ကိုရင်း၊ အောက်မင် အောက်ဗိုလ်များသို့ ရောက်ကြသည့် နတ်ဗြဟ္မာတို့ကား မရေမတွက်နိုင်အောင် များပြားလှ ကြောင်း ကိုရင်း အဋ္ဌကထာ၌ ဖေါ်ပြတော်မူလေသည်။ မဟာသမယ ဒေသနာတော်ကို နတ်ဗြဟ္မာတို့ လွန်စွာ ကြားနာချင် လှကြောင်းကိုလည်း အဋ္ဌကထာ၌ ဖေါ်ပြတော်မူလေသည်။

### ဒေဝတာပိယသုတ်ကြီး

နတ်ဗြဟ္မာတို့သည် မဟာသမယသုတ်တော်ကို အဘယ်မျှလောက် ကြားနာချင်ကြသည်နှစ်သက်ကြသည် မြတ်နိုးကြသည် ဟူသောအကြောင်းကို ဋီကာပန မဟာသမယ သုတ်၌ နာမ ဒေဝဘာနံ ပိယံမနာပံ ဒေဝတာ ကိရ ဣဒံသုတ္တံ သုနိသ်ာမာတိ ဩဟိတသောတာ ဝိစရန္တိ ဟူ၍ပင်ပြဆိုတော်မူလေသည်။ ဋီကာပန မဟာသမယ သုတ္တံနာမ-ဤမဟာသမယသုတ်ဒေသနာ တော်ဆိုသည်ကို၊ဒေဝတာနံ၊နတ်တို့သည် ပိယံ၊ချစ်အပ်၏၊မနာပံ၊ နှလုံးကိုပွါးစေ အပ်၏၊ဣဒံသုတ္တံ၊ ဤမဟာသမယသုတ် ဒေသနာတော်ကို၊ သုနိဿာမာတိ၊ နာကြားကြမည်ဟူ၍၊ဒေဝတာ၊နတ်တို့သည်၊ ဩဟိတသောတာ၊ ထောင်သော နားရှိကုန်သည်ဖြစ်၍၊ ဝိစရန္တိကိရ၊ သွားလာလှည့်လည်၍ နေကြသတဲ့။ ထို့ကြောင့် မဟာဥါရိနကာယ အဋ္ဌကထာ ဒီကပ္ပိလ အုပ်ဖိုဆရာတော်ဘုရား ကြီးကလည်း ဤ မဟာသမယ သုတ်တော်ကို ဒေဝတာ ပိယသုတ္တန် ဟုပင်အမည်ထူးပေးတော် မူခဲ့သည်ကို တွေ့ရလေသည်။

### နတ်ချစ်ပုံဝတ္ထု

မဟာသမယ သုတ်တော်ကို နတ်များ မည်မျှချစ်ခင်နှစ်သက်သည့်သာကေတရပ်ကိုအဋ္ဌကထာမှ နမူနာဝတ္ထုကလေးတပုဒ် ကိုထုတ်နုတ်ဖေါ်ပြပါအံ့။

သီဟိုဠ်ကျွန်းကောတိပဗ္ဗတကျောင်း ဂန်ဓဂေါပင် ပေါက်ရာလိုက်ကြီး၏တံခါးဝရှိ ဂန်ဓဂေါပင်၌ နတ်သမီးကလေးတဦး ရှိလေ၏။ရဟန်းငယ်ကလေး တပါးသည် ထိုလိုက်အတွင်း၌ မဟာသမယ သုတ်တော်ကိုရွတ်ဘတ်သရဇ္ဈာယ်၍ နေတော်မူလေရာ ဂန်ဓဂေါပင် စောင့် နတ်သမီး ကလေးသည် အားရ ဝမ်းသာကြားနာ၍ နေလေ၏။ရွတ်ဘတ်သရဇ္ဈာယ်၍ပြီးသည်နှင့် တပြိုင်နက် နတ်သမီးကလေးသည် အသံ ကျယ်သောင်စွာဖြင့် ကောင်းချီး ခြွဘာပေးလေ၏။

ရဟန်းငယ်။ ။ယခုကောင်းချီး ပေးတာဘယ်သူလဲ။

နတ်သမီး။ ။တပြည့်တော်မ နတ်သမီး ပါဘုရား။

ရဟန်းငယ်။ ။အဘယ် ကြောင့် ကောင်းချီးပေးပါသလဲ။

နတ်သမီး။ ။တပည့်တော်မ ဟာ-မဟာသမယ သုတ်ကို မဟာဝုန်မှာ ကြားနာပြီးတဲ့နောက် ယခုတဖန် ကြားနာရခြင်းဖြစ်ပါတယ်ဘုရား။ အရှင်ဘုရား၏ ရွတ်ဘတ် သရဇ္ဈာယ်တော် မူချက်ဟာ မြတ်စွာဘုရားရှင် ဟောတော် မူချက်နှင့် တလုံးတလေမျှမလွဲမချော်ဘဲ မှန်ကန်လှ ပါတယ်ဘုရား။

ရဟန်းငယ်။ မဟာသမယသုတ်ကို ဘုရားရှင် ဟောကြားတော်မူတဲ့အခါ တုန်းက လာရောက်ကြတဲ့နတ်တွေဟာ များလွန်းလို့ ကျည်တောက်မှာ အပ်တွေ အပြည့်အကျပ်ထည့်ထားသလို နေတယ် ဆိုပါကလား အဲသည့် ရောက်လာတဲ့ နတ်တွေထည်းမှာ နတ်သမီး ကလေးဟာ ဘယ်နေရာကနေပြီး မဟာသမယ သုတ်တော်ကို နားလိုက်ရပါသလဲ။

နတ်သမီး။ ။တပည့်တော် မဟာ—အဲသည်တုန်းက မဟာဝုန်တောမှာ နေတဲ့ နတ်သမီးပေါ့ဘုရား သို့သော်လဲ တန်ခိုးကြီးတဲ့ နတ်တွေ ရောက်လာတာ များလွန်းလို့ ဇမ္ဗူဒီပါကျွန်းမှာ နေရာမရနိုင်အောင် ရှိခဲ့ရပါတယ် ဒါကြောင့်မဟာသည်သီဟိုဠ်ကျွန်း ဇမ္ဗူကောလပန်ဆိပ် ကိုလာပြီး တော့မဟာသမယ သုတ်တော်ကို နာမယ်သေလို့ ကြိုးစားခဲ့ပေမဲ့ တန်ခိုးကြီးတဲ့ နတ်တွေရောက်လာ ပြန်တဲ့အတွက် ရှောင်ပေးခဲ့ရပြန်ပါတယ် အဲဒါနဲ့ တပည့်တော်မဟာ သည်ဟိုဠ်ကျွန်းရောဟနဇနပုဒ် မဟာဂါမ ရွာကြီးရဲ့ အနောက်ဘက်မှာရှိတဲ့ သမုဒြာ စပ်မှာ လည်ပင်းထိအောင် ဆင်းပြီး နာခဲ့ရပါတယ်ဘုရား။

ရဟန်းငယ်။ ။ဟာ ဝေးလှချေသာ အဲသည့်နေရာက နေပြီးတော့ ဘုရားရှင်ကိုဖူးမြင်နိုင်ပါရဲ့လား။

နတ်သမီး။ ။ကိုယ်တော် ကလေးကလဲ ဘယ်လိုမျှားမေးတော်မူလိုက်ပါလိမ့်၊ အဲသည်အချိန်တုန်းက ဟို—မဟာဝုန်တောကမဟာသမယသုတ်တော်ကိုဟောကြားတော်မူနေတဲ့ဘုရားရှင်ဟာ တပည့်တော်မကိုသာကြည့်-ကြည့်ပြီး နေတော်မူတယ်လို့ထင်ရပါတယ်ဘုရား။

ရဟန်းငယ်။ ။နေပါအုံး နတ်သမီးရဲ့ မဟာသမယသုတ်ကို ဟောကြား တော်မူလိုက်တဲ့အတွက် နတ်ဗြဟ္မာတွေ ကုဋေတသိန်းလောက် အရဟတ္တဖိုလ်ကိုရောက်ကြရတယ်ဆိုတဲ့ နတ်သမီးကလေးကော အရဟတ္တဖိုလ်ကို မျက်မှောက်ပြုခဲ့ရပါသလား။

နတ်သမီး။ ။မပြုခဲ့ရပါဘူးဘုရား။

ရဟန်းငယ်။ ။ဒါဖြင့် အနာဂါမိဖိုလ်ကိုရော။

နတ်သမီး။ ။မပြုခဲ့ရပါဘုရား။

ရဟန်းငယ်။ ။ဒါ ဖြင့် သ ဝါဒါမိ ဖိုလ်ရော။

နတ်သမီး။ ။မပြုခဲ့ရပါဘုရား။

ရဟန်းငယ်။ ။ဒါဖြင့် အောက် ဓဂ်-အောက်ဖိုလ်ကို မျက်မှောက်ပြုရတဲ့ နတ်ဗြဟ္မာတွေကဖြင့် မရေ-မတွက်နိုင်အောင် များကြတယ်လို့ ဆိုတယ်၊ နတ်သမီးကလေး ရော၊အောက်မင်အောက်ဖိုလ်သောက်ကို မျှ မျက်မှောက်မပြုခဲ့ရဘူးသာ။

နတ်သမီး။ ။[ သော တာ ပတ္တိ ဖိုလ် လောက်ကိုသာ မျက် မှောက် ပြုခဲ့ရသဖြင့် ရှက်စနိုးအသံနှင့်] အို—ကိုယ်တော်က လေးကလဲ မဟုတ်တဲ့ နေရာကို ထပ်ခါ တလဲလဲမေးနိုင်ရန်မကော၊

ရဟန်းငယ်။ ။နေစမ်းပါဦး—နတ်သမီး ကလေးရဲ့၊နတ်သမီး ကလေးရဲ့ ကိုယ်ကို ကျုပ်မြင်အောင်မပြနိုင်ဘူးလား။

နတ်သမီး။ ။ဘွန်းဘစလောက်တော့ ပြနိုင်ပါရဲ့။

အထက်ပါအတိုင်း လျှောက် ထား၍ လိုဏ်ဂူတံခါး၏ သံ ကောက် ပေါက် မှ လက်ချောင်း ကလေးကိုသွင်း၍ ပြလိုက်လေ၏၊ ထိုလက်ချောင်း ကလေးမှ လပေါင်းတထောင်—နေ ပေါင်းတ ထောင် တွန်းလင်းသကဲ့သို့တောက်ပလေ၏၊ 'ကဲ ကိုယ်တော်ကလေး၊ ရဟန်းတရားကိုမခွဲ မလျော့ မခပါ မဆ အားထုတ် တော်မူ ပါ' ဟုလျှောက် ထား ၍ ပျောက်ကွယ် သွားလေ၏။

——

## မြတ်မြို့သာသနာ့ရိပ်သာတွင်



ရန်ကုန်မြို့မဟာစည်ဆရာတော်ဘုရားကြီး ကြီးမှူး၍ သိမ်သမုတ်ကာဂမ္ဘာရုံဖွင့်ပွဲပြုလုပ်တော်မူစဉ်

# ဝိုင်အမ်ဘီအေအသင်း

## မည်သူကစတင်တည်ထောင်ခဲ့သနည်း

(ပါတီများ၏ရေသောက်မြစ်

အင်္ဂလိပ်ဘာသာအားဖြင့် 'ဝိုင်-အမ်-ဘီ-အေ' ဟု အတိုကောက်ခေါ်သော ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းမှာ ၁၉၀၆-ခုနှစ်က စတင်တည်ထောင်ခဲ့သဖြင့် ယခုအခါတွင် အသက် ၅၀-နီးပါး မျှအရွယ်ကြီးမားလာသည်နှင့် အမျှ ဘာသာရေးဆိုင်ရာ ကိစ္စများမှာလည်း နိုင်ငံတော် အစိုးရအား ကြေနပ် လောက်အောင်အကူအညီပေးနိုင်သော အသင်းဖြစ်၏။

အသင်း အပင်း အဖွဲ့အစည်း ပါတီများ၏ မူလဘူတ ရေသောက်မြစ်ကို ရှာဖွေပါက ဝိုင်-အမ်-ဘီ-အေ မပါ လျှင် ပြည့်စုံလိမ့်မည်မဟုတ်ချေ။

ယခုအခါဘကြီးဘဘော ဟုအများသိနေသော ဦးဘဘောနှင့်အပေါင်းပါတို့သည် ကျောင်းထွက်စ လူငယ်လူရွယ်ဘဝကပင် နှင့်လက်လုံးမှီရာအမ်-အေဦးမောင်ကြီး အစရှိသောမိတ်ဆွေသင်္ဂဟများနှင့်တိုင်ပင်တာ ဝိုင်-အမ်-ဘီ-အေ အသင်း ကို 'မြန်မာပြည် ဗုဒ္ဓဘာသာ မြန်မာလူမျိုး လူငယ်-လူရွယ်များအတွက် အထူးသဖြင့် ရည်စူး၍'ဖွဲ့စည်းခဲ့လေသည်။

### မျိုးခြားအောက်မှ

ထိုစဉ်အခါက မြန်မာတို့၏ အမျိုး, ဘာသာ, သာသနာ, ပညာရေးတို့မှာ အလွန်ပင်အဆင့်အတန်း နိမ့်ကျ လျက်ရှိသည်ကို ကြိတ် မနိုင်ခဲမရ တွေ့မြင်ကြရ၍ ဦးဘဘောခေါင်းဆောင်သောလူငယ်များ သည် 'အမျိုး-ဘာသာ- သာသနာ ပညာ' ဟုကြွေးကြော်ကာ ဗုဒ္ဓဘာသာ ကလျာဏယုဝအသင်းကို တည်ထောင် လိုက်ကြခြင်းဖြစ်လေသည်။

ဝိုင်-အမ်-ဘီ-အေ- သည် မြန်မာပြည်အသင်း၊ အပင်းလောကတွင် အဒိကမ္မိက ဟုဆိုလောက်အောင် ရှေးကျသောအသင်းဖြစ်လျက် သန့်သန့် ရှင်းရှင်း နှင့်နှစ် ပေါင်း ကြာမြင့်စွာ မားမား-တော်မတ် တည်မြဲနိုင်ခဲ့၏။ နောင် လည်း ဤနည်း နှင်နှင် တည်တံ့သွားနိုင်ရန် အကြောင်းရှိပေသည်။ ထို အကြောင်း မှာ ကားဝိုင်-အမ်-ဘီ-အေသည် မိမိအတွက် မဟုတ်ဘဲ ပရဟိတ အနေးကို အရောက်သွေး ပေးနေ သော အသင်း ဖြစ်သော ကြောင့် ပင်ဖြစ် ၏။ သို့ ကြောင့် လည်း အသင်းကြီး၏က 'ဝိုင်-အမ်- ဘီ- အေ အသင်း ကြီးသည် အမှန် အား ဖြင့် မြန် မာ လူမျိုး တမျိုးလုံးကို ကျွန်ဘဝမှ လွတ်မြောက်ရေးရသည် အထိ မျက်စိဖွင့် ပေးခဲ့သော အသင်းကြီး ဖြစ်၏' ဟု ကျေညာခဲ့လေသည်။

ကျွန်ခေတ်တွင်ဂျီ-စီ-ဘီ-အေ, ၂၁ဦး မှစ၍ ယနေ့ လွတ်လပ်ပြီး ခေတ် အထိ ဖ-ဆ-ပ-လ, ဆိုရှယ်လစ် တိုင်အောင်သောအသင်း အပင်း အဖွဲ့ အစည်း,ပါတီများသည် ယေဘုယျအားဖြင့် ဝိုင်-အမ်-ဘီ-အေ မိခင်ကြီးမှ ဖွားမြင်သော အာဇာနည် သားကောင်း-သမီးကောင်း အဆက်အနွယ်များသာဖြစ်လေသည်။

### မင်္ဂလာတရားတော်

အသက်အရွယ် အိုမင်း လာပြီ ဖြစ်သော ဝိုင်-အမ်-ဘီ-အေ ၏ ယခုလက်ရှိအဓိကလုပ်ငန်းမှာမြန်မာပြည် အရပ်ရပ်တွင်ရှိသော ကျောင်းသား သူငယ်များအား မင်္ဂလာစာမေးပွဲများပြုလုပ်ပေးခြင်းပင် ဖြစ်လေသည်။ ၁၃၁၄-ခု နှစ် တပေါင်းလအတွင်းက စတုတ္ထ အကြိမ်မြောက် မင်္ဂလာတရားတော် စာမေးပွဲဆု



ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းတိုက်မှ ပထမအကြိမ် ကျင်းပသော မင်္ဂလာစကောလားရှစ်ဆုရသူမင်္ဂလာမောင်မယ်များအစည်းအဝေး၌ ဦးဣန္ဒမောင်ဘရီက မိန့်ခွန်းစကားပြောကြားရာတွင်-

နှင်းသဘင်ကို နိုင်ငံတော် သမတကြီး၏ အိမ်တော်ဝင်းအတွင်း၌ ခမ်းနားစွာ ဆင်ယင်ပြီး စီးခဲ့လေပြီ။

### စာသင်ဆုများ

စာမေးပွဲမှာ ပထမ,ဒုတိယ,တတိယ အားဖြင့် အဆင့်သုံးဆင့်ထားပြီး ရိုးရိုးအောင် မြင် သူများအား မင်္ဂလာ ငွေတံဆိပ်နှင့် အောင်လက်မှတ်ကို ချီးမြှင့်၍ ထူးချွန်စွာ အောင်မြင် သူများအား အဆင့်အတန်းအလိုက် တလ-၂၀၊၁၅၀၊ ၁၀၊ ၅၀ တန် တနှစ်အတွက် စကောလားရှစ်စာသင်ဆုများကို အသီးသီး ချီးမြှင့်လေသည်။ စကောလားရှစ်ဆုဆွတ်ခူးနိုင်လောက်အောင် သင်ကြား ပေးသော ကျောင်းများ ကိုလည်း ဂုဏ်ထူးဆောင် လက်မှတ်များ ချီးမြှင့်သည့်ပြင် တတိယဆင့်တွင် ပထမ-ဒုတိယ- တတိယ ဆုရသူများအား တဖန်နိုင်ငံတော် သမတကြီးက ထပ်မံ၍ရွှေတံဆိပ်,မိုးကြိုးတံဆိပ် ငွေတံဆိပ်များကို အသီးသီး ချီးမြှင့်ပြန်လေသည်။

ဝိုင်-အမ်-ဘီ-အေ၏ကျေးဇူးကြောင့်ပင် နိုင်ငံတော်အတွင်းမှာ မင်္ဂလာတော်မယ် ကျောင်း သူ- ကျောင်း သားများမှာ တနှစ်ထက် တနှစ်ပိုးတက်များပြားလာသည်ကိုတွေ့ရပေ၏၊ ၁၃၁၃ ခုနှစ်က စာမေးပွဲ အောင် စာရင်း တွင် ၅၄၇၃ ယောက်အောင်မြင်၍ ၁၃၁၄ ခုနှစ်တွင် ၇၀၄၄ ယောက်မျှ အောင်မြင်ကြလေသည်။

### အဓိကရည်ရွယ်ချက်

မင်္ဂလာစာမေးပွဲ ဆုနှင်းသဘင်တွင် ဝိုင်-အမ်-ဘီ-အေ အသင်း ဥက္ကဋ္ဌ တရားလွှတ်တော်ဝန်ကြီး ဦးအုန်းခင် ဥက္ကဋ္ဌမိန့်ခွန်းတွင် မင်္ဂလာစာမေးပွဲကျင်းပခြင်း၏ အကြောင်းကို ရှင်းလင်းထားလေသည်။

ဤကဲ့သို့ ဝိုင်-အမ်-ဘီ-အေ အသင်းကြီးက ကြိုးစားပြီး နိုင်ငံတော် အရပ်ရပ်မှာ မင်္ဂလာတရားတော် စာမေးပွဲတွေ ကျင်းပစီစဉ်ပေးခြင်း အဓိကရည်ရွယ်ချက်ကတော့ လူကြီးမင်းများ သိ

တော်မူသည့်အတိုင်း ဗုဒ္ဓရှင်တော် ဘုရားကိုယ်တော်တိုင် ဟောပြောသွန်သင်မြွက်ဆိုခဲ့ပြီး ဆုံးမစကား ထားတော်မူခဲ့သည့် ၃၈-ဖြာ မင်္ဂလာတရားတော်မြတ်ကို လူတိုင်း လူတိုင်းကြီးငယ်မရွေး တတ်သိနားလည်နိုင်ကြစေရန် ကိုယ်နှုတ်စိတ်အားဖြင့် နေ့တိုင်း နေ့တိုင်း လက်တွေ့ကျင့်ကြံကြိုးစားကြရန် အဓိကရည်ရွယ်ခြင်း ဖြစ်ပါသည်။

### သမတကြီးချီးကျူးခြင်း

သမတကြီး၏ သြဝါဒ မိန့်ခွန်း တွင် "ဗုဒ္ဓဘာသာ ကလျာဏယုဝ အသင်းကြီး၏နည်းပေး လမ်းပြမှုနဲ့ခြင်းကို ပြည်ထောင်စု တခုလုံးရှိ မြို့ကြီးပြကြီး များ၌ တည်ထောင်ထားသော သာသနာရေးအသင်းအဖွဲ့တို့က အလားတူ မင်္ဂလာတရားတော် စာမေးပွဲများကို မိမိတို့၏မြို့ရွာတို့၌ကျင်းပကြလေသည်။ ဤနည်းအားဖြင့် ကျွန်ုပ်သိရသလောက် ပြည်ထောင်စုတခုလုံး ဗုဒ္ဓဘာသာကလျာဏယုဝ အသင်းနှင့် ဆက်သွယ်ထားသော မဆက်သွယ်ရသေးသော မင်္ဂလာတရားတော် စာမေးပွဲများ မြောက်မြားစွာ ပေါ်ပေါက်ခဲ့ပေသည်။ ဤကဲ့သို့ နည်းပေး လမ်းပြ ပြုလုပ်သည့်အတွက် ဗုဒ္ဓဘာသာ ကလျာဏယုဝအသင်း၏ ဥက္ကဋ္ဌနှင့်တကွ အသင်းဝင် အပေါင်းတို့အား ကျွန်ုပ်က ချီးကျူးပါသည်" စသဖြင့် မိန့်ကြားသွားလေသည်။



ဇူလ ၃-ရက်နေ့က ရန်ကုန်မြို့ရေကျော်ရပ်တွင်တည်ရှိသော ဗုဒ္ဓဘာသာကလျာဏယုဝအသင်းတိုက်သို့ မင်္ဂလာ စာမေးပွဲတွင် ထူးချွန်စွာအောင်မြင်၍စကောလားရှစ်ဆုရသူကျောင်းသူကျောင်းသားများဆုယူရန်ရောက်လာစဉ်

[ဗုဒ္ဓဘာသာအသင်း အဖွဲ့များသည် မိမိတို့ အသင်း၏ တည်ခဲ့သောနှစ်၊ အသင်းသားဦးရေ၊ အသင်းလုပ်ငန်းစသည်တို့ကို ဓါတ်ပုံများနှင့်တကွ အတိုချုပ် ရေးသားပေးပို့ကြပါလျှင် ထည့်သွင်း၍ ပေးမည်ဖြစ်ပါကြောင်း။  အယ်ဒီတာ]

# ဘုရားပွင့်ရာဌာနကြီး

## မေလ ၂၈ ရက်နေ့ကစ၍ ၉ ဦးကော်မီတီက ထိန်း သိမ်း ပေး တော့ မည်။



### ဘုရားပွင့်ရာသစ်ပင်

ဗုဒ္ဓဘာသာ စာပေများ၌ သဟဇာတပရိဿဒေါ် ဗုဒ္ဓရှင်းတော်ဘုရား၏ ဖွားဘက်တော်အင်္ဂါအခြား ၇—မျိုးတို့တွင် မဟာဗောဓိပင်ကိုပါ ထည့်သွင်း ဖော်ပြတော်မူကြကုန်၏။ ထိုဗောဓိပင်ပေါက်ရာအရပ်ကိုလည်း ဗောဓိမဏ္ဍိုင် [ဗောဓိမဏ္ဍလ] ဟူ၍ ခေါ်ဝေါ်ခဲ့ကြကြောင်း။ ဆင်ကြီးအဦးခေါင်း နှင့်တူသော တောင်ရှိရာအရပ်ဖြစ် သော ကြောင့် ဂယာသီသ—ဟု ရှေးအခါက အများ အပြားခေါ် ဆိုခဲ့ကြသော နယ်မြေ အတွင်း၌ ယခုအခါ ဗုဒ္ဓဂယာဟူသောအမည်ဖြင့် ထင်ရှားတည်ရှိ၏။

### မဟာဗောဓိစေတီကြီး

ထိုမဟာဗောဓိပင် ပေါက်ရာအရပ်၌ ကမ္ဘာကျော် ဗုဒ္ဓဘာသာ သာသနာပြု အသောကမင်းတ ရားကြီးသည်၊ ကြီးမား ဆန်းကြယ်သော ကျောက် သား စေတီတော်ကြီးကိုတည်ထားတော်မူခဲ့လေသည် ထိုမဟာဗော ဓိစေတီတော်ကြီးသည် ဓါတ်ပုံတွင် ဖူးမြင်ရသည့်အတိုင်း ၁။ လေးဒေါင့်စပ်ဖြစ်၏၊ ၂။ ပန္နယ်ပေါင်း ၉-ဆင့်ရှိ၏၊ ၃။ မြေပေါ်ရှိ ဘိနပ်ဘောင်၏ အလျားတမျက်နှာလျှင်ပေ ၅၀—ခန့်စီရှိ၏။ ၄၊ မြေသားဘိနပ်တော်မှ ပထမ ပန္နယ် အထိအမြင့် ၂၆-ပေခန့်ရှိ၏။ ၅၊ ပထမ ပန္နယ်၏ အ ကျယ် ၁၃-ပေ ခန့် ရှိ၏။ ၆။ ပထမပန္နယ်၏ ဒေါင့်လေးခု တို့တွင် စေတီရံတဆူစီရှိကုန်၏။ ၇။ ကျောက်သားထီးတော်သည် ဘုံ ၇-ဆင့်ရှိ၏ ၈၊ စေတီတော်ကြီး၏ပတ်လည် အဆင့်အဲသီးသီးတို့၌မှန် အသီးသီးဘုံ၌ ရုပ်ပွားတော်အမျိုးမျိုးရှိကုန်၏။ ၉။ စေတီတော်ကြီး၏ အားလုံးအမြင့်ကား ပေ ပေါင်း ၁၈၀—ခန့်ရှိ၏။

### ထပ်မံပြုစုသူများ

မဟာဗောဓိပင်နှင့် မဟာဗောဓိစေတီတော်ကြီးကိုအဆက်ဆက်အားဖြင့် ပြုစုခဲ့ကြသောပုဂ္ဂိုလ်များကို အိန္ဒိယ စာပေများနှင့်မြန်မာစာပေများအရ ဇယားဖြင့် သီးသန့်ဖော်ပြလိုက်ပါသည်။ (ကျောက်စာပျက်နေသဖြင့်ဖတ်၍မရသော နေရာတို့ကို ......ဤလက္ခဏာဖြင့်ဖော် ပြထားပါသည်။)

### ဘကြီးတော်လက်ထက်

မြန်မာနိုင်ငံတော်မှဘကြီးတော်ဘုရား လက်ထက်စစ်ရှုံးသည့်အတွက်စရိတ်ပေးဆပ်ရသော စစ်ဘွာ အစေပေးရန်နှင့်တနင်္သာရီဘိုင်းကြီးကိုပြန် အပ်ရေးအတွက် တောင်းဆိုရန် မင်းကြီးမဟာစည်သူအား စေလွှတ်တော်မူရင်း ဗုဒ္ဓဂယာ၌ ပုတ်စီ သမှုကိုပြင်စေတော်မူသည်။

ဇယားတွင် အိန္ဒိယ နိုင်ငံ လူ အများဟုဆိုရာ၌ ဗောဓိပင် တပင်သုံး ညှီးနွမ်းခြောက်သွေ့ သဖြင့် ဟိန္ဒူ နှင့်ဗြာဟ္မဏ ပုဏ္ဏားတို့သည် နွားနို့ ဒိုင်းရင်း နွားနို့ကို ရေဖြင့်ရော၍ရင်း [မဟာဗောဓိ စသည်တို့ကို ကိုးကွယ်ကြသူများပင်ပါဝင်၍] သွန်း လောင်းခဲ့ကြသည်ကိုဆိုလိုသည်။

### မန္တလေးနေပြည်တော်သို့

ရင်း ၁၂၂၄—ခု နှစ် အတွင်းမှာ ပင် လေပြင်းမုန်တိုင်းအကျကြောင့် မဟာဗောဓိပင်ကြီးကျိုးပြတ် ပြိုလဲတော်မူလေ၏။ ဘုရင်ခံချုပ်သည် ပင်ရည်ကိုင်းခက်များကို မင်းတုန်း မင်းတြားကြီးထံ ပို့ပေးလျှင် ကုန်းဇန်စ်များကိုကောင်းစွာ ပြုရလေ၏။

မင်းတြားကြီးထံပို့လိုက်သည့် ဗောဓိ သားများကိုတော့—ရုပ်တုပြုလုပ်၍သာသနာပိုင်ဆရာတော်နှင့် တံဆိပ်ရ—မရဆရာတော်များ မူးမတ်များပါ အသီးသီးပူဇော်ကြရလေသည်။

[ဗုဒ္ဓဂယာ၌ ယခုလက်ရှိ ဗောဓိပင်သည်ထိုကျိုးပြတ်ပြိုလဲ၍ ကျန်နေသောအမြစ်မှ တဖန်ပေါ်ပေါက်လာသော အပင်တော်ဖြစ်သည်။]

### မင်းတုန်းမင်းတြားကြီး

ရင်းနောက် မြန်မာ ၁၂၃၇—ခုနှစ် (ခရစ် ၁၈၇၇—ခုနှစ်) အတွင်းအင်္ဂလန်ပြည့်အိမ်ရှေ့စေလမ်းသားသည် အိန္ဒိယနိုင်ငံသို့ လာရောက်လေ၏၊ မြန်မာ နှင့် အင်္ဂလိပ်တို့သည် မဟာမိတ် ဖြစ်ကြသည့် အတိုင်း နှုတ်ခွန်းဆက်ရန် မြန်မာ နိုင်ငံ မန္တလေးနေပြည်တော်မှ မင်းတုန်း မင်းတြားကြီးသည် လယ် ကိုင်းမြို့စား၊ သေနတ်ဝန် [ကင်းဝန်မင်းကြီး] ဦးကောင်းအားစေလွှတ်တော်မူလေ၏။

ထိုသို့စေလွှတ်တော်မူရာတွင် အိမ်ရှေ့မင်းနှင့် နှုတ်ခွန်းဆက်သပြီးနောက် ဗုဒ္ဓဂယာဗောဓိဈေးပိုင်သို့ သွား၍ ၁၊ အသောကမင်းတြားကြီး၏ ကောင်းမှု ဖြစ်သော မဟာဗောဓိ စေတီတော်ကြီး နှင့် ၂။ တံတိုင်းမီးတ အုန်းပုက်စီး ယိုယွင်းသမျှပြင်ဆင်ရေး ၃၊ အုတ်ဇရပ်တော် လုပ်ဆောင်ရေးများ အတွက် မြေနေရာ ကြည့်ရှုမှတ်သားရန်ကိုပါမှာတော်မူလိုက်၏။

ကင်းဝန်မင်းကြီးသည် ပထမ ကာလကတ္တားသို့သွားပြီးလျှင် ရင်းမှတဆင့်အိမ်ရှေ့မင်းထံ လက်ဆောင်တော်များနှင့် တကွ ဝင်ရောက်၍ နှုတ်ခွန်း ဆက်ပြီးနောက်မှဗုဒ္ဓဂယာ မဟာဗောဓိ သို့သွား၍ဆိုခဲ့သည့် အချက်များကို ကြည့်ရှုမှတ်သားခဲ့လေ၏။

၁၂၃၈—ခု တပေါင်းလ (ခရစ် ၁၈ ၇၇—ခု) တွင် မင်းတုန်းမင်းတြားကြီး ထံမှပန်းရံတော် လက်သမားတော်တို့ကို စေလွှတ်တော်မူလိုက်ရာ၊ ဓတ်လ၌ ဗုဒ္ဓဂယာသို့ ဆိုက်ရောက်ကြကုန်၏။ စေတီတော်ကြီး၌အင်္ဂတေအဆွေးများကိုခွါခြင်း ချိန်ရာတို့ကို ဖိခြင်းမြင့်မောက်ရာတို့ကိုဖြိုခြင်း ထုပ်ယောက် တိုင်တို့ကို ထုတ်နုတ်လဲလှယ်ခြင်း ပြုကြလေ၏။

ထိုအခါဆာ ရာဇေမြို့ လာလ မိတြ (အမ် အေ အယ်လ် အယ်လ်ဒီ စီ အိုင် အီး) ခေါ် ဂုန္တိယ အစိုးရ ကိုယ်စားလှယ်တော်က ရှေးကရှိထား ရင်းပုံပန်းများ ဖျက်ပုက်၍ အသစ်များ ထိုး လာလျှင် နှမြောဘွယ် ဖြစ်ကြောင်းနှင့် အထက်သို့ အစီရင်ခံသဖြင့် ဆက်လက်ပြုပြင်ခွင့် မရ တော့ဘဲ ပြန်လာကြရကုန်၏။

### ဗင်္ဂလားဘုရင်ခံ

ရင်းနောက် ဗင်္ဂလား ဘုရင်ခံဆာ အက်ရှ်လေ အီဒင်သည် မြန်မာ ၁၂၄၁ ခု ခရစ် ၁၈၈၀ အတွင်း ရှေးလက်ရာမပျက် စေဘဲ အိုးရှေမိုက်နှင့် အင်ဂျင်နီယာကြီး

[ စာမျက်နှာ ၁၉ သို့ ဆက်ကြည့်ပါ]

### ဗုဒ္ဓဂယာကိုပြုစုခဲ့သည့်ကုသိုလ်ရှင်များ

| တိုင်းပြည် | အမည် | မြန်မာ—ခုနှစ် | ခရစ်—ခုနှစ် |
|---|---|---|---|
| အမရာဝတီ (ဂုန္တိယတောင်ပိုင်း | အရေသီဟမင်း | ---- | ---- |
| သီဟိုဠ်ကျွန်း | ဗောဓိရက္ခိတသမင်း | ---- | ---- |
| ဂုဇြာတိုင်း | အမရဒေဝသမင်း | ---- | ---- |
| ကာလိင်္ဂတိုင်း | ကုရှာဒေဝီ (ကာလိင်္ဂမင်း၏မိဖုယား) | ---- | ---- |
| ---- | မမ္မပါလမင်း | ၂၁၁ | ၈၅၀ |
| ---- | မမ္မရာဇာဂုရု | ၃၉၆ | ၁၀၃၅ |
| မြန်မာနိုင်ငံ | ---- | ၄၄၀ | ၁၀၇၉ |
| မြန်မာနိုင်ငံ | မြူတသိန်းမင်း [အလောင်းစည်သူ] | ၄၆၅ | ၁၁၀၄ |
| မြန်မာနိုင်ငံ | အမရဒေဝဝင်း | ၅၀၀ | ၁၁၃၉ |
| ---- | မိဖုယားရှင်ဘိုမယ် | ၅၁၄ | ၅၅၉ |
| ---- | အသောကဗလရာဇာ | ၅၅၉ | ၁၁၅၃ |
| မြန်မာနိုင်ငံ | မြန်မာ ....မင်း.... | ၁၃၀၆ | ၆၆၇ |
| မြန်မာနိုင်ငံ | ဘကြီးတော်ဘုရား | ၁၁၉၄ | ၁၈၃၃ |
| အိန္ဒိသနိုင်ငံ | အင်္ဂလိပ်အစိုးရ (မေဂျာမားကမ်ကစ်ဘိုး) | ၁၂၀၇ | ၁၈၄၆ |
| အိန္ဒိယနိုင်ငံ | မေဂျာ—မီဒ် (ဘူးဖော်ပြုပြင်သည်) | ၁၂၂၂ | ၁၈၆၁ |
| အိန္ဒိယနိုင်ငံ | လူအများ | ၁၂၂၄ | ၁၈၆၃ |
| မြန်မာနိုင်ငံ | မဟာ ---- ---- | ၁၂၂၆ | ၁၈၇၁ |
| အိန္ဒိယနိုင်ငံ | ဘုရင်ခံချုပ် | ၁၂၃၇ | ၁၈၇၆ |
| မြန်မာနိုင်ငံ | မင်းတုန်းမင်း | ၁၂၃၈ | ၁၈၇၇ |
| အိန္ဒိယနိုင်ငံ | ဆာအက်ရှလေအီဒင် (ဗင်္ဂလားဘုရင်ခံ) | ၁၂၄၁ | ၁၈၈၀ |

# ယိုးဒယားသံဃာလွှတ်တော်ကြီးဖွဲ့စည်းပုံ

## ရဟန်းဝန်ကြီးများ ရဟန်းတိုင်းမင်းကြီးများ ခရိုင်မြို့နယ်အရာရှိများခန့်ပုံ

ယိုးဒယားဗုဒ္ဓဘာသာအသင်းကြီးမှထုတ်ဝေသော ဝိသာခပူဇာ Visakha puja ခေါ်စာစောင်တွင်ပါဝင်ခဲ့သော ဆန်ယဓမ္မသကိစ် San ya Dharma sakit ရေးသားချက်မှ သံဂါယနာစာစောင် အယ်ဒီတာအဖွဲ့ဝင်-နိုင်ငံခြားရေး အယ်ဒီတာ ပြန်ဆိုခြင်း ဖြစ်သည်၊ မစ္စတာဆန်ယဓမ္မသကိစ်သည် Middle Temple မှ ဘားရီစတာ ဝတ်လုံတော်ရတဦးလည်းဖြစ်သည်၊ ဗန်ကောက်မြို့အထက်တရားလွှတ်တော် တရားသူကြီးတဦးဖြစ်သည့်ပြင် ယိုးဒယားဗုဒ္ဓဘာသာအသင်းလူကြီးတဦးလည်းဖြစ်သောကြောင့် ၎င်း၏ရေးသားချက်ကို ဝိဇ်ချလက်ခံရှတ်သင့်သည်ဟုသဘောရသည်။

အယ်ဒီတာ

### နိုင်ငံတော်ဘာသာ

ဗုဒ္ဓဘာသာသည် ယိုးဒယားပြည်၏ နိုင်ငံတော်ဘာသာကြီးဖြစ်၏။ ရှေးအစဉ်အလာအရဖြစ်သော တရား ဥပဒေနှင့်အညီ ဘုရင်မင်းမြတ်သည် ဗုဒ္ဓဘာသာကို ကိုးကွယ်သော သာသနာ့ဒါယကာဖြစ်ရလေသည်။

### သံဃာအဖွဲ့ကြီး

ထုံးတမ်းစဉ်လာအတိုင်းယိုးဒယားပြည်၌ဗုဒ္ဓဘာသာ သံဃာအ စည်းအရုံးကြီး Organization of the Buddhist Sangha. တည်ရှိခဲ့သည်မှာ ကြာလှပြီဖြစ်၏၊ ၎င်းအဖွဲ့ကြီးသည် ပထမ နန်းတော်က အမိန့်ဖြင့် တည်လာခဲ့သော်လည်း နောက် အခါ တရားဥပဒေအရ တည်ထောင်ခဲ့ခြင်းဖြစ်လေသည်၊ ယခုအခါဝယ် ယိုးဒယားနိုင်ငံတော် အုပ်ချုပ်ပုံစည်းမျဉ်းမှတပါး (သာသနာတော် သက္ကရာဇ် ၂၄၈၄-ခုနှစ် သံဃာအက်ဥပဒေ) တခုသီးသန့်ပြီးဖြစ်လေသည်၊ ထိုဥပဒေမှာအောက်ပါအတိုင်းပင်ဖြစ်၏။

### သာသနာပိုင်ခန့်အပ်ခြင်း

ဘုရင်မင်းမြတ်သည် နိုင်ငံတော်အကြီးအမှူး၌ သာသနာ့ဒါယကာ အဖြစ်ဖြင့် သံဃာဟူသမျှကို အုပ်ချုပ်သော သာသနာပိုင် (သံဃရာဇာ) ကိုခန့်ရလေသည်၊ သို့သော် ခန့်အပ်သောအခါ သက်တော် ဝါတော်ကြီး၍ ပညာအရှိဆုံး ဖြစ်သော ဘုရင်မင်းမြတ်၏ ဥပဇ္ဈာယ်ဆရာ (မင်းဆရာ) ကရှေးအစဉ်အလာအတိုင်း သာသနာပိုင်ကိုခန့်ထားတော်မူလေသည်။

သာသနာပိုင်ကိုအာဏာသုံးရပ်အပ်နှင်းထားလေသည် ၁-သံဃလွှတ်တော်ကြီး Sangha Sabha က အကြံပေး ညွှန်ကြားသည့်အတိုင်း သံဃစည်းမျဉ်း ဥပဒေကို ထုတ်ပြန်တော်မူခြင်း ၂-သာသနာရေးဆိုင်ရာ ရဟန်းတော်ဝန်ကြီးများအဖွဲ့ Sangha Montri မှတဆင့် သံဃာများကိုစီမံအုပ်ချုပ်ခြင်း ၃-သံဃာတော်များနှင့် ပတ်သက်သော တရားမှုခင်း အဖွဲ့ Kana vinaya-dhara မှတဆင့် တရားမှုနှင့်ဆိုင်သော အခွင့်အာဏာများကိုအသုံးပြုနိုင်ခြင်းများ ဖြစ်လေသည်။

### သံဃလွှတ်တော်ကြီးဖွဲ့စည်းပုံ

သတ်မှတ်ထားသော ဥပဒေစည်းမျဉ်း အရ အရည်အချင်းနှင့်ပြည့်စုံသော ရဟန်းတော်သုံးမျိုးသုံးစားအထဲမှ ၄၅ ပါး ထက် မပိုစေ၍ သံဃလွှတ်တော်တွင်မပါဝင်ရချေ သံဃလွှတ်တော်အဖွဲ့၏ အဖွဲ့ဝင်ရဟန်းတော်များဖြစ်ရန်ဥပဒေပါ အရည်အချင်းများနှင့်ပြည့်စုံသည့် ရဟန်းတော်များ၏ အမည်များကို အစိုးရပညာရေးဝန်ကြီးက ကြေငြာရလေသည်၊ ဤနည်းအားဖြင့် သံဃလွှတ်တော်အဖွဲ့သည် အတည်ဖြစ်နိုင်လေ၏။

### သံဃာဘက်ဆိုင်ရာဝန်ကြီးအဖွဲ့

သံဃာဘက်ဆိုင်ရာရဟန်းတော် ဝန်ကြီးများအဖွဲ့၌ဥက္ကဋ္ဌတပါးနှင့် ၉ ပါးထက်မများသော ရဟန်းတော် ဝန်ကြီးများပါဝင်တော်မူကြလေသည်၊ ၎င်းရဟန်း ဝန်ကြီးများကို သာသနာပိုင်က ဥပဒေအရ ခန့်ရလေသည်၊ ၎င်းရဟန်းဝန်ကြီး ၈ ပါးအနက် ၄-ပါးတို့ကို သံဃလွှတ်တော်က ရွေးချယ်ရလေသည်၊ ကျန် ၄-ပါးကို မူကား သံဃလွှတ်တော်အဖွဲ့မှ ဖြစ်စေ၊ အပြင်အပမှဖြစ်စေ ရွေးချယ်နိုင်လေသည်။

### သံဃအုပ်ချုပ်ရေး

သံဃာနှင့်ဆိုင်သော အုပ်ချုပ်စီမံခန့်ခွဲရေးကို ဗဟိုရအုပ်ချုပ်ရေး ဌာနနှင့်လက်အောက် (ဒေသဆိုင်ရာ) အုပ်ချုပ်ရေးဌာန ဟူ၍ အသီးသီး စီမံ အုပ်ချုပ်ကြလေသည်။ ဗဟိုရအုပ်ချုပ်ရေး ဌာနကို ဌာနကြီး ၄-ခုခွဲ၍ တာဝန် ခံရသော ရဟန်းဝန်ကြီးများက ကိုင်ထားလေသည်၊ ယင်း ၄-ဌာနအမည်မှာ (၁) အုပ်ချုပ်စီမံရေး (၂) ပညာသင်ကြားပေးရေး (၃) ဝါဒဖြန့်ချိရေး (၄) ပြည်သူ့အများနှင့် ဆိုင်သော အရေးများ ဖြစ်လေသည်။

### တိုင်းမင်းကြီးများ

ရဟန်းဝန်ကြီးများ လက်အောက်၌ ရဟန်းတိုင်းမင်းကြီးများနှင့်လက်ထောက် ရဟန်းအရာရှိများကိုရဟန်းဝန်ကြီးအဖွဲ့က ခန့်ရလေသည်၊ တိုင်းမင်းကြီးဖြစ်သော ရဟန်းတော်များသည် ၎င်းတို့အား ခွဲဝေပေးသော အားလုံးသော ၄-ဌာနဆိုင်ရာ အလုပ်များကို စီမံခန့်ခွဲရန် တာဝန်များကို ယူရလေသည်၊ ယခုအခါ ရဟန်းတော် တိုင်းမင်းကြီး ၅-ပါးနှင့် လက်ထောက် ရဟန်းတော်များ ရှိလေသည်။

### တိုင်းအဖွဲ့များ

ဤရဟန်းတော် တိုင်းမင်းကြီး များ၏ လက်အောက် အသီးသီး၌ သံဃလွှတ်တော်အဖွဲ့မှ ခန့်သော သံဃကော်မီတီအဖွဲ့များ တိုင်းတခုလျှင်တဖွဲ့စီ ရှိလေ၏၊ ဤကော်မီတီ အဖွဲ့ဝင် ရဟန်းတော်များအား စီမံအုပ်ချုပ်ရေး ပညာရေး ဝါဒဖြန့်ချိရေးနှင့် ပြည်သူ့အများနှင့်ဆိုင်သော အလုပ်များကိုခွဲဝေပေးလေသည်၊ စီမံအုပ်ချုပ်ရေး တာဝန်ကိုယူရသော ရဟန်းတော်သည် ပြည်နယ်ဆိုင်ရာအကြီးအမှူး ရဟန်းတော်ဖြစ်ရ၏။

### ခရိုင်အဖွဲ့များ

နယ်အသီးသီး (သို့မဟုတ်) ပြည်နယ် အသီးသီး၌ များစွာသော ခရိုင်များ ရှိလေရာ သံဃာတော်များကို အုပ်ချုပ်စီမံခန့်ခွဲရေးအတွက် ခရိုင်အသီးသီး၌ ရဟန်းဝန်ကြီးများက ခန့်သော ခရိုင်သံဃကော်မီတီအဖွဲ့များ တခုစီရှိ၏၊ ခရိုင်သံဃကော်မီတီအဖွဲ့ဝင် ရဟန်းတော်များအား စီမံအုပ်ချုပ်ရေး ပညာရေး ဝါဒဖြန့်ချိရေးနှင့် ပြည်သူ့အများနှင့် သက်ဆိုင်သော အလုပ်ဝတ္တရားများကိုခွဲဝေပေးလေသည်၊ စီမံအုပ်ချုပ်ရေး တာဝန်ကို ယူရသော ရဟန်းတော်သည် ခရိုင်ဆိုင်ရာ အကြီးအမှူး ရဟန်းတော်ဖြစ်၏။

### ကျေးရွာအဖွဲ့များ

တဖန် ခရိုင်အသီးသီး၌ ကျေးရွာပေါင်းများစွာရှိ၏၊ ထို့ကြောင့် ကျေးရွာ အသီးသီး၌ ရဟန်းဝန်ကြီးများက ခန့်သော ကျေးရွာသံဃကော်မီတီအဖွဲ့ တခုစီရှိ၏၊ အဖွဲ့ဝင် သံဃာတော်များသည် အထက်၌ ဖော်ပြခဲ့သည့်အတိုင်း တာဝန်ဝတ္တရား ဌာနကြီး ၄-ခုကို စီမံအုပ်ချုပ်ရလေသည်၊ အထက်ကနည်းအတိုင်း စီမံအုပ်ချုပ်ရေးတာဝန်ကိုယူရသော ရဟန်းတော်သည် ကျေးရွာဆိုင်ရာအကြီးအမှူး ရဟန်းတော်ဖြစ်ရ၏၊ ရွာတရွာမှာ အနည်းဆုံး ဘုန်းတော်ကြီးကျောင်း ၅ ကျောင်းရှိသော ရွာစုသော အရေ အတွက်ကို ရှိမည်ဖြစ်၏၊ ကျောင်းအသီးသီး၌ မိမိနှင့်သက်ဆိုင်သော ကျောင်းကို စီမံအုပ်ချုပ်လျက် ရှိသော နာယက ရဟန်းတော်ကြီးများ ရှိတော်မူကြလေသည်။

သံဃာဘက်ဆိုင်ရာ တရားဌာန အဖွဲ့နှင့် စပ်လျဉ်း၍ သံဃလွှတ်တော်၏အကြံပေးချက်အရ၊ အဖွဲ့ဝင် ရဟန်းတော်များကို သာသနာပိုင်က ခန့်ရလေသည်။

ဤသို့စာအရနှင့် လက်တွေ့ လုပ်ငန်း ၂-ရပ်လုံးမှာပင် ယိုးဒယားအစိုးရသည် စိတ်ပါလက်ပါ လုပ်ငန်းများကို ကူညီခြင်း၊ တာဝန်ကိုယူ၍ သံဃာတော်များ၏အမိန့်များကိုပြီးမြောက်အောင်ဆောင်ရွက် လုပ်ကိုင်ခြင်းများ ပြုလျက်ရှိလေသတည်း။



ပြည်မြို့ပါဠိဝိသောဓကအဖွဲ့မှကျင်းပသည့် ဝိနယပုစ္ဆာမေးပွဲတွင်အောင်မြင်သော အရှင်မြတ်တို့အားဘွဲ့နှင်းသဘင်ဆင်ယင်ကျင်းပပုံ

# အရှေ့တောင်ပိုင်းနိုင်ငံများ၏သာသနာရေး

## အန်ကောဝပ် ကျောင်းတော်ကြီး။ ပထမ ဗြာဟ္မဏ။ ဒုတိယ မဟာယာန။ တတိယ ထေရဝါဒရောက်လာခဲ့သော ကမ္ဘောဒီးယား။ မြင်ကွန်းမင်းသားကြီး၏ သင်းချိုင်းတော်။



ကမ္ဘောဒီးယားဘုရင့်ကခြေသည်တဦး အန်ကောဝပ်သို့ရောက်နေစဉ်

### အရှေ့တောင်ပိုင်း နိုင်ငံများ၏ သာသနာရေး

(ယခင် တပတ် ကွန့်ပ် တို့ သံဃါယနာ စာစောင်တွင် ဖော်ပြခဲ့သည့်အတိုင်း ကမ္ဘောဒီးယား၊ သာသနာပိုင်ဆရာတော် ဘုရားကြီးသည် မြန်မာနိုင်ငံမှ ပြန်ကြတော်မူရာတွင် ယိုးဒယား ကမ္ဘောဒီးယား လာအိုစ် စသော နိုင်ငံများ၏သာသနာရေး ဗဟုသုတများကို လက်တွေ့ဆည်းပူးရန် ဓမ္မဒူတဝိဇ္ဇာလယ ကျောင်းအုပ်ဆရာတော် အရှင်ကေလာသ နှင့် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ အထူးအရာရှိ ဦးဆိုင်ကျော်တို့လည်း သာသနာပိုင် ဆရာတော်ကြီးနှင့်အတူ လိုက် ပါ၍ သွားခဲ့ကြကုန်၏။ ယခုအခါ ထိုပုဂ္ဂိုလ်များ ပြန်လည် ရောက်ရှိ၍ နေကြပြီဖြစ်ရာ၊ ၎င်းတို့၏ မှတ်တမ်းမှ ဗဟုသုတဖြစ်ဖွယ်အချို့ အချက်များကို ထုတ်နှုတ်ဖော်ပြလိုက်ပါသည်၊ အယ်ဒီတာ)

### ပထမဘုရားကြီး

ယိုးဒယား၌ ဗုဒ္ဓဘာသာကျောင်းများ ဘုရားများ အသင်းများတို့ကြွရောက်လှည့်လည်ကြရာ၊ ဘန်ကောက်မြို့မှ (၄၆ ကီလိုမီတာ) ဒကွာရှိ "နခွန်ပထုမ်" ခေါ် စေတီတော်ကြီးကိုလည်းကြွရောက်ဖူးမြော်ခဲ့ကြသည်၊ ထိုစေတီတော်ကြီး၏ ဝင်းနံရံတံတိုင်းများ၌ကမ္ဘောဇ (ကမ္ဘောဒီးယား) ခေါ် ခမင်အက္ခရာဖြင့် ဓမ္မပဒ ပါဠိတော် စသော ဗုဒ္ဓဘာသာ စာပေများ ရေးထုထားသည်ကို တွေ့ရသည့်အပြင် ထိုဒေသကို ကမ္ဘောဇဘုရင်များ အုပ်စိုးခဲ့ဘူးကြောင်းကိုလည်း သိသာရပေသည်၊ "နခွန်ပထုမ်" ဆိုသည်မှာ "နဂရ ပထမ" (ပထမ ဘုရားကြီး) ဟု ဆိုလိုခြင်းဖြစ်ပေသည်၊ ယိုးဒယားပြည်တွင် အကြီးကျယ်ဆုံး ရှေးဟောင်းစေတီတော်ကြီးဖြစ်၏။

### ဓမ်တော်ကား ၄ဝ ကျော်ဖြင့်

(၇-၄-၅၃)' နေ့တွင် ကမ္ဘောဒီးယား "ဖနွမ်းပင်" လေဆိပ်သို့ ဆိုက်ရောက်ကြလေသည်၊ သံဃာတော် ငါးရာခန့်နှင့် လူပေါင်းတထောင်ခန့် ကြိုဆိုနေသည်ကိုတွေ့ရသည်၊ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ လှူဒါန်းလိုက်သော ရုပ်ပွါးတော်နှင့် ပရိက္ခရာများ အသုံးအဆောင်များကိုပြသာဒ်ချထါးပေါ်၌တင်ပြီးနောက် မော်တော်ကား အစီး-၄ဝ ကျော်တို့ဖြင့် စီတန်းလှည့်လည်၍မြို့တွင်းသို့ဝင်ကြရသည်၊ လေဆိပ်မှ သာသနာပိုင် ဆရာ တော် ကြီး ၏ ကျောင်းအထိ ၆-မိုင်မျှရှိသည်။ လှည့်လည်ရာတွင်သာသနာ့အလံတော်ကို ကိုင်စီကိုင်လျက် လက်အုပ်ချီကာ အရိုအသေပြု၍ နေကြသူများကိုဋ၊ အိမ်တိုင်းအိမ်တိုင်း၌ သာသနာ့ အလံတော်နှင့် ကမ္ဘောဒီးယား အလံများ စိုက်ထူထားကြသည်ကို ၎င်း တွေ့ရသည်၊ သာသနာပိုင် ဆရာတော် ဘုရားကြီး ကျောင်းဝင်း အတွင်းသို့လာရောက်သည့်လူများ ပြည့်နှက်စည်ကားလျက် ရှိသည့်တရား ပွဲများကိုလည်း အကြိမ်ကြိမ်ကျင်းပခဲ့သည်၊



အန်ကောဝပ်ကျောင်းတော်ကြီး၌နံရံ၌ ထုလုပ်ထားသည့် ရုပ်လုံးများ

### အန်ကောဝပ်ကျောင်းကြီး

(၁၃-၄-၅၃)သင်္ကြန်နေ့တွင် သာသနာပိုင် ဆရာတော်ဘုရားကြီး၏ ကား ဖြင့် မိုင် ၂ဝဝ မျှဝေး ကွာသော ရှေးဟောင်း "အန်ကောမြို့" "အန်ကောဝပ်ကျောင်းတော်ကြီး"ရှိရာ ဘုရားပွဲသို့ ကြွရောက်ကြသည်၊ ရောက်လျှင် (အန်ကောဝပ်) နှင့် (အန်ကောသုမ်) ရှိ ကျောင်းတော်ရာများကိုလှည့်လည်ကြည့်ရှုကြသည်၊နောက်တနေ့တွင် (အန်ကောဝပ်ကျောင်းတော်ရာ)၊ ဘုရားပွဲသို့ ကြွရောက်ကြသည်၊ ဘုရားပွဲ ဖြစ် မြောက်အောင် ဦးစီးစောင့်ရှောက်၍ကျင်းပသော စစ်ဗိုလ်ချုပ်ကြီးနှင့် ဇနီးတို့က နေ့ဆွမ်း ဆက်ကပ်လှူဒါန်းသည်၊

### ဗြာဟ္မဏမဟာယာန ထေရဝါဒ

ကမ္ဘောဒီးယား (ကမ္ဘောဇ) သို့ အိန္ဒိယပြည်မှ ဗြာဟ္မဏအယူဝါဒ ရှေးဦးစွာ ရောက်လာဘူးသည့်အတိုင်း၊ လိင် ပူဇော ထုလုပ်ထားသော ရုပ်ပုံများကို တွေ့ရသည်။

ဗြာဟ္မဏဘာသာရောက်လာပြီးနောင် မဟာယာန ဗုဒ္ဓဘာသာ ရောက်လာပြန်သဖြင့် ဘုရားအလောင်း (အဝလောကိတေသွရ) ရုပ်ပုံများ ထုထားသည်ကိုလည်းတွေ့ရသည်၊

၎င်းနောက် ထေရဝါဒ ဗုဒ္ဓဘာသာ ရောက်လာပြန်သည့်အတိုင်း [မြန်မာပြည်မှာကဲ့သို့] ဗုဒ္ဓဘာသာ ရုပ်ပွါးတော်များ ထုလုပ်ထားသည့်ကိုလည်း တွေ့ရသည်။

(၁၅-၄-၅၃) နေ့တွင် သာသနာပိုင် ဆရာတော်ဘုရားကြီးကျောင်းသို့ ပြန်လည်ရောက်ရှိကြပြီး နောက်သင်္ကြန်တက်သည့် နေ့ဖြစ်သည့် အတိုင်း လှူဖွယ်ဝတ္ထုပစ္စည်းများဖြင့် လာရောက် လှူဒါန်းကြသည်ကိုတွေ့ရသည်၊

### ဆဋ္ဌသံဂါယနာတင်ပါ

(၁၆-၄-၅၃) နေ့ တွင် အသက် သိက္ခာအကြီးဆုံး ဖြစ် သော ဝပ်လင်္ကာကျောင်းတိုက်ဆရာတော်ကြီး၏ ၇၅ နှစ်မြောက်မွေးနေ့ အထိမ်းအမှတ်ပွဲ ကျင်းပရာ၊ ညဉ့်ဘက်တွင် အရှင်ကေလာသ တရား ဟောသည်၊ ဆဋ္ဌသံဂါယနာ အကြောင်းအရာများကို ထည့်သွင်း ပြောကြားရာ သာသနာပိုင် ဆရာတော်ဘုရားကြီး၏တပည့်က ကမ္ဘောဒီးယားဘာသာဖြင့် ပြန်ဆိုသည်၊ ဟောကြားချက်များကိုလည်း များစွာနှစ်မြို့က်ပုံတွေ့ရသည်၊

### မြင်ကွန်းမင်း၏သင်းချိုင်း

(၁၇-၄-၅၃) နေ့တွင် မြင်ကွန်းမင်းသားကြီး၏ သျှီးတော် ဒေါ်မြ၏ပင့်ဖိတ်ချက်အရ ဆေဂုန်မြို့ ဒေါ်မြ၏ တိုက်သို့ကြွရောက်ကြသည်၊ ဆွေးနွေးပွဲ တောပြောပွဲ အများပင်ပြုလုပ်သည်၊ ထေရဝါဒ ဘုန်းကြီးကျောင်း အနည်းငယ်နှင့် မဟာယာန ဘုန်းကြီးကျောင်း များကိုလည်းသွားရောက်လှည့်လည်ခဲ့သည်၊

(၂ဝ-၄-၅၄)' နေ့တွင် မြင်ကွန်းမင်းသားကြီးနှင့် မယ်တော် သင်းချိုင်းသို့ သွားရောက်၍ သရဏဂုံတင်ခြင်း မေတ္တာပို့ခြင်းများကိုပြုလုပ်ခဲ့သည်၊

(၂၁-၄-၅၃) နေ့တွင် [ဖနွမ်ပင်] သို့ပြန်ရောက်သည်။

(၂၄-၄-၅၃) နေ့တွင် ဘန်ကောက်မြို့သို့ ပြန်ရောက်သည်၊ လှည့်လည်ကြည့်ရှုခြင်း, တရားဟောခြင်း, ဆွေးနွေးခြင်းများကို အကြိမ်ကြိမ်ပြုခဲ့သည်၊

# ေရး ႀကြလမ်းငွေလမ်းဖောက်ခဲ့ကြပုံများ

## ၁၂၁ ရဟန်း ၅၆၇၃ သာမဏေ ၈၂၉၇ ရှိသည်ဆိုခြင်း

ထောင်ခန့်ထိုခဲ့သည့် မြန်မာကိုလိုနီဘိုင်းလား ခေါ် ဘက်တွင်းနယ်ရှိနေ၏၊ ထိုနယ်ကို အာနန် ယုဝ်း ား၊ ထောင်ကွ၊ ကမ္ဘောဒီးယား ဟုခေါ်သာပြည်နယ် ပိုင်းခဲ့လျက် ရှိလေသည်။

### သစ်လက်သို့

တာမိုင်တို့သည် ဒိဗ် ဂို၏ ရှေးဟောင်းမြို့တော်တခု သော လွှမ်းပရာဘန်းကို ၁၆–ရာစုနှစ် အလယ် က်၌စွန့်လွှတ်ကြပြီးလျှင် ဗြိယန်တိုင်းမြို့တော်သစ် သည့်ထောင်ခဲ့ ကြလေသည်။ ပြင်သစ်လူမျိုးများအင် နှိုချိန်းနားသို့ တက်ရောက်၍သိမ်းပိုက်စ အခါဆီ က လွှမ်းပရာဘန်းမင်း ‘လာဝို့ဘုရင်’ သည် ယိုးဒယား၏ လက်အောက်ခံဘာဝ်ရှိလသည်။ ထိုခေါ်မင်းကို အင်လိပ် တို့ ဖမ်းယူ သည့် နှစ် သ ကြရာ ဇ ၁၀၈၆–ခုနှစ်၌ ပြင်သစ် တို့က လွှမ်းပရာဘုန်းတွင်ပြင် အရာရှိတဦးခန့်ထားခဲ့လေသည်။ ၁၈၉၅ ခုနှစ်၌ ဒို့နယ်များကို ပြင်သစ်တို့လုံးဝသိမ်းပိုက်ခဲ့လေသည်။ ယ ကမ္ဘာစစ်ကြီး အတွင်း၌ (ဂျပန်များလက်နက် နောက်) အထက်ပိုင်း လာဝို့ နယ်များ အဘွက် ဘင်းနှင့် ပြင်သစ်တို့ စကားများခဲ့ ရလေသေးသည်။ သော်မကြာမီ အတွင်းမှာပင် မြောက်ဘက် တောင် နယ် အတွင်းရှိ သောနယ်၌ တရုပ် တပ်သားများ သဘောတူဆုတ်ခွါ၍ပေးလိုက်သဖြင့် ပြင်သစ် တပ် ပေါင်း ၄၀၀၀–ခန့် ဝင်ရောက်ဘုန်းဖွဲ့ခဲ့လေသည်။




ဆင်္ဂသံဂါယနာတင် ကိစ္စနှင့် ပတ်သက်၍ လာဝိုစ့်ပြည်ဘုရင် စီစာဘောင်ဝမ်း က မြန်မာနိုင်ငံတော်သို့ စေလွှတ်တော်မူလိုက်သော သာသနာရေး မိတ်ဆက်အဖွဲ့သည် ၁၇–၄–၅၃ ရက်နေ့က မြန်မာနိုင်ငံ မင်္ဂလာဒုံလေဆိပ်သို့ ဆိုက်ရောက် လာခဲ့ပေသည့် ထိုအဖွဲ့၌ လာဝိုစ့်ပြည် သာသနာရေးဌာန အဘွင်းဝန်နှင့် ဆရာတော် ၃–ပါး ပါလာကြလေသည်။

သာသနာရေး မိတ်ဆက်အဖွဲ့ မြန်မာနိုင်ငံ၌ရှိနေချိန်မှာပင် လာဝိုစ့် ပြည်တွင်းသို့ ဗီယက်နန်တပ်များ၏ ကျူးကျော်သိမ်းပိုက်မှုကြောင့် အရှေ့တောင်ပိုင်း နိုင်ငံများ၌ ၎င်း၊ ကမ္ဘာ့ကုလသမဂ္ဂ၌ ၎င်း ဂယက်ရိုက်လျက်ရှိလေသည်။

### အပြန်အလှန်ပေးလှူပွဲ

၃၀-၄-၅၃ နေ့နံက် ၇–နာရီခွဲ အချိန်တွင် ရန်ကုန် မြို့ ကုက္ကိုင်း သာသနာ့ရိပ်မြုံ ဗလာဝလ သာ မဇ္ဈာ ရုံကြီး၌ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ က လောပြည်မှ ပြန်လာတော်မူသော သာသနာရေး မိတ်ဆက် အဖွဲ့ဝင်ရဟန်းတော်သုံးပါး အားဆင်းထုတော်သုံးဆူ ပိဋကတ်တော်ဘာနံ့တိပိဋကကျမ်းစုံ သပိတ်ကိုးလုံး ထီးကိုးလက် သိနပ်ကိုးရံ ပါဝင်သော လှူဘွယ်ဝတ္ထုတို့ကို၎င်း လောပြည် သာသနာရေး မိတ်ဆက် အဖွဲ့က လောပြည်ဘုရင်က မြန်မာပြည်ရှိ ဆရာတော်သံဃာတော်များအတွက် လှူဒါန်းလိုက်သော တိပိဋကသက်န်းငါးစုံ ကို၎င်း လှူဒါန်းပေးအပ်သည့်အခမ်းအနားတရပ်ကို ကျင်းပရာ ထို အခမ်းအနားသို့ အဂ္ဂမဟာပဏ္ဍိတ ညောင်ရမ်းဆရာတော်ဘုရားကြီး အမှူးရှိသော ဆဋ္ဌသံဂါယနာဝန်ဆောင်သံဃာ အဖွဲ့ဝင် ဆရာတော်များ နိုင်ငံတော် တရားလွှတ်တော်ချုပ် ဘရုံးဝန်ကြီးချုပ် သတိုးသီရိ သုဓမ္မ ဦးသိမ်းမောင် အမျိုးသားစီမံ ကိန်းနှင့် သာသနာရေးဝန်ကြီးဦးဝင်းနှင့် ဘဏ္ဍာရေးဝန်ကြီး ဦးတင်တို့အမှူးရှိသော နိုင်ငံတော် ဗုဒ္ဓသာသနာအမှုဆောင်အဖွဲ့ဝင် လူကြီးများနှင့် ရန်ကုန်မြို့ရှိ သာသနာရေး အသင်းအဖွဲ့များမှ ကိုယ်စားလှယ်တော်များ ကြွရောက်ကြလေသည်။

အခမ်းအနားကို သာသနာရေးဌာန အထူးအရာရှိ ဦးဘဆွေက စတင်ဖွင့်လှစ်ပြီးနောက် လောပြည် သာသနာရေးမိတ်ဆက် အဖွဲ့ဝင် ရဟန်းတော် သုံးပါးက အဂ္ဂမဟာ ပဏ္ဍိတ ညောင်ရမ်း ဆရာတော်ဘုရားကြီးအား လောဘာသာဖြင့် ညီညာစွာရွတ်ဆိုကန်တော့ကြ လေသည် ထို့နောက် ညောင်ရမ်းဆရာတော်ဘုရားကြီးက ပဋိသန္ထာရစကား အနည်းငယ်မိန့်ကြားတော်မူပြီး နောက် လောဘုရင်မင်းမြတ်က လှူဒါန်းလိုက်သော တိပိဋကသင်္ကန်းငါးစုံကို အလှူခံတော်မူလေသည်။ ထို့နောက် နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့ဥက္ကဋ္ဌကြီးသတိုးသီရိသုဓမ္မ ဦးသိမ်းမောင်

သာသနာရေး ဝန်ကြီး ဦးဝင်းနှင့် နိုင်ငံတော်ရှေ့နေ ချုပ်ကြီး သတိုး မဟာသရေစည်သူ ဦးချန်ထွန်း အကျိုးဆောင်စာချီတို့ကဆင်းသုတော်စသည်တို့ကိုအဖွဲ့ဝင်းအကိုယ်စားညောင်ရမ်း ဆရာတော်ကြီးမှ တဆင့် လောပြည် သာသနာရေး မိတ်ဆက်အဖွဲ့ဝင် ရဟန်းတော် များအား ဆက်ကပ်လှူဒါန်းကြလေသည်၊ ထိုနောက် ဆဋ္ဌသံဂါယနာဝန်ဆောင် သံဃာအဖွဲ့ဝင်ဆရာတော်များနှင့် လောပြည် သာသနာရေး မိတ်ဆက်အဖွဲ့ဝင် ရဟန်းတော်များသည် ဆဋ္ဌသံဂါယနာတင် ကိစ္စနှင့်ပတ်သက်၍ ဆွေးနွေးဘိုင်ပင်တော် မူကြပြီးနောက် နံက် ၉–နာရီအချိန်တွင် အခမ်းအနားကို ရုတ်သိမ်းလိုက်လေသည်။

၎င်းနေ့နံက် ၁၁–နာရီ အချိန်တွင် ဆဋ္ဌသံဂါယနာဝန်ဆောင် သံဃာအဖွဲ့ဝင် ဆရာတော်များနှင့် လောပြည် သာသနာရေးမိတ်ဆက်အဖွဲ့ဝင် ရဟန်းတော်များအားနိုင်ငံတော်ဝန်ကြီးချုပ် ဦးနုက မိမိ၏နေအိမ်တွင် နေ့ဆွမ်းဆက်ကပ်လှူဒါန်း၍ နိုင်ငံတော်ဗုဒ္ဓသာသနာ အမှုဆောင်အဖွဲ့ဝင်လူကြီးများအားလည်း နေ့လည်စာဖြင့်ကျွေးမွေးဧည့်ခံလေသည်။

ထို့နောက်နိုင်ငံတော် ဝန်ကြီးချုပ်က ဆဋ္ဌသံဃာယနာဝန်ဆောင် သံဃာအဖွဲ့ဝင်ဆရာတော်များ အား ဆဋ္ဌသံဂါယနာနှင့် စပ်လျဉ်း၍ လျှောက်ကြားကာ ဆရာတော်ကြီးများ၏ ဩဝါဒကို နာယူလေသည်။

လာဝိုစ့်မစ်ရှင်အဖွဲ့သည် ၁–၅–၅၃ နေ့က ပြန်ကြတော် မူသွားကြပြီ ဖြစ်ကြောင်း၊၊

## လာဝို့ သာသနာရေး

### လာဝို့တိုင်းပြည် သာသနာရေးဝန်ကြီးမှ ရှုဖေါင်ဖေါင်

#### Ph. Phouvong ၏ ရေးသားချက်မှ ပြန်ဆိုချက်

လာဝို့ပြည်တွင် ဗုဒ္ဓဘာသာကို တိုင်းရင်းဖြစ ဘာသာ အသိအမှတ်ပြုထား၏၊ လာဝို့ပြည်တွင် သံဃာတော် များ အား နိုင်ငံရေးနှင့် အုပ်ချုပ်ရေးအဖွဲ့များ ကဲ့သို့ပင် စီမံထားလေသည်၊ အစိုးရ၏ ကူညီချက်ကြောင့် ဗုဒ္ဓဘာသာ သာသနာရေး လုပ်ငန်းမှာလည်း အဘက်ဘက်မှ တိုးတက်လျက်ရှိလေသည်။

#### သံဃာအဖွဲ့

လာဝို့ပြည် သံဃာအဖွဲ့တွင် ရဟန်းတော်ပေါင်း ၅၆၇၃ မျှရှိ၏၊ သာမဏေပေါင်း ၈၂၉၇-ပါးမျှရှိ၏၊၎င်း ရဟန်းတော်များနှင့် သာမဏေများသည် ရွာပေါင်း ၁၀၃၅၄–ရွာရှိ ကျောင်းပေါင်း ၂၁၂၁ ကျောင်းတို့၌ ဖြန့် ၍ သီတင်းသုံးနေထိုင် ကြ ကုန်၏၊ လာဝို့ပြည်၏ လူဦးရေ ၅ ပုံ–၁ ပုံသည် ဗုဒ္ဓဘာသာဝင်များဖြစ်ကုန်၏ (လူဦးရေ နှစ်သန်းခွဲခန့်ရှိသည်ဟု) မြန်မာနိုင်ငံသို့ကြွလာသော မစ်ရှင်အဖွဲ့မှ မိန့်ကြားချက်အရ သိရသည်။

၁၉၅၁–ခုနှစ်တွင် ဘုရင်၏အမိန့်အရ လာဝို့ပြည်သံဃာအဖွဲ့ကြီးကို ပြန်လည်ဖွဲ့စည်းခဲ့လေသည်၊ ဘုန်းတော်ကြီးများကို မဲဖြင့်ရွေးကောက်ခဲ့၏၊ ရွေးကောက်ခံရသော ဘုန်းတော်ကြီးပေါင်း ၂၃၈၈ ပါးမျှရှိ၏၊ ၎င်းအနက် သံဃာ ရာဇာခေါ် သာသနပိုင်ဘပါး၊ သံဃာအဖွဲ့ဝင် အတိုင်ပင်ခံ ငါးပါး၊ ဂိုဏ်းထောက် ၁၁–ပါး ဒေသဆိုင်ရာ သာသနာရေးအရာရှိ ၂၉၅ ပါးနှင့်ကျောင်းထိုင်ပုဂ္ဂိုလ်ပေါင်း ၂၀၂၁ ပါးတို့ဖြစ်လေသည်၊ သို့သော် သာသနာပိုင်နှင့် ၎င်း၏အတိုင်ပင်ခံများကို အမြဲသနေအရ ရွေးကောက်ခြင်းမပြုခဲ့ရပေ၊



ဘုရားများ ကြီးမှူး၍ ကမ္ဘောဒီးယားသို့ ဝင်ရှိကြ၍သာရဏဂုံတင်တော်မူကြစဉ်



နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ လာဝိုစ့်မစ်ရှင်သို့ လှူဘွယ်ဝတ္ထုများကို ပေးလှူသည့်အခမ်းအနားတွင်

# ဆဋ္ဌသံဂါယနာနှင့်ကျွန်းသီဟိုဠ်

## အစွမ်းကုန်ကူညီပါမည်-ဟူသောကတိကို မြန်မာမစ်ရှင်အဖွဲ့ကရခဲ့ခြင်း



အမျိုးသား စီမံကိန်းနှင့် သာသနာရေး ပန်ကြီး ဦးဝင်

သံဃာတော်များဘက်မှ ညောင်ရမ်းဆရာတော်ဘုရား ခေါင်းဆောင်၍၎င်း၊ လူပုဂ္ဂိုလ်များဘက်မှ သာသနာရေး ဝန်ကြီး ဦးဝင်းခေါင်းဆောင်၍၎င်း မြန်မာမိတ်ဆက်အဖွဲ့သည် ဇန္နဝါရီလ ၁၆ ရက်နေ့က သီဟိုဠ်ကျွန်းသို့ ရောက်သွားကြလေသည်။ ကိုလံဘို လေယာဉ်မျက်ဆိပ်တွင် သီဟိုဠ်အစိုးရအဖွဲ့ဝင်များနှင့် ဘာသာရေးဆိုင်ရာအသင်းအဖွဲ့ သံဃာတော်များပါ လာရောက် ကြိုဆိုကြ၏။ လူပုဂ္ဂိုလ်များကို အစိုးရ ဧည့်သည်တော်များအဖြစ် ဟော်တယ်တွင် တည်းခိုစေလျက် သံအမတ်ကြီး ဦးတင့်ဆွေက သံဃာတော်များအတွက် တာဝန်ယူပြုစုခဲ၏။

### သွားရခြင်းအကြောင်း

မြန်မာမိတ်ဆက်အဖွဲ့သီဟိုဠ် ကျွန်းသို့ သွားခြင်း အကြောင်းရင်းမှာ မြန်မာနိုင်ငံက အကြီးအမှူးပြု၍စုပေါင်းတင်ညှိဆဋ္ဌသံဂါယနာ ကိစ္စတွင်ထေရဝါဒနိုင်ငံများနှင့်တညီတညွတ်တည်း သဘောတူ ပြုလုပ်နိုင်ဖြစ်၏။ ထိုကိစ္စကို သာသနာရေး ဝန်ကြီးက ရှင်းလင်းပြောပြရာသီဟိုဠ်ကျွန်းရှိ ဗုဒ္ဓဘာသာဝင်တရပ်လုံးက အင်အားရှိသလောက် ကူညီရန်ဝမ်းသာ အားရကတိပြုကြလေသည်၊ မြန်မာမိတ်ဆက် အဖွဲ့များလာ လိမ့်မည် ဟူသော သတင်းကြား စကပင် ရောက်လျှင် မည်သို့မည်ပုံ ဆောင်ရွက် ကြမည်ကို စည်းဝေးဆုံးဖြတ်နှင့်ပြီးဖြစ်သည်။



လာအိုစ်မင်ရှင်အဖွဲ့ ဘုရင်ကောဝက်ကဆီဆု မန္တလေး–လူထုမူဓော်ဖွဲ့တွင်မိန့်ခွန်း ပြော်ကြားနေပုံ။

သံဃာအဖွဲ့ကသည် သံဃာအဖွဲ့၏သာသနာပိုင်ဖြစ်၏။ အတိုင်ပင်ခံ သံဃာများသည်လည်း သံဃာအုပ်ချုပ်ရေး၌တာဝန်ခံ၍ ဆောင်ရွက်တော်မူကြရ၏။ သံဃာသာဂ္ဂီ (သံဃာအဖွဲ့ကြီး) ၏ ဆုံးဖြတ်ချက်ကိုမနှောင့်ဘဲ သာသနာပိုင် ဆရာတော်က မည်သည့်ကိစ္စကိုမျှ ဆုံးဖြတ်ပိုင်ခွင့်မရှိချေ။

### ဘာသာရေးသင်ကြားမှု

လာအိုပြည်တွင် ပါဠိဘာသာကိုသင်ကြားပေးနေသော ကျောင်းပေါင်း ၇၁ ကျောင်းတို့၌ ဗုဒ္ဓဘာသာတရားကို သင်ကြားပေးသော ရဟန်းတော် ၁၃၀ မျှပါဝင်သည့် ဘာသာရေး အသင်းကြီး ရှိလေသည်။ စာသင်သား ရဟန်းတော် သာမဏေများပါ ၂၄၁၂ ရှိလေရာ အောက်တန်းပညာကိုသင်ကြားသူ ၆၆ မှလတန်းပညာကို သင်ကြားနေသူ–၂၁၆၆ မျှရှိလေသည်။ လာအိုပြည်ဘာသာသင်ကြားရေးအတွက် အေဗ်တန်းအချာဖြစ်အောင် မြင့်ပြီး ရဟန်းတော်များသည် ကမ္ဘောဒီးယား ပြည် (Phnom-Penh) ဖနွန်းပင်မြို့တော်ရှိ ပါဠိဘာသာအထက်တန်းကျောင်းများ၌ပါဠိဘာသာကိုဆက်လက်သင်ကြားလျက်ရှိကြ၏၊ ယခုအခါ ဗီယင်နန်တွင်လည်း ပါဠိဘာသာ အထက်တန်းကျောင်း တကျောင်းဆောက်လုပ်လျက်ရှိလေသည်၊

စာပေဆရာ ဟောင်းဆောင်များသည် မြို့ကြီးများနှင့် မြို့ကြီးများ၏ ဆင်ခြေဖုံးများတွင် နေထိုင်လျက်ရှိကြသော ပုဂ္ဂိုလ်များကို ဉာဏဗလ စာရိတ္တဗလ တိုးပွါးစေလေသည်၊ နေကြီး ရက်ကြီး များတွင် လာအိုပြည် အသံလွှင့် ဌာနမှနေ၍ ဗုဒ္ဓဘာသာနှင့် ပတ်သက်သော ဆောင် မြင်ချက်များကို အသံလွှင့်နိုင်သည်မှာ ထိုရဟန်းတော်များ၏ ကျေးဇူးပင်တည်း။

၎င်းဘာသာရေးအဖွဲ့ကြီးက ပါဠိဘာသာ သင်နေသော ကျောင်းများ မှ ကျောင်းသားများအတွက် ဘာသာရေးဆိုင်ရာ စာအုပ်စာတန်းများကို ထုတ်ဝေလျက်ရှိ၏။ ပြည်သူ ပြည်သားများ အတွက်လည်း ဗုဒ္ဓဘာသာ စာအုပ်များကို ပုံနှိပ်ထုတ်ဝေခဲ့လေသည်။

### ရှေးဟောင်းပစ္စည်းများ

ရှေးဟောင်း ကျောက်စာဘက်ဆိုင်ရာဌာနနှင့်ပတ်သက်၍ အရှေ့ဖျားနိုင်ငံများဆိုင်ရာပြင်သစ် ကျောက်စာအဖွဲ့ ပြင်သစ် ကျောက်စာအထက် သင်ကျောင်း Frenck mnstrtute မှ ၁၉၅၀ ပြည့်နှစ်တွင် လာအိုစ်ပြည်အစိုးရသို့ လွှဲပြောင်းပေးအပ်ခဲ့လေသည်။၎င်းကဲ့သို့လွှဲအပ် ပေးသောကြောင့် ယခု အခါဝယ် The National Service of Histoncal Manuments ခေါ် ရာဇဝင်ဆိုင်ရာ အမျိုးသားလုပ်ငန်းဌာနတခုပေါ်ပေါက်၍လာခဲ့ရလေသည်၊ရာဇဝင်နှင့် သက်ဆိုင်သောအဆောက် အဦ ၇၅-ခုတို့ကိုပြုပြင်ခြင်း စောင့်ရှောက်ခြင်းများကို ပြုခဲ့လေသည်၊၎င်းတို့အနက် အဆောက် အဦများ၌ဘုတ်မှာ ဗုဒ္ဓဘာသာ အဆောက်အဦများ ဖြစ်ကုန်၏။ ဗုဒ္ဓဘာသာဆိုင်ရာအနုပညာရပ်များ တာရှည်ခံမြင့်စွာတည်တံ့နိုင်အောင် အုပ်ချုပ်စီမံရန်အတွက် ၎င်းအဖွဲ့ကြီးကို တိုင်းပြည်ကလည်း အားထား ယုံကြည်လျက် ရှိလေသည်။

### အချိန်မပေးနိုင်အောင်

မြန်မာမိတ်ဆက်အဖွဲ့မှာ သီဟိုဠ်ကျွန်းတွင်အချိန်များစွာ မရသဖြင့် အသင်းအဖွဲ့အသီးသီးတို့၏ဖိတ်ကြားလက်ရှိအားပါ၊တရည့်ခံကြမည်ကိုအချိန်မပေးနိုင်ကြပေ။သို့ကြောင့် ပြည်ထဲရေးဝန်ကြီးက အဖွဲ့များအား တနေ့ရာတွင် တချိန်တည်းစုရုံးစေကာ ဧည့်ခံပွဲကိုကျင်းပ ပေးလေသည်၊ သာသနာရေးဝန်ကြီး၏ မိန့်ကြားချက်ကို အထူးပင် နှစ်သက်ကြလျက် မြန်မာနိုင်ငံ၌ဆဋ္ဌသံဂါယနာ တင်မည့်ကို အနေအထိုင်ရ ခက်အောင်ပင် ချီးကျူးကြလေသည်။ သို့ကြောင့် ၎င်းကိစ္စမျိုးကို တကယ်တန်း လုပ်ဆောင် လိုပါက မိမိတို့ အစိုးရကို ပဌမဆုံး အင်အားဖြည့်ပေးပါမှ မြန်မာ ပြည်မှာ ကဲ့သို့ ကောင်းနိုးရာရာ ရွေးချယ် လုပ်ဆောင်နိုင်မည် ဖြစ်ကြောင်းနှင့် သီဟိုဠ်အစိုးရဘက်ကအကောအကွယ်ပေး၍ဟောပြောပြီးနောက် မြန်မာပြည်မှ သကျသီဟ, စေတီယင်္ဂဏ ဝိုင်အမ်ဘီအေစသောအသင်းအဖွဲ့များမှာ အစိုးရက မှက်နှာ လွှဲရလောက်အောင် ဘာသာရေး သာသနာရေးကိစ္စများ ဆောင်ရွက် လုပ်ကိုင်နေကြောင်းများကိုဆက်လက် ဟောပြောရာ ပရိသတ်များ အထူးပင် နှစ်သက်အားကျကြကြောင်း။

### ဆေးရုံကြီးတရုံ

သီဟိုဠ်မှ မြန်မာမိတ်ဆက်အဖွဲ့ဝင်တို့ ရရှိခဲ့သော ကတိမှာ ပိဋကတ်တော်များကို သီဟိုဠ်ရှိမူ အမျိုးမျိုးဖြင့် တိုက်ဆိုင်တည်းဖြတ်ပေးခြင်းနှင့် မြန်မာပြည် ဆဋ္ဌသံဂါယနာ အဆောက် အဦးများတွင် ဆေးရုံကြီးတခု တည်ဆောက် နိုင်ပင်ဖြစ်လေသည်။သီဟိုဠ်သံဃာတော်၁၅၀–မျှလောက် ဝိဇ္ဇာလင်္ကာရ ဆရာတော်၏ ကျောင်းတွင် ပိဋကတ်တော်များ တည်းဖြတ် သုတ်သင်နေသည်ကိုလည်း မြန်မာ မိတ်ဆက်အဖွဲ့က ဝင်းမြောက်ဖွယ် ဖူးတွေ့ခဲ့ရ၏၊ ထိုဝိုင်မြန်မာပြည်သို့ လာရောက်ပြီး တရား အားထုတ် လိုသော ရဟန်းတော် ၆–ပါး အတွက်ကိုလည်း တာဝန် ယူခဲ့ကြလေသည်၊

### ကြည်ညိုကြပုံ

သီဟိုဠ် ကျွန်းသူ ကျွန်းသားတို့သည် မြန်မာပြည်မှ ဆရာတော်ကြီးများကို အထူးပင် ကြည်ညိုလေးစားကြ လေသည်။ ၎င်းကဲ့သို့သိကျွာ သမာဓိနှင့် ပြည့်စုံသော သံဃာများကို ၎င်းတခါသာ ဖူးတွေ့ရဘူးကြောင်းဖြင့် ဖွင့်ဟ ချီးကျူးကြလျက် သာသနာရေး ဝန်ကြီး အား သီဟိုဠ်တွင် လာ၍ အုပ်ချုပ်နေပင် တောင်းပန် ကြသည်ကို ●ောက်၍ သီဟိုဠ်နှင့် မြန်မာ အဘယ်မျှ ငြင်းနှီးသွားသည်ကိုခန့်မှန်းနိုင်ပေကြောင်း။

မိတ်ဆက်အဖွဲ့ဝင်များသည် သက်နှင်းနှင့် အလှူငွေများကို တတ်အား သမျှ လှူဒါန်းပြီးနောက် ဘေးမသီ ရန်မခဘဲ မြန်မာနိုင်ငံသို့ ပြန်လည် ရောက်ရှိသောကြပေကြောင်း။



မြန်မာနိုင်ငံမှရှူဒါန်းလိုက်သောပစ္စည်းများကို ကမ္ဘောဒီးယားသို့အရောက်တွင်ရိုက်ကူးထားပုံ

# ဗုဒ္ဓနေ့နှင့် ညောင်ရေ

## ပူဇော်ပွဲများ

ကဆုန်လပြည့်နေ့ နံနက်က ရန်ကုန်မြို့ ရွှေတိဂုံစေတီတော်တွင် ညောင်ရေသွန်းပွဲ အခမ်းအနားကို နိုင်ငံတော် သမတကြီး ဒေါက်တာဘဦးကိုယ်တိုင် တက်ရောက် ဖွင့်လှစ်ပြီး ညောင်ရေ သွန်းလောင်းကြလေသည်။

သမတကြီးသည်နံနက် ၆ နာရီ ၁၀ မိနစ်အချိန်တွင် တောင်ဘက်မုခ်ဦးတော်ရင်း သို့ရောက်ရှိလာရာနိုင်ငံတော်တရားဝန်ကြီးချုပ်ဦးသိန်းမောင် သာသနာရေးဝန်ကြီး ဦးဝင်း ကဆုန်ညောင်ရေသွန်းပွဲတော် စီစဉ်ရေး အဖွဲ့ဝင်လူကြီးများနှင့် ရွှေတိဂုံဘဏ္ဍာထိန်းအဖွဲ့ဝင်လူကြီးများက ကြိုဆို၍ ကုန်းတော်ပေါ်သို့တက်ကြကြောင်း။

ထို့နောက် ကဆုန်ညောင်ရေသွန်းပွဲ အခမ်းအနား ကျင်းပရာ အင်္ဂါထောင့် ဗောဓိပင်ရှိရာ မဏ္ဍပ်သို့ ရောက်ရှိလာရာ စည်တော်ခွန်း၍ကြိုဆိုကြကြောင်း။ ထိုအခမ်းအနားသို့နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု ဝန်ကြီးချုပ် ကတော် ဒေါ်မြရီ ဟသ်ဘဦးမြ ကရင်ပြည်နယ် အဓိုးရ သာသနာရေးဝန်ကြီး မန်းမြစိန် ရန်ကုန်မြို့တွင် ရောက်ရှိနေသော အမေရိကန် ပြည် ဒီမိုကရက်တစ်ပါတီ ခေါင်းဆောင် မစ္စတာစတီဗင်ဆင်အမေရိကန်သံအမတ် မစ္စတာဆီးဘောလ် စသော ပုဂ္ဂိုလ်များနှင့် ဆရာတော်ကြီးများမှာ သမတကြီး အရင် ကြိုတင်ရောက်ရှိနေကြကြောင်း။

နံနက် ၆–နာရီခွဲ အချိန်တွင် ညောင်ရေသွန်း ပွဲတော် အခမ်းအနားကို စတင်ရာ သာသနာ့ရေးဌာန အရာရှိ ဦးဘဆွေက သမ္မာဒေဝနတ်များကို ဝင့်ဖိတ်ပြီးလျှင် သမတကြီးက မဟာဗောဓိ ဒုမနောသော အစရှိသောဂါထာကို ရွတ်ဆို၍အခမ်းအနားကို စတင်ဖွင့်လှစ်လိုက်ကြောင်း။

ထိုနောက် နိုင်ငံတော် သမတကြီးနှင့် ပရိသတ် များသည် နှင်ကို့ပ် ရှစ်ဆူ ဆရာတော် အမှူးရှိသော ဆရာတော်ကြီး ကိုးပါးထံမှ သီလခံ ယူ၍ အ နေကဇာ တင်နှင့် မေတ္တာ သုတ် ပရိတ်တော်များကို နာယူကြပြီးလျှင်အမျိုးသား ဗိမာန်နှင့် သာသနာရေးဝန်ကြီး ဦးဝင်း ကညွှန်သယ ဇိနံ ဗုဒ္ဓ အစရှိသောဂါထာ ဖြင့် ရေချမ်းကပ်လှူ လေသည်။

၎င်းနောက် နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့ ဒုတိယ ဥက္ကဋ္ဌ တရားဝန်ကြီးချုပ် သတိုးသီရိ သုဓမ္မ ဦးသိမ်းမောင် က ညောင်ရေသွန်းလောင်း ပူဇော်ခြင်း အကြောင်း ပြောကြားပြီးလျှင် အရှေ့လေး မျက်နှာမှ ဖြူ့ဖွာ,နတ်,နဂါးနှင့်ဂဠုန်တို့ က မန္တာန်များရွတ်ဆိုကာ အသီးသီး အစဉ်အလိုက်ညောင်ရေသွန်းလောင်းကြ လေသည်။ နောက်သမတကြီးဝန်ကြီးချုပ် တရားဝန်ကြီးချုပ်နှင့် သာသနာရေး ဝန် ကြီးစသော ပုဂ္ဂိုလ်များက သွန်းလောင်း ကြ၏။

ထို့နောက် အရပ်လေးမျက်နှာမှ အ မျိုးသမီး ၆၄-ဦးတို့က ရှင်လုံးဖွဲ့ကဗျာများ ရွတ်ဆိုကာ အလှည့်ကျရေသွန်းလောင်း ကြပြီး ဦးလှစိန်က ဖေတ္တာပို့ အမှုဝေ၍ သမတကြီးနှင့် ပရိသတ်အပေါင်းကသာဓု ခေါ်ကြကာ ကြေးစည်ပုံမောင်းတူရိယာ များတီးမှုတ်စေလျက် ညောင်ရေသဘင် အခမ်း အနားကို ယုတ်သိမ်း လိုက်လေ သည်။



၁။ ရန်ကုန်ညောင်ရေသဘင်၌ ရွှေတိဂုံ ကုန်းတော်ဘုရားကြီးပေါ်မှ ကြည့်နေသည့်ပရိတ်သတ်အချို့



၂။ နိုင်ငံတော်သမတကြီးကဗုဒ္ဓအလံတော်ကိုလွှင့်တင်နေပုံ



၃။ နိုင်ငံတော်သမတကြီးနှင့်ဝန်ကြီးချုပ်တို့ကြိုမှု၍ ညောင်ရေသွန်းလောင်းနေစဉ်

### နိုင်ငံတော် တရားဝန်ကြီးချုပ် ၏ဟောကြားချက်

ဂေါတမမြတ်စွာဘုရားသည် ဗောဓိ ညောင်ပင်၌ ပွင့်တော်မူခဲ့၍ ဗောဓိညောင် ပင်သည် မြတ်စွာဘုရား၏ပရိဘောဂ အ ဖြစ်နှင့် ဗေဒီသို့ကိုသော ဗေဒီယရက္ခ ဗောဓိယာဒုမဖြစ်ပေသည်။ သို့ဖြစ်သည့် အ တွက် မြတ်စွာဘုရား၏ လက်ထက်တော် အခါကပင်လျှင် ရဟန်း သာမဏေ များ သည် ဗောဓိယင်ကောင်ကိုပြုခဲ့ကြပေသည်။ ရှေးရှေးသော သာသနာမှ မင်းကောင်း မင်းမြတ်တို့၏လက်ထက်တော်အခါမှစ၍ လည်း ညောင်ရေသွန်း ပွဲတော်များကို ကျင်းပခဲ့ကြပေသည်။ ရှေးရှေးသော သာ သနာ့ မင်းကောင်းမင်းမြတ်တို့နှစ်စဉ်ပြု လုပ်တော်မူကြမြဲဖြစ်သော ၁၂-လ၊ ၁၂- ရာသီ ပွဲတော်များတွင် ညောင်ရေသွန်း ပွဲတော်သည်တပါး အပါအဝင် ဖြစ်ခဲ့ပေ သည်။

ရွှေတိဂုံဘုရားကြီး ယင်ပြင်တော် ၌ နေရာ၌မှာနတွင် သတိုးသီရိသုဓမ္မသူဌေး ကြီး ဆာဦးသွင် ကြီးမှူးသော မဟာဗေါ ဓိ ညောင်ရေ သွန်းလောင်းရေး အဖွဲ့က ညောင်ရေသွန်း ပွဲတော် ကျင်းပြခဲ့သည် မှာလည်း ၂၈–နှစ်ရှိခဲ့ပေပြီ။

ပြည်ထောင်စု မြန်မာ နိုင်ငံတော် ဗုဒ္ဓ သာသနာ့အဖွဲ့ကြီးမှ ပြည်ထောင်စု နိုင်ငံ တော် တဝှမ်းလုံး သို့ ညောင် ရေသွန်းပွဲ တော်များကျင်းပရန် တိုက်တွန်းပြီးလျှင်မိမိ ကိုယ်တိုင်ကြီးမှူးလျက် ဤနေရာ ဤဌာန တွင် ညောင်ရေ သွန်းပွဲတော် ကျင်းပခဲ့ သည်မှာလည်း နှစ်ကြိမ်ရှိခဲ့ပေပြီ။

ညောင်ရေသွန်းပွဲတော်ကို ကဆုန်လ ပြည့်နေ့တွင် ကျင်းပကြသည်မှာ မြတ်စွာ ဘုရားသည် ကဆုန်လပြည့်နေ့မှာ သဗ္ဗညု တ ရွှေဉာဏ်တော်ကို ရသောကြောင့်ဖြစ် ပေသည်။

မြတ်စွာဘုရား ပွင့်တော်မူရာ ဗောဓိ ညောင်ပင်ကိုရေသွန်းလောင်းရာ ညောင် ရေသွန်း ပွဲတော်ကို မြတ်စွာဘုရား ပွင့် တော်မူသောနေ့ ကဆုန်လပြည့် နေ့တွင် ကျင်းပရာ၌ ကဆုန်လပြည့်နေ့သည်မြတ် စွာဘုရား ပွင့်တော် မူသောနေ့နှင့် ပရိ နိဗ္ဗာန်စံလွန်တော်မူသော နေ့လည်း ဖြစ် သောကြောင့် ညောင်ရေသွန်းပွဲတော် အ ခါတွင် မြတ်စွာဘုရား ဖွားတော်မူခြင်း၊ ပရိနိဗ္ဗာန် စံလွန်တော်မူခြင်း တို့ကိုလည်း သတိရကြပြီးလျှင် ဇာတ်ဒုက္ခ၊ မရဏဒုက္ခ၊ အစရှိသော သံသရာဝဋ်ဒုက္ခတို့နှင့် သံ ဝေဂရကြဘို့သင့်ပေသည်။

အလုံးစုံသော လေနေမှုပုဂ္ဂိုလ်တို့သည် ဂင်္ဂါဝါဠုသဲလုံမျှ ပွင့်တော်မူခဲ့ကြသော ဘုရားရှင်ကိုယ်တော်မြတ်တို့၏သာသနာ တော်၌ မဂ်ဖိုလ်နိဗ္ဗာန်ကို မရခဲ့ကြသဖြင့် ယခုတိုင် သံသရာဝဋ်အတွင်း၌ကျင်နစ်မွန်း မြောပါးလျက်ကြရသေးသည်။ ဂေါတမ မြတ်စွာဘုရားသည် ယခုလို ကဆုန်လ ပြည့်နေ့တနေ့မှာ မွေးဖွားတော်မူပြီး ယခု လိုကဆုန်လပြည့်နေ့ တနေ့မှာ ဘုရားအ ဖြစ်ကိုရတော်မူပြီး ယခုလိုကဆုန်လပြည့် နေ့တနေ့မှာ ပရိနိဗ္ဗာန်စံဝင်တော်မူခဲ့သော သည်။ ယခုရာတွင် ဂေါတမမြတ်စွာဘုရား ၏ သာသနာတော်သည် တည်ဝန့် နိုင်မြဲ လျက်ရှိသေးသည်။ အကယ်၍ဤသာသနာ

စာမျက်နှာ ၁၉ — သို့ဆက်ကြည့်ပါ

# ပွဲခါညောင်ရေသွန်းမြဲပေတည့်ရှိသဿဒ္ဒါ

ဟူသော လက်ဝဲသုန္ဒရအမတ်ကြီး၏ ရတုကဗျာကိုသတိရဘွယ်ကောင်းလောက်အောင်



ပေါင်းတည်မြို့တွင် ညောင်ရေသဘင်



ဥက္ကံမြို့တွင် ညောင်ရေသဘင်



ဟင်္သာတတွင် ညောင်ရေသဘင်



ပခုက္ကူမြို့တွင် ညောင်ရေသဘင်



ကျောက်ဆည်မြို့တွင် ညောင်ရေသဘင်



ဖိုးလှိုကလေးမြို့တွင် ညောင်ရေသဘင်

# ထိုးစဉ်လာဖြင့်မဲဇာရပ်သူတောင်းဆုယူသည်..

## မြန်မာနိုင်ငံတော်တစ်ခွင်လုံးတွင် အရပ်ရပ် ညောင်ရေသဘင် ဆင်ယင် ကျင်းပပုံများ



ပဲခူးမြို့တွင်ညောင်ရေသဘင် (ပုံ-၁)



မန္တလေးမြို့တွင်ညောင်ရေသဘင်



ကဝမြို့တွင်ညောင်ရေသဘင်



ကျောက်ဆည်မြို့တွင်ညောင်ရေသဘင်



ပဲခူးမြို့တွင်ညောင်ရေသဘင် (ပုံ-၂)



သုံးဆယ်မြို့တွင်ညောင်ရေသဘင်

# ဆဋ္ဌသံဂါယနာ

# ★သံဃအဖွဲ့ဥပဒေ★

## အချီး

ဤဥပဒေကို ဆဋ္ဌသံဂါယနာတင် ဩဝါဒါစရိယသံဃနာယကဆရာတော်ကြီးများနှင့် ဆဋ္ဌသံဂါယနာပါဠိဝိသောဓကအဖွဲ့ဝင်ဆရာတော်များ စေ့စပ်အသေးကြီးမှလွဲအပ်သည့်အတိုင်းဝန်ဆောင်သံဃအဖွဲ့ကဆုံးဖြတ်အတည်ပြုပြီးလျှင် ကြေငြာသည့်နေ့မှစ၍ ဆဋ္ဌသံဂါယနာတင် ကိစ္စလုံးဝပြီးဆုံးအောင်မြင်သည့်အထိ သင်္ဂီတိကာရပုဂ္ဂိုလ်တိုင်း လိုက်နာဆောင်ရွက်သွားရန်ဖြစ်သည်၊

သံဂါယနာတင်ခြင်းသည် နှစ်ပေါင်းနှစ်ထောင့်ငါးရာ အတွင်းမှာ ၆–ကြိမ်သာရှိမည်ဖြစ်၍ ကြုံကြိုက်ခဲသော ဒုလ္လဘကြီးတခု ဖြစ်သဖြင့် ဗုဒ္ဓဘာသာဝင်ရဟန်းရှင်လူအပေါင်းတို့သည် ကောင်းချီးဩဘာထောမနာအကြိမ်ကြိမ်ပြု၍ စိတ်အားထက်သန်စွာဖြင့်အားပေး ချီးမြှောက်ကြရန်ဖြစ်သည်၊ ဆဋ္ဌသံဂါယနာပွဲကြီးအောင်မြင်မှုကိုရှေးရှု၍ ပြည်ထောင်စုအစိုးရနှင့်တကွ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီးအမှုရှိသေဘထေရဝါဒီ အပေါင်းတို့ကလည်း ရှေးသံဂါယနာငါးတန် က သာသနာ့ဒါယကာများကဲ့သို့ သင်္ဂီတိကာရဆရာတော်များ ကာယသုခ စိတ္တသုခရှိစေခြင်းငှါ ပစ္စယာနုဂ္ဂဟဖြင့်လိုလေသေးမရှိအောင် အစွမ်းကုန်ထောက်ပံ့ ချီးမြှင့်ပူဇော်ကြရန်ဖြစ်သည်၊

ဤဥပဒေဖြင့် တည်ထောင်အပ်သော အဖွဲ့အသီးသီး၏ ဆုံးဖြတ်ချက်များကို သံဂါယနာဝင် ထေရ, မဇ္ဈိမ, နဝဖြစ်တော်မူသော သံဃာတော်အပေါင်းတို့ကလည်း ဘုရားရှင်၏မျက်နှာတော်ကိုထောက်ထား၍ လေးစားကြည်ညိုစွာ လိုက်နာကျင့်သုံးရန်ဖြစ်သည်၊

ဤဆဋ္ဌသံဂါယနာပွဲကြီးသည် ကမ္ဘာလောက၏ ငြိမ်းချမ်းသာယာရေးရောင်ခြည် ဖြစ်စေရန်ရည်ရွယ်သည်၊

## အခန်း ၁

၁၊ ဤ ဥပဒေကို သာသနာနှစ် ၂၄၉၆ ခု၊ သကရာဇ် ၁၃၁၄–ခု၊ ပြည်ထောင်စု မြန်မာနိုင်ငံတော် "ဆဋ္ဌသံဂါယနာ သံဃအဖွဲ့ ဥပဒေ" ဟုခေါ်တွင်စေရမည်၊

၂၊ ဤဥပဒေတွင်အကြောင်း အရာနှင့်ဖြစ်စေ၊ ရှေ့ နောက် စကား တို့၏ အဓိပ္ပါယ်နှင့်ဖြစ်စေ မဆန့်ကျင်လျှင်–

က၊ သာသနာနှစ်ဆိုသည်မှာ ဘုရားရှင် ပရိနိဗ္ဗာန် စံတော်မူပြီးသည့်နောက် သာသနာနှစ်နှင့် ဝေါဟာရနှစ် ကိုက်ညီစေခြင်းငှါ ဘိုးတော် အဗ္ဗနမင်း၏ ဖြိုခွင်းနှစ် မဟာသကရာဇ် ၁၄၈ ကို အဇာတသတ်မင်း ဖြိုခွင်းပြီးလျှင် အကြွင်းတခုမှစ၍ ရေတွက်အပ်သော နှစ်ကို ဆိုလိုသည်၊

ခ၊ သကရာဇ်ဆိုသည်မှာ ပုဂံပြည် ပုပ္ပါးစောရဟန်းမင်း၏ဖြိုခွင်းဖြစ်သော ပြည်ထောင်စုနိုင်ငံတော်သုံး မြန်မာဝေါဟာရနှစ်ကိုဆိုလိုသည်၊

ဂ၊ သံဂါယနာဆိုသည်မှာ–

၁၊ ဇမ္ဗူဒိပ် မဇ္ဈိမတိုက်၌ ဘုရားရှင် ပရိနိဗ္ဗာန်စံပြီး သည့်နောက် သုံးလခန့်အကြာတွင် အရှင်မဟာ ကဿပကို အအမှူးထား၍ အရှင်ဥပါလိ၊ အရှင် အာနန္ဒာအစရှိသော တေပိဋကဆဋ္ဌဘိညပဋိသမ္ဘိဒါပတ္တ ရဟန္တာမထေရ် ငါးရာတို့သည် ရာဇဂြိုဟ်ပြည်၌ရှင် အဇာတသတ်ဘုရင်ကို ဒါယကာပြု၍ ခုနစ်လတိုင်တိုင် တင်အပ်သော "ပထမ သံဂါယနာ"

၂၊ သာသနာနှစ် တရာမြောက်တွင် အရှင်မဟာယသကို–အမှူးထား၍ တေပိဋကဆဋ္ဌဘိည ပဋိသမ္ဘိဒါပတ္တ ရဟန္တာ ခုနစ်ရာ တို့သည် ဝေသာလီပြည်၌ရှင် ကာလာသောက ဘုရင်ကိုဒါယကာပြု၍ရှစ်လတိုင်တိုင် တင်အပ်သော "ဒုတိယ သံဂါယနာ"

၃၊ သာသနာနှစ် ၂၃၅ ခု မြောက်တွင် အရှင်မဟာ မောဂ္ဂလိပုတ္တတိဿကို အမှူးထား၍တေပိဋကဆဋ္ဌဘိညပဋိသမ္ဘိဒါပတ္တရဟန္တာ တထောင်တို့သည်ပါဋလိပုတ်ပြည်၌ရှင် အသောက ဘုရင်ကို ဒါယကာပြု၍ ကိုးလတိုင်တိုင် တင်အပ်သော "တတိယ သံဂါယနာ"

၄၊ သာသနာနှစ် ၄၅၀ မြောက်တွင် သီဟိုဠ်ကျွန်း၌ အရှင်မဟာ ဓမ္မရက္ခိတ မထေရ်ကို အမှူးထား၍ ရဟန္တာငါးရာ တို့သည် မလယဇနပုဒ်မင်းဘိုကို ဒါယကာပြု၍ မလယဇနပုဒ်အာလောကလိုဏ်၌ ပေထက် အက္ခရာ တင်အပ် သော "စတုတ္ထသံဂါယနာ"

၅၊ သာသနာနှစ် ၂၄၁၅–ခု သကရာဇ် ၁၂၃၃ ခု နှစ်တွင် မြန်မာ နိုင်ငံ ရတနာပုံရွှေမြို့တော်၌ (က) ဇာဂရာဘိဝံသ တိပိဋကရေမဟာ ဓမ္မရာဇာဓိရာဇဂုရု ဒက္ခိဏာရာမဘုရားကြီး ဆရာတော် ခ၊ သုမင်္ဂလသာမိ သိရိဝံရ မဏိဇောမဟာဓမ္မရာဇာဓိ ရာဇဂုရု စီးတော်မြင်း ဝန်တိုက်ဆရာတော်၊ (ဂ) နရိန္ဒာဘိသိရိသဒ္ဓမ္မဇောတိပါလ မဟာဓမ္မရာဇာဓိ ရာဇဂုရု ဆီးပန်းနိဆရာတော်ဘုရားတို့ကို အမှူးထား၍ တံဆိပ်တော်ရ မရ ဆရာတော် သံဃာ တ ၂၄၀၀–တို့သည် ရွှေနန်းပြာသာဒ်တော်ကြီးအနီး ခြောက်လတိုင်တိုင် ရွှေဘုံသရဖူအာယတနတော်မှ ကြပြီးလျှင်သိရိ ဝရဝိဇယ နန္တယသပဏ္ဍိတ ဘြိဘာနာ ဓိကြိ မိပတိမဟာ ဓမ္မရာဇာဓိရာဇာ ဘွဲ့တံဆိပ်တော် ခံယူသော မြန်မာပြည်ရှင်မင်းတုန်းဘုရင်ဒါယကာ ခံယူအပ်သော သေလက္ခရာရုဠ ပဉ္စမသံဂါယနာ ဟူသော သံဂါယနာငါးတန်တို့ကို ထောက်ဆ၍ သာသနာနှစ် ၂၄၉၈ ခု သကရာဇ် ၁၃၁၆–ခုနှစ် ကဆုန်လပြည့်နေ့မှ စ၍ သာသနာနှစ် ၂၅၀၀ ပြည့်သကရာဇ် ၁၃၁၈–ခုနှစ် ကဆုန်လပြည့်နေ့အထိ ရန်ကုန်မြို့ သိရိမင်္ဂလာ ကုန်းတော်သာသွင်ကမ္ဘာအေးစေတီတော်အနီး၌သီဟိုဠ်ကျွန်းယိုးဒယားပြည်၊ကမ္ဘောဒီးယားပြည်လောပြည်၊တို့နှင့် တကွပြည်ထောင်စုမြန်မာနိုင်ငံတော်အရပ်ရပ်မှ လဇ္ဇီပေသလသိက္ခာကာမ ပရိယတ္တိ ဝိသာရဒပါက ဋ္ဌဓဏပါမေ‌ာက္ခဖြစ်တော်မူသော တံဆိပ်တော်ရ မရ ၂၅၀၀–သော သံဃာတော်တို့သည် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရနှင့် နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့ကြီး အမှူးရှိသော ထေရဝါဒီအပေါင်းတို့ကို ဒါယကာပြု၍ တင်မည့် ဆဋ္ဌသံဂါယနာကိုဆိုလိုသည်၊

ဃ၊ ပိဋကဆိုသည်မှာ ၁–သုတ္တန္တ၊ ၂–ဝိနယ၊ ၃–အဘိဓမ္မာဟူ၍ သုံးမျိုးခွဲခြား၍ထားအပ်သော ကေဝလပရိပုဏ္ဏ ပရိသုဒ္ဓ ဗြဟ္မစရိယ ဒေသနာတော်ကိုဆိုလိုသည်၊

င၊ နိကာယ်ငါးရပ် ဆို သည်မှာ ၁–ဒီဃနိကာယ်၊ ၂–မဇ္ဈိမ နိကာယ်၊ ၃– သံယုတ္တနိကာယ် ၄–အင်္ဂုတ္တရနိကာယ်၊ ၅–ခုဒ္ဒကနိကာယ်ဟူသောကေဝလပရိပုဏ္ဏ ပရိသုဒ္ဓဗြဟ္မစရိယဒေသနာတော်ကို ဆိုလိုသည်၊

စ၊ ပါဠိတော် ဆိုသည်မှာ ငါးကြိမ်တိုင်တိုင် သံဂါယနာ တင်ပြီးသော ဘုရားဟော ဓမ္မက္ခန္ဓာ ရှစ်သောင်းလေးထောင်ကိုဆိုလိုသည်၊

ဆ၊ အဋ္ဌကထာ ဆိုသည်မှာ ပါဠိတော်၌ ခက်ခဲ နက်နဲ သော ပုဒ်ဝါကျ အဓိပ္ပါယ်တို့ကို သိလွယ်ပေါ်လွင်အောင် အရှင်မဟာ ဗုဒ္ဓဃောသ အစရှိသော ဗုဒ္ဓမာညဆရာတို့ ဖွင့်ဆိုပြုစု အပ်သော ကျမ်းကိုဆိုလိုသည်၊

ဇ၊ ဋီကာ ဆိုသည်မှာ အဋ္ဌကထာ၌မဖွင့်အပ်သေးသော ပါဠိတော်ပုဒ်ဝါကျ အဓိပ္ပါယ်တို့ကိုလည်း၊ အဋ္ဌကထာ၌ ခက်ခဲနက်နဲသော ပုဒ်ဝါကျအဓိပ္ပါယ်တို့ကိုလည်း ထပ်ဆင့်၍ဖွင့်ဆိုပြုစုအပ်သောကျမ်း ကိုဆိုလိုသည်၊

ဈ၊ ရဟန်းတော် ဆိုသည်မှာ ဉတ္တိစတုတ္ထ ဥပသမ္ပဒကံဖြင့် ဥပသမ္ပန္နရဟန်း အဖြစ်ကိုခံယူသော ပုဂ္ဂိုလ်ကိုဆိုလိုသည်၊

ည၊ သံဃာ ဆိုသည်မှာ ရဟန်းအပေါင်းကိုဆိုလိုသည်၊

ဋ၊ နိုင်ငံတော်ဩဝါဒါစရိယဆိုသည်မှာ ဝိနိစ္ဆယ ဌာနအက်ဥပဒေ အရရွေးကောက် တင်မြှောက် ထားအပ်သော ရဟန်းတော်ကို ဆိုလိုသည်၊

ဌ၊ နိုင်ငံတော်ဝိနည်းဓိုရ်ဆိုသည်မှာ ဝိနိစ္ဆယ ဌာန အက်ဥပဒေအရ ရွေးကောက် တင်မြှောက် ထားအပ်သော ရဟန်းတော်ကိုဆိုလိုသည်၊

ဍ၊ စာချဓမ္မာစရိယဆိုသည်မှာ ပါဠိတက္ကသိုလ်နှင့် ဓမ္မာစရိယအက်ဥပဒေပုဒ်မ ၂– (ဂ) တွင်အဓိပ္ပါယ် ဖော်ပြထားသောစာချဓမ္မာစရိယမျိုးကို ဆိုလိုသည်၊

ဎ၊ ပါဠိဘာသာ ဆိုသည်မှာ ယခုခေတ်ကမ္ဘာတဝှမ်းလုံး၌ ပါဠိဟု ခေါ်ဝေါ်သုံးစွဲနေသော ဘာသာတရပ်ကို ဆိုလိုသည်၊

ဏ၊ မြန်မာ ဘာသာ ဆိုသည်မှာ ပြည်ထောင်စု မြန်မာနိုင်ငံတော်သုံး ဝေါဟာရဘာသာကိုဆိုလိုသည်၊

တ၊ ဘာသန္တရ သို့မဟုတ် အခြားဘာသာဆိုသည်မှာ ပါဠိဘာသာနှင့် မြန်မာဘာသာ မှတပါး သော ဝေါဟာရဘာသာများကိုဆိုလိုသည်၊

## အခန်း ၂

### ၃–၁၊ ဆဋ္ဌသံဂါယနာဩဝါဒါစရိယသံဃနာယကအဖွဲ့

ဤအဖွဲ့တွင်အောက်ပါ ရဟန်းတော်များပါဝင်စေရမည်၊

က၊ အဂ္ဂမဟာပဏ္ဍိတ၊ သို့မဟုတ်ထိုဘွဲ့တံဆိပ်အောက် မနိမ့်သော တံဆိပ်တော်ရ ရဟန်းတော်များ၊

ခ၊ နိုင်ငံတော် ဩဝါဒါစရိယ ရဟန်းတော်များ၊

ဂ၊ နိုင်ငံတော် ဝိနည်းဓိုရ် ရဟန်းတော်များ၊

ဃ၊ ဤဥပဒေ၏ ဇယားတွင် ခွဲဝေဖော်ပြထားသည့် အရေအတွက် အတိုင်း ဆဋ္ဌသံဂါယနာ ဘာရနိတ္ထာရက သံဃသဘာ (ဝန်ဆောင်သံဃအဖွဲ့) က ရွေးချယ်ခန့်ထားသော ရဟန်းတော်များ၊

### ၄၊ ဆဋ္ဌသံဂါယနာ ဩဝါဒါစရိယသံဃနာယက အဖွဲ့၏အာဏာနှင့်တာဝန် ဝတ္တရားများ၊

ဤအဖွဲ့တွင် အောက်ပါအာဏာနှင့် တာဝန်ဝတ္တရားများရှိစေရမည်၊

က၊ သံဂါယနာ ဆိုင်ရာ၌ ရဟန်းတော်များ ဆောင်ရွက်ရန်နှင့် စင်လျဉ်းသမ္မာလုပ်ငန်း ကိစ္စအားလုံး အတွက် ဝန်ဆောင် သံဃအဖွဲ့အား ဩဝါဒ ပေးတော်မူခြင်း၊

ခ၊ နိုင်ငံတော်အစိုးရနှင့်တကွ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီးက ပစ္စယာနုဂ္ဂဟ စသော ဆောင်ရွက်ဘွယ်ရှိသည့် ကိစ္စအားလုံးအတွက် အခါအား လျော်စွာဩဝါဒ ပေးတော်မူခြင်း၊

### ၅၊ ပါဠိဝိသောဓကအဖွဲ့များ၊

၁၊ ပါဠိဝိသောဓက(မြန်မာနိုင်ငံ)အဖွဲ့များကို ဩဝါဒါစရိယ သံဃနာယကအဖွဲ့က ပြည်ထောင်စု မြန်မာနိုင်ငံအရပ်ရပ်ရှိ ရဟန်းတော်များအထဲမှ ရွေးချယ်ဖွဲ့ရမည်၊

၂၊ ထိုအဖွဲ့ဝင် မြန်မာ ရဟန်းတော်များသည် အောက်ပါ ဂုဏ်အင်္ဂါများနှင့် ပြည့်စုံရမည်၊

က၊ စာချဓမ္မာစရိယဖြစ်ခြင်း၊

ခ၊ ဝါတော် ၂၀–ထက်မငယ်ခြင်း၊ သို့မဟုတ် ဝါတော် ၂၀ မပြည့်သော်လည်း တခုခုကို ဆောင်၍ နိုင်မည့်

သတ္တိ အရည်အချင်းနှင့် ပြည့်စုံသည် ဟု အထူးအားဖြင့် ရွေးချယ်ခံရခြင်း၊

ဂ။ သံဂါယနာ အတွက် ပေးအပ်သည့် ပိဋကတော် သုတ်သင်ရေး တာဝန်ကို ဆောင်ရွက်နိုင်ခြင်း၊

ဃ။ ဝိနည်း သိက္ခာနှင့် စင်လျဉ်း၍ အမျိုးရှိသေ လေးစား လောက်သော ပုဂ္ဂိုလ်ဖြစ်ခြင်း၊

၃။ ပါဠိ ဝိသောဓက ( သီဟိုဠ်ကျွန်း) (ယိုးဒယားနိုင်ငံ) (ကမ္ဘောဒီးယား နိုင်ငံ) (လောနိုင်ငံ) အဖွဲ့များကို သက်ဆိုင်ရာနိုင်ငံရှိ သံဃာက သင့်လျော်သလို ရဟန်းတော်များအဖွဲ့မှ ရွေးချယ်စုဖွဲ့ရမည်။

## ပါဠိ ဝိသောဓက အဖွဲ့၏ တာဝန် ဝတ္တရားများ

၁။ ဤအဖွဲ့၏တာဝန်ဝတ္တရားများမှာ ပေးအပ်သော ပါဠိတော်အဋ္ဌကထာ ဋီကာများကို ညွှန်ကြားအပ်သော နည်းစံနစ်အတိုင်း ကျနမှန်ကန်အောင် ညှိနှိုင်း သုတ်သင်ရမည်။

၂။ သံဂါယနာဝန်ဆောင် သံဃာအဖွဲ့မှ အခါ အားလျော်စွာ ထုတ်ပြန်သော အမိန့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်ရမည်။

၃။ ပါဠိဝိသောဓက အဖွဲ့အသီးသီးတွင် (က) စာတည်းအဖွဲ့ (ခ) စာကြည့်အဖွဲ့ (ဂ) စာမအဖွဲ့ဟူ၍ အဖွဲ့ခွဲသုံးခု ခွဲခြားထားနိုင်သည်။

က။ စာတည်း အဖွဲ့သည် ပေးအပ်သော ပါဠိတော်အဋ္ဌကထာ ဋီကာတို့ကို ညွှန်ကြားထားသော နည်းစံနစ် အတိုင်း မှန်ကန်ကျနအောင်ညှိနှိုင်း၍ ဦးစွာ သုတ်သင်ရမည်။

ခ။ စာကြည့် အဖွဲ့သည် စာတည်း အဖွဲ့က သုတ်သင်ပြီးသော စာမူများကို ပို၍ကျနမှန်ကန်အောင် သုတ်သင်ရမည်။

ဂ။ စာမ အဖွဲ့သည် စာကြည့်အဖွဲ့က သုတ်သင်ပြီး စာမူများကို အကောင်းဆုံး ကျနမှန်ကန်အောင် သုတ်သင်ရမည်။

## ၇။ ဆဋ္ဌ သံဂါယနာ ဝန်ဆောင်သံဃာအဖွဲ့။

ဤအဖွဲ့တွင် အောက်ပါရဟန်းတော်များ ပါဝင်စေရမည်။

က။ ဆဋ္ဌသံဂါယနာ ညွှန်ကြားရေးနာယက အဖွဲ့မှ ရွေးချယ် ခန့်ထားအပ်ပြီးသော ဆရာတော် ၂၅-ပါး။

ခ။ ဆဋ္ဌသံဂါယနာ ညွှန်ကြားရေးနာယက အဖွဲ့တွင် ပါဝင် သည့် သီဟိုဠ်ကျွန်း၊ယိုးဒယားပြည်၊ ကမ္ဘောဒီးယားပြည်နှင့် လောပြည် ရဟန်းတော်များက မိမိတို့အထဲမှ ရွေးချယ်ခန့်ထားသော ကိုယ်စားလှယ် ရဟန်းတော် တပါး။

## ၈။ ဆဋ္ဌ သံဂါယနာ ဝန်ဆောင်သံဃာအဖွဲ့။

၁။ ဤအဖွဲ့သည် သံဂါယနာတင် ရဟန်းတော်များ ဆောင်ရွက်ရန်ရှိသည် တို့နှင့်စပ်လျဉ်းသမျှ ကိစ္စအားလုံး တို့ကို ဆဋ္ဌသံဂါယနာညွှန်ကြားရေးနာယက အဖွဲ့၏ညွှန်ကြားချက်နှင့် မဆန့်ကျင်စေဘဲ ကြီးကြပ် စီမံဆောင် ဆောင်ရွက်ရမည်။

၂။ အထက်ပါ ငြွှန်ကြားချက်၏ ယေဘုယျ သဘောကိုမထိခိုက်စေဘဲ ဆဋ္ဌသံဂါယနာ ဝန်ဆောင် သံဃာအဖွဲ့တွင် အောက်ပါအာဏာနှင့် တာဝန်ဝတ္တရားများ ရှိစေရမည်၊

က။ ဆဋ္ဌသံဂါယနာ၌ရဟန်းတော်များ ဆောင်ရွက်ရန် ရှိသည်တို့ကို ပြီးမြောက်အောင်မြင်စွာ ဆောင်ရွက်နိုင်စေရန်အလို့ငှါ မိမိသင့်တော်သည် ထင်မြင်သော အဖွဲ့ငယ်များကိုဖွဲ့စည်းခြင်း၊

ခ။ ထိုသို့ဖွဲ့စည်းသော အဖွဲ့ငယ်များအတွက် တာဝန်ခွဲဝေချထားခြင်း၊

ဂ။ ညွှန်ကြားချက်အနုသာသန ထုတ်ပြန်ခြင်း၊

ဃ။ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးအား ညွှန်ကြားချက် ညွှန်ကြားချက်များ ချပေးခြင်း၊

င။ သံဂါယနာ တွင် ပါဝင် သည့် ရဟန်းတော်များ အားလုံးတို့အား ကြီးကြပ်အုပ်ချုပ်လျက် စည်းမျဉ်း သတ်မှတ်ပေးခြင်း၊

စ။ အခါအားလျော်စွာ အမိန့်ညွှန်ကြားစည်းမျဉ်းများထုတ်ပြန်ခြင်း။

၉။ အထက်ပုဒ်မ—ဂ—ပါ အာဏာများ၏ ယေဘုယျသဘောကို မထိခိုက်စေဘဲ ဆဋ္ဌသံဂါယနာဝန်ဆောင် သံဃာ အဖွဲ့သည် အောက်ပါအဖွဲ့ငယ်များကို ဖွဲ့စည်းနိုင်သည်၊

က။ ပါဠိစာမူဝေငှရေးနှင့်နည်းစံနစ် ညွှန်ကြားရေး (ပါဠိဝိဘာဂနယောပဒေသက) အဖွဲ့၊

ခ။ ပါဠိအဆုံးသတ် တည်းဖြတ်ရေး (ပါဠိပဋိဝိသောဓက)အဖွဲ့၊

ဂ။ မြန်မာပြန် အဆုံးသတ် တည်းဖြတ်ရေး (မရမ္မဘာသာပါဠိဝိသောဓက) အဖွဲ့၊

ဃ။ သံဂါယနာ စီစဉ်ရေး (သံဂီတိဂါဟက) အဖွဲ့၊

င။ သိက္ခာဝိဓါယကအဖွဲ့၊

စ။ ကထာဝိသဇ္ဇကအဖွဲ့၊

ဆ။ ဝေယျာဝစ္စကာရကအဖွဲ့၊

ဇ။ စုံစမ်းပြန်ကြားရေးနှင့် ဖြန့်ချိရေး (ပဝတ္တိသမ္ပဝေဒက) အဖွဲ့

၁၀။ ပါဠိစာမူဝေငှရေးနှင့် နည်းစံနစ် ညွှန်ကြားရေးအဖွဲ့၏ တာဝန်ဝတ္တရားများတွင် အောက်ပါများပါဝင်စေရမည်၊

က။ စာမူအသီးသီး၏ခက်မှု လွယ်မှုများမှ နည်းမှုတို့ကို ဝေဘန်ခြင်း၊

ခ။ ပါဠိဝိသောဓကအဖွဲ့ အသီးသီးအား စာမူများပေးအပ်ခြင်းနှင့် ထိုအဖွဲ့မှ သုတ်သင်ပြီး စာမူများကို သတ်မှတ်ထားသော အချိန်တွင် ပြန်လည်ရရှိရန် ဆောင်ရွက်ခြင်း၊

ဂ။ ပါဠိဝိသောဓနပြုရာ၌ ပုဒ်ဝါကျ သုတ်သင်နည်း ပုဒ်နှင့်သင်္ကေတထားနည်း အပိုဒ်ခွဲနည်း ခေါင်းစဉ်တပ်နည်း မာတိကာ စီစဉ်နည်း အက္ခရာ ဝလီထုတ်နည်း မှတ်ချက်ပြုနည်း စသည်တို့ကိုသတ်မှတ်၍ညွှန်ကြားခြင်း။

၁၁။ ပါဠိအဆုံးသတ် တည်းဖြတ်ရေး အဖွဲ့၏ တာဝန်ဝတ္တရားမှာ ပါဠိဝိသောဓကအဖွဲ့များက သုတ်သင် ပြီး သဘြင့်ပြန်၍ ပေးအပ်သောပါဠိတော်အဋ္ဌကထာဋီကာတို့ကိုနည်း စံနစ်အတိုင်း ကျနမှန်ကန်အောင်ညှိနှိုင်း၍ အပြီးသတ် သုတ်သင် တည်းဖြတ်ရမည်။

၁၂။ မြန်မာပြန် ပဋိဝိသောဓက အဖွဲ့၏တာဝန်ဝတ္တရားများမှာ ပေးအပ်သော မြန်မာပြန်စာမူများကို ပါဠိတော် အဋ္ဌကထာ ဋီကာများနှင့် ညီညွတ်စေလျက်ညွှန်ကြားအပ်သောနည်းစံနစ်အတိုင်းကျနမှန်ကန်စွာဖြစ်အောင်စီစစ်ပြုပြင် တည်းဖြတ်ရမည်။

၁၃။ သံဂါယနာစီစဉ်ရေးအဖွဲ့၏တာဝန်ဝတ္တရားများတွင် အောက်ပါ များ ပါဝင်စေရမည်၊

က။ သံဂီတိကာရက ပုဂ္ဂိုလ်များ ရွေးချယ်ခြင်း၊

ခ။ ကဏ္ဍဘာဏဝါရ စသည်ပိုင်း ခြားခြင်း၊

ဂ။ ရွတ်နည်း၊ ဖြတ်နည်း ရပ်နည်း တို့ကိုညွှန်ကြားခြင်း၊

ဃ။ ဆဋ္ဌသံဂါယနာ အတွက် နှစ် လ ရက် အချိန် ပိုင်းခြားသတ်မှတ်ခြင်း၊

င။ ဆဋ္ဌသံဂါယနာတွင်ဆောင်ရွက်ရန် အခမ်းအနား အစီအစဉ်တို့ကို ပြဋ္ဌာန်းသတ်မှတ်ခြင်း၊

စ။ ရဟန်းတော်များကို ပင့်ဆောင်ရေး၊ နေရာချထားရေးတို့အတွက် သတ်မှတ်ခြင်း၊

၁၄။ သိက္ခာဝိဓါယကအဖွဲ့၏ တာဝန်ဝတ္တရားများတွင် အောက်ပါများပါဝင်စေရမည်၊

နေထိုင်သွားလာရေး စသောကိစ္စတို့၌ သမဏသာရုပ္ပရှိ၍ အပ္ပသဒ္ဒါန် ပသာဒါယ ပသန္နာနံဘိယျောဘာဝါယ ဖြစ်အောင် စောင့်ရှောက်ထိန်းသိမ်းရေးတို့ ဖြစ်သည်၊

၁၅။ ကထာဝိသဇ္ဇကအဖွဲ့၏ တာဝန်ဝတ္တရားများတွင် အောက်ပါများ ပါဝင်စေရမည်။

က။ သာသနာတော် အတွင်း၌ ဖြစ်ပေါ် ရှုပ်ထွေးနေသောကထာများ၊

ခ။ သာသနာတော်အပ၌ဝင်ရောက်ရှုပ်ထွေးနေသောကထာများ။

ဤသို့သော ရှုပ်ထွေး ကထာများကိုဘုရားအလိုတော်နှင့် အညီတိကျပြတ်သားစွာအကြွင်းမဲ့ပြေရှင်းအောင်ခွဲခြားဖြေရှင်းခြင်း၊

၁၆။ ဝေယျာဝစ္စကာရက အဖွဲ့၏ တာဝန်ဝတ္တရားများတွင်အောက်ပါများပါဝင်စေရမည်၊

က။ ကျောင်းနေရာကျောင်းဆွမ်းဆေး ပစ္စည်းများနှင့်တကွ ပရိဘောဂ အသုံးအဆောင်များကိုစီမံထား၍ ထိန်းသိမ်းကြည့်ရှုခြင်း။

ခ။ ထိုပစ္စည်းများကို သတ်ရပ် တင့်တယ်စွာစီစဉ်ချထားခြင်း။

ဂ။ သံဂါယနာတင်ရဟန်းတော်များ၏ သင်္ကန်းများကိုဖွတ်လျှော်ခြင်း၊လိမ်ထိုးခြင်း၊ဖါထေးခြင်း၊ဆိုးရေးခြင်း၊

ဃ။ ဝိနည်းနှင့်လျော်စွာဆွမ်းကိစ္စကို စီမံခြင်း၊

င။ သံဃာ့ကဆွမ်းကပ်ဆွမ်းလောင်း ပင့်ဘိတ်မှုကိုလက်ခံခြင်း၊

ရဟန်းတော် ရွေးချယ်ခြင်း၊ စီစဉ်စုဖွဲ့ခြင်း၊

စ။ သံဂါယနာတင် ရဟန်း တပါးပါး ရောဂါကပ်ရောက်ခဲ့သော်အလျင်အမြန်အရေးယူ၍ဆေးဝါးကုသပေးခြင်း။

ဆ။ ကျောင်းနေရာအိမ်ကုဋီတို့ကို သန့်ရှင်းစွာစီမံထားရှိစေခြင်း၊

စာမျက်နှာ ၃—မှအဆက်

တွင် စတင်ဖွင့်လှစ်တည် ထောင်မည့် ပရိယတ္တိဌာနများ၏ ကမ္မဋ္ဌာန စရိယကမ္မဋ္ဌာန်းပြဆရာဖြစ်ပေါ်လာရေး အတွက် လက်တွေ့ကမ္မဋ္ဌာန်း တရား များ ကို အားထုတ်လိုသော အောက်ဖော်ပြပါ အင်္ဂါနှင့်ပြည့်စုံသည့် ရဟန်းတော်များအား ကမ္မဋ္ဌာန်း အားထုတ်ခိုက် ကုန်ကျမည့် စရိတ်ငွေများကို သက်ဆိုင်ရာဒေသရှိ သာသနာ‌ရေး အသင်းအဖွဲ့များနှင့် ပူးပေါင်း၍ထောက်ပံ့ လှူဒါန်းလျက်ရှိ၏။

အင်္ဂါရပ် များ မှာ ပရိယတ္တိ သာသနာတော်ကိုတိုးတက်စေလိုသော ဆန္ဒထက်သန်ခြင်း ဒေသကိုယ်စားလှယ် များရှိသည့် နေရာဖြစ်မူ ဒေသ ကိုယ် စားလှယ်များနှင့် သာသနာ ရေး အဖွဲ့ဝင် လူကြီးများက ရွေးချယ်စေလွှတ်သည့် ပုဂ္ဂိုလ်ဖြစ်ခြင်း၊ ဒေသကိုယ်စားလှယ် မရှိသော နေရာဖြစ်မူ နယ်အရာရှိများနှင့် သာသနာရေးအဖွဲ့ဝင် လူကြီးများက ရွေးချယ်စေလွှတ်သည့် ပုဂ္ဂိုလ် ဖြစ် ခြင်း အသက်ခြောက်ဆယ်ထက် မကြီးမူ၍ လဆို ပေသလ သိက္ခာကာ မဖြစ်ခြင်း ဤသေးချက်နှင့် ပြည့်စုံသော ရဟန်းတော်များကိုသာ ထောက်ပံ့လှူဒါန်းပေကြောင်း။

## နောက်ထပ် ၁၉-ဌာန

ပရိယတ္တိဒ ဖွဲ့ဥပဒ်မှဆုံးဖြတ် အကြံပေးချက်အရ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ မတ်လအတွင်း ထောက်ပံ့ လှူဒါန်းရန် ပရိယတ္တိကမ္မဋ္ဌာန်းဌာန ပေါင်းမှာ ၁၉-ဌာနမှတိုးတက်လာရာ(က) အတန်းအစား ၁—ဌာန (ခ) အတန်းအစား ၄—ဌာန(ဂ) အတန်းအစား ၁၀-ဌာနနှင့် (ဃ) အတန်းအစား ၄—ဌာနဖြစ်သဖြင့် စုစုပေါင်း ငွေ၄၁၀၀ိ—ကျ အသီးအသီးခွဲဝေထောက်ပံ့ လှူဒါန်းနေပြီဖြစ်ရာ နောက် ထပ်လည်း တိုးပွားဆဲ ဖြစ် ပေကြောင်း ။

ဇ။ သောက်ရေ မျက်နှာသစ်ရေ သုံးရေ ချိုးရေ သန့်သက်ရေ စသော လိုအပ်သည့်ရေများထားရှိစေခြင်း။

ဈ။ မျက်နှာသုတ်ပုဝါ စောင်အိပ်ရာခင်းစသည်တို့ကိုပြည့်စုံသန့်ရှင်းစွာ ထားရှိစေခြင်း။

ည။ ခရီးသွားမှုပစ္စည်းကပ္ပိယစသော နဝကမ္မကိစ္စများအတွက် ညွှန်ကြား စီမံခြင်း။

၁၇။ စုံစမ်းပြန်ကြားရေးနှင့်ဖြန့်ချိရေး (ပဝတ္တိသမ္ပဝေဒက) အဖွဲ့၏တာဝန် ဝတ္တရားများတွင် အောက်ပါများ ပါဝင်စေရမည်။

က။ ဆဋ္ဌသံဂါယနာကိစ္စအားလုံးကို လေ့လာခြင်း။

မှတ်ချက်။ ။ကိစ္စအားလုံးဆိုသည်မှာ ဆဋ္ဌသံဂါယနာ နှင့် သက် ဆိုင်သော ရည်ရွယ်ချက်အစီအစဉ်အဖွဲ့

တာဝန်လုပ်ငန်းစသည်တို့ကိုဆိုလိုသည်။

၁။ သံဂါယနာတင်ရဟန်းတော်အားလုံးကိုသိထားခြင်း။

မှတ်ချက်။ ။သိထားခြင်း ဆိုသည်မှာ သံဂါယနာတင်ရဟန်းအသီးသီး၏ ဇာတိ ပဝတ္တိကိုသိထားခြင်းကို ဆိုလိုသည်၊ဇာတိဆိုသည်မှာမူလသိတင်းသုံးရာဌာန ဘွဲ့ သက်တော်ဂုဏ်နှင့် ဒ ကြောင်းသုံးများဖြစ်သည်၊ ပဝတ္တိဆိုသည်မှာသံဂါယနာဌာနတွင်တည်းခိုရာကျောင်း အခန်း အဖွဲ့ဆိုင်ရာနှင့် လုပ်ငန်း များဖြစ်သည်။

၈။ ဆောင်ရွက်ဆဲ သံဂါယနာကိစ္စကိုအမြဲနှံ့စပ်ခြင်း၊

၉။ ဆောင်ရွက်သော ရဟန်း၊ သံဃာကိုအမြဲနှံ့စပ်ခြင်း၊

၁၀၊ အခြေ အနေ အားလုံးကို ဝန်ဆောင်သံဃာအဖွဲ့သို့ အ နည်းဆုံး တသီတင်းလျှင်တကြိမ် လျှောက် ထား အစီရင်ခံခြင်း၊အ ရေးကြီး အကြောင်းရှိလျှင်ထူးသည့် အလျောက် နေ့ငြင့်မဖြစ်စေ ချက်ချင်းမြန်စေလျှောက် ထား အစီရင်ခံခြင်း၊

၁၁၊ သံဂါယနာကိစ္စနှင့်ဖြစ်စေ၊သံဂါယနာတင်ရဟန်းတော်များကိုနှင့်ဖြစ်စေစုံစမ်းလေ့လာ ပြန်ကြားခြင်း။ ညွှန်ကြားခြင်းပို့ဆောင်ခြင်းစသည်ဖြင့် အဆင်ပြေကြေနပ်အောင်ဆောင်ရွက်ခြင်း။

၁၂။ဆဋ္ဌသံဂါယနာဖြစ်ပေါ်ပုံ၊ ဆဋ္ဌသံဂါယနာ သံဃာ့ဖွဲ့စည်းပုံ၊ တာဝန်ခွဲဝေပုံ၊ဒါယကာခံ ယူသော ဗုဒ္ဓသာသနာ အဖွဲ့ကြီး၏အကြောင်းနှင့် ထိုအဖွဲ့ကြီးက တာဝန်ယူပုံ၊ ဗုဒ္ဓဘာသာ နိုင်ငံအားလုံး တို့ပူးပေါင်းပါဝင်ဆောင်ရွက်သော သံဂါယနာဖြစ်ပုံနှင့်တကွသံဂါယနာ လုပ်ငန်း၏ရောက်ဆဲအခြေအနေစသည်တို့ကို ပါဠိဘာသာ မြန်မာဘာသာနှင့်အခြား ဘာသာများဖြင့် ကမ္ဘာ့သူ ကမ္ဘာ့ သားအပေါင်းတို့သည်ဗုဒ္ဓသာသနာသို့သဒ္ဓါပွားစေမှုအတွက် ဖြန့်ချီကြေငြာခြင်း။ ထိုလုပ်ငန်းများ ကိုနည်းအမျိုးမျိုးဖြင့် ဆောင်ရွက်ခြင်း။

၁၃။ ဆဋ္ဌသံဂါ ယနာ အောင် မြင်ကြောင်းနှင့်သာသနာသို့ သဒ္ဓါ ညွှတ်စေကြောင်းဖြစ်သော အနုမောဒနာ ကထာ အနုသာသနီကထာ ယောဂါဝစရကထာ စသော ဓမ္မာနုဓမ္မပတိ ပတ္တိကထာများကို (ဂိုဏ်းပုဂ္ဂိုလ်ဝါဒသည်တို့အား ထိခိုက်ငြိစွန်းခြင်းမရှိစေဘဲ) ဟောပြောရန် ဓမ္မကထိကများရွေးချယ်ဖွဲ့စည်းခြင်း၊

## ဇယား

(ပုဒ်မ—၃—(ဃ)ကိုကြည့်ပါ)

၁။ ရှမ်းပြည်နယ်မြောက်ပိုင်း၂ရဟန်းတော် ၂—ပါး။

၂။ ရှမ်းပြည်နယ်တောင်ပိုင်းမှရဟန်းတော် ၂—ပါး။

၃။ ကချင်ပြည်နယ်မှ ရဟန်းတော် ၂—ပါး။

၄။—မြန်မာပြည်ရှိ ခရိုင်အသီးသီး၂ ရဟန်းတော် ၁—ပါးစီ။

စာမျက်နှာ ၁၃—မှအဆက်

တော်တွင်းမှ မုန္တိုလ် နိဗ္ဗာန်မရလိုက်ကြလျှင် နေဝင်ချိန်မည်မျှကြာမြင့်အောင် သံသရာတွင် နစ်မွန်းမြောပါးကြရဦးမည်ကို မမှန်း မဆနိုင်လောက်အောင်ပင် ရှိချေမည်၊လူ့ဘဝမှသေလွန်ပြီး လူပြန်ဖြစ်ရန်နည်းပုံ အပယ်လေးပါးသို့ တကြိမ်ကျသွားလျှင် လူ့ဘဝကိုပြန်ရရန်ခဲယဉ်းပုံ လူ့ဘဝကိုပြပါလည်၊ သဗ္ဗညုမြတ်စွာဘုရားတို့၏ သာသနာတော်နှင့်တွေ့ကြုံရဖို့ခဲယဉ်းပုံများကို နေမိနေ့တက်နားလည်တော်သည်တို့တွင် မြတ်စွာဘုရားအကျယ်ဟောကြားတော်မူခဲ့ချေသည်၊

သို့အတွက် ယခု သာသနာတော် အတွင်း၌ လူ့ဘဝကိုတွေ့ရခဲရလျက်ရှိကြသော သူအပေါင်းတို့သည် မဂ်ဖိုလ်နိဗ္ဗာန်ကိုရအောင်သို့မဟုတ် အနည်းဆုံး အားဖြင့် မဂ်ဖိုလ်နိဗ္ဗာန်ကို ရရာရကြောင်း ပါရမီအခြေခံ ရည်ရွယ်အောင် မ နမနားကြိုးစားအားထုတ်သင့်ကြပေသည်။

သို့အားထုတ်ဘို့ သင့်ကြသည့်အတိုင်း မြတ်စွာဘုရားပရိနိဗ္ဗာန်ပြုခါနီး သတိပေးသောအားဖြင့် ဟောကြားတော်မူခဲ့သော အပ္ပမာဒေနသမ္ပာဒေထ ဟူသောပစ္ဆိမ ဗုဒ္ဓဝစန နှင့်အညီ ကုသိုလ်ကောင်းမှုတို့၌ မမေ့မလျော့ ကျိုးစားအားထုတ်ကြစည်ဟု ဤသာသနာတော်နှစ်ပြီး၂၅၀၀ ကဆုန်လပြည့်နေ့တွင် ကောင်းမြတ်သော အမိန့်ကိုပြုကြပါစို့။

ယဉ်ထွေ ဗုဒ္ဓသာသနေ

## ဗုဒ္ဓနေ့အခမ်းအနား

ညောင်ရေသဘင်အခမ်းအနားအပြီးတွင် ရန်ကုန်မြို့ရွှေတိဂုံစေတီ အနောက်မုခ်အလယ်ပစ္စယ်၌ ဗုဒ္ဓနေ့အခမ်းအနားကို နံနက် ၈—နာရီတိတိအချိန်တွင် နိုင်ငံတော်သမ္မတ ဒေါက်တာဘဦးက "ဗုဒ္ဓံ ဝိဇ္ဇာတု သဒ္ဓမ္မေ"ဟူ၍ သုံးကြိမ် ကြွေးကြော်ပြီး ဗုဒ္ဓသာသနာ့အလံတော်ကိုလွှင့်ထူ၍ ခမ်းအနားကို စတင် ဖွင့်လှစ်လေသည်၊ အခမ်းအနားဥက္ကဋ္ဌ နိုင်ငံတော်ရှေ့နေချုပ်ကြီး သတိုး မဟာသရေစည်သူ ဦးချန်ထွန်းက ဗုဒ္ဓံ-ပူဇေမိ၊ဓမ္မံ—ပူဇေမိ၊ သံဃံ—ပူဇေမိ" ဟု တိုင်ပေးရာ ပရိသတ်များက လိုက်ဆိုကြလေသည်၊

ထို့နောက် သာသနာ့လက်ာ့ရ ဆရာတော်ဘုရားကြီးထံမှ လူပရိသတ်များက နစ်ဂ်သီလခံယူကြပြီး သံဃာတော် ၆၀၀၀ ကျော်တို့က မင်္ဂလသုတ်၊ ရတနသုတ်၊ မေတ္တသုတ်၊ အင်္ဂုလိမာလပရိတ်၊ ပုဗ္ဗ

၅။ မြန်မာနိုင်ငံမှ ဂဏ ပါဠိတော် ပရိယတ္တိသာရဒပါကေဋစသောဂုဏ် အပေါင်းနှင့် ပြည့်စုံသော ရဟန်းတော် ၃—ပါး။

၆။ သီဟိုဠ်ကျွန်းမှ သံဃာ့ကိုယ်စားလှယ် ရဟန်းတော် ၅—ပါး။

၇။ ယိုးဒယားနိုင်ငံမှ သံဃာ့ကိုယ်စားလှယ်ရဟန်းတော် ၅ ပါး။

၈၊ ကမ္ဘောဒီးယားနိုင်ငံမှ သံဃာ့ကိုယ်စားလှယ် ရဟန်းတော် ၃—ပါး၊

၉။ လောပြည်မှ သံဃာကိုယ်စားလှယ် ရဟန်းတော် ၂—ပါး။

[စာမျက်နှာ ၇ မှအဆက်]

စစ္စ ဘေရေဒီ ဘက်ပလားအားပြင်ဆင်ခဲ့သည်၊

ထိုဗုဒ္ဓဂယာ မဟာဗောဓိ မြေနယ်ပယ်တပိုက်ကို အစဉ်အဆက်အားဖြင့် စော်ဘွား တဦးကဲ့သို့ ပိုင်ဆိုင် ခဲ့ကြ သော "မဟန္တ" ခေါ် ဘုန်းကြီးများ ထံမှ ဗုဒ္ဓဘာသာပိုင် မြေအဖြစ်သို့ လွှဲပြောင်းအုပ်ချုပ် န် မြန်မာနိုင်ငံမှ နှစ်ပေါင်းများစွာ ကြိုးစား၍လာခဲ့ကြပေသည်၊သို့သော် ကြေနပ်လောက်သော အောင်မြင်မှုများကို မရခဲ့ကြပေ၊ ယခုအခါ၌ကား ဗုဒ္ဓဂယာ မဟာဗောဓိ ဌာနကမြေနှင့် ဗုဒ္ဓဘာသာ အဆောက်အဦများအတွက် ဝမ်းသာဖွယ်ရာ သတင်းကောင်း တရပ်ကို ကြားသိရပေပြီ၊ထိုသတင်းကား အခြားမဟုတ်၊ ၁၉၅၃—ခုနှစ် ဧပြီလ ၁၅ ရက်နေ့မှစ၍ ၃—နှစ်အတွင်း အိန္ဒိယပြည် ရှိ ဗုဒ္ဓဂယာဘုရားကျောင်း ဝန်းက မြေနှင့် ဗုဒ္ဓဘာသာနှင့်စပ်လျဉ်းသော အဆောက်အဦများကို အုပ်ချုပ် ထိန်းသိမ်းရေး အတွက် ဘီဟာအစိုးရက ၉—ဦးကော်မီတီ တခုဖွဲ့၍ ခန့်အပ်ရန် ဆုံးဖြတ် လိုက်ပြီဖြစ်ကြောင်း။ ထို ကော်မီတီတွင် ခရိုင်တရား သူကြီးက ချယ်ယာမင် အဖြစ်နှင့် ဆောင်ရွက်မည့်အပြင် ဗုဒ္ဓဘာသာဝင် ပုဂ္ဂိုလ် ၄ ဦး၊ ဟိန္ဒူဘာသာဝင် ပုဂ္ဂိုလ် ၄ ဦး၊ ပေါင်း ၉ ဦးမျှ ပါဝင်မည်ဖြစ်လေသည်၊ ဟိန္ဒူဘာသာဝင် ၄ ဦးတို့တွင် "မဟန္တ" ခေါ် ဟိန္ဒူ ဘုန်းကြီးလည်း ကော်မီတီ တဦးအဖြစ် ပါဝင်၍နေသေးသည်။

မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန်စံ တော်မူခဲ့သောနေ့ (မေလ—၂၈ရက်နေ့)တွင် ထိုအုပ်ချုပ်ရေး ကော်မီတီသစ်က၊ ဗုဒ္ဓဂယာအုပ်ချုပ်မှု တာဝန် လွှဲပြောင်းယူရေးအခမ်းအနားကို ကျင်းပပြီဖြစ်ရာ၊ အခမ်းအနားသဘာပတိအဖြစ်ဖြင့်ဗုန္ဒိယနိုင်ငံတော် ဝန်ကြီးချုပ် ရှရီနေရူး က ဆောင်ရွက်လိမ့်မည်ဖြစ်ကြောင်း။

မာဃရေးသည်

ဏ်သုတ်၊ ရိတ်ဘောင်များ ကို ရွတ်ဘတ်သရဇ္ဈာယ်းတင်မူကြလေသည်၊

ရင်းနောက် သံဃာတော် များက "ပုရတ္ထိမာ ဒိသာယ" စသည်ဖြင့် အရပ်ရှစ်မျက်နှာသို့ မေတ္တာ ပို့တော်မူကြပြီးနောက် ပရိသတ်များသည် ၂-မိနစ်ငြိမ်သက်စွာနေ၍ ကမ္ဘာ့သူ ကမ္ဘာ့သားအပေါင်းတို့အားငြိမ်းချမ်း၍ သုခရှိစေရန် ရည်စူးလျက်မေတ္တာဘာဝနာ များပွားများကြကြောင်း။

နောက်ဆုံးတွင်နိုင်ငံတော်သမ္မတကြီးကိုယ်တိုင်ကြိုးမှူး၍ခေတ်ချပြီးလျှင်ဥက္ကဋ္ဌ ရှေ့နေချုပ်ကြီး ဦးချန်ထွန်း က အမှာပေးဝေသဖြင့် ပရိသတ်များက သာဓု အနုမောဒနာ ပြုကြသည်မှာ ကြည်နူးဘွယ်ကောင်းလှသည်ကို တွေ့ရကြောင်း၊

အထိပါ ဗုဒ္ဓနေ့ အခမ်း အနားတွင် လည်း နိုင်ငံတော်ဝန်ကြီးချုပ်ဦးနုနှင့် ဇနီး ဒေါ်မြရီ တရားဝန်ကြီးချုပ် ဦးသိမ်းမောင် သာသနာရေးဝန်ကြီး ဦးဝင်း၊မန္တလာ စတီဗင်ဆင်၊ မန္တလာသီးဘောလ်ဗ် စသော ပုဂ္ဂိုလ်ကြီးများအပြင် ပရိသတ် အမြောက်အမြားပင် တက်ရောက်ကြလေသည်၊

[စာမျက်နှာ ၂ မှအဆက်]

ယခုလာမည့် ကဆုန်လပြည့်နေ့တွင် စတင်ဆောင်ရွက်ရန်၊

၅။ ထိုပါဠိပဋိပုစ္ဆာသာဓက၊ တတွဲတတွဲတွက် (ဥပဇ္ဈာယ်မှူးက) အမြဲမပြတ်ဆောင်ရွက်နိုင်စေရန်အလို့ငှါ၊ဘာသာရပ်ကျွမ်းကျင်သည့် ဓမ္မာစရိယအောင်ပြီးရဟန်းတော် ငါးပါးကို ရွေးချယ်ရန်၊

၆။ အပြီးသတ်သုတ်သင်ရမည့်ကျမ်းရှိမူတွဲများကို အကျရာလေ့စိစဉ်၍ ထားခြင်း၊ သံဂါယနာတင်ရာ၌ ထ ားခြင်း စသည့်ကိစ္စများနှင့်တကွ အခြားညွှန်ကြားသော သုတ်သင်ရေးကိစ္စများကို ဆောင်ရွက်ပေးရန် ဥပဇ္ဈာယ်မှူးက လူပညာရှင်အဖွဲ့ကို ဗုဒ္ဓသာသနာအဖွဲ့က ထားရှိ ပေးစေရန် ထိုအဖွဲ့တွင် ခေါင်းဆောင် ပုဂ္ဂိုလ်အဖြစ်ဖြင့် ပါဠိဝိဇ္ဇာနှင့် သက္ကတ ရိုက်ဘာသာစသည့် ဘာသာရပ်ကျွမ်းကျင်နှံ့စပ်သူတဦးနှင့် အနည်းဆုံးလက်ထောက်တဦးအပြင် စာရေးတဦးကိုပါ ဗုဒ္ဓသာသနာအဖွဲ့က အမြန်ဆုံးခန့်ထားပေးရန်၊ (လူပုဂ္ဂိုလ်များကို ယခုအခါ ခန့်ထားပြီးသဖြင့် တာဝန်များကို ထမ်းဆောင်နေကြပြီဖြစ်ကြောင်း၊ (အယ်ဒီတာ)

၇။ ဦးစွာ ပထမ သုတ်သင်မည်ဖြစ်သောပါရာဇိကဏ်ကိုသုတ်သင်ဘည်းဖြတ်ရန်အလို့ငှါ ပါဠိပဋိပုစ္ဆာသာဓက အဖွဲ့မှ ငါးပါးနှင့် ဝန်ဆောင် သံဃာအဖွဲ့မှ သုံးပါးကို အောက်ပါအတိုင်းရွေးချယ်တော်မူကြသည်၊

## ပါဠိဝိသောဓကအဖွဲ့မှ

၁။ ဦးနာရဒ (အဂ္ဂမဟာပဏ္ဍိတ) ဘုရားကြီးတိုက်၊မန္တလေး၊ ၂။ဦးဥတ္တမသာ ပဏ္ဍိတ မြို့ ကျောင်း၊ မြင်း ဝန် တိုက်၊ မန္တလေး၊ ၃။ ဦးဝိစိတ္တ မဟာမြိုင်တိုက်၊ မင်းကွန်း၊ ၄။ ဦးကေသလ္လ၊ မဟိုးရိပ်တိုက်၊မန္တလေး၊ ၅။ ဦးသုန္ဒရ၊ရတနာဘုံ ရိပ်သာ၊မန္တလေး၊

## ဝန်ဆောင်သံဃာအဖွဲ့မှ

၆။ ဦးကောဝိဒ၊ ဘုရားကြီးဆရာတော် (အဂ္ဂမဟာပဏ္ဍိတ) ရန်ကုန်၊ ၇။ ဦးဇနကာဘိဝံသ (အဂ္ဂမဟာပဏ္ဍိတ) ဘုရားကြီးတိုက်၊မန္တလေး၊ ၈၊ ဦးဝိသုဒ္ဓ ဝိဇ္ဇာလင်္ကာရတိုက်၊ မန္တလေး၊

၈၊ ပါဠိပဋိပုစ္ဆာသာဓက အဖွဲ့က ထပ်မံသုတ်သင်မည့်ကျမ်းကို သုတ်သင်ခဲ့သော ဝိသောဓက အဖွဲ့၊ ကိုယ်စားလှယ်တပါးကိုလည်း ပါဝင်ဆောင်ရွက်နိုင်စေရန်အလို့ငှါ ပင့်ဖိတ်သင့်က ပင့်ဖိတ်ရန်၊

—————

ယခုလပါဝင်သည့် ညောင်ရေသွန်းတော်ပုံများမှာ ဟံသာဝတီနှင့် မြန်မာ့အလင်းသတင်းစာများမှ ငှါးရမ်းစုဆောင်းခွင့်ပြု သဖြင့်ရခဲ့သော ပုံများဖြစ်သည် အတိုင်းတပုံနှင့် တပုံအဘောင်ဆက်တွေ့ရှိရပါကြောင်း၊

# ပတ္တာနုမောဒနာ ကုသိုလ်ဖြစ်ပွါးကြရန်

## ဗုဒ္ဓဘာသာပန်းချီ

သီဟိုဠ်ကျွန်း ဗုဒ္ဓဘာသာ ယဉ်ကျေးမှုအဖွဲ့ကြီးမှ ကျင်းပချီနိုင်ငံပေါင်းစုံ ဗုဒ္ဓဘာသာပန်းချီပြပွဲကြီးကို မေလ ၂၄ ရက်နေ့မှ ၃၀ ရက်နေ့အထိ ကျင်းပလိမ့်မည်၊ ထိုပန်းချီပြပွဲကြီးသို့ နိုင်ငံပေါင်းစုံမှ ပန်းချီဆရာများသည် (၁) ဗုဒ္ဓဘာသာရေး (၂) ဗုဒ္ဓဘာသာ ယဉ်ကျေးမှု နှင့် (၃) ဗုဒ္ဓဘာသာရာ ဇဝင် အကြောင်းရှိသော သရုပ်ဖော် ပန်းချီကားများကို




တင်ပြနိုင်၏၊ မြန်မာပြည်မှ ဗုဒ္ဓဘာသာ ပန်းချီပြပွဲကြီးတွင် ပါဝင်တင်ပြလိုသော ပန်းချီဆရာများအား သရုပ်ဖော်ပန်းချီကားများကို ဧပြီလ ၃၀-ရက်နေ့ နောက်ဆုံးထား၍ ရန်ကုန်မြို့ရှိ သီဟိုဠ်သံရုံးသို့ ပေးပို့နိုင်သည်ဟု ဆိုင်ရာမှ ကြေညာချက် ရှိပေသည်၊ နိုင်ငံပေါင်းစုံ ဗုဒ္ဓဘာသာပန်းချီပြပွဲကြီးဆိုင်ရာမှ ထူးချွန်ကောင်းမွန်သော ပန်းချီကားများ ကိုဆုများနှင့် လက်မှတ်များချီးမြှင့်ရန်စီစဉ်ထားသည်ဟုလည်းသိရှိရပေသည်။

## အိန္ဒိယဗုဒ္ဓနေ့ ရုံးပိတ်ရက်

ဗုဒ္ဓမြတ်စွာဘုရားမြင်တော်မူသောနေ့ သမ္ဗုဒ္ဓဘုရားဖြစ်တော်မူသောနေ့နှင့် ပရိနိဗ္ဗာန်စံတော်မူသောနေ့ ဖြစ်သည့် မေလ ၂၈ နေ့ကို အိန္ဒိယအစိုးရနှင့် ဘီဟာပြည်နယ် အစိုးရတို့က ဗုဒ္ဓနေ့ ရုံးပိတ်ရက် ဖြစ် သတ်မှတ်ကြေညာလိုက်ပြီ ဖြစ်ကြောင်း၊ ယခုနှစ်တွင် ဘီဟာပြည်နယ်၌ မေလ ၂၆ ရက်နေ့မှ၍ သုံးရက်ဆိုင်ဆိုင် ဗုဒ္ဓနေ့ကို ဆင်ယင်ကျင်းပရန် စီစဉ်လျက်ရှိကြပြီဖြစ်ကြောင်း။

---

### သံဃါယနာစာစောင်

## စာတည်းအဖွဲ့

၁။ မြန်ကြားရေး ဌာန ဝန်ကြီး ဦးထွန်းဝင်း [ဥက္ကဋ္ဌ]

၂။ နိုင်ငံတော် ရှေ့နေချုပ်ကြီး ဦးချန်ထွန်း [အကျိုးဆောင်]

၃။ တရားဌာန အတွင်းဝန် ဟောင်း စည်သူ ဦးစံညွန့်

၄။ မြန်ကြားရေးဌာန အတွင်းဝန်၊ သီရိပျံ့ချီဦးသန်း

၅။ မြန်ကြားရေးဌာန ညွှန်ကြားရေးဝန် ဝဏ္ဏကျော်ထင် ဦးဖေယာ (ဇေယျ)

အယ်ဒီတာ ဦးသာတင် [မာယ]

(မြန်မာနိုင်ငံမှ ကျင်းပသော ဗုဒ္ဓနေ့နှင့် တလမျှကွာခြား နေ၍ကျ နေ၏၊ အယ်ဒီတာ)

## ဘာသာမျိုးစုံ ပိဋကတိုက်

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့တည်ရာ ကမ္ဘာ့အေးသာသနာ့ရိပ်သာ၌ ဖွင့်လှစ်ထားသော ပိဋကတိုက်တွင် ကမ္ဘာ့အရပ်ရပ်ရှိ ဘာသာအက္ခရာများဖြင့် ရေးသားထားသော ဗုဒ္ဓဘာသာနှင့် ဆိုင်ရာ ပိဋကတ်ကျမ်းစာများမှာ အတန်ပင် ပြည့်စုံလျက်ရှိ၍ ဆက်လက်၍လည်း ဖြည့်စွက်လျက်ပင်ရှိနေ၏၊ ယခုလက်ရှိ စာအုပ် စာတမ်းများမှာ အကြမ်းအားဖြင့် အောက်ပါအတိုင်းပင်ဖြစ်ကြောင်း။

မြန်မာဘာသာ၊ ကျွန်ုပ်တို့သော ပိဋကတ်တော်မှာ ပေါင်း ၂၅၀၆ မှုရှိ၍ အ ထွေထွေ ကျမ်းစာအုပ်များမှာ ၂၀၃-အုပ်ရှိပြီး ပေထုပ်ကြီးများမှာ ၃၁၅-ထုပ်မျှရှိကြောင်း၊ ထိုင်းဘာသာ အက္ခရာဖြင့်စာအုပ် ၂၀၅ အုပ် သီဟိုဠ်ဘာသာ အက္ခရာဖြင့် စာအုပ် ၁၁၇




အုပ်၊ ကမ္ဘောဒီးယား ဘာသာ အက္ခရာဖြင့် စာအုပ် ၆၂ အုပ်၊ ယိုးဒယားဘာသာ အက္ခရာဖြင့် ၂၅၉ အုပ်နှင့် ဟိန္ဒီ ဘာသာ အက္ခရာဖြင့် စာအုပ် ၁၀ အုပ် စသည်ဖြင့် အသီးသီးရှိကြောင်း၊ ပိဋကတ်ကြီးကိုပိဋကတ်တိုက်မှုးလက်ထောက် စာရေး ဘေဒိုစသည်တို့ဖြင့် စနစ်တကျ အုပ်ချုပ်စီမံခန့်ခွဲလျက်ရှိကြောင်း။

## ချင်းသာမဏေ ၃၃

တောင်တန်းသာသနာပြုအဖွဲ့မှ ကြီးမှူး၍ ၁၃၁၄-ခုနှစ် တန်ခူးလပြည့်ကျော် ၄ ရက်နေ့က ကျောက်ထု ကျောင်းတွင် ချင်းအမျိုးသားကလေး ၃၃-ဦးအား ၂၅၀၀ တန် ရှင်ဆောင် ပရိက္ခရာစုံ ပေါင်း ၃၃ စုံနှင့် ရှင်သာမဏေအဖြစ်သို့ ချီးမြှင့်ကြလေသည်။

## နီပေါသီလရှင် ၄

နီပေါလ်နိုင်ငံ၌ ဗုဒ္ဓသာသနာ ပြန့်ပွားရန် ရည်သန်ချက်ဖြင့် မြန်မာစာပေ ပါဠိကျမ်းဂန်များနှင့် ဘာသာရေး အချက်အလက် ... ဆည်းပူးလိုရှိ နီပေါလ် အမျိုးသမီး ... သီလရှင် ၄-ပါးသည် ... မဟာနီး မဲ့သုခ တိုက် ... သီလရှင် ပဋ္ဌမ ကျော်ခေါ်ရပမာ ... ရောက်ရှိ

နေကြ၏၊ နီပေါလ် သီလရှင် ကလေးများ၏ အမည်များမှာ မအာရတိ၊ မဥတ္တရာ မမေဓာဝီနှင့် မမ ... ဖြစ်ကြ၏ ... ယခင်က မီးဒါရုံ ဆရာတော် ဦးကိတ္တိမ၏ တပည့်များ ဖြစ်ကြ၏၊ ဟိန္ဒီ အင်္ဂလိပ်နှင့် ပါဠိစကားကို ကောင်းစွာ ပြောဆိုတတ်ကြ၏၊ ယခုအခါတွင် မြန်မာစာကို စတင်လေ့လာ နေကြပြီဖြစ်ကြောင်း၊

သီလရှင်ကလေးများအား မြန်မာပြည်တွင်နေထိုင်ရန် ဝိသေသ ... များကို ကြေးပေးလောက်အောင် သင်ယူရန်အတွက် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့မှ နေထိုင်စားသောက်ရေးများကို ထောက်ပံ့လျက်ပေးရာ သင်ကြားတတ်မြောက်၍ ဇာတိ အိန္ဒိယသို့ ပြန်ကြသော အခါတွင် အိန္ဒိယနှင့် နီပေါလ်ပြည်များ၌ ဗုဒ္ဓသာသနာပြန့်ပွါးရေး လုပ်ငန်းများကို အနည်းဆုံး ... အဖွဲ့ကြီး၏ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်ကြလိမ့်မည် ဖြစ်ကြောင်း၊

## ကိုယ်တိုင်ဒုလ္လဘ

မြို့ဘက်မြို့တွင် မည်သူမျှမပြုလုပ်ခဲ့ကြဘူးသေးသော သာသနာရေး စံပြအလှူပွဲဘ ... လူငယ်ဆဲ့တဦးတို့က ပြုလုပ်ခဲ့ကြလေသည်၊ ထိုလူငယ်များသည် တယောက်လျှင် ငွေ ၁၅၀ စီထည့်ပြီးကိုယ့်ကိုယ်ကို ကိုယ်ရဟန်းဘဝ ခံ၍ ရဟန်းဘက်ကြီးနောက် တောကျောင်း၌ သုံးရက်မျှ သီတင်းသုံးနေကြ၏။

လူငယ် ၁၁-ဦး၊ အနက်ခေါင်းဆောင်လုပ်သူမှာ စာပုံနှိပ်တိုက်ရှင်မြန်မာမှတ်စလင်ကိုကျော်ထွန်း ဆိုသူဖြစ်၏၊ လူငယ် ၁၁-ဦးမှာ ကိုကျော်ထွန်း၊ ကိုထွန်းဘင်၊ ကိုမိုးနီ၊ ကိုထွန်းသင်၊ ကိုမြအယ်၊ ကိုဘဝိုး၊ ကိုလှိုင်ဝေး၊ ကိုချစ်မြ၊ ကိုဝေအေး၊ သွင်၊ ကိုသန်းတင် နှင့် ကိုသက်ငြိမ်တို့ ဖြစ်ကြလေသည်။




## ယိုးဒယားသာသနာပြု

အရှင်သဒ္ဓမ္မဇောတိပါလ(မြောစရိယ) ဒု ရှင်သည် ယိုးဒယားပြည် ဘန်ကောက်မြို့တော်သို့ကြွကာ သာသနာပြုလုပ်ငန်းများကိုဆောင်ရွက်နေသည်မှာ ၃-နှစ်မျှ ကြာပြီဖြစ်ရာ အတန်သည်။ ... အောင်မြင်နေသည်ဟု သိရကြောင်း၊

ဆရာတော်သည် တနင်္ဂနွေနေ့နှင့် ဥပုသ်နေ့များတွင် ကျောင်းများသို့ လှည့်လည်ကာ အဘိဓမ္မာနှင့်မဟာသတိပဋ္ဌာန် တရားများကိုအခြေခံ၍ ဟောပြောပြီးလျှင် အဘိဓမ္မာ သင်္ဂဟပါဠိ အနက်၊ အဓိပ္ပါယ်းကောက်နှင့်သတိပဋ္ဌာန်အခြေခံ

များကို ယိုးဒယားဘာသာသို့ ပြန်ဆိုနိုင်ဖြန့်ချိလုက်ရှိကြောင်း သတင်းကောင်း ပေးပို့ခဲ့လေသည်၊

## အမေရိကန်တွင် ဘုရားရှိခိုးကျောင်း

စန်ဖရန်စစ္စကိုမြို့ လူစည်ကားသည့် တရပ်ကွက်တွင် ဗုဒ္ဓဘာသာ ဘုရားရှိခိုးကျောင်းကြီးတဆောင်ကို တည်ဆောက်လုပ်နေပြီဖြစ်လေသည်၊

နေ့-တနင်္ဂနွေနေ့များတွင် နေ့ရောညပါ ယောက်ျား မိန်းမ ကလေးများပါ မကျန် ကိုယ်စီတတ်နိုင်သည့် အကူအပံ့ဝင် ကူညီလုပ်ကိုင်ပေးနေကြ၏၊

ဤမြောရှုံကြီး ဖြစ်မြောက်ရေးအတွက် အဖွဲ့ဝင် ၃၀၀ တို့သည် နည်း အမျိုးမျိုးနှင့် ငွေမနည်းကြီး မိန်းမ ၁ ဝ-ပိုင်မှစ၍ စုဆောင်းခဲ့ရ၏၊ ငွေတင်း ထောက် သန်မှု ကြောင့် အရင်ရင်မှ ဘာသာမခွဲ ကူညီထောက်ပံ့မှုများလည်းရှိခဲ့၏။

တည်ဆောက်ရေး ကုမ္ပဏီများ ကလည်း မိမိတို့၏အချိန်နှင့် ပစ္စည်းအသုံးအဆောင်များပါပေး၍ ကူညီကြ၏၊ ဆွေ ဖြတ်သန်းသွားလာသည့်ဧည့်သည်များကလည်းထည့်ဝင်းပေးလှူသွားကြသည်မှာ အထူးအားရဖွယ်ဖြစ်လေသည်။

မြောရုံကြီးမှ သုံးထပ်တိုက် ဖြစ်ပြီး စတုရန်းပေ ၇၀ ရှိ၏၊ လွန်ခဲ့သော ၈ နှစ်ကတည်းက ဤအဆောက်အဦကြီး ဖြစ်မြောက်ရေးကို ကြံစည်စိုးပြုလာခဲ့ကြ၏၊ ၁၉၅၁ ခုနှစ်တွင် ညဇာတ်ရုံနေရာကြီးတခုကိုဝယ်ယူ၍ ဝယ်ဘာလကမ္ဘာရုံကြီးကိုစတင် တည်ဆောက်ခဲ့လေသည်

ယခုအခါ ကြမ်းပြင်မှာပြီးလုပြီဖြစ်ရာ ဤနှစ်မိုးလယ်နှင့်သီမရောက်မီ အမိုးဆောက်လုပ်ပြီးစီးမည်ဟုခန့်မှန်းထားကြ၏၊ ရှေ့နှစ်တွင် ဘုရားရှိခိုးကျောင်းသစ်ကြီး၌လူအများ လာရောက်ကိုးကွယ် ဝတ်ပြုနိုင်ကြတော့မည်ဖြစ်ကြောင်း၊

### ပဏာမသံဂါယနာ

ကျော်ကြားနယ်ရှိ ဆရာတော်ကြီးများသည် ဆဋ္ဌသံဂါယနာတင်ပွဲကြီးတွင်အာဂုံပြန်ရွတ်ဆိုရန်အတွက်ပဏာမ ... ဆရာတော်ကြီးများထံမှ သုတ်သီလက္ခန် ပါဠိတော်ကို အာဂုံ ယူ၍ယခုအခါမြို့နယ်ရှိဆရာတော်ကြီးများအား ... ရွတ်ပြနေကြ၏၊

ဆရာတော်ကြီးများသည် ဝါ၊ ဆိုမီအတွင်း တွေ့ဆုံကာပဏာမသံဂါယနာတင်ရန်အတွက် ပေးပို့ ... များကို အ ... ကြောင်းဖြစ်လေသည်၊




---

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ ထုတ်ဝေသည်။ တယ်လီဖုန်း၊ (မြောက်) ၃၉၂။ သာသနာ့ရိပ်သာ-ကုတ်ကိုင်း၊ ရန်ကုန်။

မြန်မာ့အလင်းသတင်းစာ ပုံနှိပ်တိုက်တွင် ပုံနှိပ်သည်။

## ဆဋ္ဌသံဂါယနာ

# ဝန်ဆောင်သံဃအဖွဲ့



























## ဓာတ်ပုံပါ–ဆရာတော်များ

(၁) ညောင်ရမ်းဆရာတော် (၂) ဟံသာဝတီ ဆရာတော် (၃) ရွှေဘုန်းရှိန်ဆရာတော် (၄) ဝိဇ္ဇာလင်္ကာရဆရာတော် (၅) မဟာဂန္ဓာရုံဆရာတော် (၆) ဆရာတော်ဦးဇ္ဇသရိယ (၇) သာသနာလင်္ကာရ ဆရာတော် (၈) ဗားကရာတောရဆရာတော် (၉) မဟာစည်ဆရာတော်၊ (၁၀) ပခုက္ကူ-အလယ်တိုက်ဆရာတော် (၁၁) ခင်မကန်ဆရာတော် (၁၂) မစိုးရိမ်ဆရာတော် (၁၃) ဆရာတော်ဦးဘိလောကာဘိဝံသ (၁၄) ရန်ကုန်ဘုရားကြီးတိုက်ဆရာတော် (၁၅) ကျောက်ကုန်းတောရဆရာတော် (၁၆) ပဉ္စမနားလယ်တိုက်ကျောင်းဆရာတော် (၁၇) အနီးစခန်းဆရာတော် (၁၈) ရွှေစေတီဆရာတော် (၁၉) ဆရာတော်ဦးဓမ္မနန္ဒ–ပုသိမ် (၂၀) ဆရာတော်ဦးနရသီဟ–စစ်တွေ (၂၁) ညောင်ရွှေဆရာတော် [ကျန်ဝန်ဆောင်ဆရာတော်တို့၏ ဓာတ်ပုံများအသင့်မရှိသဖြင့်-မဖော်ပြလိုက်ရပါ]

အတွဲ-၁၊ အမှတ်–၃၊ ၁၃၁၅–ခု ပထမ-ဝါဆိုလ
နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှလစဉ်ထုတ်သည်။ တစောင်-၂၅ပြား

# သံဂါယနာစာစောင်

၁၃၁၅-ခု(ပထမ)ဝါဆိုလ၊ အတွဲ ၁-အမှတ် ၃

## အကြောင်းပြ လုံလောက်ပါစေ

သံဂါယနာ တင်သည်ဟု ဆိုရာ၌ ဘုရားရှင်၏ တရားစကားတော်တို့ကို စင်ကြယ်စွာကြာရှည် တည်တံ့အောင် ပြုလုပ်မှုသည်သာလျှင် လိုရင်းအချက် ဖြစ်ကြောင်းကို ယခင်စာစောင်များ၌ကျွန်ုပ်တို့ ရေးသားခဲ့ပြီး ဖြစ်လေသည်။ အချို့ ပုဂ္ဂိုလ်များက "အလဇ္ဇီ ဒုဿီလ ရဟန်းဘို့အား သန့်ရှင်းအောင် နှိမ်နင်းမှု မပြုဘဲ သံဂါယနာ တင်ခဲ့ပါလျှင် အကျိုးရှိမှာမဟုတ်ဘူး" ဟူ၍၎င်း၊ အချို့ ပုဂ္ဂိုလ်များကလည်း "ဝါဒကွဲ ဂိုဏ်းကွဲ များကိုအသုံးစုံ ညီညွတ်အောင် မပြုလုပ်နိုင်ဘဲ သံဂါယနာတင်ခဲ့ပါလျှင် ဘေးရန်အန္တရာယ်များဖြစ်ပွါးကုန်လိမ့်မည်" ဟူ၍၎င်း ပြောဆိုမှု ရေးသားမှုများကို ပြုတော်ကြကုန်၏။

အလဇ္ဇီဒုဿီလများကိုသန့်ရှင်းစင်ကြယ်အောင် နှိမ်နင်းချမည်ဟု ဆိုရာ၌ ကျွန်ုပ်တို့ခေတ်ကို မဆိုထားနှင့်ဦး။ သက်တော်ထင်ရှား ဗုဒ္ဓရှင်တော်ဘုရား ရှိတော်မူစဉ်အတွင်းမှာပင် အလဇ္ဇီ ရဟန်းများ ဒုဿီလ ရဟန်းများရှိခဲ့ကြောင်းကို ဗုဒ္ဓဘာသာ စာပေများအရ အသေအချာသိရလေသည်။ ပဌမသံဂါယနာတင် မင်းတုန်းမင်းတရားကြီး လက်ထက်တော်၌လည်း အလဇ္ဇီဒုဿီလ ပုဂ္ဂိုလ်တို့ကို အာဏာစက်ဖြင့်၎င်း၊ မွေစာဖြင့်၎င်း၊ ပညတ်မှု နှိမ်နင်းမှု ပြုခဲ့သော်လည်း အလုံးစုံ အောင်မြင်မှု မရခဲ့ကြောင်းကို အများသိပြီးဖြစ်သဖြင့် အထူးဖော်ပြဘို့ မလိုတော့ပေ၊ ထို့ကြောင့် "အလဇ္ဇီ ဒုဿီလတို့ကို လုံးဝ သန့်ရှင်း စင်ကြယ် အောင် ဆောင်ရွက်၍ ပြီးမှသာလျှင် သံဂါယနာတင်သင့်သည်" ဟူသော စကားသည် လုံးဝခိုင်လုံသော စကားမဟုတ်ကြောင်း ထင်ရှားလှပေသည်။

၎င်းသို့ ရေးသားဖော်ပြရာ၌ "အလဇ္ဇီ ဒုဿီလ ပုဂ္ဂိုလ်တို့ကို နှိမ်နင်းရန်မလိုမနှိမ်နင်းသင့်ဘူး" ဟု ဆိုလိုရင်း မဟုတ်ကြောင်းကိုလည်း သတိပြုဘို့လိုပေသည်၊ အမှန်အားဖြင့် နိဂ္ဂဟ–ပဂ္ဂဟ နှစ်မျိုးတို့တွင် အလဇ္ဇီဒုဿီလပုဂ္ဂိုလ်တို့မှာ နိဂ္ဂဟပြုသင့်သော(ဝါ)ဖိနှိပ်သင့်သောပုဂ္ဂိုလ်တို့သာလျှင် ဖြစ်ကုန်၏၊ လဇ္ဇီသီလဝန္တ ပုဂ္ဂိုလ်တို့သည်ကား ပဂ္ဂဟမှု(ဝါ) ချီးမြှောက်မှု ပြုသင့်သော ပုဂ္ဂိုလ်များ ဖြစ်ကုန်၏။ ထို့ကြောင့် အစိုးရအနေနှင့်ဖြစ်စေ၊ သံဃာအဖွဲ့အစည်း အနေနှင့် ဖြစ်စေ၊ လူအဖွဲ့အစည်း အနေနှင့် ဖြစ်စေ၊ တဦးတယောက် အနေနှင့်ဖြစ်စေ စွမ်းအားရှိသမျှ ကေန်ဖိနှိပ်သင့်သူကို ဖိနှိပ်ခြင်း၊ ကေန် ချီးမြှောက်သင့်သူကို ချီးမြှောက်ခြင်း၊ သည်သာလျှင် တရားနည်းလမ်း အကျဆုံးဖြစ်ရပေလိမ့်မည်၊

"ရေများ ရေနိုင်–မီးများ မီးနိုင်" ဟူသကဲ့သို့ အလဇ္ဇီ ဒုဿီလ ပေါများသည့် ခေတ်၌၎င်း၊ အရပ်ဒေသ၌၎င်း အလဇ္ဇီဒုဿီလ တို့၏အင်အားသည်သာလျှင် ကြီးမား လွှမ်းမိုး၊ တည်မြဲ ဖြစ်လေသည်၊ လဇ္ဇီသီလဝန္တများ ပေါများသော ခေတ် ပေါများသောအရပ်၌ လဇ္ဇီသီလဝန္တများသာလျှင် ကြီးမားလွှမ်းမိုးဘတ် မြဲဖြစ်လေသည်၊ ၎င်း နှစ်မျိုး တို့တွင် အစိုးရအနေနှင့်ဖြစ်စေ အသင်းအဖွဲ့အနေ နှင့် ဖြစ်စေ အကောင်း အဆိုး ကို ပဓာန မပြုဘဲ အင်အား များရာသို့သာလိုက်၍ အားပေးမှု ချီးမြှောက်မှုများကို ပြုသင့်သော အရာမျိုးမဟုတ်ချေ၊ လဇ္ဇီသီလဝန္တ ပိုင်း လည်း ဖြစ်သည် အင်အားလည်း ကြီးမားသည်အားသည်းပေးသည် ဟု ဆိုခဲ့ပါလျှင် "အဘိုးထက်အလွန် တံခွန်နှင့်ဘုရား" ဆိုသကဲ့သို့ သင့်လှပါပေသည်၊ကောင်းလှပါပေသည်၊ ဘုတ်လှပါပေသည်၊မှန်လှပါပေသည်ဟု ချီးကျူးဘို့သာသင့်လေသည်။

"ဝါဒကွဲ ဂိုဏ်းကွဲများကို အသုံးစုံ ညီညွတ်မှု ရအောင် ပြုလုပ် မှ သာ လျှင် သံဂါယနာတင်သင့်သည် (သို့မဟုတ်ပါက) အကျိုးမဲ့ကိုသာ ဖြစ်စေလိမ့်မည်" ဟူသော စကားမျိုးသည် ထုံးမရှိ-စံမရှ-နည်းလမ်းမကျသော စကားမျိုးသာ ဖြစ်လေသည်၊ သက်တော်ထင်ရှား ဘုရားသခင် ရှိတော်မူစဉ်ကပင် ဒေဝဒတ်က သင်းခွဲခဲ့သည် မဟုတ်ပါလော၊ တရုပ်လူမျိုး ဘုရားဖူးခရီးသည်ကြီး ဟိယန်ဆိုင် အရှင်မြတ်၏(ဖိုးကိုကို) ခေါ် မှတ်တမ်းတော်၌ ပထမ သံဂါယနာ တင်စဉ်အခါကပင် ဂိုဏ်းခွဲ၍ ငင်ပြိုင်သံဂါယနာ တင်ခဲ့ကြောင်း အဆိုရှိလေသည်၊ ဒုတိယ သံဂါယနာ၌လည်း ကာလာသောကမင်းသည် ဝေသာလီပြည် ဝဇ္ဇီတိုင်းသား ရဟန်းများကို အားပေးချီးမြှောက်တော်မမူဘဲ အရှင်မဟာယသ အမှူးရှိသော အရှင်မြတ်ဘို့ကိုသာလျှင် အားပေးချီးမြှောက်တော်မူခဲ့သည်မဟုတ်ပါလော ?။

ထို့ဒုတိယ သံဂါယနာတင်ပွဲ၌လည်း ဂိုဏ်းကွဲများ ရှိမြဲရှိရုံမျှမက ငင်ပြိုင်သံဂါယနာပင် တင်ခဲ့ကြသေးကြောင်းကိုရှင်း တတိယ သံဂါယနာ တင်ရာ၌လည်း ဂိုဏ်းကွဲများ ရှိမြဲရှိနေရုံမျှမက သဗ္ဗတ္ထိဝါဒဂိုဏ်းက ဦးစီး၍ ငင်ပြိုင်သံဂါယနာပင် တင်ခဲ့သေးကြောင်းကို၎င်း ဗုဒ္ဓဘာသာ စာပေမှတ်တမ်းတို့၌ အဆိုရှိလေသည်။

မဟာယာန ဗုဒ္ဓဘာသာ စာပေမှတ်တမ်းများအရ ကနစ္စကမင်း၏ သံဂါယနာသည် ဗုဒ္ဓဘာသာ ဂိုဏ်းပေါင်းစုံ ညီညွတ်ရေးကို ရည်ရွယ်၍ တင်ခြင်းဖြစ်သော်လည်း တောင်းပိုင်းဗုဒ္ဓဘာသာတို့နှင့် ကွဲလွဲမြဲကွဲလွဲလျက်ပင်ရှိကြောင်းကို သိရလေသည်။

ထို့ကြောင့် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးမှ တရားနှင့်လည်း ညီစေရမည်၊ ခေတ်နှင့်လည်း လျော်စေရမည်၊ အားပေးချီးမြှောက်သင့်သော အပိုင်းကိုလည်း အားပေးချီးမြှောက်ရာ ရောက်စေရမည် စသော ရည်ရွယ်ချက်တို့ဖြင့် အခြေခံ၍ တင်လတ္တံ့ဖြစ်သော ဆဋ္ဌသံဂါယနာကိစ္စကြီးကို အကြောင်းပြ အခြေခံ မလုံလောက်ဘဲ နိုင်ငံရေးကိုအကြောင်းပြုခြင်း အားဖြင့်၎င်း၊ ပတ်မကြီးကိုထိုး၍ ဖောက်နည်းမျိုးဖြင့်၎င်း၊ ပုဂ္ဂိုလ်ရေး ဂိုဏ်းခွဲအားဖြင့်၎င်း၊ နှောင့်ယှက်ပြစ်တင်မှုများကို ပြုကြပါလျှင် အပြစ်ကြီးလေးလှကြောင်းကိုလည်း စေတနာကောင်းဖြင့် သတိပေးစကား ရေးသားလိုက်ရပေသတည်း။

## မေတ္တာရပ်ပါသည်

လုံးလုံးစာမရေးသူအဘို့ မှားစရာမရှိသောစာဟူ၍ ရှိနိုင်မည်မဟုတ်ချေ။ ပုထုဇဉ်တို့၏ ဓမ္မတာအတိုင်း အနည်းအကျဉ်းရေးသားသူပင် ဖြစ်စေ အနည်းအကျဉ်းသာမှား တတ်ပြီးလျှင် များများရေးသူအဘို့ များများမှားတတ်ပေသည်။ သို့သော်များများရေးသော်သည်၊အနည်းအကျဉ်းသာမှားဘို့ရန် သတိပြုဘို့ရန်တာဝန်ရှိလေသည်၊ များများရေးသော်လည်း အမှားအယွင်းမရှိဟုဆိုလျှင်ကားဆိုဘွယ်ရာ မရှိပေ။

ခက်ခဲနက်နဲသော ကျမ်းဂန် စာပေများကိုရေးသားပုံနှိပ်ရာ၌ကား အမှားအယွင်း နည်းပါးနိုင်သမျှ နည်းပါးအောင် ဂရုစိုက်မြဲဖြစ်လေသည်။ အချိန်အခါကိုလု၍ လုပ်ကိုင်ရသော စာနယ်ဇင်းများအတွက်မှာ မူကား တစ်စောင် မဟုတ်တစောင် တခါးမဟုတ်တခါး ချို့ယွင်းချက်များပါရှိတတ်လေသည်။ အချိန်ကာလကို လု၍ ဆောင်ရွက်ရသော စာနယ်ဇင်းများအတွက် မူလရေးသူ၏ အမှား၊ တအင်ကူးသူ၏အမှား၊ စာစီသူ၏ အမှား၊ စာပြင်ဆရာ၏အမှား၊ ဂေါက်ရိုက်သူ၏ အမှား၊ အယ်ဒီတာ၏အမှားဟူ၍ အမှားအမျိုးမျိုးရှိနိုင်သဖြင့် ကမ္ဘာပေါ်ရှိ စာနယ်ဇင်း မှန်သမျှထိုအနည်းအကျဉ်းမှားယွင်းမှုကိုကား လုံးလွတ်ကင်းအောင် ရှောင်ရှားနိုင်လိမ့်မည်မဟုတ်ချေ။

ကျွန်ုပ်တို့ သံဂါယနာ စာစောင်မှာလည်း အချိန်အခါကိုလု၍ လုပ်ကိုင်ရပေသဖြင့် သိလျက်နှင့်ခွတ်ချော်မိသောအရာများလည်းရှိကောင်းရှိပေရာသည်၊ မသိ၍ချွတ်ချော်မိသော အရာ များလည်း ရှိကောင်းရှိပေရာသည်။သို့ဖြစ်၍ ကြီးလေးသော ချို့ယွင်းချက်များမှတပါး အသေးအဖွဲချို့ယွင်းချက်ကလေးများကို တွေ့မြင်ခဲ့ပါလျှင် ပြင်ဆင်ဖတ်ရှုကြစေလိုကြောင်းကို မေတ္တာရပ်ပါသည်။

## စေတနာထားသည့် အာဘော်

သံဂါယနာ ပဌမအကြိမ်ထုတ် စာစောင်၌ (ကမ္ဘာ့ဦးသားဘုန်းကြီးဘောဟာ ရှင်းဘုန်းကြီးများလို အိမ်ထောင်ပြုကြတယ် မဟုတ်လား ညစာစားကြတယ် မဟုတ်သလားဟုလည်း အချို့က မေးကြသည်) ဟု ပါရှိရာ၌ "ပြည်ထောင်စုသားချင်းစိတ်ဝမ်းကွဲပြားစေမည့်အသုံး အနှုံးမျိုးဖြစ်၍များနေမည်လား" ဟု ပုဂ္ဂိုလ်ကြီးနှစ်ဦးတို့ထံမှ အကြောင်းကြားချက်ရရှိပါသည်၊ အမှန်မှာ (အချို့က မေးကြသည်) ဟူသောစကားကို ထောက်ထားခြင်းအားဖြင့်၎င်း၊ နောက် စာပိုဒ်များကို ထောက်ထားခြင်းအားဖြင့်၎င်း၊ အယ်ဒီတာ၏အယူအဆမဟုတ်ဘဲ မြန်မာလူမျိုးများစွာတို့တွင် ဤမျှဗဟုသုတ နည်းပါးသူမျိုးလည်း အနည်းအကျဉ်းရှိသေးသည် ဟု သိစေလိုသောကြောင့်၎င်း၊ ဗဟုသုတ တိုးတက်ရာဒို့ ရန်သင့်လှသည် ဟူသော သဘောကို၎င်း၊ ရည်ရွယ်၍ ရေးသားခြင်း ဖြစ်ကြောင်းသိသာလှပါပေသည်။ သို့ပါ၍ တစုံတရာ စိတ်ဝမ်းကွဲပြားစေမည့် သဘောမျိုး မပါရှိသည့်ပြင် ပြည်ပ ဗဟုသုတများသာမက ပြည်တွင်း ဗဟုသုတများကိုပါ ပြည်ထောင်စုသား အချင်းချင်း ရင်းနှီးသိရှိခြင်းအားဖြင့် ဆည်းပူးကြစေလိုကြောင်းကို တချက်ခုတ် နှစ်ချက်ပြတ် သဘောမျိုးရေးသားလိုက်ရခြင်းသာ ဖြစ်ကြောင်းကို လေးမြတ်စွာ ပြန်ကြားရပေသတည်း။



မော်လမြိုင် နယ်တွင် ရှင်ဘောပြု တည်ခဲ့သော ကျိုက်မရော ဘုရားတွင် ကရင်ပြည်နယ်ဝန်ကြီးများ ဘုရားဖူး ရောက်ရှိနေကြပုံ။



မော်လမြိုင်နယ် ဝန်းကြီး ရွာမှ ဓမ္မစေတီမင်းမျိုးကို ညီတော် ..ကဖြင့် ကြိုဆိုကြပုံ။



ဗုဒ္ဓဘာသာကရင်အမျိုး သမီးများ ဓမ္မစကြာသုတ်တော်ကြီးကို ရွတ်ဆို၍ နေကြစဉ်။

# တရားစကြာ·ရတနာ

**ဝသန္တရာသီ၏ အစွမ်းဖြင့်နွေရာသီကထက် အလွှတိုး၍ နေသော မိဂဒါဝုန် တောကြီးဝယ် ဝါဆိုလပြည့်နေ့ နေဝင်–လ ထွက် အ ချိန် တွင် ဓမ္မစကြာ ဒေသနာတော်ကြီးကို ဟောကြား တော်မူခဲ့လေသည်။**



[ကျောက်စာဘတ် မှ တူးဖော် ရသမျှ ဆင်းတု တော်တို့တွင်–ဤဆင်းတုတော်သည် လွန်စွာရှေးကျပုံမကဓမ္မစကြာ တော်ကြားနေပုံ ဖြစ်သောကြောင့်သက်တော်ထင်ရှားဘုရား ရှင်နှင့် အတူဆုံး ပုံတော် ဖြစ် တန် ရာသည်–ဟု ကန္တာ?ဗုဒ္ဓ ဘာသာ ပညာရှင်အများတပင် ယုံကြည် ကြလေသည်။]

## တရားမဟောလို

"အင်း–ယခုငါသိတော်မူတဲ့တရား တော်ကဖြင့် မြင့်မိုရ်တောင်ကြီးနှင့် ဖုံး လွှမ်းပြီး ထားတဲ့မုန်ညင်းသီးလိုထယ်လဲ သိမ်မွေ့ လှပါကလား၊ နက်နဲလှပါက လား၊မြင်နိုင်ခဲလှပါကလား။ သည်လော ကမှာရှိကြတဲ့ သတ္တဝါတွေကတော့ ပ ညာကနည်းပါးငြီး ကိလေသာ စိတ်တွေ ကသာ များနေကြတဲ့ အတွက် အင်မတန် မှစဉ်းစားမှုနည်းပါးကြပါကလား။ကာမ ဂုဏ်ငါးပါးမှာသာလိုက်စားပျော်မွေ့ငြီး နေကြတာ တွေပါကလား...... တကယ်လို့ ယခုငါသိတဲ့တရားကိုဟောကြားတော် မူမယ်ဆိုရင်လဲ မြင်နိုင်ကြမယ်မဟုတ်ပေ ဘူး.....ပင်ပမ်းရုံသာ အဖတ်တင် မှာပါ ကလား....."ဟု ဘုရားအဖြစ်သို့ ဆိုက် ရောက်တော်မူပြီးနောက် ခုနစ်ရက်ကျော် ၍ ဆိတ်ကျောင်း ညောင်ပင်၌ စံနေ တော် မူ ရင်း ကြံ စည်တော်မူလေသ တည်း။

## ဘယ်ကြောင့် ဟောသနည်း

ထိုသို့ပင်ကြံစည် တော် မူ မိ သော် လည်း ရွှေ ဉာဏ် တော် ဖြင့် ကြွတ် ထိုက်သည့် သူများ ကို မြင်တော်မူပြန် သောကြောင့် (သ ဟမ္ပတိ ဗြဟ္မာ ကြီး ၏တောင်းပန်ချက် အတိုင်း) တ ရား ဟော တော် မူရန် ဆုံး ဖြတ် တော်မူ ပြန်လေ၏၊ ဘုရား မဟုတ် ဘဲ ဘုရား ဟုဝန်ခံကာ အယူ မှား များကို ထုတ် ဖော်ပြသ၍ နေသူ များကို၎င်း၊ အ ပါယ်လေးပါး တံ ခါးလေး ရပ်ဟင်း လင်းပွင့်၍နေသည့် ကို၎င်း၊ နတ် ရွာ နိဗ္ဗာန်သို့ ဝင်စံနိုင် ကြောင်း ဖြစ်သော တံ ခါး ကြီး များ ပိတ်၍ နေသည့်ကို ၎င်း၊ မြင် တော် မူသောကြောင့် "ပထမ"တရားဟော တော်မမူတော့ဘူး–ဟု အကြံ ဖြစ်ပေါ် တော်မူခဲ့သော်လည်း [ဒုတိယ] ဟော တော်မူဦးမည်ဟု ငိုင်းဖြတ်တော် မူခြင်း ဖြစ်လေသတည်း။

## အာဠာရ ရသေ့ကြီး

တဖန် "ဘယ်သူကိုများ တရားဦး ဟောရပါ့မလဲ" ဟု ဆင်ခြင်တော် မူ သောအခါ "အင်း......ကာလာမ အမျိုး ဖြစ်တဲ့ အာဠာရ ရသေ့ဟာဖြင့် ထက် မြက်လျှင်မြန်တဲ့ စဉ်းစားဉာဏ်ရှိသူ ဖြစ် ပေတယ်။သူ့ကိုဟောရရင်ဖြင့် ငါ့တရား ကို အလျင်အမြန် နားလည် သိမြင်ပေမှာ ဘဲ" ဟု အကြံ ဖြစ်တော်မူလေသည်။ သို့သော် အာဠာရရသေ့ကြီး၏ လက်ရှိ တည်ရာဌာနကို ကြည့်ရှုတော် မူပြန်သော် လွန်ခဲ့သော ခုနစ်ရက်ကပင် သေလွန်ပြီး နေ၍ ဟောကြား၍ မဖြစ်နိုင်သည့်အာ ကိဉ္စညာယတနဘုံ၌ရောက်၍နေသည်ကို မြင်တော် မူသောကြောင့် "အော်..... အာဠာရ ရသေ့ကြီးရဲ့ အဘို့ ရှုံးခြင်းကြီး ရှုံးခဲ့ပါပေါ့ တကား...ရသေ့ကြီးဟာ ငါ့တရားကိုနာယူလိုက်ရမယ်ဆိုရင်တခါ တည်း ကိစ္စငြိမ်းဘို့ပါကလား.....ဖြစ်မှဖြစ် ရပလေ" ဟု အောက်မေ့တော်မူကာ ရင်ကိုလက်တော်ဖြင့် သပ်တော်မူလေ၏။

## ဥဒကရသေ့ကြီး

၎င်းနောက်"အာဠာရကို မဟောရ ရင်ရှိစေဦးတော့၊ အခြား ဘယ်သူ့ကို များ ဟောကြားတော်မူရရင် သင့်လျော် ပါ့မလဲ"ဟု ကြံစည်တော်မူပြန်ရာ ရာမ မင်း၏ သားဖြစ်သော ဥဒက ရသေ့ကို မြင်တော်မူပြန်၏။ သို့သော် ထိုဥဒက ရသေ့၏ လက်ရှိ တည်ရာဌာနကို ကြည့် ရှုတော်မူပြန်သော် ယမန်နေ့ သန်းခေါင် အချိန်ကပင် ကွယ်လွန်ပြီးနောက် ဟော ကြား၍မဖြစ်နိုင်သော နေဝသညာ, နာ သညာ ယတနဘုံ၌ ဆိုက်ရောက်၍ နေ သည့် ကို မြင်တော် မူသော ကြောင့် "အော်....ဥဒက ရသေ့ကြီးလဲ ရှုံးခြင်း ကြီး ရှုံးရလေစွတကား"ဟု လက်ချပ်တီး တော်မူလေ၏။

## ဥပကာ၏အကျိုးကြောင့်

"ကဲလေ.....အာဠာရနဲ့ ဥဒကတို့ ကို ဟောခွင့်မရလျှင်ရှိပါစေဦးတော့။ တ ခြားသူတွေထဲက ဘယ်သူ့ကိုများ ဟော ရရင်ဖြင့် သင့်လျော်ပါ့မလဲ"ဟု စဉ်းစား တော်မူရာတွင် ကျေးဇူး ရှိခဲ့ဘူး သော ပဉ္စဝဂ္ဂီ ငါးဦးတို့ကို မြင်တော်မူလေ၏။ ဤသို့ကြံစည်တော်မူကာ အဆိုပါ ဆိတ် ကျောင်းညောင်ပင်၌ပင် နှင့်ရက်သုံးရက် ခန့် စံနေတော်မူပြီးနောက် ဗါရာဏသီ ပြည်သို့ ရှေးရှုကြွ တော်မူ လေ၏၊ လမ်း ခရီး၌ ဥပက တက္ကတွန်းနှင့် တွေ့ရာတွင် အနန္တဇိန ဖြစ်ကြောင်းကို မိန့်ကြားတော် မူပြီးလျှင် ဗာရာဏသီပြည်၏အနီး မိဂဒါ ဝုန်တောကြီး သို့ ရောက်အောင် ခြေလျင် ကြွမြန်ကြွတော်မူခဲ့လေ၏၊ (ဤ၌ ရှေးဘု ရားတို့သည် ဘုရားဖြစ်တော်မူပြီးနောက် ဓမ္မစကြာ တရား တော်ကို ဟောကြား တော်မူရန် မိဂဒါဝုန်တောသို့ ကောင်း ကင်ခရီးဖြင့် ကြွမြန်းတော်မူခဲ့ကြကုန်၏၊ ငါတို့ ဘုရားရှင် ကား လမ်းတွင် တွေ့ရ မည့် ဥပကာတက္ကတွန်းကြီး၏ အကျိုးကို မြင်တော် မူသောကြောင့် ခြေလျင် ကြွ တော်မူကြောင်းကို ကျမ်းဂန်များ၌ ဆို ကုန်၏၊ အချို့ကျမ်းဂန်များ၌ကား ဗော ဓိ မဏ္ဍိုင်မှ ဂယာသီသအထိ သုံးဂါဝုတ် လောက်သာ ဥပကနှင့်တွေ့ရန် ခြေလျင် ကြွတော်မူပြီးနောက် မိဂဒါဝုန်တောသို့ ကောင်းကင်ခရီးဖြင့် ကြွတော်မူသည်ဟု လည်းဆိုကုန်၏၊)

## ဝတ်မပြုကြစတမ်း

"ရဟန်းကြီး ဂေါတမ–တို့ဆီကို လာ နေပြီဟေ့.....ရဟန်းကြီးဟာ ပထမ က တော့ တို့ရဲ့အခွင့်အစုကို ခံပြီး ပြင်းပြင်း ထန်ထန် တရားအားထုတ် နေခဲ့တာ မှန် တယ်၊ ဒါပေမဲ့ လ ဘ်လာဘ ပေါများ အောင်ဆိုတဲ့ သဘောနဲ့ တို့ဆီကထွက် သွားပြီး သကာလ မြို့တွေ–ရွာတွေ ကို လှည့်လည်ပြီး အကျင့်ပျက်ခဲ့သူဖြစ်တယ်။ ဒါကြောင့် ယခုလို ရဟန်းကြီး ဂေါတမ တို့ဆီကိုလာသော်လည်းမခိုးကြိုဆင်းခြင်းနှင့် ခရီးဦးကြိုဆိုမှု မပြုကြစတမ်း နော်..... သောက်ရေ သုံးဆောင်ရေ တည် ထား



ဗုဒ္ဓဘုရား ရှင်၏ ရုပ်လုံးတော်များကို ကိုးကွယ် သည့် လူမျိုးအလိုက် ထုလုပ်ရေးသား တတ်ကြသည့်အတိုင်း–ဤပုံမှာ (ရှေးဟောင်း) ပြာက ရိတ် ဘာသာ ရှေးဟောင်း ဗုဒ္ဓဝရိတကျမ်း (ခေတ်ရိုက်) ၌ ပါရှိသည့် ဓမ္မစကြာဟောကြားတော်မူနေသောပုံတော်ဖြစ်လေသည်။

# အသောကမင်းတြားကြီး၏ မိဂဒါဝုန်ကျောက်တိုင်ကမ္ပည်းစာ

[ဤကျောက်စာနှင့် ကောသမ္ဗိကျောက်စာ,ဝေဒိသကကျောက်စာတို့သည် အလားတူကုန်၏။ မိဂဒါဝုန်ကျောက်စာမှာ ယခုအခါ ငါးပိုင်းကျိုးနေပြီဖြစ်ရာ အရင်းပိုင်းကို ရုံးနှင့်ပြန်စိုက်ထား၏။အထက်ပိုင်းကို ပြတိုက်၌ထား၏။]

ဒေဝါနံပိယေ ပိယဒဿိနာ လာဇာ........ဧလ-ပါဋလိပုတေ.....ကေနပိ သံဃေ ဘောဂေ ဧသုံ ခေါ ဘိခုဝါ ဘိခုနိဝါ သံဃေ ဘာကာတိ စေ ဩဒါတာနိ ဒုသာနိ သံဃံ ပယေယိအနာ ဝသာသေ အာဝါသိ ယိယံ ဟေဝံ ဣယံ သာသနေ ဘိခုသံဃသိ ဘိခုနီသံယသိစ ဝိဏ ပယိတာ ဝိယေ....ဟေဝံ ဒေဝါနံ ပိယေ အာဟ ဘေဒိသစ ဣကာ လိပိတု ဟာကံတိကံ ဟုဝါတိ သံသ လန သိ နိကိတာ ဣကံစ လိပိ ဟေဒိသမေဝ ဥပါသကာနံ နိလုပ၊ တထေ ပိစ ဥပါသကာ အနု ပေါသထံ ယာဝ ဧတ မေဝ သာသနံ ဝိသုံ သယိတဝေ အနုပေါသထံ စ ဒုဝယေ ဣကိကေ မဟာမာတေ ပေါသထာယေ ယာတိ ဧဘ မေဝ သာသနံ ဝိသုံ သယိတဝေ အားဝါနိတဝေစ အာဝတကေ စတုပါကံ အာဟာလေ သဝတ ဝိပါသယိထ တုဇေ ဧတေန ဝယညာနေန ဟေမေဝ သဝေသု ကောလ ဝိသဝေသု ဧတေန ဝယံဇနေန ဝိဝါသာပယာ ထာ—

(အဓိပ္ပါယ်လိုရင်း) ဒေဝါနံ ပိယဒဿီမင်းတြားကြီးသည် ဤသို့မိန့်၏၊ ရဟန်းယောက်ျား ဖြစ်စေ,ရဟန်းမိန်းမဖြစ်စေ သံဃာတော်ကို ကွဲပြားအောင်ပြုလျှင် အဝတ်ဖြူဆင်၍ သံဃာဘောင်မှ နှင်ထုတ်ချမည်......စသည်ဖြင့် ဆိုလိုရင်းဖြစ်လေသည်။



အသောကကျောက်တိုင်

ခြင်း မပြုကြစတမ်းနေ၁် ...အော်....ဒါ ပေမင့် တခုတော့ရှိရဲ့၊ ပင်ကိုယ် အား ဖြင့် အမျိုးမြတ်တဲ့ပုဂ္ဂိုလ်ဖြစ်တဲ့အတွက် ထိုင်စရာ နေရာလောက် ကလေးတော့ ခင်းထားကြဖို့ရဲ့''ဟု တိုင်ပင်၍ထားနှင့် ကြကုန်၏။

## ဘုရားဟုတ်ပါ့မလား

မည်သို့ပင် တိုင်ပင်၍ထားနှင့်ကြသော်လည်း ငါးဦးရှင်တော်ဘုရား ငါးတို့၏အနီးသို့ဆိုက်ရောက်၍ လာသောအခါ မူလစည်းကမ်းထားချက် အတိုင်း၊ တည်အောင်မ နေနိုင်ကြတော့ပေ။မနေတတ်မထိုင်တတ် ဖြစ်တာ သပိတ်ကိုယူသူကယူ၊သင်္ကန်းကို ကိုင်သူကကိုင်၊ ခြေဆေးရေ တည်သူက တည်၊ နေရာခင်းသူကခင်း ..... စသည်ဖြင့် ဝတ်ကြီး ဝတ်ငယ်များကို ပြုကြသောကုန်၏။သို့သော်လည်း ၎င်းတို့သည် ဘုရားရှင်အား ပါဠိဘာသာအားဖြင့် အာဝုသော မြန်မာဘာသာအားဖြင့် ငါ့ရှင် ဟု သူငယ်ချင်း ပြောနည်းအတိုင်း ခေါ်ပြောကြရုံမျှမက အမည်ကိုပင် ထုတ်ဖော်၍ ''ရဟန်းကြီးဂေါတမ''ဟုခေါ်ဝေါ်သုံးနှုန်းကြလေကုန်၏။ ဘုရားရှင်က ''ချစ်သားတို့ ငါ့ကို သည်သို့မခေါ်ကြနှင့်၊ ငါ ဘုရားဖြစ်ပေပြီ'' ဟု မိန့်ကြားတော်မူသော်လည်း ၎င်းတို့က မယုံကြည်ကြပေ ''ငါ့ရှင်ဂေါတမရယ် ငါ့ရှင် ဂေါတမဟာ ဒုက္ကရစရိယာကို ပြင်းပြင်း ထန်ထန် ကျင့်စဉ်ဘုန်းကတောင်ဘုရား မဖြစ်ဘဲနဲ့ ယခုလို လာဘ်ကိုမက်ပြီး လှည့်လည်နေရင်းက ဘုရားဖြစ်လာထယ် ဆိုတာ ဟုတ်နိုင်ပါ့မလား''သဖြင့် ပြောဆိုကြကုန်၏။ ဘုရားရှင်ကလည်း ''ချစ်သားတို့ ငါသည် တရားအလုပ်က ထွက်လာခဲ့တာမဟုတ်၊ ဘုရားအဖြစ်သို့ရောက်ပေပြီ၊အမြိုက်နိဗ္ဗာန်ကိုရစေနိုင်တဲ့တရားတော်ကို ငါဟောကြားမယ်နာကြ'' ဟု သုံးကြိမ်တိုင်တိုင် မိန့်ကြားတော်မူ၏။သို့သော် ၎င်းတို့က မယုံကြည်ကြကုန်။

နောက်တကြိမ် ''ချစ်သားတို့၊ ရှေးက ငါ့ကိုယ်ငါ ဘုရားဖြစ်ပြီ ဟု မပြောကြားခဲ့စဘူးဘဲ ယခုမှသာ ဘုရားဖြစ်တော်မူသောကြောင့် ဘုရားဖြစ်ပြီဟု မိန့်ကြားတော်မူရခြင်းဖြစ်ပေတယ်။နိဗ္ဗာန်ရောက်ကြောင်းတရားကို ဟောကြားမယ်၊ နာကြ''ဟု မိန့်ကြားတော်မူသော အခါမှ ရိုသေစွာနာယူကြကုန်၏။

## ဓမ္မစက္ကပဝတ္တန

ကမ္ဘာ့တန်ဆာ ရတနာ ဖြစ်သော နေမင်းကြီးသည် မိမိ၏ အလှသို့ကုန်သဖြင့် လမင်းကြီးအား နှုတ်ခွန်းဆက်သကဲ့သို့ ဝင်လှဆဲဆဲ ဖြစ်လေ၏။ ကမ္ဘာ့ တန်ဆာ ရတနာဖြစ်သော လမင်းကြီးကလည်း မိမိ၏အလုပ်တာဝန်ကို လွှဲပြောင်းယူငင်စတော့မည်ကဲ့သို့ ထွက်ပေါ်စ ဆဲဆဲဖြစ်လေ၏။ဝသန္တ ရာသီ၏ အစွမ်းဖြင့် မိဂဒါဝုန် တောကြီးသည်လည်း နွေရာသီ ကထက် အလှဘိုး၍ နေသောအချိန် ဖြစ်လေ၏၊ထိုကဲ့သို့ သာယာသော တောကြီး၏ အတွင်း၌ သကရစ် ၁၀၃—ခု၊ ဝါဆိုလပြည့် နေဝင်လထွက် အချိန်ဝယ် မြေခန နေနန် သတ္တဝါ အပေါင်းတို့၏ အသံမှတပါး အခြား မည်သည့်ပုဂ္ဂိုလ်၏ အသံများကို ကြားရပါ့မလဲဟု စဉ်းစားလိုက်ရည်ဆိုပါကသန့်ရှင်းမှု,နားဝင်ချိုမှု စည်းလုံးမှု စသည့်တို့ဖြင့် တန်ဆာဆင်အပ်သော သမ္မာသမ္ဗုဒ္ဓရှင်တော်ဘုရား၏ အသံတမျိုးတည်းကိုသာလျှင် ကြားရမည် ဖြစ်ကြောင်း သိသာနိုင်လေသည်၊ ထိုအသံကား အခြားမဟုတ် ''ဓမ္မစက္ကပဝတ္တန''စသည်ဖြင့် ဟောကြားတော်မူအပ်သော ဓမ္မစကြာ ဒေသနာတော်ကြီးကို ဟောကြားတော် မူနေသည့် အသံတော်ပင် ဖြစ်ပါပေတော့သည်။

''ချစ်သားတို့.....ရဟန်းဆိုတာအဘို နှစ်ပါး ကို မမှီဝဲသင့်ဘူး။နှစ်ပါးအရာဘာ ဘွေလဲဆိုတာ ဟောပြမယ်။ ကာမတရားတွေအပေါ်မှာ ကာမချမ်းသာကို ကပ်ငြိပြီး အဖန်တလဲလဲ အားထုတ်တယ် ဆိုတာဟာ ယုတ်ညံ့တဲ့ ရွာသူတွေရဲ့ကိုယ်ပိုင် ဥစ္စာမျိုးလဲဖြစ်တယ်၊ ပုထုဇဉ်တွေရဲ့ အလေ့မျိုးလဲဖြစ်တယ်၊ အရိယာတွေရဲ့ ကိုယ်ပိုင်ဥစ္စာမျိုး မဟုတ်ဘူး၊အကျိုးစီးပွါးနဲ့ စပ်တဲ့အရာမျိုးလဲမဟုတ်ဘူး။ ပြီးတော့ ကိုယ်ပင်ပန်းအောင် အဖန်ဖန်အားထုတ်ခြင်း ဆိုတဲ့ သည့်အကျင့်မျိုးဟာလဲ ဆင်းရဲသာဖြစ်တယ် (ချမ်းသာမ မဟုတ်ဘူး) အရိယာတွေရဲ့ အကျင့်မ ဟုတ်ဘူး၊ တိတ္ထိတွေရဲ့ အကျင့်မျိုးသာ ဖြစ်တယ်။ အကျိုးစီးပွါးနဲ့မစပ်ဘူး။

## အလတ်တန်းစားအကျင့်

ချစ်သားတို့၊အဲ့သည်နှစ်မျိုးသို့မရောက်စေဘဲအလယ်တန်းစား အကျင့်မျိုးကို ငါဘုရားဟာ သိမြင်တော်မူခဲ့ဘယ်။အဲ့သည် အလတ်တန်းစား အကျင့်ဟာ ပညာမျက်စေ့ကို ဖြစ်ပေါ်အောင် ပြုတတ်တယ်၊ ဉာဏ်အမြင်ကို ဖြစ်ပေါ်အောင် ပြုတတ်တယ်။ အထူးသိအောင် ပြုတတ်တယ်၊ ကောင်း ကောင်းသိအောင်ပြုတတ်တယ် ငြိမ်းအေးအောင်ပြုတတ်တယ် ဝါ-နိဗ္ဗာန်ရောက်အောင်ပြုတတ်တယ်။

အဲ့သည် အလတ်တန်းစား အကျင့်ဆိုတာ ဘာတွေလဲဆိုတော့ (၁) အမှန်ကိုမြင်တာရယ် (၂) အမှန်ကို ကြံစာရယ် (၃) အမှန်ကိုပြောတာရယ် (၄) အမှန်ကိုပြုတာရယ် (၅) အမှန်အတိုင်း အသက်မွေးတာရယ် (၆) အမှန်အတိုင်း အားထုတ်တာရယ် (၇) အမှန်ကိုအောက်မေ့သတိရတာရယ် (၈) အမှန်အတိုင်း တည်ကြည်တာရယ်။ [ဤကားအရပ်စကားအတိုင်း ဓမ္မစကြာပါဠိတော်အခြေခံကို ချောမွေ့အောင် မြန်မာဘာသာပြန်ချက်ပေတည်။]

# ရှင်းလင်းချက်များ

## ဓမ္မစကြာအခါတော်

ဝါဆိုလပြည့်နေ့သည်ကား ဗုဒ္ဓရှင်တော်ဘုရားသည် တရားစကြာ ရတနာကြီး ကို စတင်လှည့်လည်၍ ပြတော်မူသော နေ့ကြီးဖြစ်ပေ၏။ အမှန်လေးချက်တရားနက်ကိုင်ကြက်ပြက်ထင်ထင် ဉာဏ် အမြင်ဝယ် လက်တွင်တင်ထား ပန်းမြားကဲ့သို့ ထင်ရှားအောင်ဟောကြားတော်မူသော နေ့ကြီးဖြစ်ပေ၏၊ ထို့ကြောင့် ဝါဆိုလပြည့်နေ့ကို ဓမ္မစကြာအခါတော် နေ့ဟုသတ်မှတ်ကာ လွန်ခဲ့သော နှစ်များကပင် ကျင်းပခဲ့ကြပေသည်။

## ပိဋကတ်သည်းခြေ

အချင်းအရာ တဆယ့် နှစ်ပါးနှင့်တကွ အ,နန်လေးချက် တရားနက်ကို သိမြင်တော် မူသောကြောင့်သာလျှင် ဘုရားဟု ဝန်ခံတော်မူရခြင်း ဖြစ်သည်...ဟူသောစကားကို ထောက်ထားခြင်း အားဖြင့် အမှန်လေးချက်တရားနက်ကို ဟောကြားတော်မူရာဖြစ်သော ဓမ္မစကြာဒေသနာတော်သည်လည်း ဗုဒ္ဓ သာသနာတော်အတွင်း၌မည်မျှအရေးကြီးသည့် ဒေသနာတော်ဖြစ်ကြောင်း သိသာနိုင်လေသည်၊ ''သစ္စာလေးပါးမှ လွတ်သော တရား မည်သည်မရှိ၊ သစ္စာ လေးပါးမှ လွတ်သော ဘုရားရှင်၏ စကားတော် မည်သည်မရှိ'' ဟူသော အဆိုများကို ထောက်ထားခြင်း အားဖြင့်လည်း ဓမ္မစကြာ ဒေသနာတော်သည် မည်မျှနက်နဲသော ဒေသနာတော်ဖြစ်ကြောင်း သိသာနိုင်လေသည်၊ စင်စစ်အားဖြင့် ဓမ္မစကြာဒေသနာတော်သည် ပိဋကတ်သုံးပုံ၏ သည်းခြေဖြစ်ပေသည်။

## ဣသိပတန

ဤသုတ္တန် ဒေသနာတော်မြတ်ကြီးကို (ရှေးဟောင်းကျွန်းဂန်များအခေါ်)ဣသိပတန (ယခုအခေါ်) ဆာရနာတ်၌ အရှင်ကောဏ္ဍည အစရှိသော ပုဂ္ဂိုလ်တို့အား ဟောကြားတော်မူခဲ့ လေသည်၊ ရသေ့ ရဟန်းတို့သည် ဗျာန်ဖြင့် ကောင်းကင်မှ ထိုနေရာသို့ သက်ဆင်းရာဖြစ်သောကြောင့်၎င်း၊ရသေ့ ရဟန်းတို့သည် ထိုနေရာမှ ဗျာန်ဖြင့်ကောင်းကင်သို့ တက်ရာဖြစ်သောကြောင့်၎င်း ဣသိပတနဟု ခေါ်ဆိုခြင်းဖြစ်လေသည်(ဣသိ—ရသေ့

(စာမျက်နှာ ၁၈ သို့ဆက်ကြည့်ပါ)]

# သံဂါယနာပွဲနှင့် ဝန်ကြီးချုပ်ဇာတာ

## လွန်မင်းစွာပဏာရသည်ဟု ဟောကိန်းထုတ်ပုံ

( ရေးသူ–ဦးအုန်းသင်၊ လျှပ်စစ်ဗေဒင်၊ စောင်ရှု )

| | | |
|---|---|---|
| ၁၄ ၅လ | ၆ | ၀ |
| ၈ | | ၉ |
| | ၂ | ၃ |

(ရာသီစက် ဇာတာ)

| | | |
|---|---|---|
| ၁၄ လ၅ | ၆ | ၀ |
| | | ၃ |
| | ၂ | |

(စန်းဘာဝစက်ဇာတာ)

| | | |
|---|---|---|
| | လ ၁၄ | ၅ |
| ၆၀၀ | | ၉ |
| ၀ | | ၂ ၃ |

(အံသာစက် ဇာတာ)

### ဂုဏ်ထူးတို့ဖြင့်

သိမ်ရိပ်တိ စကားပြေ ကျင်း လာ အတိုင်း ဝန်ကြီးချုပ် ၏ ဇာတာကို စန်းမှ အခြေထားပြီး ဟောဆို မည် ဖြစ်သည့် အားလျော်ညီစွာ အထက်တွင်ဖော်ပြထားသော (စန်းအိဘာဝစက်ကိုကြည့်ပါဦး၊)

အမှတ်ပေးနည်းစနစ် အရ တွက် ယူရာတွင်ပထမ အားအကောင်းဆုံးသော ဂြိုဟ်မှာ (အင်္ဂါဂြိုဟ်) ဒုတိယ အားအကောင်းဆုံး ဂြိုဟ်မှာ ကြာသပတေးဂြိုဟ် ဖြစ်နေခဲ့ရာ ဘာဝ စက်မှ ထောက်ယူးရတွက် ခဲ့လျှင် ကံနှင့် ကြီကောဏ အိမ်တို့ မှာ ရပ်တည်နေ ခဲ့ခြင်း၊ ရဟုဂြိုဟ်ကြီးသည် ကမ္ဘာဝမှာဖြစ်သော နဝင်းတွင် စီး နေခဲ့ခြင်း၊ စန်းအားကောင်းလှ ခြင်းတို့ကြောင့် ကြီးကျယ် မြင့်မြတ် သည့် ရထူး ဂုဏ်ထူး တို့နှင့် ပြည့်စုံ တင့်တယ်ခြင်းကိုဖြစ်စေရခဲ့သည်ဟုယူဆကြရာ၏၊

လူတို့၏ ကျင့်ဝတ်နှင့်တရားဓမ္မ ကျင့်ကြံမှုသက်ဆိုင်ရာ အကြောင်းရပ်တို့တွင် ဓမ္မရာသီ ခေါ် (၉) တန့် ဘာဝ နှင့် လောကုတ္တရာ ဂြိုဟ် ကြာသ ပတေး၏ အားဗလတို့ကို တွက်ယူခြင်းဖြင့်ဟောဆိုခြင်းပြုရာ၏၊

### ဘာသာရေး ကိုင်းရှိုင်းသူ

ယခုဇာတာတွင် တရားဓမ္မနှင့်ဆိုင်ရာ ၉-တန့်ဘာဝတွင် လော ကုတ္တရာ ဂြိုဟ် ကြာသပတေး ရပ်တည်းနေခဲ့လျက်အကျင့် စရိုက်နှင့် ဆိုင်ရာမိမိအိမ်ကိုမြင်လျက်ရှိ၏၊ ထိုဂြိုဟ် ကြီးမှာ "ဥစ်"အိမ်နှင့် လွန်မင်းစွာနီးကပ် နေသော လက္ခဏာ ကြောင့် ဥဏာဗလအားနှင့် ပြည့်စုံလှ၏၊ အံသာစက်တွင်မိမိအိမ်၊ ဒရပ်တည်နေသေါကြာသပတေးသည်စနေဂြိုဟ်ကြီးကို အားဗလနှင့် မြင်မှုနေသောကြောင့် အ လွန်အ နေပေါ အရာရောက်သော လောကုတ္တရာ ဘာသာရေးတွင် ထူးကဲစွာ ကျင့်ကြံကြိုးကုတ် အားထုတ် ခြင်းပင် ဖြစ် လေသည်၊ ဘုရား တရား ကြည်ညိုမှုတွင် စန်းမှ ၁၀ တန့်၌ ရာဟုဂြိုဟ်ကြီးသည် မြတ်သော နဝင်း၌ စီးနေခဲ့သောကြောင့် ဇာတာရှင်မှာ သူတပါးထက် ထူးခြားစွာမြင့် ဘာသာရေး၌ကိုင်း ရှိုင်း သူဟု ထင်ပေါ် ကျော်ကြားခြင်း ပင်ဖြစ်လေသည်၊

သာသနာရေးတိုးတက်မှုအတွက်ဆဋ္ဌသင်္ဂါယနာတင်ပွဲ ပြုလုပ်ခြင်းနှင့် ဝန်ကြီးချုပ် ဇာ တာ မှာ လွန်မင်းစွာ ပဏာရလှပေတော့သည်၊

ဘာသာရေးလေးစားမှု အကြောင်းရင်းကိုဘာဝအလိုက်ခွဲခြား ဟောဆိုအပ်သောကျမ်းများတွင် အိန္ဒိယ နက္ခတ်ဗေဒင်ပညာမဂ္ဂဇင်း အယ်ဒီတာဘီ၊ဗွီ၊ရာမံသိပ္ပ°ဝါဂေ၏ ရေးသားချက်ကို ထုတ်ပြပေအံ့၊ တူလဂ်ရှိဇာတာတွင် လဂ်ဘာဝ၌ ၅-အေး၊ ၄-ဟူး၊ စနေ မူးယှဉ်ပြီး ၁၁ တန့် ဘာဝ တွင်ရာဟု ဂြိုဟ် တည်နေသော ဇာတာရှင်မှာဘုရား- တရားကိုအလွန်အမင်း ယုံကြည်အားထားလျက်ရာဟုတူသဒ္ဒါတွင်ဘုရားဖူး သွားလာရလေသည်ဟု ရေးသားထားရှိခြင်းကို တွေ့ရပေရာ ထိုအချက်သည် ဝန်ကြီးချုပ် ဇာတာနှင့် ထပ်တူထပ်မျှ ယူဆထိုက်၏၊

ယခုအခါ ဝန်ကြီးချုပ်၏ ဇာတာတွင် (၁၀–၂–၁၉၅၃- ခုနေ့မှ) ရှေ့အဘို့ ၂ နှစ်=၁၀–လ ၆– ရက်နေ့ အထိတွင်း စနေ တူလ၏ ရာ ဟု အန္တရဒသာ စားဆဲ ကြုံနေခဲ့ရာ ဝန် ကြီးချုပ်ကြီးစား လုပ်ကိုင်လျက်ရှိသောဆဋ္ဌသင်္ဂါယနာတင်ပွဲသည်အဆိုပါအချိန်အတွင်း၌ထမြောက်အောင်မြင်မှုကိုတွေ့ကြုံပေအံ့ဟုဟော ဆိုမည်ပင် ဖြစ်ပေသည်၊ ဤတွင်မွေးနေ့အထိမ်းအမှတ် အတွက် အကျဉ်းချုံးပြီး လိုရင်းကိုသာရေး သား လိုက်ရပါတော့တည်း၊

(၂၇–၅–၅၃_နေ့ထုတ် မဇ္ဈိမ သတင်းစာမှ ကူးယူ ဖော်ပြသည်၊)



တရားဝန်ကြီးများ၊ တရားသူကြီးများနှင့် ရှေ့နေကြီးများ ကုန်းတော်၌ လှည်းလည် ဖူးမြော်နေကြစဉ်

# တရားဝန်ကြီးများနှင့်ရှေ့နေကြီးများ

## ရတနာသုံးပါးဦးထိပ်ထားသည့်အထိမ်းအမှတ်

### ရွှေတိဂုံစေတီတော်သို့

၁–၆-၅၃ နေ့ နံနက် ၇–နာရီ အချိန်တွင် သတိုးသိရိသုဓမ္မ တရားဝန်ကြီးချုပ် ဦးသိမ်းမောင် အမှူးရှိသော တရားဝန်ကြီးများ တရားသူကြီးများနှင့် နိုင်ငံတော်ရှေ့နေချုပ်ကြီး သတိုးမဟာသရေစည်သူ ဦးချန်ထွန်း အမှူးရှိသော ရှေ့နေများသည် ရွှေတိဂုံ ကုန်းတော်ခြေရင်းရှိ ဦးဘရိဇရပ်၌ စုပေါင်း တွေ့ဆုံ ကြပြီးနောက် တခန်ထိုဇရပ်မှ ကုန်းတော်ပေါ်သို့ တရားသူကြီးတဦးတ°နှင့် ရှေ့နေတဦး၊ဦး တွဲကာတွဲကာ ကုန်းတော်ပေါ်သို့ စီတန်း၍တက်ကြလေသည်၊ ကုန်းတော်ပေါ်သို့ရောက်သော အခါ စေတီတော်ကြီးကိုလက်ျာရစ်လှည့်ကြပြီးနောက်ဆာဘိုးသာ၏တန်ဆောင်းရှေ့မှ စေတီယင်္ဂဏအသင်းပိုက်ဘန်းဆောင်းသို့ သွားကြလေသည်၊

စေတီယင်္ဂဏ တန်ဆောင်းအတွင်း၌ ပင့်ဆောင်ထားရှိနှင့်သော ပိနည်းမိုရ် ဆရာတော်များထံ၌ငါးပါးသီလ ခံယူကြပြီးလျှင် နိုင်ငံတော်တရားဝန်ကြီးချုပ်နှင့် နိုင်ငံတော်ရှေ့နေချုပ်ကြီးတို့က တရားဝန်ကြီးများ တရားသူကြီးများနှင့် ရှေ့နေများ ကုန်းတော်ပေါ်သို့ စုရုံး၍ တက်ရောက်လာရခြင်း၏ ရည်ရွယ်ချက်များကို အသီးသီးလျှောက်ထားကြလေသည်၊ အောက်မြန်မာနိုင်ငံတော် ဝိနည်းဓရဝဂ္ဂနာတာဝန်ခံ အဂ္ဂမဟာပဏ္ဍိတ ခြောက်ထင်ကြီး ဘုရားကြီးတိုက်ဆရာတော်ကြီးဝါဒစကားပြန်လည်မိန့်ကြားတော်မူလေသည်၊ ၎င်းနောက် နိုင်ငံတော် တရားဝန်ကြီးချုပ်က ဆရာတော်များအား ကျမ်းစာအုပ် များကို ဆက်ကပ်လှူဒါန်း၍ နေ့စက်ချ အမြဲပေးပြီးလျှင်ကြွရောက်လာသော ပရိသတ်တို့အား မုန့်ဟင်းခါး ကာဖီတို့ဖြင့် ဧည့်ခံလေသည်၊

၎င်းနောက် တက်လာစဉ်က အစီအစဉ်အတိုင်း ဦးဘရိ တန်ဆောင်းသို့ အရောက်ပြန်၍ဆင်းကြပြီးလျှင် လူစုခွဲလိုက်ကြလေသည်၊ နိုင်ငံတော် တရားဝန်ကြီးချုပ်နှင့် နိုင်ငံတော် ရှေ့နေချုပ်ကြီးတို့၏ လျှောက်ထားချက်များမှာ အောက်ပါအတိုင်းဖြစ်လေသည်၊

တပည့်တော် ရိုသေစွာရှိခိုးလျှောက်ထားပါသည်၊နိုင်ငံတော်ဝိနည်းဓ°ရ ဆရာတော်အရှင်မြတ်များဘုရား၊

တပည့်တော်နှင့်တကွ ရန်ကုန်မြို့ရှိတရားသူကြီးများသည် ရတနာ သုံးပါးကို ဦးထိပ်ထားကြသောသူများ ဖြစ်ကြသည့်အတိုင်း ယနေ့ နေ့ရာသီ ရက်ရှည် ရုံးပိတ်ရက်ကုန်ဆုံး၍ တရားလွှတ်တော်ချုပ်နှင့် တရားလွှတ်တော်ပြန်၍ ဖွင့်သောနေ့ဘွင်ရုံးမဘက်မီ ဆရာတော်ဘုရားတို့၏ ရှေ့မှောက်၌ ရတနာ သုံးပါးတို့ကို ပူဇော်ကန်တော့ကြပါသည်ဘုရား၊

ငါးပါးသီလကို ခံယူဆောက်တည်ကြပါသည်ဘုရား

မိမိတို့၏တာဝန်ဝတ္တရားများကိုလည်း အဂတိတရားမလိုက်စားဘဲ ကိုယ်နှမ်းရှိသမျှဥာဏ်စွမ်း ရှိသမျှ တရားဥပဒေနှင့် အညီ ရဲ၀့်တည်ကြည်စွာဆော င်ရွက်ကြမည်ဟုသော သစ္စာအဓိဋ္ဌာန်ကိုလည်း နှိုးကြပါသည်ဘုရား၊

ဆရာတော်များ၏ အဆုံးအမ ဩဝါဒကိုလည်း ခံယူကြပါသည်ဘုရား ။ ရန်ကုန်မြို့ရှိ ရှေ့နေများသည်လည်း ဤအခမ်းအနားတွင်ပါဝင်ကြပါသည်ဘုရား

ဤသို့အားဖြင့် အလုပ်လုပ်ဘော်လုပ်ဘက် တရားသူကြီးများနှင့် ရှေ့နေများသည် ကုသိုလ်ကောင်းမှု ပြုဘော်ပြုဘက် ပါရမီ ဖြည့်ဘော်ဖြည့်ဘက် ကလျာဏမိတ္တများ ဖြစ်ကြပါသည်ဘုရား၊

ဤအခမ်းအနားမျိုးကို ရန်ကုန်မြို့ရှိတရားသူကြီးများ နှင့် ရှေ့နေများစုရုံး၍ နှစ်စဉ်ကျင်းပပါမည်ဘုရား၊

(စာမျက်နှာ ၁၉ သို့ဆက်ကြည့်ပါ)

# အိန္ဒိယပြည်သာသနာ
## နှောင်ရေးအတွက်အကြံပေးချက်

### လေ့လာရေးအဖွဲ့

(၁) ဆရာတော် ဦးကလျာဏ၊ ဥက္ကဋ္ဌ ဆရာတော်၊ မြန်မာနိုင်ငံလုံးဆိုင်ရာ ရဟန်းပျို့အဖွဲ့ချုပ်၊ မန္တလေးမြို့၊ (၂) ဆရာတော် ဦးသုမိယာဘိဝံသ၊ အာလယ်တောရတိုက် ရန်ကုန်မြို့၊ (၃) ဆရာတော် ဦးဇောတိက ရန်ကုန် ရဟန်းပျို့ အဖွဲ့ ဥက္ကဋ္ဌ ရန်ကုန်မြို့၊ (၄) ဆရာတော် ဦးဝိလာသဂ္ဂ အကျိုးဆောင်ချုပ်၊ဟောင်း မန္တလေးမြို့၊ (၅) မောင်ဘသိန်း၊ ဘီတီ၊ အရေးသား၊ ကော်ဇီ၊ ရန်ကုန်မြို့ များသည် ဣန္ဒိယနိုင်ငံလက်ရှိ သာသနာရေးကိုလေ့လာတော်မူကြရန်ကြွသွားခဲ့ကြရာမှ ပြန်ရောက်ရာတွင် အကြံပေးချက်များ ဖြစ်ပါကြောင်း။

### ညှိုးမှိန်ခဲ့ပုံ

ဇမ္ဗူဒီပ ခေါ်သော အိန္ဒိယသည် ပထမသံဂါယနာ ဒုတိယ သံဂါယနာ တတိယ သံဂါယနာအားဖြင့် သံဂါယနာ သုံးတန် တင်ခဲ့ဘူးရာ ဒေသမှန်၍ရှေ့အခါက သာသနာအရောင် အလွန်ပင်ထွန်းပြောင် တောက်ပခဲ့လေသည်။

အိန္ဒိယတွင် ဟိန္ဒူ၊ စတန် ပါကစ္စတန်နှစ်ဌာနလုံးမှာပင် ဗုဒ္ဓသာသနာတော်၏ အဆောက်အဦ များစွာ ယခုအခါ သမယ တိုင်အောင် အနှံ့အပြား တည်ရှိနေသည်ကို တွေ့မြင်ရခြင်းအားဖြင့် အိန္ဒိယ တပြည်လုံး၌ (အရဟတ္တဖလ) ခေါ် သာသနာ့အလံတော် တလူလူ လွှင့်ထူခဲ့ဘူးသည့်၏အဖြစ်ကို အလွယ်တကူ သိနိုင်ခဲ့ပေသည်။

အိန္ဒိယတပြည်လုံးတွင် ကြီးကျယ် ခိုင်ခန့်သော ဇာတိဝါဒ ရှိသော ဗြာဟ္မဏ ဘာသာဝင်များ၊ လိင်ရုပ်ကိုကိုးကွယ် ယုံကြည်ကြသောသူများ၊ မဟာဒေဝနတ်ကို ကိုးကွယ် ယုံကြည် ကြသောသူများ၊ ဟနုမန်ကို ကိုးကွယ် ယုံကြည်ကြသော သူများ၊ ကာလီနတ်သမီး၊လက္ခမီ နတ်သမီး၊ သူရဿဝတီ နတ်သမီးတို့ကို ကိုးကွယ် ယုံကြည်ကြသူများ၊ ဗိဿနိုးကို ကိုးကွယ်ယုံကြည်ကြသူများ၊ ရာမကစ်ရှနားကို ကိုးကွယ်ယုံကြည်ကြသူများ၊ အစ္စလာမ် သာသနာကို ကိုးကွယ် ယုံကြည်ကြသူများ၊ ခရစ်ယာန် သာသနာကို ကိုးကွယ် ယုံကြည်ကြသူများ၏ ဘာသာရေး မုန်တိုင်းဒဏ်ကို အကြိမ်များစွာ အလူးအလဲ ခံရသော ဗုဒ္ဓသာသနာတော်၏ အရောင်သည် မထွန်းပြောင်နိုင်တော့ဘဲ ယခု အခါမှာ ဗုဒ္ဓသာသနာတော်သည် အိန္ဒိယ တပြည်လုံး၌ ညှိုးမှိန်သွေ့ခြောက် အကြွင်းမဲ့ကွယ်ပျောက်၍နေလေပြီ။

ဂေါတမဗုဒ္ဓ၏ဓမ္မကို လက်ခံနှစ်သက်သူများအိန္ဒိယတွင် ရှိပါသော်ငြားလည်း သူတို့မှာ ဘာသာတပါးသို့ ဝင်ရောက်တည်နေခြင်း၄ါ လမ်းဖွင့်မပေးသော မစွန့်လွှတ်ဝံ့သေးသော ဇာတိ ဝါဒကြီးနှင့် အခြား၊ ယုံကြည် ကိုးကွယ်မှုများက ကာဆီးဘိတ်ပင်ထားသဖြင့် ယခုတိုင် ဗုဒ္ဓဘာသာဟု ကျေညာ ဝံ့သူ ခေါင်းဆောင်ဝံ့သူ တစုံတယောက်မျှ မပေါ်ပေါက်နိုင်ခဲ့ချေ။

### အချိန်သင့်ပါပြီ

သို့ရာတွင် (က) ကမ္ဘာတဝှမ်းလုံး၌ လောကဓာတ်ပညာ ထွန်းကား ပြန့်ပွါးလာသည့်အလျောက် အမှားအမှန် ဝေဘန် စဉ်းစားတတ်သူများ ပေါများလာခြင်း။

(ခ) ဇာတိဝါဒကြီးကို တိုက်ဖျက်ကာ ဗုဒ္ဓဝါဒ မှန်ကန်ကြောင်း ကြေညာလျက် ငါးပါး သီလကိုပင် ကျင့်သုံးဆောက် တည်နေသော ဇာတ်နိမ့်သူ သန်းပေါင်း၊ ခြောက်ဆယ်၏ ခေါင်းဆောင် (ဒေါက်တာအမ်ဘက္ကား) တို့လို ပုဂ္ဂိုလ်များ ပေါ်လာခြင်း။

(ဂ) ကမ္ဘာကြီး တခုလုံးက ဗုဒ္ဓဘာသာနှင့် ဗုဒ္ဓဝါဒဘက်သို့ ယိမ်းယိုင်တော့မည်ဟန်ပြုနေခြင်း။

စသော အကြောင်းများကို ထောက်ဆကာ အထူးအားဖြင့် အိန္ဒိယ၌ ညှိုးမှိန်ကွယ်ပျောက်နေသော ဗုဒ္ဓသာသနာကို ပြန်လည်ထူးထောင်ရန် အချိန်သင့်ပြီ ဟု ထင်မြင်ပေသည်။

အိန္ဒိယတွင် ဗုဒ္ဓဝါဒမျိုးစေ့ ပြန်လည်စိုက်ပျိုးပါက အလွန် အဖွဲ့သန်နေသော ဗြာဟ္မဏ၊ခတ္တိယ၊ဝေဿ ဇာတ်ဝင် အချို့မှတပါး (သျှူဒ္ဒ) ဟုခေါ် (သုဒ္ဒ) ဇာတ်ဝင်များမှာ လွယ် လွယ် ကူကူနှင့် ဗုဒ္ဓဝါဒဘက်သို့ သက်ဝင်ယုံကြည်လာကြလိမ့်မည်ဟု ထင်မြင်ကြပေသည်။

### ဗုဒ္ဓဝါဒပြန်လည် ထူထောင်ရန်လမ်းစ

ဗုဒ္ဓဝါဒ ပြန်လည် ထူထောင် ရန်မှာ အိန္ဒိယနိုင်ငံတွင် လက်ရှိတည်ရှိ နေကြသော မြန်မာ ဘုန်းတော်ကြီး ကျောင်းများကို ဗုဒ္ဓသာသနာပြု ကျောင်းအဖြစ်သို့ ပြောင်းလွှဲပြီးလျှင် အမြန်ဆုံး အားဖြင့် စမ်းသပ်ထူထောင်သင့်ပေသည်။

### မြန်မာဘုန်းကြီး ကျောင်းများ

(က) ကာလကတ္တား ဓမ္မသာလာ ဦးပညာဝံသ၊ (ခ) ဗုဒ္ဓဂယာမြို့ ဦးဥတ္တမ၊ (ဂ) ရာဇဂြိုဟ်မြို့ ဦးဇယန္တ၊ (ဃ) ဗာရာဏသီမြို့၊ဦးနန္ဒဝံသ၊ (င) မဂဒါဝုန်၊ ဦးကိတ္တိမာ၊ (စ) ဗာရာဏသီမြို့ မြို့လယ်ကျောင်း ဦးကိတ္တိမာ၊ (ဆ) ကုသိနာရုံ ဦးစန္ဒိမုနိ၊ (ဇ) ဗာရ်လမ်ပုရ်မြို့ဦးအာစရ၊ (ဈ) သာဝတ္ထိ ဇေတ ဝန် ကျောင်း ဦးဓဟိန္ဒ။

အထက်ပါကျောင်းထိုင် ပုဂ္ဂိုလ်များမှာ များသောအားဖြင့် ဗုဒ္ဓသာသနာ့အဖွဲ့မှဖြစ်စေ အစိုးရအထံမှဖြစ်စေ ထောက်ပံ့မှုနှင့် စီမံခန့်ခွဲမှုကို ခံယူလိုကြသည် ချည်းဖြစ်ကြောင်းကို လေ့လာ စုံစမ်း၍ သိခဲ့ရပေသည်။

ယခုလက်ရှိကျောင်းထိုင်ပုဂ္ဂိုလ်များ၏ အခြေအနေမှာ သာသနာပြုရန် မဟုတ်ကြဘဲ ဗုဒ္ဓဘာသာဝင် ရဟန်း ရှင်လူ ခပ်သိမ်းသူတို၏ လှူငှ်ကူ ချမ်းသာစွာ တည်းခိုသွားလာနိုင်ကြရန် လမ်းညွှန်ရန် ကျောင်းစောင့်ရန်မျှသာ ဖြစ်လေသည်။ မြန်မာနိုင်ငံမှ-ကဲ့သို့ လှူဒါန်းမည့်သူ မရှိ၊ ဆွမ်းခံတောင်းရမ်း၍လည်း မရကြသဖြင့် ဒိဋ္ဌိတို့ဝမ်းရေးအတွက် ဘုရားဖူးများ၏ ဒါနနှင့် မြန်မာပြည်မှ အသိမိတ်ဆွေဆွေမျိုး ဥာတိ ရဟန်းဒါယကာ ဒါယိကာမတို့၏ဒါနဖြင့်သာ မှတရောင့်ရဲ၍ ဆင်းရဲငြိုငြင်စွာ နေထိုင်သီတင်းသုံးကြသည်ကို တွေ့မြင်ခဲ့ရပေသည်။

အိန္ဒိယတွင် အချို့သော ကျောင်းထိုင်ပုဂ္ဂိုလ်များမှာ စီးပွါးရေး လုပ်ငန်းအမျိုးမျိုးကို လုပ်ကိုင်၍ မိမိတို့၏ ဝမ်းရေးကို ဖြည့်တင်းလျက် ဗုဒ္ဓဘာသာပိုင် အဆောက်အဦများကိုမပျက်စီးရအောင် ကောင်းမွန်စွာစောင့်ရှောက်နေကြသည်ကို ဝမ်းနည်းကြေကွဲဘွယ်ရာ တွေ့မြင်ခဲ့ကြရပေပြီ။

ထို့ကြောင့် အိန္ဒိယရှိ စာန်းကြီး ကျောင်းများကို နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ တနည်းနည်းဖြင့် သိမ်းယူ စောင့်ရှောက်သင့်ပေသည်။

### သိမ်းယူရန်နည်းလမ်း

(က) အိန္ဒိယပြည်ရှိ အဖွဲ့ပိုင် ဗုဒ္ဓဘာသာ အဆောက်အဦများကို ပိုင်ရှင်အဖွဲ့နှင့် တိုင်ပင်ကာ ကြေနပ်စေအောင် ပြုလျက်သိမ်းသူရမည်။

(ခ) အဖွဲ့ပိုင်မဟုတ်၊ ပုဂ္ဂလိက ဗုဒ္ဓဘာသာ အဆောက်အဦများကို မူကား ဤသည့်နည်း၊ ဤသည့်စည်းမျဉ်းဖြင့် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့က ထောက်ပံ့အားပေး လိုပါသည်။ သဘောတူ မတူကို ကျောင်းအားလုံးရှိ ကျောင်း ထိုင်ပုဂ္ဂိုလ်များ၏ အစည်းအဝေးမှ ဆန္ဒပေးတော်မူကြပါဟု စာဖြင့် လျှောက်ထား၍ဖြစ်စေ၊ တနေရာရာသို့ ပင့်ဘိတ်လျှောက်ထားကာ ကျောင်းထိုင်ပုဂ္ဂိုလ်တို့၏ ဆန္ဒကိုကြေကြေနပ်နပ်ဖြစ်စေလျက် သိမ်းယူသင့်ပေသည်။

(ဂ) အဖွဲ့ပိုင်လည်းမဟုတ်၊ ပုဂ္ဂလိကပိုင်လည်းမဟုတ်သည့် ကုလားများ၏လက်ထဲသို့ ရောက်ရှိနေသော မြန်မာပြည်မှ မြန်မာများ၏ ငွေဖြင့် လှူဒါန်းထားသော—

၁။ ဂယာမြို့မှ ဓမ္မသာလာတခု။

၂။ သာဝတ္ထိ ဇေတဝန် ကျောင်း ဦးမဟိန္ဒကျောင်း၊ အနီးမှခေါ်ဒွေးကျောင်းတခု၊

အထက်ပါ ကျောင်း နှစ်ကျောင်းကို နိုင်ငံတော်ဗုဒ္ဓသာသနာ့ အဖွဲ့မှ ငွေကြေးအနည်းငယ် အကုန်ခံ၍ ဆောင်ရွက်ပါလျှင် သူတပါး၏လက်သို့ရောက်နေသော ကာလ တန်ခြေအားဖြင့် အဘိုးများစွာ ထိုက်တန်သော ဗုဒ္ဓဘာသာအဆောက်အဦ၊နှစ်ခုကို ကျောင်းထိုင်ပုဂ္ဂိုလ်မပါဘဲ အဆောက်အဦးသက်သက်ကိုသာ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကသိမ်းသူရရှိနိုင်လိမ့်မည်ဟု ယုံကြည်မျှော်မှန်းမိပေသည်။

### သာသနာပြုနည်း

က။ ခရစ်ယာန်သာသနာပြုပုဂ္ဂိုလ်များကဲ့သို့ ငွေကြေးအသင့် အတင့် အကုန်အကျခံကာ ကလေး သူငယ် များအား (၁) အဝတ် အစား ပေးခြင်း၊ (၂) ဆေးဝါးပေးခြင်း၊ (၃) ကျောက်သင်ပုံကျောက်တန် ခဲတန် စာအုပ်စသည် တို့ကို ထောက်ပံ့ကာ မြန်မာ ဘာသာဖြင့် ပညာသင်ကြားပေးလျက် သာမဏေအဖြစ် ရဟန်းအဖြစ်သို့ ရောက်စေခြင်းအားဖြင့်၎င်း-

ခ။ ဥပုသ်နေ့တိုင်းသို့မဟုတ် တနင်္ဂနွေနေ့တိုင်း ဗုဒ္ဓဘာသာ တရားပွဲများကို ပြုလုပ်ကျင်းပကာ ပရိသတ်များစွာ လာရောက် နာကြားနိုင်ရန် အစဉ်အမြဲ ကြိုးစားအားထုတ်ခြင်းအားဖြင့်၎င်း—

အိန္ဒိယဘွင် အထက်ပါ နည်းနှစ်မျိုးလုံးကို အောင်မြင်အောင် အနှံ့အပြား ကြိုးစား၍ ဆောင်ရွက်သင့်ပေသည်။

ဗေ့းအခေါ် ပါဋလိပုတ္တ၊ယခုအခေါ် ပါတနာ ခေါ်သော ဒေသမှာ တတိယ သံဂါယနာတင်ရာ ဌာနလည်းဖြစ်၊ ကိုးတိုင်းကိုးဌာနသို့ သာသနာပြု လွှတ်ဘူးရာ ဌာနလည်းဖြစ်သောကြောင့် ဗုဒ္ဓဘာသာပိုင် အဆောက်အဦအခု သာသနာပြုရန်အတွက် တည်ဆောက် ထားရန် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က ကြိုးစားသင့်ပါသည်။ ယခုအခါမှာလည်း ၎င်းမြို့သည် စည်ကားသော မြို့ကြီးဖြစ်၍ သာသနာပြုရန် ဌာနကောင်း တခု ဖြစ်ပါသည်။

### ဘာသာနှင့်စာပေ

ဗမာခေါ်များစွာ နေထိုင်ရာ ဖြစ်၍ ဗမာ့ သံရုံး လည်းရှိသော နယူး ဒေလီမြို့ ကဲ့သို့သောမြို့ကြီး နှားမှာနေထိုင် မွေးဖွားကြသော ဗမာကလေး သူငယ် (ကျား)၊ (မ) များမှာ ဗမာစာနှင့် ဗုဒ္ဓ ဘာသာ အလေ့အလာများကို သင်ကြားပေးမည့် မြန်မာဘုန်းတော်ကြီးများမရှိသဖြင့်ထိုကလေး သူငယ် (ကျား) (မ) များ၏ အနာဂတ် ကာလ၌ ဗုဒ္ဓ ဘာသာ ဖြစ်ရေး၊ မြန်မာစာတတ်မြောက်ရေး ထို့၌ မျှော်လင့်ဘွယ်မရှိသလောက်ကြေကွဲဝမ်းနည်းဘွယ်ရာတို့ကိုသာ တွေ့ရှိ ခဲ့ရသဖြင့် များစွာပင် စိတ် မ ကောင်း ဖြစ်ခဲ့ရပေသည်။ ထို့ကြောင့်နယူးဒေလီကဲ့သို့သော မြို့များ၌ ဗုဒ္ဓဘာသာ ကလေး သူငယ် (ကျား) (မ)တို့၏အနာဂတ် အကျိုးကိုမြော်ခြင်း၄ါ ၎င်းမြို့၌ တည် ဆောက်လတ့်သော ဗမာ့သံရုံး အဆောက် အဦ အတွင်း၌မြန်မာစာကို သင်ကြားပေးခြင်း၊ ဗုဒ္ဓဘာသာအလေ့အလာ များ ကို သင်ကြား ပေးခြင်း ကိစ္စ တို့ကို ပြီးစေမည့် အင်္ဂလိပ်စာ တတ်မတတ် သင့်ရာ ရဟန်း ပုဂ္ဂိုလ်များ သီတင်းသုံးရန် သာသနာပြုရန် ဗုဒ္ဓဘာသာ အဆောက်အဦး တခု ကိုဘည်ထောင်ပေးရန်အမှန်ပင် လို လားအပ်ပါသည်။

အိန္ဒိယတွင် မြန်မာ ကျောင်းထိုင် ဘုန်းတော်ကြီး များ၏ သီတင်း သုံးနေဆဲ ဗုဒ္ဓ ဘာသာ အဆောက်အဦး၃ှိရာ (ကိုးဌာန) ၌ ကျောင်းနေ မြန်မာ ဘုန်းတော်ကြီး ပေါင်း (၁၆) ပါး မျှ တွေ့ခဲ့ ရသေသည်။

# သာသနာ စောင့်ရှောက်ရန် တာဝန်

## ယိုးဒယားသာသနာရေးမိတ်ဆက်အဖွဲ့ဝင်များနှင့် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ အမှုဆောင်များ ဆွေးနွေးပွဲတွင် ဒုတိယ ဥက္ကဋ္ဌကြီး၏ တင်လျှောက်လွှာ။

[၂၄–၅–၅၃–နံနက် ဂ နာရီ အချိန်တွင် သာသနာ့ ရိပ်သာအဖွဲ့ တည်ရာဌာနရှိ ကျင်းပသော နိုင်ငံတော် ဗုဒ္ဓသာသနာ အမှုဆောင် အဖွဲ့ဝင်များနှင့် ယိုးဒယားသာသနာရေး မိတ်ဆက်အဖွဲ့တို့၏ ဆဋ္ဌသံဂါယနာ ဆွေးနွေးပွဲတွင် ဒုတိယ ဥက္ကဋ္ဌ သတိုး သီရိ သုဓမ္မ ဦးသိမ်းမောင်၏ တင်လျှောက်လွှာ]

### ဝမ်းမြောက်ကြပါသည်

တပည့်တော်ရိုသေစွာ ရှိခိုးလျှောက်ထားပါသည်။ ယိုးဒယားပြည်၏ ဒုတိယ သာသနာပိုင်ဖြစ်တော်မူသော ဆရာတော်အရှင်မြတ်ကြီးဘုရား။

ပြည်ထောင်စု မြန်မာနိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ဝင် ယခုအစည်းအဝေးသို့ ရောက်ရှိနေသော တပည့်တကာများက ပြည်ထောင်စု မြန်မာနိုင်ငံတော် တခွင်လုံးရှိ ဗုဒ္ဓဘာသာဝင် အားလုံးတို့၏ ကိုယ်စား ဆရာတော်ဘုရားနှင့် ဆရာတော်ဘုရား ခေါင်းဆောင်တော်မူသော မိတ်ဆက် အဖွဲ့ဝင်များ၊ ကြွရောက် လာသည့်အတွက် များစွာ ဝမ်းမြောက်ကြပါသည်ဘုရား။

### မြော်လင့်ကြပါသည်

ဆရာတော်ဘုရားသည် အလျင်က ပြည်ထောင်စု မြန်မာနိုင်ငံတော်သို့ နှစ်ကြိမ် ကြွရောက်တော်မူပြီး မြန်မာဆရာတော်ကြီးများနှင့်၎င်း၊ မြန်မာဒါယကာများနှင့်၎င်း၊ ဆဋ္ဌသံဂါယနာ တင်ရန် ကိစ္စအစရှိသော မြတ်စွာဘုရား၏သာသနာတော်ဆိုင်ရာ ကိစ္စအဝဝတို့ကို ဆွေးနွေးတော်မူခဲ့ပြီးဖြစ်၍ ယခု ဆရာတော်ဘုရားခေါင်းဆောင်တော်မူသော အဖွဲ့နှင့် မြန်မာဆရာတော်ကြီးများသည်၎င်း၊ တပည့်တော် လူဒါယကာများသည်၎င်း ထိုကိစ္စများနှင့် စပ်လျဉ်း၍ ဆွေးနွေးကြသောအခါ သိနားလည်လွယ်လိမ့်မည်၊ ကိစ္စများပြီးမြောက်လွယ်လိမ့်မည်ဟု တပည့်တော်များ ယုံကြည် မြော်လင့်ကြပါသည်ဘုရား။

### အားထားကြပါသည်

စင်စစ်အားဖြင့်ကိစ္စတစုံတခုကို ဆရာတော်ဘုရား၏အဖွဲ့ဝင်များ မသိသေးနား မလည်ကြသေးလျှင် သူတို့သိအောင်နားလည်အောင်ဆရာတော်ဘုရားသည် မြန်မာဆရာတော်ကြီးများနှင့် တပည့်တော်များကို ကူညီ၍ရှင်းလင်းပြောပြ၍ ပေးနိုင်ပြီး ရှင်းလင်းပြောပြ၍ ပေးလိမ့်မည်ဟူ၍လည်း ဆရာတော်ဘုရား၏အပေါ်တွင် တပည့်တော်များ အားထားကြပါသည်ဘုရား။

### တာဝန်ရှိပါသည်

ဆရာတော်ဘုရားနှင့် ဆရာတော်ဘုရား၏ အဖွဲ့ဝင်အားလုံး သိတော်မူကြပြီး ဖြစ်သည့်အတိုင်း ထေရဝါဒ ဗုဒ္ဓသာသနာတော်သည် ယိုးဒယားပြည်၊ မြန်မာပြည်၊သီဟိုဠ်ကျွန်း၊ ကမ္ဘောဇပြည်နှင့် လာဩပြည်တို့တွင်သာ တည်ထွန်းလျက်ရှိပါသည်။ ထိုထေရဝါဒ ဗုဒ္ဓသာသနာတော်တည်ထွန်းသော နိုင်ငံများအားလုံးမှ ထိုသာသနာတော် မတိမ်ကော မပပျောက်အောင် ထိန်းသိမ်းစောင့်ရှောက်ကြဘို့ တာဝန်ရှိပါသည်။ ထိုသာသနာတော် သန့်ရှင်းစင်ကြယ်အောင် စောင့်ရှောက်ဘို့ တာဝန်ရှိပါသည်။ ထိုသာသနာတော် စည်ပင်ပြန့်ပွါးအောင် ပြုကြဘို့ တာဝန်ရှိပါသည်၊ ထိုသာသနာတော်၏အရသာကို တကမ္ဘာလုံး ခံစားကြရအောင် ကြိုးဆောင် ကြိုးစားကြဘို့ တာဝန်ရှိပါသည်ဘုရား။

### ကူညီတော်မူကြမှသာ

သို့ထေရဝါဒ ဗုဒ္ဓဘာသာဝင် နိုင်ငံအားလုံးအပေါ်တွင် ကျရောက်လျက် ရှိသော တာဝန်များသည် အလွန် ကြီးလေးသော တာဝန်များဖြစ်ကြ၍ ထိုနိုင်ငံအားလုံး တိုင်တိုင်ပင်ပင်ညီညီညွတ်ညွတ် ဆောင်ရွက်ကြမှ စိတ်ကျေနပ်လောက်အောင် ထမြောက်အောင်မြင်နိုင်ပါမည်ဘုရား။

မြတ်စွာဘုရား၏ သာသနာတော် တည်တန့်ခိုင်မြဲရေး၊ စည်ပင်ပြန့်ပွါးရေးမှာလည်း ပိဋကတ်သုံးပုံ ပါဠိတော်ကျမ်းစာများမှန်ရေး၊ ၎င်းတို့၏အဖွင့် အဋ္ဌကထာဋီကာကျမ်းများ မှန်ရေးသည် အလွန်အရေးကြီးသော အခြေခံ တရပ်ဖြစ်ပါသည်ဘုရား။

ထိုကျမ်းများမှာလည်း အဆင့်ဆင့်ရေးကူးပုံနှိပ်ကြရာတွင် ရေးမှား၊ကူးမှား၊ ပုံနှိပ်မှား၊ မူမှားစာပျက်အချို့ ပါဝင်လျက်ရှိနေကြပါပြီ၊ သို့အတွက် ထိုရေးမှား၊ကူးမှား၊ပုံနှိပ်မှား၊မူမှားစာပျက်များကို သုတ်သင်ပြင်ဆင်ပြီး ထေရဝါဒ ဗုဒ္ဓဘာသာဝင် အားလုံး ကျေးကျေနပ်နပ် လက်ခံနိုင်သော မူမှန် စာမှန်များ ဖြစ်အောင် လုပ်ဘို့အရေးကြီး၍နေပါသည်။ ထိုအရေးကြီးသော ကိစ္စကို ဆောင်ရွက်ရာမှာလည်း အဆိုပါနိုင်ငံများတွင် ယိုးဒယားအက္ခရာ၊မြန်မာအက္ခရာ၊ သီဟိုဠ်အက္ခရာ၊ ကမ္ဘောဇအက္ခရာ၊ လာဩအက္ခရာ၊ရောမအက္ခရာ စသည်တို့နှင့် ရှိနေသော ပိဋကတ်ပါဠိတော်မူများ အဋ္ဌကထာမူများ ဋီကာမူများ စသည်တို့ကို ညှိနှိုင်း၍သုတ်သင်ပြင်ဆင်မှ ဖြစ်ပါမည်။ သို့အတွက် ထိုကိစ္စသည် အဆိုပါ နိုင်ငံအားလုံးက ပါဝင်ကူညီမှအဆိုပါ နိုင်ငံအားလုံးရှိ ပရိယတ္တိဝိသာရဒ ဆရာတော်များပါဝင် ကူညီတော်မူကြမှ စိတ်ကျေနပ် လောက်အောင် ပြီး မြောက်အောင်မြင်ပါမည်ဘုရား။

## ယိုးဒယားသာသနာပိုင်ဆရာတော်ကြီးထံမှ သဝဏ်လွှာ



## ယိုးဒယားပြည် သံဃရာဇာ အထံမှ မြန်မာပြည် ဆဋ္ဌ သံဂါယနာ ဩဝါဒါစရိယ သံဃနာယကအဖွဲ့သို့

မြန်မာပြည် သံဃာတော်အရှင်မြတ်များနှင့် နိုင်ငံတော်အစိုးရတို့က ကြီးမှူးကျင်းပမည့် ဆဋ္ဌသံဂါယနာတင် မဟာသဘင်ကြီးသည် ထမြောက်အောင်မြင် ပါစေသတည်းဟု ယိုးဒယားပြည်သံဃာတော်အရှင်မြတ်များ၏ ကိုယ်စား တပည့်တော်က ဆုမွန်ကောင်း တောင်းလိုက်ပါသည်။

ဆွမ်ဒက်ဖရ ဝဇိရ ဉာဏဝံသ
သံဃရာဇာ
ဝပ်ဘော်ဝင်နိဝေစ ဝိဟာရ
၂၃–၅-၅၃

### မူအမျိုးမျိုးနှင့်

ထိုမျှကြီးကျယ်ခက်ခဲသော ကိစ္စတာဝန်ကြီးကိုပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ ကိုယ်စား ဤ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးက ဆောင် ရွက်လျက်ရှိပါသည်။ ယခုအခါ ဆရာတော်ပေါင်း ၁၁၃၆–ပါး ပါဝင်သော ပါဠိဝိသောဓက အဖွဲ့ပေါင်း ၁၁၆–ဖွဲ့တို့က ပါဠိတော်စာမူများ၊အဋ္ဌကထာစာမူများနှင့်ဋီကာစာမူများကို သုတ်သင်၍နေကြပါပြီ၊၎င်းဘို့ကိုသုတ်သင်ကြရာ၌ ထိုဆရာတော်များသည်ပဉ္စမသံဂါယနာတင် မင်းတုန်းမင်းတရားကြီး၏ ကျောက်စာတော်မူနှင့်၎င်း၊ နိုင်ငံခြား မူအမျိုးမျိုးနှင့်၎င်း၊ ညှိနှိုင်း တိုက်ဆိုင်၍ ဆင်ခြင် သုံးသပ်တော်မူကြပါသည်ဘုရား။

ပါဠိဝိသောဓက အဖွဲ့များက သုတ်သင်ပြီးဖြစ်သော စာမူများကို ပ ဋိပုစ္ဆဝိသောဓကအဖွဲ့ဝင် ဆရာတော် များ က ထပ်မံ သုတ်သင်တော်မူကြပါလိမ့်ဦးမည်၊ သို့သုတ်သင်၍ ပြီးသောစာမူများကိုမှ ပုံနှိပ်၍ပြင်ဆင်ရန် လိုသေးလျှင်လည်း ပြင်ဆင်ရန် အခွင့်အရေး ပေးသောအနေဖြင့် သံဂါယနာတင်မည့် ဆရာတော်များထံ ပို့ပြီး၊ ထိုဆရာတော်များ လက်ခံတော်မူကြသော စာမူများကို သံဂါယနာတင်မည်ဖြစ်ပါသည်ဘုရား။

### သီဟိုဠ်ကလည်း

ဤအဖွဲ့ကြီး၏ ဖိတ်ကြားချက် အရ သီဟိုဠ်ပြည်သည် ဤကိစ္စတွင် ပါဝင်ကူညီရန်သဘောတူညီခဲ့ပါပြီ၊ယခုအခါသီဟိုဠ်ပြည်ရှိဆရာတော်များသည် မြန်မာဆရာတော်များ၏ကူညီ၍ ပါဠိ ဝိသောဓက အဖွဲ့များဖွဲ့ပြီး စာမူများကို သုတ်သင်၍နေကြပါပြီ၊ သီဟိုဠ်ပြည်သည် သို့ကူညီပြီး သံဂါယနာတင်ရာ၌လည်း ပါဝင်မည်သာမက မိမိကူညီပါဝင်ကြောင်း အမှတ်တရဖြစ်စေရန်၊ ရန်ကုန်မြို့သံဂါယနာတင်ရာဌာနတွင် အုဋ်ကျောင်းကြီးတဆောင်ကိုလည်း ဆောက်လုပ် လှူဒါန်းပါလိမ့်မည်ဘုရား။

### ကမ္ဘောဇကလည်း

ကမ္ဘောဇ သာသနာပိုင် ဆရာတော်ဘုရားကြီးမှူးသော ကမ္ဘောဇပြည်၏ကိုယ်စားလှယ်အဖွဲ့သည်လည်း ဤနိုင်ငံသို့ မကြာမီကရောက်လာပြီး ဤသံဂါယနာတင်ကိစ္စကြီးတွင် ကမ္ဘောဇပြည်နှင့် ထိုပြည်ရှိ ဆရာတော်များက စိတ်အား ထက်ထက်သန်သန် ပါဝင်ကူညီကြမည် ဖြစ်ကြောင်း ကတိထား၍သွားပါပြီ၊ သည်မျှသာမက သေး ကမ္ဘောဇသာသနာပိုင်ဆရာတော်ဘုရားက မိမိသည် မူလက မည်သည့်အတွက် ယခုတင်မည့် သံဂါယနာကို ဆဋ္ဌသံဂါယနာခေါ်ကြောင်း အလျင်ကမသိသော်လည်း ယခုသိပြီဖြစ်၍ ယိုးဒယားသာသနာပိုင်ဆရာတော်ဘုရားကို မိမိသိသည့်အတိုင်း လျှောက်၍ပေးမည် ဟူ၍လည်း မိန့်ကြား၍ သွားပါသေးသည်ဘုရား။

## လောပြည်ကလည်း

လောပြည် သာသနာပိုင် ဆရာတော်ဘုရားအကိုယ်စားလှယ် ဆရာတော်များသည်လည်း မကြာမြင့်မီကမြန်မာပြည်သို့ ကြွရောက်တော်မူလာကြပြီးလျှင် ဤကိစ္စကြီးတွင်လောပြည်နှင့် လောင်ပြည့်ရှိရဟန်းတော်များက ကူညီဆောင်ရွက်တော် မူကြမည်ဖြစ်ကြောင်း ကတိ ထားပြီးလျှင် လောပြည်သာသနာပိုင်ဆရာတော်ဘုရားကိုယ်တော်တိုင် အခြားသံဃာတော်များနှင့် သံဂါယနာတင်ရာသို့ဘက်ရောက်နိုင်အောင်ကြိုးစားမည်ဖြစ်ကြောင်း မိန့်ကြား၍သွားကြပါသည်ဘုရား၊

## အိန္ဒိယပြည်ကလည်း

အိန္ဒိယပြည်မှာ အထက်တွင်ဖော်ပြခဲ့သော နိုင်ငံများလောက် ဗုဒ္ဓသာသနာ ထွန်းကားသော နိုင်ငံမဟုတ်သော်လည်း အိန္ဒိယပြည်ကြီးကလည်းဤကိစ္စတွင်တတ်နိုင်သမျှကူညီဆောင်ရွက်မည်ဖြစ်ကြောင်း အကြောင်းကြား၍ ထားပြီး ဖြစ်ပါသည်ဘုရား။

## ယိုးဒယားပြည်ကလည်း

ယိုးဒယားပြည်နှင့် ယိုးဒယားပြည်ရှိ သံဃာတော်များ၏ အတွက်မှာလည်း ယခုဆရာတော်ဘုရားနှင့် ဆရာတော် ဘုရားခေါင်းဆောင်တော် မူသောအဖွဲ့ လာရောက်နေပြီဖြစ်သောကြောင့်တပည့်တော်တို့ များစွာအားတက်ကြပါသည်။တပည့်တော်များသည် ဆရာတော်များ ကြွရောက်တော်မူကြမည့်ရက်ကို အသေ အချာမသိမီက ဤအဖွဲ့က နှစ်ပတ်လည် ညီလာခံကိုချိန်း၍ထားခဲ့သည့်အတိုင်း ထိုညီလာခံကို မနေ့ကနေ့လည် ၂-နာရီအချိန်တွင် ကျင်းပခဲ့ပါသည်၊ ထိုညီလာခံကို ယနေ့နံနက် ၈-နာရီ အချိန်မှပင် ဆက်လက်၍ ကျင်းပရန်ရှိသော်လည်း ဆရာတော်ဘုရား၏ အဖွဲ့ဝင်များနှင့် သံဂါယနာတင်ရန် ကိစ္စကို ဆွေးနွေးလိုသောကြောင့် ထိုညီလာခံကို နေ့ ၁၂-နာရီသို့ ရွှေ့ဆိုင်းပြီး တပည့်တော်များသည် ယခု ဆွေးနွေးပွဲကိုကျင်းပကြပါသည်ဘုရား၊

ဆရာတော်ဘုရားများ၏အဖွဲ့နှင့် ရန်ကုန်မြို့ရှိ ဆဋ္ဌသံဂါယနာပြုဝါဒါ စရိယ သံဃနာယက ဆရာတော်များ၊သံဂါယနာဝန်ဆောင်အဖွဲ့ဝင်ဆရာတော်များ၊ ပဋိပိသောဓကအဖွဲ့ဝင်ဆရာတော်များ တွေ့ဆုံဆွေးနွေးတော်မူကြရန် အစည်းအဝေးကိုလည်း ယနေ့ ၂-နာရီအချိန် ချိန်း၍ထားပါသည်ဘုရား၊

ဆရာတော်ဘုရား၏အဖွဲ့ဝင်များသည် တပည့်တော် များနှင့်ရင်း အဆိုပါဆရာတော်များနှင့်ရင်း၊ အခြား ထိုက်သင့်ရာပုဂ္ဂိုလ်များနှင့်ရင်း၊ ဆွေးနွေး ပြီးနောက် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီး က ဆောင်ရွက် နေပုံကို မြင်ကြ ရပြီးသည့်နောက် မြန်မာနိုင်ငံတော်အတွင်း လှည့်လည်၍ မင်းတုံးမင်းဘုရား၏ကျောက်စာတော်မူအစရှိသည်တို့ကို ကြည့်ရှုပြီးသည့်နောက် သီဟိုဠ်ပြည်၊ကမ္ဘောဇ ပြည်နှင့် လောပြည်များကဲ့သို့ပင်လျှင် ယိုးဒယားပြည်နှင့် ယိုးဒယားပြည်ရှိ ရဟန်းတော်များသည် ဤကိစ္စကြီးတွင် စိတ်အားထက်ထက်သန်သန်နှင့် ပါဝင်ကူညီမည်ဟု တပည့်တော်များအား မြွက်ကြား၍ သွားတော်မူနိုင်ကြလိမ့်မည်ဟု တပည့်တော်များယုံကြည်မြော်လင့်ကြပါသည်ဘုရား၊

ဤဗုဒ္ဓသာသနာအဖွဲ့ကြီးကစီစဉ်လျက်ရှိသော သံဂါယနာသည် ထေရဝါဒဗုဒ္ဓသာသနာဝင် တိုင်းပြည်အားလုံး စုရုံးညီညာ၍ တင်သောသံဂါယနာဖြစ်ဘို့ရာမှာ ဆရာတော်ဘုရားတို့၏ နိုင်ငံတနိုင်ငံသာ ကျန်ရှိနေပါတော့သည်ဘုရား။

## အင်အား တိုးတက်ပါလိမ့်မည်

ယခုပင်လျှင် ယိုးဒယားပြည်နှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော် ဆက်ဆံရေးမှာ ပြေပြေပြစ်ပြစ် ချောချော မောမောရှိရာ ဤသံဂါယနာတင်ကိစ္စကြီး၌ ယိုးဒယားပြည်ကပါဝင်ကူညီလျှင် တပြည်နှင့် တပြည် ပိုမို၍ ချစ်ခင်ရင်းနှီးကြလိမ့်မည်၊ တပြည်နှင့် တပြည် ရွှေလမ်း ငွေလမ်းပေါက်သကဲ့သို့ ဖြစ်လိမ့်မည်၊ ထေရဝါဒ နိုင်ငံအားလုံး သွေးစည်းမိ၍အင်အားတိုးတက်လိမ့်မည်ဟု တပည့်တော်များ ယုံကြည်ကြပါသည်ဘုရား၊

"ဗုဒ္ဓသာသနံ စိရံ တိဋ္ဌတု"

## ယိုးဒယားပြည် သံဃနာယကထံမှ သဝဏ်လွှာ



မြန်မာပြည်သံဃာတော် အရှင်မြတ်များနှင့် အစိုးရတို့က ကောင်းမြတ်သော စေတနာသဒ္ဓါတော်ဖြင့် ဆဋ္ဌသံဂါယနာနှင့်စပ်လျဉ်း၍ ဆွေးနွေးရန်အလို့ငှါတပည့်တော်များ၏ကိုယ်စားလှယ်တော်အဖွဲ့အား ပင့်ဘိတ်သည့်အတွက်ယိုးဒယားပြည် သံဃာတော် အရှင်မြတ်များကိုယ်စား တပည့်တော်ကအထူးဝမ်းမြောက်ကာ ကျေးဇူးတင်ရှိပါကြောင်း၊

ဗုဒ္ဓသာသနာတော်ကြီးသည် ကမ္ဘာ၏မြင့်မြတ်လှသော သာသနာတော်ကြီးဖြစ်ပါပေ၏၊ တရားတော်၏ မှန်မြတ်ခြင်း၊ ထက်ဝန်းကျင်ပြည့်စုံခြင်းတို့ကြောင့် အခါခပ်သိမ်းတင့်တယ်သော သာသနာတော်ကြီးဖြစ်ပါပေ၏၊ ဤကမ္ဘာကြီး၏ငြိမ်းချမ်းမှုသုခကိုပေးစွမ်းနိုင်သော သာသနာတော်ကား ပိဋကသုံးပုံဟု ဆိုအပ်သော မြတ်စွာဘုရား၏ဒေသနာတော်ပင်ဖြစ်ပေ၏၊ ထို့ကြောင့်မြန်မာပြည် သံဃာတော် အရှင်မြတ်များနှင့် အစိုးရတို့က ကောင်းမြတ်သော စေတနာ့၀ီရိယတို့ဖြင့် ဆောင်ရွက်ကြိုးပမ်းလျက်ရှိသော ဆဋ္ဌသံဂါယနာသည် အောင်မြင်ပါစေသတည်းဟု စိတ်စေတနာကောင်းဖြင့် ဆုတောင်းလိုက်ပါသည်၊

ဆွန် ဒက် ဇရုံဝနရာဘ်
သံဃနာယက-ယိုးဒယားပြည်
၂၃–၅–၅၃

# ဗုဒ္ဓဘာသာနှင့် ငါးနိုင်ငံ ကြိုးပမ်းမှု

## ယိုးဒယားသာသနာရေး မိတ်ဆက်အဖွဲ့ဝင်များ နှင့် နိုင်ငံတော် ဗုဒ္ဓ သာသနာအဖွဲ့ အမှုဆောင်များ ဆွေးနွေးပွဲတွင် အကျိုးဆောင် စာချီ-ဦးချန်ထွန်း လျှောက်ထားချက်။

## ရာဇဝင်ကိုကြည့်လျှင်

ယနေ့ ယိုးဒယားသာသနာရေး မိတ်ဆက်အဖွဲ့ဝင် ဆရာတော်များအား ဖူးမျှော်ကာ ဆဋ္ဌသံဂါယနာ အကြောင်း ဆွေးနွေးလျှောက်ထားခွင့် ရရှိသည် အတွက် အထူးဘဲ ဝမ်း မြောက် ပါသည်ဘုရား။တပည့်တော်များ၏ကိုးကွယ် အည်းကင်ရာဖြစ်သော ဗုဒ္ဓဘာသာစင်စစ် ထွန်းကားလျက်ရှိသော တိုင်းပြည်များသည် မြန်မာ,သီဟိုဠ်, ယိုးဒယား, ကမ္ဘောဇ,လော-ဟုသောထေရဝါဒငါးနိုင်ငံသာဖြစ်၍ ထိုငါးနိုင်ငံမှအပ အခြားဘိုင်းပြည်များတွင် ဗုဒ္ဓဘာသာသည် အချို့လုံးဝကွယ်ပျောက်၍ အချို့ကွယ်ပျောက်လုမတတ်ဖြစ်ပါသည်ဘုရား။ အာရှရာဇဝင်ကိုကြည့်လျှင် ဤငါးနိုင်ငံ၏ကြိုးပမ်းမှုကြောင့် သာလျှင်ဗုဒ္ဓဘာသာသည်ယနေ့တိုင် တည်တံ့လျက်ရှိသည် ဟူသော အချက်သည် ထင်ရှားလှပါသည်ဘုရား။

## တိတိကျကျရှိစေရန်

ယခု သာသနာတော် သက္ကရာဇ် ၂၅၀၀-ပြည့်ရန် နီးကပ်လာသည့်အချိန်တွင် သာသနာတော်ကြီး ၄မှိဘွန်းကားတောက်ပြောင်စေရန်နှင့် ကမ္ဘာသို့ သာသနာ ပြန့်ပွားရန် အတွက် ဆက်လက်ပြီးဆောင်ရွက်ရန် ကိစ္စသည် ဤငါးနိုင်ငံ၏ တာဝန်ဖြစ်ပါသည်ဘုရား။ ဤငါးနိုင်ငံ၏အခြေအနေကို ကြည့်လျှင် သာသနာရေးကိုလွတ်လပ်စွာ ဆောင်ရွက်နိုင်သော အခွင့်အရေးအသီးအသီး ရရှိနေကြသဖြင့် ယခုအချိန်အခါသည် အလွန်သင့်လျော်ကောင်းမြတ်သော အချိန် ဖြစ်ပါသည်ဘုရား၊ထိုသို့ ကမ္ဘာအရပ်ရပ်တွင် သာသနာပြန့်ပွါးအောင် ပြုလုပ်သည့်အခါမှာလည်း တရားတော်များကို အမှန်အတိုင်း

တိတိကျကျ ရှိစေခြင်းငှါ ဆောင်ရွက်ဘို့ရန် အရေးကြီးဆုံးဖြစ်ပါသည်ဘုရား။

**အစိုးရလူထုသံဃာ**

ယခုတင်ကဥက္ကဋ္ဌကြီးအမိန့်ရှိသွားသည့်အတိုင်း ပါဠိ ပိဋကတော်များသည်မသန့်မရှင်း ချို့ယွင်းချက်များ ရှိနေရာ ၎င်းချို့ယွင်းချက်များကို ငါးနိုင်ငံ ပူးပေါင်းပြီးသံဃါယနာတင်သောအားဖြင့် သုတ်သင်ဘို့ရန်အထူးအရေးကြီးလှပါသည်ဘုရား။ ၎င်း နည်းလမ်းသည်လည်း သာသနရာဇဝင်တွင် အစဉ်အလာ ဆောင်ရွက်မြဲနည်းလမ်းဖြစ်သည့်ပြင် ၎င်းကဲ့သို့သော သံဃါယနာတင်ပွဲကြီးမျိုးကို ထေရဝါဒ ဗုဒ္ဓဘာသာနိုင်ငံပေါင်းစုံမှ အစိုးရ, လူထု သံဃာတော်များအားလုံးပါဝင်ပြီး ကျင်းပနိုင်ပါလျှင် ဗုဒ္ဓဘာသာနိုင်ငံအချင်းချင်း ပိုမိုရင်းနှီးမည့်အပြင် ဗုဒ္ဓသာသနာတော်ပြန့်ပွါးကြောင်း အခြေခံတခု ဖြစ်ပါလိမ့်မည်ဘုရား။ ထို့ကြောင့် မြန်မာပြည်မှာရှိတဲ့ ဘာသာရေးခေါင်းဆောင်များက သံဃါယနာတင်ပွဲကြီးကျင်းပရန် ပါလိမ့်၏ ခွင့်ပြုချက်ရယူပြီးလျှင် ၎င်းသံဃါယနာတင်ကိစ္စကြီးကိုတာဝန်ယူပြီး ဆောင်ရွက်ဘို့ရန် ၁၉၅၀-ခုနှစ် ဗုဒ္ဓသာသနာအဖွဲ့အက်ဥပဒေအရ ဖွဲ့စည်းခဲ့သော ၎င်းနိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီးသို့လွှဲအပ်ထားပါသည် ဘုရား။ ၎င်းအဖွဲ့ကြီး၏ တာဝန်ဝတ္တရားများမှာ ပြည်တွင်းပြည်ပ သာသနာတော် ထွန်းကားပြန့်ပွါးစေရန် ဖြစ်ပါသည်ဘုရား။

**ဗုဒ္ဓသာသနာအဖွဲ့ဆိုသည်မှာ**

၎င်း အဖွဲ့ကသုံးစွဲသည့် ငွေများကို ပါလီမန်ကတနှစ်တကြိမ်ခွင့်ပြုပေးပါသည်။ ၎င်းအဖွဲ့ကြီး၏ အမှုဆောင် အဖွဲ့တွင် နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်များက ရွေးချယ်ပေးသော ပုဂ္ဂိုလ် ၉-ဦး၊ နိုင်ငံတော်သမတက ရွေးချယ်ပေးသော ပုဂ္ဂိုလ် ၉-ဦး၊နှင့် ဗုဒ္ဓဘာသာအသင်းအဖွဲ့ပေါင်းစုံတို့က ရွေးချယ် တင်မြှောက်သော ပုဂ္ဂိုလ် ၉-ဦး၊ပေါင်း ၂၇-ဦး

(စာမျက်နှာ ၁၃-သို့ဆက်ကြည့်ပါ)

# ယိုးဒယားပြည် နိုင်ငံတော် ဝန်ကြီးချုပ် ထံမှ သဝဏ်လွှာ



## ယိုးဒယားပြည်နန်းရင်းဝန်ကြီး ပေါဗိဘူလ်ဆွန်ဂရမ်ထံမှ မြန်မာပြည် ဗုဒ္ဓဘာသာဝင်အပေါင်းတို့ထံသို့

ကောင်းမြတ်သောအခါသမယတွင် မြန်မာပြည်၌ကျင်းပမည့် ဆဋ္ဌသံဂါယနာ ပွဲတော်ကြီး အထမြောက်ရေးအတွက် သံဂါယနာတင်ရန်ဖြစ်သော ပိဋကပေါ်ဗိတော်များကို ညှိနှိုင်းသုတ်သင်ခြင်းကိစ္စသည် အချိန်မီပြီးစီးအောင်မြင်ပါစေရန် ယိုးဒယားပြည် ဗုဒ္ဓဘာသာဝင်အပေါင်းတို့၏ ကိုယ်စား ကျွန်ုပ်က စေတနာထက်သန်စွာ ဆုတောင်းလိုက်ပါသည်။ ဗုဒ္ဓသာသနာတော်၏အရေးကြီးသောအချက်များမှာ မိမိကိုယ်တိုင်ရင်း၊သူတပါးတို့ရင်း ဒုက္ခမှလွတ်ကင်း၍ ငြိမ်းချမ်းမှုအစစ်ရရှိစေရန်ဖြစ်ရာ မြတ်စွာဘုရားကိုယ်တော်တိုင် အောက်ပါအချက်ကြီးများကို ဟောကြားတော်မူခဲ့ပါ၏။

၁။ မကောင်းသော အကုသိုလ် ဒုစရိုက်များကို ရှောင်ကြဉ်ရန်၊

၂။ ကောင်းသော ကုသိုလ် သုစရိုက်များကို ပြုလုပ်ရန်။

၃။ မိမိစိတ်ကိုဖြူစင်စေရန်။

အထက်ပါ သမ္မာပဋိပတ်ဟု ဆိုအပ်သော ဗုဒ္ဓဘာသိတဒေသနာတော် သုံးချက်ကို လိုက်နာဆောင်ရွက်ပါလျှင် လိုက်နာဆောင်ရွက်သူများသည် ဒုက္ခခပ်သိမ်းတို့မှကင်းငြိမ်း၍ချမ်းသာ သုခအစစ်ကို မုချရမည် မလွဲပါ။

ထိုပြင် သမ္မာပဋိပတ်တည်မြဲနေသမျှ သာသနာတော်ကြီး တည်မြဲမည်ဖြစ်၏။ သာသနာကြီး တည်မြဲနေသမျှ ငြိမ်းချမ်းမှုအစစ် တည်မြဲမည်မှာ အမှန်ဖြစ်ပါ၏။

ထို့ကြောင့် ယခုကျင်းပမည့် ဆဋ္ဌသံဂါယနာ တင်ပွဲတော်ကြီးမှာ ကမ္ဘာကြီးအား ငြိမ်းချမ်းရေးပေးစွမ်းမည် အမှန်ပင်ဖြစ်ပါ၏။သို့ဖြစ်ပေ၍ ဆဋ္ဌသံဂါယနာတင်ပွဲတော်ကြီး အောင်မြင်ပါစေရန် ရတနာသုံးပါး ဦးထိပ်ထား၍ ဆုတောင်းပဏ္ဏာစွာ ပြုလိုက်ပါ၏။

ပေါဗိဘူလ်-ဆွန်ဂရမ်
ယိုးဒယားပြည်-နန်းရင်းဝန်ကြီး
၂၃-၅-၅၃

# ဓမ္မကွန်-အောင်သံဟိန်းလို့ရယ်



ယိုးဒယား သာသနာရေး မိတ်ဆက်အဖွဲ့အား မင်္ဂလာဒုံလေဆိပ်မှ ကြိုဆိုရာတွင် ၎င်းသို့ စည်တော်ကြီး ယွန်းကာ.....

## ယိုးဒယာ သာသနာရေးမိတ် ဆက်အဖွဲ့ ကြိုဆိုပွဲအတွက် စည်တော်သံများ

(၁) သာသနာ-တဝက်နီးပြီမို့၊ တက်နေကြီးလိုပ ပေါ်ခဲ့သည်။ ။ကမ္ဘာမှာ-အပူသိမ်း (လို့ရယ်) ငြိမ်းပါတော့မည်။ အပြည်ပြည်-ရောင်ခြည်ဝင့်-ကွန့်ရှန်း။ ။ဓမ္မကွန်-အောင်သံဟိန်း(လို့ရယ်) ကိန်းစုံနဲ့-ထွန်း။ ။

(၂) ဓမ္မကွန်-စင်ကြယ်ရေးကိုလ၊ ဟိုရှေးက- ဆောင်ခဲ့တာ။ ။မန်းခေတ်တိုင်-သံဂီတိ(ရယ်) ငါးကြိမ်ရှိ-ပါ။ ။၎င်းတခါ-တင်မှာက ခြောက်ကြိမ် ဘဲ။ ။ပြည်ပေါင်းစုံ-ပညာရှိတွေနဲ့၊ (ကျမ်းပေါင်းစုံ- မူမှန်ညှိပါလို့၊ မြို့ရွှေကုန်-အောင်ဘူမိမှာ) ထူး-ခေါင်ထိ-ပွဲ။ ။

(၃) ဆဋ္ဌခေါ်- သံဂီတိကိုလ၊ ထူးခေါင်ထိ- တင်တော့မည်။ ။အပြည်ပြည်-စုကာပေါင်းတယ်၊ ကောင်းဘို့- စိတ်ရည်။ ။"ဥါရာ" ရယ်မည်-"ထိုင်း" (Tai) ပြည်က-အရှင်များ။ ။မိတ်ဆက်ရန်-ကြွလာပြုတယ်၊ဝမ်းသာမှု-ပွါး။ ။

(၄) ပြည်မကွာ-နယ်,မဝေးပြီဘု၊ ဘာသာရေးရယ်က-တူခဲ့သည်၊ ။ဝေလေ့ရယ်, ရာဇဝင်နှင့်၊ စိတ်ဓာတ်ပင်-ရွှေနှစ်ပြားလို၊ ထားခဲ့တည်တည်။ ။ခေမာပြည်-စိတ်ရည်တဲ့-လုပ်ငန်း။ ။သံဂါယနာ-ပွဲတော်ကြီးရယ်၊ပြီးလိမ့်-အောင်ပန်း။ ။

# ယိုးဒယားသံဃအုပ်ချုပ်မှုဆိုင်ရာ ရဟန်း

## ကမ္ဘာ့ ကောင်းကျိုးချမ်းသာအတွက် ဗုဒ္ဓဘာသာ တ…
## စသည်ဖြင့်လူထုပူဇော်ပွဲတွင် ခေါင်းဆောင်…



နိုင်ငံတော် ရှေ့နေချုပ်ကြီး ဦးချန်ထွန်းက မည်သည် ဆရာတော်များဖြစ်ကြောင်းပြောကြားပြီးနောက်- မိတ်ဆက်အဖွဲ့ ခေါင်းဆောင်ဆရာတော်က -ပဋိသန္ထာရ စကားပြောကြားနေပုံ။



မိတ်ဆက် အဖွဲ့ခေါင်းဆောင် ဆရာတော် အား မင်းသား နှစ်ဦးတို့က ရွှေထီးနှစ်လက်မိုး၍လိုက်မည့် ကားတွင်ပင့်ဆောင်ကာ ဓာတ်ပုံလှည့်လည်မည့် ဆဲဆဲတွင် တွေ့ရပုံ။



မြို့တော်ခန်းမတွင်မြို့တော်ပူဇော်ပွဲ၌ မြို့တော်ဝန် ဦးထွန်းက မိတ်ဆက်အဖွဲ့ ခေါင်းဆောင်ဆရာတော်အား ပူဇော်နေပုံ။

### မိတ်ဆက်အဖွဲ့

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၏ ပင့်လျှောက်ချက်အရ ယိုးဒယားပြည်မှ သာသနာရေး မိတ်ဆက် အဖွဲ့ဝင် များသည် (၂၃-၅-၅၃) ကြာသပတေးနေ့ နံနက် ၁၁ နာရီ မိနစ် ၃၀ အချိန်တွင် ယိုးဒယား လေကြောင်းဌာန အထူးလေယာဉ်ပျံဖြင့်ရန်ကုန်မြို့ မင်္ဂလာဒုံ လေဆိပ်သို့ ကြွရောက်တော်မူလာကြကြောင်း၊ ထိုအဖွဲ့၌ ပါဝင်သည့် ပုဂ္ဂိုလ်များမှာ (မဟာ)ဝိဇ္ဇာလုံကွန်ဗုဒ္ဓဘာသာသိပ္ပံကျောင်းတော်ကြီးမှ အုပ်ချုပ်ရေး အဖွဲ့ကြီး၏ ဥက္ကဋ္ဌ ယိုးဒယားပြည် သံဃအုပ်ချုပ်ရေးဆိုင်ရာ ဝန်ကြီး ( Minister of Ecclesiastical Administration for Thailand ) ဝင် မဟာဓာတု ဆရာတော်အရှင် ဖရာ့ဝိမလဓမ္မ (၂) ဝင်ဗဝရနိဝေသ ဆရာတော် ဖရာ့ဓမ္မဝိရာဇ မဟာမုနိ၊ (၃) ဆက်ဘ် (၆) ဘုရားကျောင်းဆရာတော် ဖရာ့ ဝိသုဒ္ဓိသောဘဏကုမုဒ (၄) ဖရာ့ မဟာနုပုညဝဏ္ဏဆရာတော် (၅) ဝင် စနိဝစ္ရ ဆရာတော် မဟာချဆက်ဝိအညှ ကာသလ (၆) မြန်မာနိုင်ငံမှ ယိုးဒယားပြည်သို့ ကြွရောက်၍ သာသနာပြုတော်မူနေသော ဝယ်လခန်ကျောင်းတိုက် အရှင် သဒ္ဓမ္မဇောတိက ဆရာတော် (၇) မဟာဓေတု ဘုရားကျောင်းဆရာတော် ဖရာ့ မန (၈) မဟာသင်္ချေကန့်နယ် မဟာချိုင်းကျောင်းတော်နေ ဖရာ့ ကရုဏာရိယာနုဝဏ္ဏ (၉) သာမဏေရ ဒေဝ (၁၀) သာမဏေရ ဒုံကံနှင့် လူပုဂ္ဂိုလ်များမှာ (၁) ယိုးဒယားပြည် သာသနာရေးဌာန အတွင်းဝန် အင်ဖွန်းရိဖျေးနား (၂) လခေါင် ပရီးယာကာ ဝိဘူ (၃) ဘိုပရာစံကွန်းမုအ (၄) အင်စာဒမိနိချန် (၅) အင်ကရုဏာကုလစရ။

### ကြိုဆိုပွဲ

ယိုးဒယား သာသနာရေး မိတ်ဆက် အဖွဲ့ဝင်များအားကြိုဆိုရန် ဝန်ဆောင် သံဃအဖွဲ့ဝင်ဆရာတော်များပဋိဝိသေသကအဖွဲ့ဝင် ဆရာတော်များ၊ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ဒုတိယ ဥက္ကဋ္ဌနိုင်ငံတော်တရား ဝန်ကြီးချုပ် သတိုး သီရိသုဓမ္မ ဦးသိမ်းမောင် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ အကျိုးဆောင် စာချီ နိုင်ငံတော်ရှေ့နေချုပ်ကြီး သတိုး မဟာ သရေစည်သူ ဦးချန်ထွန်း၊ အကျိုးဆောင်စာချီ သာသနာရေးဌာန အထူးအရာရှိ ဦးဘခေ နှင့် ချင်းရေးရာ ဌာနဝန်ကြီး ဦးဗွန်ဆန်း၊ မြို့တော်ဝန် ဦးထွန်း၊ ယိုးဒယား သံအဖွဲ့ဝင်များ၊ သာသနာရေး အသင်းအဖွဲ့များသည် နံနက် ၈-နာရီ အချိန်ကျော်ကျော် ပေါက်ကပင် အခမ်းအနားဖြင့် သိုက်မြိုက်စွာကြိုဆိုရန် မင်္ဂလာဒုံ လေဆိပ်သို့ ကြိုတင်ရောက်နှင့်နေကြကြောင်း၊

ယိုးဒယား သာသနာရေးမိတ်ဆက် အဖွဲ့ဝင်များ လေယာဉ်ပျံပေါ်မှဆင်းသည်နှင့်တပြိုင်နက် နိုင်ငံတော်ရှေ့နေချုပ်ကြီး ဦးချန်ထွန်းနှင့် မြို့တော်ဝန် ဦးထွန်းတို့က လေယာဉ်ပျံပေါ်မှ ပင့်ဆောင်၍ လာခဲ့ကြပြီးလျှင် သံဃာတော်များက တဘက် လူပုဂ္ဂိုလ်များက တဘက် အသင့်စီတန်း ကြိုဆိုလျက်ရှိနှင့်ကြသော နေရာသို့ အရောက်တွင် ဝန်ဆောင် သံဃအဖွဲ့ဝင် ဆရာတော်များက ယိုးဒယား သာသနာရေး မိတ်ဆက်အဖွဲ့ ခေါင်းဆောင် ဆရာတော်ဘုရားအား နှုတ်ခွန်းဆက်သတော်မူကြပြီးနောက် "ဘာဘုသမ္ဗုဒ္ဓံသံဂါထာတော်ဖြင့် ဆုနှင့် တောင်းတော်မူကြကြောင်း၊ ခေါင်းဆောင် ဆရာတော်ဘုရားအား ထီးဖြူနှစ်စင်းတို့ဖြင့်ရင်း၊ ကျန်ဆရာတော်များအား ရွှေထီးများဖြင့်လုံးမိုးလျက်အချို့သမီးကလေးများကသည်း ပန်းပေါက်ပေါက်တို့ဖြင့် ကျဲမြှောက် ပူဇော်ကာ မင်္ဂလာဒုံလေဆိပ်ရှိ ဧည့်ခန်းသို့ ပင့်ဆောင်၍သွားကြပြီးနောက် နံနက် ဆွမ်းဆက်ကပ်လှူဒါန်းကြကြောင်း၊

### လှည့်လည်ပွဲ

မင်္ဂလာဒုံလေဆိပ်မှ (ပထမဦးဆုံး) လမ်းပြ ရဲမော်တော်ဆိုင်ကယ် နှစ်စီး (ဒုတိယ) အသံချဲ့စက် တပ်ဆင်ထားသည့် ကြေးကျော်ရေးဆိုင်ရာကား (တတိယ) ဝန်ဆောင်သံဃအဖွဲ့ဝင် ဆရာတော်များ၏ ကားသုံးစီး (စတုတ္ထ) မိတ်ဆက်အဖွဲ့ခေါင်းဆောင် ဆရာတော်၏ ကား (ပဉ္စမ) ကျန် မိတ်ဆက်အဖွဲ့ဝင် ဆရာတော်တို့၏ကားများ (ဆဋ္ဌမ) မိတ်ဆက်အဖွဲ့ဝင်လူတို့၏ ကားများ (သတ္တမ) နိုင်ငံ

တော် ဗုဒ္ဓ…
အဖွဲ့ဝင်တို့…
များ (အ…
ဘာသာ…
ဖွဲ့ကားများ…
အစဉ်ကျ…
၍ လှည့်…
လမ်း တ…
တွင် မရှ…
ဌာနာမှင်…
တပ်ရင်း၊…
ရှေ့မှရင်း…
ရဲဌာနာမှ…
သာဝတီ…
တွင် သီ…
ဉာဏ စ…
ကျောင်းမှ…
သာဝတီ…
အဖွဲ့ မှ…
ကုန်း ရဲ…
ပြည်သမ်း…
ပိုင်း စ…
ကာနယ်…
ခေါင်းဆ…
အဖွဲ့မှ…
တော်ဝန်…
ရုံး နိုင်င…
နှင့် အ…
ကိန်းနှင်…
ရေး ဝန်…
ရုံးသူ ရုံး…
ကင်း၊…
တွင်ဗုဒ္ဓ…
သင်းမှင်…
ရေး တွင်…



နိုင်ငံတော်ဗုဒ္ဓသာသနာအ… မိတ်ဆက် အဖွဲ့ဆွေးနွေးပွဲတွင်… ပြောကြားနေစဉ်။

# နိုင်ငံကြီးခေါင်းဆောင်သည့် မိတ်ဆက်အဖွဲ့

## တော်ကို ပိုမိုကိုင်းရှိုင်း ကြရန် သင့်လျှော် ကြောင်း တော်ကြီးက မိန့်ကြားတော်မူလေသည်။

ရေးသမဒ္ဒမှုဌာန၊ ဆူးလေဘုရားလမ်းသွင် ဂလုပ်ရိုဒိုင်ရှင် ဦးကျော်ဝင်း ဓမ္မရှိသော ရုပ်ရှင်ရိုဒိုင်ရှင် များ ကဲ့သို့ ဘုရား ပန်းသို့ အဆောက်တွင် ပညာမင်းကြီးရုံးနှင့် ယဉ်ကျေးမှုဌာန ပိဋကတ်တိုက် ရုံးသူ့ခုံးသားများ ကဲ့သို့ ပန်းအချော် စသည်တို့ဖြင့် ပူဇော်လှူဒါန်းကြကြောင်း၊

ရွှေတိဂုံစေတီတော်ကြီး၏ အနောက်မုခ်ဝသို့ အဆောက်တွင် မိုးညှင်းမဟာသာ ဂတိဝိသုဒ္ဓိ ဓမ္မသင်းမှ ထုတ်ပြသော မဟာကဗျာတို့ဖြင့် ကျူးရင့် ပူဇော်ကြသည့်မြင်ဆန်းပေါက်ပေါက်ဘို့ဖြင့် ကဲ့မြဲမြင်း ပန်းမွှေ့ရာခင်းခြင်း၊ အဖျော်ယမကာ လှူဒါန်းခြင်း စသည်တို့ကို ပြုလုပ်ကြကြောင်း ရွှေတိဂုံ ဂေါပကလူကြီးများက ရင်ပြင်တော်ပေါ်သို့ ဆီးကြို ပင့်ဆောင် ကြကြောင်း၊ ရင်ပြင်တော်ပေါ်၌ အဖွဲ့ဝင်များသည်စေတီတော်ကြီးကို ဖူးမြော်ကြည်ညိုကြပြီးနောက် အဆိုပါ လှည့်လည်ပွဲ ကားများဖြင့်ပင် ရွှေတိဂုံ စေတီတော်ကြီးမှ နိုင်ငံတော် ဝန်ကြီးချုပ်၏ နိုင်ငံခြားရေးဌာနသည့်ကော်များ နေထိုင်ရာ အင်းယားလမ်း စံအိမ်သို့ သီတင်းသုံးရန် ကြွရောက်တော်မူကြရာတွင် လည်း အဝေးပြေး မော်တော်ယဉ်အဖွဲ့၊ ဆံပန်း ပေါက်ပေါက်တို့ဖြင့် ကဲ့ဖြန့်ပူဇော်ကြကြောင်း။

### ဆွေးနွေးပွဲ

၂၄–၅–၅၃ နေ့ နံနက် ၆ နာရီ အချိန်တွင် ယိုးဒယားမိတ်ဆက် အဖွဲ့ ဝင်များသည် အင်းယားလမ်း စံအိမ်တော်၌ ပင် ဆွမ်း ဘုန်းပေးတော် မူပြီး နောက် ၎င်းနေ့နံနက် ၈ နာရီအချိန်ခန့်တွင်နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့တည်ရာသာသနာ့ ရိပ်သာရုံးခန်းမကြီး၌ အဖွဲ့ဝင်လူကြီး များနှင့် နှစ်ဘိုင်း–နှစ်ပြည် သာ သနာ ရေး ကိစ္စများကိုရင်း၊ ဆင္ဃ သံဂါယနာ ကိစ္စ များကိုရင်း၊ ဆွေးနွေးတော် မူကြလေသည်၊ ထို ဆွေးနွေးပွဲ၌ နိုင်ငံ တော် ဗုဒ္ဓသာသနာ အဖွဲ့ ဒုတိယ ဥက္ကဋ္ဌ ကြီး ဦးသိမ်းမောင်၊ သာသနာ ရေးဝန် ကြီး ဦးဝင်းနှင့် နိုင်ငံ တော် ရှေ့နေချုပ်ကြီးတို့က အသီးသီး နှုတ်ခွန်းဆက်ကာ ညွှန်ခံ စကားများ လျှောက် ထား ကြသည် ကို မိတ်ဆက် အဖွဲ့ကလည်းပြန်လည်မိန့်ကြားတော်မူပြီးလျှင်သံဃာရာဇာထံမှရင်း၊သံဃနာယကထံ၊ရင်း၊ ယိုးဒယားနိုင်ငံတော် ဝန်ကြီးချုပ် ထံမှရင်း၊ ပါး လိုက် သည့် သဝဏ်လွှာ များ ကိုဘတ်ကြား ပြသကြကြောင်း၊ ၎င်းနေ့ နံနက် ၁၀ နာရီ အချိန်တွင်နိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့မှ ယိုးဒယား သာသနာရေး မိတ်ဆက်အဖွဲ့ ဝင် ဆရာတော်များနှင့်ဆင္ဃသံဂါယနာ ဆိုင်ရာ ဝန်ဆောင် သံဃာ အဖွဲ့ဝင် ဆရာ တော်များ ဓါးနေ့ဆွမ်းဆက်ကပ်လှူဒါန်းပြီးလျှင် လူပုဂ္ဂိုလ်များအားနံနက်စာ ဖြင့် ညွှန်ခံ ကျွေးမွေးကြလေသည်။ ၎င်း နေ့ ၂-နာရီ အချိန်တွင်သာသနာ့ရိပ်သာဓမ္မာရုံကြီး၌ ဆင္ဃသံဂါယနာဆိုင်ရာ ဝန်ဆောင် သံဃာအဖွဲ့ဝင်ဆရာတော်များနှင့်မိတ်ဆက် အဖွဲ့ဝင်များသည် ဆင္ဃသံဂါယနာ ကိစ္စ များကို ဆွေးနွေးတော်မူကြပြန်လေသည်။

### မြို့တော်ပူဇော်ပွဲ

၂၅–၅–၅၃ နေ့ နံနက် ၆ နာရီ အချိန်တွင် အင်းယားလမ်း စံအိမ်တော်၌ပင် အရုဏ်ဆွမ်း ဘုဉ်းပေးတော်မူကြ ပြီးလျှင် နံနက် ၈ နာရီအချိန်တွင် သီရိ မင်္ဂလာ ကမ္ဘာအေး စေတီ တော်သို့ ဖူး မျှော်ရန် ကြွရောက်ကြပြီးနောက် မဟာ ပါသာ လယ ကျောင်းကိုရင်း၊ ဆင္ဃသံဂါ ယနာ တင်မည့် ကန်မြေ နှင့် ဆောက် လုပ် ဆဲ အဆောက်အဦများကိုရင်း၊ ဗုဒ္ဓသာသနာ့ သိပ္ပံ ကျောင်း သို့ရင်း၊ ကြွရောက်ကြည့် ရှု တော် မူကြလေလည်။ ၎င်းနေ့ နံနက် ၁၀ နာရီအချိန်တွင် မြို့တော် ခန်းမကြီး၌ မြို့တော်ဝန် ဦးထွန်း အမှူးရှိသည့် မြို့တော် အုပ်ချုပ်ရေးအဖွဲ့မှ နေ့ဆွမ်းဆက်ကပ်ပြီး နောက်(Cinic Reception) ခေါ် မြို့တော်သူ မြို့တော်သား များ၏ လှူဒါန်း ပူဇော်ပွဲကို ပြုလုပ်ကြလေသည်၊ ပူဇော်ပွဲ၌ မြို့တော်ဝန်ဦးထွန်းက ပိုးသင်္ကန်းတစုံ ဆက်ကပ်လှူဒါန်း ပြီးလျှင် ထုတိမင်္ဂလာ စာတမ်းကိုဘတ်ကြားလေသည်၊ ၎င်းနေ့ ညနေ ၄–နာရီ အချိန်တွင်မိုလ်တထောင် စေတီတော်သို့ရင်း၊ ၅–နာရီ အချိန် တွင် ဆူးလေစေတီတော်သို့ရင်း၊ ကြွရောက်ဖူး မျှော်ကြလေသည်၊

### သာသနာရေးဝန်ကြီးအိမ်တွင်

၂၆ ၅–၅၃–နေ့ နံနက်၆–နာရီအ ချိန်တွင် သီတင်းသုံးရာဌာနမှာပင်အရုဏ် ဆွမ်း ဘုဉ်းပေးတော် မူကြပြီး နောက်

...ဆောင်များနှင့်ယိုးဒယား ...ဥက္ကဋ္ဌကြီး ဦးသိမ်းမောင်

မိတ်ဆက်အဖွဲ့ဆရာတော်များသည် နိုင်ငံတော် ရှေ့နေ ချုပ်ကြီး ဦးချန်ထွန်း၏နေအိမ်၌ ဆွမ်းဘုဉ်းပေးတော်မူကြ၍ဆွေးနွေးမှု၊ ပရိတ်ရွတ်မှု များအပြီးတွင် ဘုရားခန်းရှိရုပ်ပွားတော်များနှင့် ဘာသာရေးဆိုင်ရာ ပစ္စည်းများ၊ရုပ်ပုံများကို ဖူးမျှော် ကြည့်ရှု၍နေကြပုံ။

မိတ်ဆက်အဖွဲ့ဝင်ဆရာတော်များနှင့်ဝန်ဆောင် ဆရာ တော်များအား နိုင်ငံတော်သမတကြီး၏နေအိမ်၌ နေ့ဆွမ်းဆက်ကပ် တော်မူပြီးနောက် ရေစက်ချနေစဉ်။

လူထုပူဇော်ပွဲကြီးတွင် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ဒုတိယ ဥက္ကဋ္ဌကြီးကဆင္ဃသံဂါယနာကိစ္စများကိုလျှောက်ကြား၍နေပုံ။



ပဋိပတ္တိသာသနာ အဖွဲ့ဝင်ဆရာတော်များနှင့် ဆဋ္ဌသံဂါယနာတင်မည့် ပါဠိတော်များကို စစ်ဆေးတော်မူနေကြပုံ။

(မြန်မာ့အလင်းမှ)



မိတ်ဆက်အဖွဲ့ ပဲခူးမြို့သို့ကြွတော်မူရာတွင် သောင်းသောင်းဖျဖျ ပူဇော်ကြပုံ။

(မြန်မာ့အလင်းမှ)



သိုးဒယားသာသနာရေးမိတ်ဆက်အဖွဲ့ မန္တလေးသို့ ကြွရာတွင် မဟာမြတ်မုနိသို့ ဝင်ရောက် ပူဇော်ကာ သာသနာ့အလံကိုရှုနေစဉ်။

(မြန်မာ့အလင်းမှ)

၁၀-နာရီအချိန်တွင် အမျိုးသားစီမံကိန်းနှင့် သာသနာရေးဝန်ကြီး၏ နေအိမ်သို့ ကြွရောက်၍ နေ့ဆွမ်းဘုန်းပေးတော်မူကြလေသည်။ ၎င်းနေ့ညနေ ၃-နာရီအချိန်တွင် ကျိုက္ကစံစေတီတော်သို့ ကြွရောက် ဖူးမြော်ကြလေသည်။

## လူထုပူဇော်ပွဲကြီး

၂၇-၅-၅၃-နေ့နံနက် ၅-နာရီခွဲအချိန်တွင် နိုင်ငံတော် ဝန်ကြီးချုပ်၏ နေအိမ်၌အရုဏ်ဆွမ်းဘုန်းပေးတော်မူကြပြီးနောက် သာသနာရေးကိစ္စအဝဝတို့ကို ဆွေးနွေးတော် မူကြလေသည်။ ၎င်းနေ့နံနက် ၁၀- နာရီအချိန်တွင် ရန်ကုန်မြို့ စေတီယင်္ဂဏအသင်း ဥက္ကဋ္ဌဦးထွန်းဖေ စေတီယင်္ဂဏ အသင်းတိုက်သို့ ပင့်၍ နေ့ဆွမ်းဆက်ကပ် လှူဒါန်းသေသည်။ ၎င်းနေ့ညနေ ၃-နာရီအချိန်တွင်ရွှေတိဂုံစေတီတော်ကြီး၏အနောက်ဘက်မိုးညှင်း မွေ့ရုံကြီး၌ Public Reception ခေါ် လူထုပူဇော်ပွဲအခမ်းအနားသို့ ကြွရောက်တော်မူကြလေသည်။ ထိုအခမ်းအနား၌ သာသနာရေးဌာန အထူးအရာရှိ ဦးဘဆွေက အခမ်းအနားဖွင့် စာတမ်းကို ဖတ်ကြားပြီးနောက် ပရိသတ်ကငါးပါးသီလ ခံယူကြသေသည်။ မိတ်ဆက်အဖွဲ့မှ မေတ္တာသုတ်ပရိတ်တော်နှင့် အနုမောဒနာကင်းဂါထာတော်များကို ညီညာစွာရွတ်ဆိုတော်မူကြလေသည်။ ၎င်းနောက် သာသနာရေးဌာန အထူးအရာရှိ ဦးဘဆွေက ပါဠိဘာသာ ထုတ်ပြန်သာစာတမ်းကို ဖတ်ကြားလေသည်။ ၎င်းနောက် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ဒုတိယ ဥက္ကဋ္ဌ နိုင်ငံတော်တရားဝန်ကြီးချုပ် သတိုးသီရိသုဓမ္မ ဦးသိန်းမောင်က မြန်မာဘာသာဖြင့် ဆဋ္ဌသံဂါယနာတင် ကိစ္စအတွက် လျှောက်ကြားလွှာစာတမ်းကို ဖတ်ကြားလျှောက်ထားလေသည်။ မိတ်ဆက် အဖွဲ့ ခေါင်းဆောင် ဆရာတော်ဘုရားကြီးကလည်း ယိုးဒယားနှင့် မြန်မာတို့သည် ပြည်နီးချင်းများ ဖြစ်ကြကြောင်း။ သို့သော် လူချင်းနီးသည်ထက် စိတ်ချင်း နီးဘို့ရန် ပိုမို အရေးကြီးကြောင်း သာသနာရေး ကိစ္စကြီးများတွင် အလွန် ထူးမြတ်သော ဆဋ္ဌသံဂါယနာ ကိစ္စကြီးကို အကြောင်းပြု၍ မိမိကြွလာခဲ့ရာ မြန်မာပြည်သူပြည်သားအပေါင်းတို့က စိတ်ရော ကိုယ်ပါ သောင်းသောင်းဖျဖျရှိသေလေးစားမှုပြုကြပုံများကို တွေ့ရသဖြင့် ထို အခြင်းအရာများကို ယိုးဒယားပြည်သို့ပြန်အရောက်တွင် အားရပါးရ ပြန်လည်မြွက်ကြားရန် စွဲစွဲမြဲမြဲ မှတ်သား၍ ထားမိကြောင်း။ ယခုကဲ့သို့ကြွလာရာ၌ ပဌမ သာသနာပိုင် ဆရာတော် ဘုရားကြီး ကိုယ်တိုင် ဦးဆောင်၍ဖြစ်စေ၊ ပဌမ သံဃနာယက ဆရာတော်ဘုရားကိုယ်တိုင် ဦးဆောင်၍ ဖြစ်စေ၊ ကြွလာတော်မမူကြသဖြင့် တလွဲတချော်ထင်မှတ်ကြစေလိုကြောင်း။ သာသနာပိုင် ဆရာတော်ဘုရားကြီးမှာ ဇရာဒုဗ္ဗလ အိုမင်းလှပြီဖြစ်သောကြောင့်၎င်း၊ သံဃနာယက ဆရာတော်ဘုရားကြီးမှာ သံဃနာယကဟု ဆိုသည့်အတိုင်း စွန့်လွှတ်၍ မနိုင်လောက်အောင် ဆောင်ရွက်ဘွယ်တာဝန်အများအပြား ရှိတော်မူသောကြောင့်၎င်း ကြွလာတော် မမူခြင်းဖြစ်သည်ကို သတိပြုကြ စေလိုကြောင်း။ သို့သော် ဆဋ္ဌသံဂါယနာ ကိစ္စနှင့်ပတ်သက်၍ သာသနာပိုင် ဆရာတော်ဘုရားကြီးထံမှ၎င်း သံဃနာယကဆရာတော်ဘုရားကြီးထံမှ၎င်း၊ ယိုးဒယား အာဏာပိုင်များထံမှ၎င်း၊ မိမိအား အာဏာကုန်လွှဲအပ်လိုက်ခြင်းဖြစ်ကြောင်း။ သာသနာပိုင်ဆရာတော်၊ သံဃနာယကဆရာတော်နှင့်ယိုးဒယားပြည်နန်းရင်းဝန်ကြီးမားရှယ် ဖီဘူလ်ဆွန်ဂရမ်းတို့ထံမှ အားရကြေနပ်ဖွယ် ကောင်းလှသော သဝဏ်လွှာသုံးစောင် မိမိနှင့်အတူ ပါရှိလာကြောင်း။ ကမ္ဘာ့ ကောင်းကျိုး ချမ်းသာ အတွက် ဗုဒ္ဓဘာသာတရားတော်ကို ပိုမိုကိုင်းရှိုင်းကြရန် သင့်ကြောင်း၊ တပြည်နှင့် တပြည် တမျိုးနှင့်တမျိုး တတိုင်းနှင့်တတိုင်း တရစ်နှင့်တရစ် တဦးနှင့် တဦး မေတ္တာတရားကို ရှေ့ထား၍ ဆက်ဆံကြလျှင် မည်မျှ အကျိုးရှိနိုင်ကြောင်း။ စသည်ဖြင့် အကျယ် တဝင့် မိန့်ကြားတော် မူလေသည်။ ညနေ-၆-နာရီ အချိန်ခန့်တွင် အခမ်းအနားကို အောင်မြင်စွာ ပြီးဆုံးလိုက်ကြကြောင်း။

## ပဲခူးမြို့သို့

၂၈-၅-၅၃-နေ့နံနက် ၆-နာရီအချိန်ခန့်တွင် အင်းယားလမ်း စံအိမ်တော်၌ပင် အရုဏ်ဆွမ်း ဘုဉ်းပေးတော်မူပြီးနောက် ပဲခူးမြို့သို့ ဘုရားဖူးရန် ကြွရောက်တော်မူလေသည်။ ပဲခူးမြို့၌ ရွှေမော်ဓော စေတီတော်ကြီးကို ဖူးမြော်တော် မူပြီးနောက် ၎င်းရင်ပြင်တော်၌တန်ဆောင်း၌ ခရိုင်ဝန် ဦးမောင်မောင် အမှူးပြုသော ပုဂ္ဂိုလ်များက ဆက်ကပ်သည့် ဆွမ်းကို ဘုဉ်းပေးသုံးဆောင်တော်မူကြလေသည် ၎င်းနောက်ဟသ်ာကုန်၊ မြို့မစသည်တိုက် ရှေးသဟျှောင်း သော ဌာနများသို့ လှည့်လည်ကြည့်ရှု ဖူးမြော်တော်မူပြီးလျှင် ၃-နာရီကျော်ကျော် အချိန်၌ ရန်ကုန်မြို့သို့ ပြန်ကြွတော်မူခဲ့ကြလေသည်။

## ရှေ့နေချုပ်ကြီးအိမ်တွင်

၂၉-၅-၅၃-နေ့ နံနက် ၆-နာရီ အချိန်တွင် အင်းယားလမ်း စံအိမ်၌ပင် အရုဏ်ဆွမ်း ဘုန်းပေးတော်မူပြီးနောက်နိုင်ငံတော် ရှေ့နေချုပ်ကြီး နေအိမ်၌ ဝန်ဆောင် သံဃအဖွဲ့ဝင် ဆရာတော်များ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့လူကြီးများနှင့် ဆဋ္ဌသံဂါယနာကိစ္စများကို ဆွေးနွေးတော်မူကြလေသည်။ ရှေ့နေချုပ်ကြီး၏ နေအိမ်၌ပင် ၁၀-နာရီခန့်တွင် နေ့ဆွမ်းဘုဉ်းပေးတော် မူကြလေသည်။ ၎င်းနေ့ညနေ ၄-နာရီအချိန်တွင်တံသာဝတီ ပရိယတ္တိဌာန၊ မင်းကွန်းတောရနှင့် မိုးညှင်းတောရများသို့ ကြွရောက် ကြည့်ရှုတော်မူလေသည်။

## ဦးသန်းစိန်၏အိမ်တွင်

၃၀-၅-၅၃ နေ့နံနက် ၆ နာရီအချိန်တွင် အင်းယားလမ်းစံအိမ်၌ပင် အရုဏ်ဆွမ်းဘုန်းပေးတော်မူပြီးနောက် ၎င်းနေ့နံနက်၁၀-နာရီအချိန်တွင် သာသနာရေးဌာနပါလီမန်အတွင်းဝန် သီရိပျံချီဦးသန်းစိန်၏နေအိမ်သို့ ကြွရောက်၍ နေ့ ဆွမ်း ဘုဉ်းပေးတော် မူလေသည်။ ၎င်းနေ့ ၁-နာရီအချိန်တွင် မြို့တော်ခန်းမသို့ကြွရောက်၍ ဓမ္မစရိယစာချတန်း မဟာဘွဲ့နှင်း သဘင်သို့ ကြွရောက်တော်မူလေသည်။

### ပဌမပြန်စာမေးပွဲများသို့

(၁-၆-၅၃)နေ့ နံနက် ၆ နာရီအချိန်တွင် အင်းယားလမ်း စံအိမ်၌ပင် အရုဏ်ဆွမ်း ဘုဉ်းပေးတော်မူပြီးနောက် ၎င်းနေ့နံနက် ၁၀ နာရီအချိန်တွင် မဇ္ဈိမ စာမြေပွဲဌာန မိုးညှင်း စံကျောင်းတော်သို့ကြွရောက်၍ နေ့ဆွမ်းဘုဉ်းပေးတော်မူလေသည်။ ၎င်း ၁၂-နာရီတိတိအချိန်တွင် အစိုးရ ပဌမပြန် စာမေးပွဲကျင်းပရာ ဌာနအသီးသီးသို့ ကြွရောက်ကြည့်ရှုတော်မူလေသည်။

### မန္တလေးသို့

(၂-၆-၅၃)နေ့ နံနက် ၅-နာရီအချိန်တွင် အင်းယားလမ်း စံအိမ်၌ပင် အရုဏ်ဆွမ်း ဘုဉ်းပေးတော်မူပြီးနောက် နံနက် ၇-နာရီအချိန်တွင် မန္တလေးမြို့သို့ လေယာဉ်ပျံဖြင့် ကြွရောက်တော်မူလသည်။ မန္တလေးမြို့မှ စစ်ကိုင်း ကောင်းမှုတော်ကြီး သို့သည်း ကြွရောက် ဖူးမြော်တော်မူလေသည်။ မန္တလေးမှတဖန် ပခုက္ကူမြို့သို့ ကြွရောက်တော်မူပြီးနောက် ပခုက္ကူမြို့မှ ရန်ကုန်မြို့သို့ ပြန်ကြွတော်မူရာတွင် ပုဂံ-ညောင်ဦးရှိရှေးဟောင်းဘုရားပုထိုးများကို လေယာဉ်ပျံဖြင့် သုံးလေးကြိမ်မျှဝဲ၍ဖူးမြော်ကြည့်ရှုတော်မူလေသည်။

### မွန်အမျိုးသားတို့က

(၅-၆-၅၃) နေ့နံနက် ၆-နာရီခွဲအချိန်တွင် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့၌ အရုဏ်ဆွမ်းဆက်ကပ် လှူဒါန်းပြီးနောက် ၇နာရီအချိန်တွင်ဆဋ္ဌသံဂါယနာဆိုင်ရာ ပဋိပုစ္ဆကာ အဖွဲ့ဝင် ဆရာတော်များနှင့် ကျမ်းစာ သုတ်သင်ရေး ကိစ္စများကို ဆွေးနွေးတော်မူလေသည်။ ၎င်းနေ့နံနက် ၁၀-နာရီအချိန်တွင် မွန်အမျိုးသားများအဖွဲ့မှ နေ့ဆွမ်း ဆက်ကပ်သည်ကို ကြွရောက် ဘုဉ်းပေးတော်မူပြီးနောက်ညနေ ၄-နာရီခွဲအချိန်တွင် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ သာသနာ့ရိပ်သာမှော်ရုံကြီး၌ စာမူကျမ်းများ ဆက်ကပ်ပွဲနှင့် အခြားလှူဖွယ်ဝတ္ထုများ လှူဒါန်းပွဲအခမ်းအနားကို ကျင်းပလေသည်။

### ကာလကတ္တားသို့

(၆-၆-၅၃)နံနက် သီတင်းသုံးတော်မူရာ စံကျောင်း၌ပင် ဆွမ်းဘုဉ်းပေးတော်မူပြီးနောက် ၈-နာရီခွဲ အချိန်တွင် ဒုတိယ သာသနာပိုင် ဆရာတော်ဘုရားနှင့် နောက်ပါ သံဃာ ၃-ပါး လူပုဂ္ဂိုလ် ၁ ဦးတို့သည် သာသနာရေးကိစ္စများကို လေ့လာရန်နှင့် ဘုရားဖူးလှည့်လည်ရန် အိန္ဒိယပြည် ကာလကတ္တားမြို့သို့ ကြွရောက်တော် မူသွားကြကြောင်း။ ၎င်းနေ့ ညနေ ၆-နာရီအချိန်တွင် ကျန်သံဃာတော်များနှင့် လူပုဂ္ဂိုလ်များသည် လေယာဉ်ပျံဖြင့် ဘန်ကောက်မြို့သို့ ပြန်ကြွတော်မူကြကြောင်း။

———ooo|ooo———

(စာမျက်နှာ ၉-မှအဆက်)

ပါဝင်ပါသည်။ ဤအမှုဆောင်အဖွဲ့ကို ဒေသကိုယ်စားလှယ် မြောက်မြားစွာ ပါဝင်သည့် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီးက ရွေးကောက်တင်မြှောက်ခြင်းဖြစ်ပါသည်။ အစိုးရ၏ လွှဲအပ်ချက်အရ မြန်မာပြည်သံဃာတော် အရှင်မြတ်များ၏ပြဝါဒကို ခံယူလျက် ဤအဖွဲ့ကြီးက ဆဋ္ဌသံဂါယနာ အထမြောက်ရေးကို ကြိုးပမ်းလျက် ရှိပါသည်ဘုရား။

### ၂-နှစ်တိတိတင်ပါမည်

ထို့ပြင် ဩဝါဒါစရိယ သံဃနာယက အဖွဲ့ဝင်ဆရာတော်များ၏ ဆုံးဖြတ်ချက်အရ သီဟိုဠ်, ယိုးဒယား, ကမ္ဘောဒီးယားနှင့် လောပြည်များမှ သံဃာကိုယ်စားလှယ်တော်များသည်လည်း ဤဆဋ္ဌသံဂါယနာ တင်တွင် ပါဝင်ရန် ဖြစ်ရာ ယိုးဒယား နိုင်ငံနှင့် သီဟိုဠ် နိုင်ငံမှ ဆရာတော်များသည်လည်း ဆဋ္ဌသံဂါယနာ သံဃာ့အဖွဲ့အစည်းများ ဖြစ်ကြသော ဩဝါဒါစရိယ သံဃနာယကအဖွဲ့ ဝန်ဆောင် သံဃာ့အဖွဲ့ ပဋိပုစ္ဆကာ အဖွဲ့နှင့် ပုံနှိပ်ရေးကြီးကြပ်မှု အဖွဲ့တို့တွင် အသီးအသီးပါဝင် ဆောင်ရွက်တော် မူကြရန်ဖြစ်ပါသည်ဘုရား။ ပိဋကတော်များကို အချိန်မီ သုတ်သင်ပြင်ဆင်ပြီးနောက် ဆဋ္ဌသံဂါယနာတင်ကို ၁၃၁၆-ခု ကဆုန်လပြည့်နေ့မှစ၍ ၁၃၁၈-ခု နှစ် ကဆုန်လပြည့်နေ့အထိ ၂-နှစ်တိတိတင်ပါမည်။

ထို၂-နှစ်အတွင်း သန္နိပါတမျှ ကို ငါးကြိမ်ကျင်းပမည်ဖြစ်ရာ တကြိမ်လျှင် ၃လခန့် ဖြစ်ပါသည်ဘုရား။ အရေးကြီးဆုံးမှာ ပဌမ သန္နိပါတတွင် ပါဝင်တဲ့ ကျမ်းစာများကို ရှေးဦးစွာ သုတ်သင်ပြင်ဆင်ထားနှင့်ရန်ဖြစ်သည့်အတိုင်း ထိုကိစ္စများကို ယခု ဆောင်ရွက်လျက်ရှိပါသည်ဘုရား။ သီဟိုဠ်မှ တာဝန် ယူထားသော ပိဋကတော်များသည်လည်း အချိန်မီပြီးလိမ့်မည်ဟုသိရပါသည်။

### ငါးနိုင်ငံပူးပေါင်းမှုဖြင့်

သံဂါယနာ ပွဲများ ကျင်းပရာ ဖြစ်သော အဆောက်အဦ များကိုလည်း ဆောက်လုပ်လျက် ရှိပါပြီ။ ပိဋကတော်များပုံနှိပ်ရန် အတွက် အဆောက်အဦမှာမူ ပြီးလုနီးပါပြီ။ စက်များသည်းအသင့်ရှိပါပြီ။ အဲသည်ကိစ္စများကို ဆောင်ရွက်ဘို့ရန် နိုင်ငံတော်အစိုးရက မှန်းခြေအားဖြင့် သိန်းပေါင်း ၂၅၀-အကုန် အကျခံရန် အစိုးရက သဘောတူပြီးပါပြီ။ တိုင်းသူပြည်သားများကလည်း တတ်နိုင်တဲ့ဘက်က ပါဝင်ပြီးလှူဒါန်းလျက်ရှိပါသည် ဘုရား။ ယခုဆရာတော်ဘုရားများ ယိုးဒယားပြည်ကိုယ်စားလှယ်အဖြစ်ကြွလာပြီးသံဂါယနာတင် ကိစ္စမှာ ပူးပေါင်းပြီး ဆောင်ရွက်သွားမည်ဆိုလျှင် ဆဋ္ဌသံဂါယနာတင်ကိစ္စကြီးဟာ ရည်မှန်းထားတဲ့အတိုင်း ဗုဒ္ဓဘာသာနိုင်ငံမှ ၅ နိုင်ငံကညီညီညွတ်ညွတ်နှင့် ဆောင်ရွက်သွားဘို့ရာ သေချာ ပါပြီ။ ရှေးတုန်းက မြတ်စွာဘုရား၏ တရားတော်များကို ၅-နိုင်ငံပူးပေါင်း ဆောင်ရွက်ချက်ဖြင့် ထိန်းသိမ်း စောင့်ရှောက်လာသည့်အတိုင်း ယခုအခါမှာလ ၅-နိုင်ငံပူးပေါင်း ဆောင်ရွက် နိုင်လိမ့်မည်လို့ ယုံကြည်လျက် ရှိကြောင်းကိုနိဂုဏ်းချုပ် ရှိသေးစွာလျှောက်ထားပါသည် ဘုရား။



သာသနာရေး မိတ်ဆက်အဖွဲ့ဝင်များနှင့် မြန်မာဆရာတော် များအား နိုင်ငံတော် ဝန်ကြီးချုပ်၏ နေအိမ်၌ ၄၆-နှစ်ပြည့် မွေးနေ့အထိမ်းအမှတ် ခေါက်ဆွဲဆွမ်းကပ်လှူနေစဉ်။ (မြန်မာ့အလင်းမှ)



သာသနာရေး မိတ်ဆက်အဖွဲ့ပုဂ္ဂိုလ်များ သိုကြွတော်မူရာ ရွှေတိဂုံ စေတီတော်ပြင်တော်သို့ ဝမ္မစကြာ အမျိုး သို့များက ရှက်ဆို၍ ပင့်ဆောင်ကြပုံ။ (ဟံသာဝတီမှ)



ရွှေမန်းတွင် မိတ်ဆက်အဖွဲ့ခေါင်းဆောင်ဆရာတော်ကြီးအား ရွှေမန်းသူတို့က ဆံပင်ကိုခင်း၍ ...... .... (မြန်မာ့အလင်းမှ)

# ဗုဒ္ဓဂယာ လွှဲအပ်ပွဲ

## ပရိသတ် နှစ်သောင်းခန့် တက်ရောက်ခြင်း

(၁၃၄၉—ခုနှစ် ဗုဒ္ဓဂယာ စေတီတော် အက်ဥပဒေအရ ခန့်ထားသော စီမံအုပ်ချုပ်မှုကော်မီတီသို့ စေတီတော် အဆောက်အဦ များနှင့် မဟာ ဗောဓိပင် အပ်နှင်းပွဲသို့ တက်ရောက်ကြသော ပြည်ထောင်စု မြန်မာနိုင်ငံတော် ဗုဒ္ဓသာသန အဖွဲ့မှစေလွှတ်သည့်ကိုယ်စားလှယ်တော်များ ဖြစ်ကြသောတရားဌာန အတွင်းဝန်ဟောင်း စည်သူ ဦးစံညွန့်နှင့် ချပ်သင်း ဦးဘတင်တို့၏ အစီရင်ခံစာမှ ကောက်နုတ်ချက်)

### သံအမတ်ကြီးဦးဝင်းအဖြစ်နှင့်

လဆန်း ၁၄ ရက် (၂၆-၅-၅၃) နေ့နံက်တွင် ကလကတ္တားမြို့ မဟာဗောဓိ အသင်း ဝိဟာရသို့ သွားရောက် ရာ ၎င်းအသင်း၏ အတွင်းရေးမှူး မဓတ္တာ ဝါလီဆိံဟ နှင့် အတူတကွ သီဟိုဠ် ဘုန်းတော်ကြီး ဇိနရတနတို့ကို တွေ့ဆုံကြရပါသည်။ ဘုန်းတော်ကြီး ဇိနရတနမှာ သျှင်သာရိပုတ္တရာနှင့်သျှင်မောဂ္ဂလာန်တို့၏ ဓာတ်တော်များကို မြန်မာပြည်သို့ ပင့်ဆောင် လာရာတွင် ပါလာသော ပုဂ္ဂိုလ်တဦးဖြစ်သည့်ပြင် ၎င်းမဟာသာဝက နှစ်ပါး၏ ဓာတ်တော်အချို့အဝက်ကိုမြန်မာပြည်သို့ခွဲဝေပေးရန်အတွက် ကူညီဆောင်ရွက်ခဲ့သော ပုဂ္ဂိုလ်ကြီး တဦးဖြစ်ပါသည်။ ဝန်ကြီး ဦးဝင်း အိန္ဒိယတွင် သံအမတ်ကြီးအဖြစ်ဖြင့် ထမ်းဆောင်နေစဉ် မဟာဗောဓိမြေနှင့် အဆောက်အဦများကို ဟိန္ဒူဘုန်းတော်ကြီး ဟေန္တကိုလက်မှ ဗုဒ္ဓဘာသာများပြန်ရရန် အတွက် အိန္ဒိယဝန်ကြီးချုပ် မစ္စတာ နေရူးထံသွားရောက်အရေး ဆိုသည့်အခါ၌ ရိုက် ကူးထားသော ဓာတ်ပုံကို အလိုရှိကြောင်း (ဝန်ကြီးမှာလိုက်သည့်အတိုင်း) လျှောက်ထားရာဘုန်းတော်ကြီးဇိနရတနက ၎င်းဓာတ်ပုံယခုမရှိတော့ပြီ၊ သို့သော် ၎င်းရေးသားသော အရှင်သာရိပုတ္တရာ အသျှင်မောဂ္ဂလာန်ဓာတ်တော်ရာဇဝင်သမိုင်း၏ အုပ်ငယ်တွင် ထည့်သွင်း၍ ရိုက်နှိပ်ထားသော ဘလောက်ကိုရှာရလျှင် ၄ါ့ပါမည်ဟု ကတိပေးပါသည်။

### သတ္တပဏ္ဏ

ဆင့်သံဃာယနာ 'လိုက်ဂူတွင် စိုက်ရန်အတွက် သတ္တပဏ္ဏနွယ်ပင်များကို အလိုရှိကြောင်း အကျိုးဆောင်စာချီ ရှေ့နေချုပ်ကြီး သတိုး မဟာသရေစည်သူ ဦးချန်ထွန်းမှာလိုက်သည့်အတိုင်း မစ္စတာ ဝါလီဆိံဟ အား ပြောကြားရာ ၎င်းက သတ္တပဏ္ဏ (အရွက် ၇-ခွင့်ရှိသော) အပင်မှာ နွယ်ပင်မဟုတ်၊ သစ်ပင်ကြီးစားမျိုးဖြစ်သည်၊ ပင်လုံးမှာ လူ၏ ကိုယ်လုံးခန့်ရှိမည်။ မျိုးစေ့ရရန် ခဲယဉ်းသည်၊ သစ်တောဌာနနှင့် ဆက်သွယ် မေးမြန်းသင့်သည်ဟု ဖြေကြားပေးပါသည်။

### အက်

မစ္စတာ ဝါလီဆိံဟမှာ ၁၃၄၉-၇ နှင့် ဗုဒ္ဓဂယာစေတီတော် အက်ဥပဒေအရ ခန့်ထားခံရသော ဗုဒ္ဓဘာသာ လူကြီးတဦးဖြစ်ပါသည်၊ မြန်မာပြည်သို့ ကြွဘူးသော နာလန္ဒ ပါဠိတက္ကသိုလ် ပါမောက္ခ ဘုန်းတော်ကြီး ကဿပလည်း အဖွဲ့ဝင်တဦးဖြစ်ကြောင်းကြားသိရပါသည်။ အက်ဥပဒေ မိတ္တူတစောင်ရရှိရန် ကြိုးစားသော်လည်းမရမှိပါ၊ ဗိဟာပြည်နယ် ဥပဒေပြုအဖွဲ့က ပြဋ္ဌာန်းသော အက်ဥပဒေဖြစ်ပါသည်၊

### နိုင်ငံခြားမှ အတိုင်ပင်ခံ

အက်ဥပဒေပါ အကြောင်းအရာ များကို မစ္စတာ ဝါလီဆိံဟ ထံ စုံစမ်းမေးမြန်းရာ စီမံအုပ်ချုပ်မှုကော်မီတီ အဖွဲ့တွင် ဟိန္ဒူကိုယ်စားလှယ် ၄-ဦး၊ ဗုဒ္ဓဘာသာကိုယ်စားလှယ် ၄—ဦးနှင့် ဂယာခရိုင်ဝန်က ရာထူးအလိုက် ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ ကော်မီတီလူကြီးများမှာ အိန္ဒိယနိုင်ငံသားများ ဖြစ်ကြရမည်၊ သို့သော်အကြံပေး အတိုင်ပင်ခံအဖွဲ့တခုရှိရမည်။ ၎င်းအဖွဲ့တွင် နိုင်ငံခြားဗုဒ္ဓဘာသာကိုယ်စားလှယ်များလည်း ပါဝင်ဆောင်ရွက်နိုင်ခွင့်ရှိကြောင်း ပြောပြပါသည်၊ အဆိုပါ အတိုင်ပင်ခံအဖွဲ့တွင် ပါဝင်ဆောင်ရွက်ရန် မြန်မာပြည်မှ ဗုဒ္ဓဘာသာများ လိုလားမည် ဖြစ်ကြောင်း ကိုယ်ရင်းအားပြောကြားခဲ့ပါသည်။

အက်ဥပဒေ မိတ္တူတစောင်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့က စာဖြင့်ရေးသား တောင်းယူပြီးလျှင် အတိုင်ပင်ခံအဖွဲ့တွင် ပါဝင်ဆောင်ရွက်ရန်အတွက် စဉ်းစားသင့်ပါသည်။

### ဦးဥတ္တမကျောင်း

ကျွန်တော်တို့ ၂၆—ရက် ညရထားနှင့်လိုက်ကြရာ ဂယာမြို့သို့ ၂၇—ရက်နေ့ နံနက် ၆-နာရီခန့် ရောက်ရှိကြပါသည်၊ ကလကတ္တားသံယံရုံးက မြန်မာပြည် ကိုယ်စားလှယ်တော်များ ရောက်ရှိမည်ဟု ကြိုတင်ကြေးနန်းပေးထားသဖြင့်၊ ၎င်း နေ့နံနက်ဘူတာရုံတွင် ကြိုဆိုရေးတာဝန်ခံနယ်ပိုင်ဝန်ထောက် မစ္စတာဆာဟေးက လာရောက် တွေ့ဆုံပြီးလျှင် မဟာဗောဓိနှင့်မိုင်ဝက်ခန့်ကွာဝေးသော မြန်မာဘုန်းတော်ကြီး ဦးဥတ္တမကျောင်း၌ တည်းခိုရန်ပို့ပေးပါသည်။ ၎င်းကျောင်း မြေကိုဝန်ကြီးဟောင်းဦးဘဖေနှင့် ကွယ်လွန်သူ ဇနီး ဒေါ်စွါးမျှင်တို့က ကုလားတဦးထံမှ ၄၅၀ိ—နှင့်ဝယ်၍လှူကြောင်း၊ အုတ်တံတိုင်းနှင့် အုတ်ကျောင်းမှာ မြန်မာစစ်ပြေးများသာရောက်နေထိုင်စဉ်ကစု၍ဆောက်လုပ်ကြောင်း၊ အထက်ထပ်မှာ ငွေကြေးမလုံလောက်သဖြင့် အပြီး မသတ်နိုင်ဘဲရှိကြောင်း၊ ဘုန်းတော်ကြီးက အမိန့်ရှိ၍ သိရပါသည်၊ ၎င်းကျောင်းသည် နွေအခါ သွေ့ခြောက်နေသော နေရဉ္ဇရာမြစ်ကမ်းအနီးတွင်တည်ရှိလျက် ပရဝုဏ်မှာတကေခန့်ရှိ၍ အုတ်ရေတွင်း ၃-ခု၊ ရေစုပ်ဘုံဘိုင်များအပြည့်အစုံရှိသဖြင့် ကောင်းစွာပြုစုစောင့်ရှောက် ပေးလျှင် မြန်မာ ပြည်မှ ဘုရားဖူးများ အတွက် သင့်လျော်သော တည်းခိုရန်ဌာနကောင်း တခု ဖြစ်ရန် အလားအလာရှိပါသည်။

### အခမ်းအနား

၂၀ ရက်နေ့ညနေ၅—နာရီအချိန်တွင် သံအမတ်ကြီးထံသို့ သွားရောက်ပြီးလျှင် ၅-နာရီခွဲအချိန်တွင် ဗောဓိပင်အခမ်းအနားကျင်းပရာနေရာသို့စီတန်းလမ်းလျှောက်ကြရာတွင်ပါဝင်ဆင်နွှဲကြပါသည်။ ၎င်းအခမ်းအနားသို့တက်ရောက်ရန်ဗီဟာဘုရင်ခံ



စည်သူ-ဦးစံညွန့်

မစ္စတာဂွ်ိရကားနှင့် ဝန်ကြီးချုပ် ဒေါက်တာဆိံဟတို့သည် မော်တော်ကားများနှင့်၎င်းညနေ့တွင်ဆိုက်ရောက်လာပြီးလျှင် အခမ်းအနားကို ညနေ ၆—နာရီမှစ၍ဖွင့်လှစ် ဆောင်ရွက်ကြပါသည်။ စင်မြင့်ပေါ်သို့တက်ရောက်၍စကားပြောသူများမှာ များသော အားဖြင့် ဟိန္ဒူဘာသာ ဘိဟာရီးဘာသာများဖြင့်သာ ပြောဆိုကြပါသည်။ မြန်မာပြည်အတွက် သံအမတ်ကြီး၊ ဦးကြင်က အင်္ဂလိပ်လို ဦးဆောင်၍ပြောပြီး အထိမ်းအမှတ် အဖြစ်ဖြင့် (Token.) အလှူငွေ ချက်လက်မှတ်ပေးအပ်ပြီးလျှင် နောင်ကိုလည်း မြန်မာပြည်မှ ဗုဒ္ဓဘာသာဝင်များက အဆပေါင်းများစွာ လှူဒါန်းဦးမည်ကို မိမိယုံကြည်ကြောင်း ပြောကြားရာ သြဘာပေးကြပါသည်၊ သံအမတ်ကြီး ပြောပြီးသည့်နောက် စည်သူဦးစံညွန့်က အနည်းငယ်ပြောဆိုပြီးလျှင် ပြည်ထောင်စု မြန်မာနိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၏ သဝဏ်လွှာကိုဖတ်ကြားရာ သြဘာပေးကြ ပါသည်။ မဟာဗောဓိစေတီတော်နှင့်ပတ်ဝန်းကျင်တွင် ရောင်စုံမီးများ ထွန်းထားပါသည်၊ ပရိသတ် နှစ်သောင်းခန့် တက်ရောက်ကြည့်ရှုကြပါသည်။



အမျိုးသားစီမံကိန်းနှင့်သာသနာရေးဝန်ကြီးဦးဝင်း ဣန္ဒိယတွင်သံအမတ်ကြီးအဖြစ်အမှုထမ်းနေစဉ်က မဟာဗောဓိမြေနှင့် အဆောက်အဦများဗုဒ္ဓဘာသာဝင်တို့ထံလွှဲအပ်ပေးရေးအတွက် ဣန္ဒိယ ဝန်ကြီးချုပ် ရှရီနေရူးထံအရေးဆိုခဲ့စဉ်……

# ဆဋ္ဌသံဂါယနာ

# ★ ပါဠိဝိသောဓကအဖွဲ့များ ★

| ကျမ်းအမည် | အမှတ်စဉ် | သံဃာဦးရေ | အဖွဲ့အမည် | မြို့နယ် |
|---|---|---|---|---|
| ၁ ပါရာဇိကဏ် | ၁ | ၆ | ရွှေကျင်နိကာယ | စစ်ကိုင်း |
| | ၂ | ၇ | ၎င်း | ၎င်း |
| | ၃ | ၉ | ၎င်း | ၎င်း |
| ၂ ပါစိတ် | ၄ | ၉ | သုဓမ္မာနိကာယ | ၎င်း |
| | ၅ | ၇ | သုဓမ္မာနိကာယ | ၎င်း |
| ၃ မဟာဝါ | ၆ | ၁၀ | မင်းကွန်း | ၎င်း |
| ၄ စူဠဝါ | ၇ | ၁၀ | မိတ္တီလာ | |
| ၅ ပရိဝါ | ၈ | ၁၁ | မြင်းခြံ | |
| ၆ သီလက္ခန် | ၉ | ၁၆ | စလေး | ကြည့်မြင်တိုင် |
| | ၁၀ | ၁၅ | ရှင်ဇောပု | ၎င်း |
| | ၁၁ | ၁၈ | ဇေယျဝတီ | ၎င်း |
| ၇ မဟာဝါ | ၁၂ | ၁၁ | ဘုရားကြီး | ရန်ကုန် |
| | ၁၃ | ၁၃ | အလယ်တောရ | ၎င်း |
| | ၁၄ | ၁၁ | ရွှေကျင် | ၎င်း |
| | ၁၅ | ၁၇ | သရက်တော | ၎င်း |
| ၈ ပါထေယျ | ၁၆ | ၁၃ | မေဓာဝီကာရာမ | ၎င်း |
| | ၁၇ | ၁၄ | ဆုတောင်းပြည့် | ၎င်း |
| | ၁၈ | ၁၁ | ဓမ္မိကာရုံ | ၎င်း |
| ၉ မူလပဏ္ဏာသ | ၁၉ | ၇ | မိုးရိပ် | မန္တလေး |
| | ၂၀ | ၇ | ၎င်း | ၎င်း |
| ၁၀ မဇ္ဈိမပဏ္ဏာသ | ၂၁ | ၅ | ဝေဠုဝန်ဘုံသာ | ၎င်း |
| ၁၁ ဥပရိပဏ္ဏာသ | ၂၂ | ၇ | ဇေတဝနာရာမ | ၎င်း |
| ၁၂ သဂါထာဝဂ္ဂ-နိဒါနဝဂ္ဂ | ၂၃ | ၉ | ဝိသုဒ္ဓါရုံ | |
| ၁၃ ခန္ဓဝဂ္ဂ-သဠာယတနဝဂ္ဂ | ၂၄ | ၆ | ဝိဇ္ဇာသက်ာရ | မန္တလေး |
| ၁၄ မဟာဝဂ္ဂ | ၂၅ | ၅ | ပတ္တမြား | ၎င်း |
| ၁၅ အင်္ဂုတ္တိုရ (ပ) | ၂၆ | ၁၁ | ခင်မကန် | ၎င်း |
| ၁၆ အင်္ဂုတ္တိုရ (ဒု) | ၂၇ | ၁၂ | စကု | ၎င်း |
| ၁၇ အင်္ဂုတ္တိုရ (တ) | ၂၈ | ၇ | တောင်သမံ | ၎င်း |
| ၁၈ ခုဒ္ဒကပါဌ် | ၂၉ | ၁၁ | မကျွေး | ၎င်း |
| ၁၉ ဝိဘင်း | ၃၀ | ၇ | မြည် | |
| ၂၀ ဓါတုကထာ | | | | |
| ၂၁ ပုဂ္ဂလပညတ် | ၃၁ | ၁၅ | ရွှေတောင် | မြည် |
| | ၃၂ | ၇ | ပန်းတောင်း | ၎င်း |
| | ၃၃ | ၁၁ | ပေါင်းတည် | ၎င်း |
| ၂၂ ကထာဝတ္ထု | ၃၄ | ၅ | ဆင်စဲ | မန္တလေး |
| ၂၃ ယမက (အောက်) | ၃၅ | ၇ | အမရပူရ | ၎င်း |
| ၂၃ ယမက (အထက်) | ၃၆ | ၅ | တောင်ငူ | ၎င်း |
| ၂၄ ပဋ္ဌာန | ၃၇ | ၆ | လယ်တီတိုက် | မုံရွာ |
| | ၃၈ | ၆ | ပေပင်တိုက် | ၎င်း |
| | ၃၉ | ၅ | ဇောတိကာရာမ | ၎င်း |
| ၂၅ ခုဒ္ဒကပါဌ် | ၄၀ | ၁၀ | ကျောက်ကုန်းတောရ | အင်းစိန် |
| ၂၆ ဓမ္မပဒ | ၄၁ | ၁၀ | ရွှေကျင်နိကာယ | ပဲခူး |
| | ၄၂ | ၁၀ | ရွှေကျင်နိကာယ | ညောင်လေးပင် |
| | ၄၃ | ၅ | ရွှေကျင်နိကာယ | မော်လမြိုင် |
| | ၄၄ | ၆ | ရွှေကျင်နိကာယ | တောင်ငူ |
| ၂၇ ဥဒါန | ၄၅ | ၇ | မဟာဝိသုဒ္ဓါရာမ | ညောင်ဦး |
| ၂၈ ဣတိဝုတ္တက | ၄၆ | ၅ | မဟာဝိသုဒ္ဓါရာမ | ပခုက္ကူ |
| | ၄၇ | ၆ | ၎င်း | ၎င်း |
| ၂၉ သုတ္တနိပါတ | ၄၈ | ၆ | ၎င်း | |

( ကျောဘက်သို့ ဆက်ကြည့်ပါ )

## ပါဠိဝိသောဓန စည်းကမ်း

၁။ ယာဘက်မျက်နှာ၌ ကျနေသော အက္ခရာ, ပုဒ်များကို ယာဘက်မျက်နှာ၏ယာဘက် အစွန်၌ ထည့်သွင်းရန်။

၂။ ဝဲဘက်မျက်နှာ၌ ကျနေသော အက္ခရာ ပုဒ်များကို ဝဲဘက် မျက်နှာ၏ ဝဲဘက်အစွန်၌ ထည့်သွင်းရန်။

၃။ မှားကွဲ များကို စာမျက်နှာ၏ အောက်၌ ချပြီးလျှင် မှားကွဲသော နေရာကို မျဉ်းသား၍ ပြထားရန်။ မှားကွဲသောနေရာသည် တမျက်နှာထည်း၌ ၃-၄-မျိုးရှိနေလျှင် အထက်,အောက် နှစ်ရပ်လုံးမှာပင် နံပါတ်စဉ်၍ ပြရန်။

၄။ မိမိ၏ ပြင်ဆင်ချက်ကိုကား သီးခြား ပေးထားသော စာအုပ်ပေါ်၌နံပါတ်စဉ်အလိုက် အထောက်သာဓက ရေးသား၍ညွှန်ပြရန်။ ထိုသို့အထောက်ပြရာ၌-

က။ အခြားပါဠိတော် အဋ္ဌကထာ မှားကွဲများကိုထောက်ခြင်း။

ခ။ အဋ္ဌကထာ ဋီကာနိဿယများကို ထောက်ခြင်း။

ဂ။ သဒ္ဒါကျမ်းအမျိုးမျိုးကိုထောက်ခြင်း။

ဃ။ မာဂဓ သက္ကတ ၂-မျိုး မတူ ခြစ်လျှင် လက်စွဲ နိုးရာ မာဂဓ သဒ္ဒါကျမ်းများကိုသာ ထောက်ခြင်း။

င။ အာစရိယဝါဒကို ထောက်ခြင်း။

ဤအမျိုးမျိုးတွင် မည်သည့်အရာကို ထောက်၍ ပြင်ဆင်ကြောင်းကို မှတ်တမ်း ရေးရပါမည်။

မှတ်ချက်။ ။ထိုပြင်ဆင်ချက်မှတ်တမ်း ကို ကြည့်ရှု၍ ပါဠိဝိသောဓက စစ်ဆေး ရေးအဖွဲ့က ထင်မြင်ကြည့်ရှု စစ်ဆေးရာ၌ လွယ်ကူစေခြင်းအလို့ငှါအထက်ပါ စည်းကမ်းများကိုညွှန်ပြရပါသည်။

## ပါဠိဝိသောဓန အကျိုး

ဒွေမေ ဘိက္ခဝေ ဓမ္မာ သဒ္ဓမ္မဿ ဌိတိယာ အသမ္မောသာယ အနန္တရဓာနာယ သံဝတ္တန္တိ၊ ကတမေ ဒွေ၊ ဒွန္နိက္ခိတ္တဉ္စ ပဒဗျဉ္ဇနံ အတ္ထော စ ဒွန္နိက္ခိတ္တော၊ ဒွန္နိက္ခိတ္တဿ ဘိက္ခဝေ ပဒဗျဉ္ဇနဿ အတ္ထောပိ ဒွန္နယော ဟောတိ၊ ဣမေခေါ ဘိက္ခဝေ ဒွေဓမ္မာ သဒ္ဓမ္မဿ သမ္မောသာယ အန္တရဓာနာယ သံဝတ္တန္တိ။

### ဒုကနိပါတ်အင်္ဂုတ္တိုရ်

ဘိက္ခဝေ-ရဟန်းတို့၊ ဒွေ-နှစ်ပါးကုန်သော၊ ဣမေဓမ္မာ-ဤတရား တို့သည်၊ သဒ္ဓမ္မဿ-ပိဋကတ်သုံးပုံ တည်းဟူသော သူတော်ကောင်းတရား၏၊ သမ္မောသာယ-တိမ်မြုပ်ခြင်းငှါ၊ အန္တရဓာနာယ-ကွယ်ပျောက်ခြင်းငှါ၊သံဝတ္တန္တိ-ဖြစ်ကုန်၏။ ဒွေ-နှစ်ပါးကုန်သောတရားတို့သည်၊ ကတမေ-အဘယ်သည်တို့နည်းဟူမူကား ပဒဗျဉ္ဇနဉ္စ-ပုဒ်,ဗျည်းကိုလည်း။ဝါ၊ ပုဒ်ဗျည်းသည်လည်း၊ဒုန္နိက္ခိတ္တံ-ကောင်းသဖြင့်ထားအပ်သည်၊ ဟောတိ၊ ဖြစ်၏၊ အတ္ထောစ-အနက်ကိုလည်း၊ ဝါ-အနက်

## ဆဋ္ဌသံဂါယနာ
## အာဂုံပြန်စည်းကမ်း

၁။ (က) ပဋ္ဌိဝိသောဓကအဖွဲ့ဝင်းသည့် မိမိတို့ တာဝန်ကျသော ကျမ်းစာ ပါဠိတော် တအုပ်လုံးကို အများဆုံးသုံးဖိုင်းပိုင်း၍ အနည်းဆုံးဘိုင်းကို မိမိတို့အဖွဲ့ဝင်များအထဲမှ အနည်းဆုံး ၁၀-ပါး အများဆုံး ၁၅-ပါးကျ အာဂုံကျက်မှတ်တော်မူကြရန်။

မှတ်ချက်။ ။သို့ရာတွင် အောက်ပါ ပါဠိတော် ကျမ်းစာအုပ် များကို ဖော်ပြထားသည့် အတိုင်း ပိုင်းခြားသတ်မှတ်တော်မူကြသည်။

၁။ ပါရာဇိက ပါဠိတော် ၃-ပိုင်း ၂-မဟာနိပါတ် ၂-ပိုင်း၊ ၃- အပဒါန် ဗုဒ္ဓဝံ၊ စရိယာ ပိဋက ၃ ပိုင်း၊၄ ခုဒ္ဒက ပါဠိ၊ ဓမ္မပဒ၊ ဥဒါန်း၊ ဣတိဝုတ်၊ သုတ္တနိပါတ ၂-ပိုင်း၊ ၅-ဝိမာနဝတ္ထု ပေတဝတ္ထု၊ ထေရဂါထာ၊ ထေရီဂါထာ ၂-ပိုင်း

ခ။ သက်ဆိုင်ရာပဋ္ဌိဝိသောဓကအဖွဲ့များကအာဂုံမကျက်နိုင်သောပါဠိတော်စာအုပ်များနှင့် စပ်လျဉ်း၍ ပဋ္ဌိဝိသောဓကအဖွဲ့ဝင် မဟုတ်သော ရဟန်းတော် အနည်းဆုံး ၁၀-ပါး အများဆုံး ၁၅ ပါး ပါဝင်သည့်အဖွဲ့ကို ဖွဲ့စည်းပြီးလျှင်အနည်းဆုံး ပဋ္ဌိတအုပ်စီ အာဂုံ ကျက်မှတ်တော်မူစေရန်။

၂။ ပဋ္ဌိဝိသောဓက အဖွဲ့တဖွဲ့သည် မိမိတို့နှင့် သက်ဆိုင်သည့် ကျမ်းအတွက် အာဂုံပြန်ဆိုရန် တာဝန်မယူနိုင်ခဲ့လျှင် နိုင်ငံတော် ဗုဒ္ဓ သာသနာ အဖွဲ့သို့ ၁၃၁၅-ခုနယုန် လပြည့် မတိုင်မီ အကြောင်းကြားတော်မူကြရန်။

၃။ ပဋ္ဌိဝိသောဓက အဖွဲ့ဝင်မဟုတ်သော အာဂုံပြန်အဖွဲ့များရဲ့ ရေး လုပ်ငန်းကို အာဂုံပြန်စိစစ်ရေး အဖွဲ့ယံသို့ တာဝန်လွှဲအပ်တော်မူကြသည်။

၄။ အာဂုံပြန် အဖွဲ့များ ရွတ်ဆိုတော်မူကြရာ၌ ကြည်ညိုဘွယ်ဖြစ်စေအောင် တပါးနှင့်တပါး အဖြတ်အတောက်တညီတည့်တည်း ရှိစေရန် ကိစ္စနှင့် ထိုကဲ့သို့ ခပ်သောညွှန်ကြားချက်စည်းကမ်းချက်များသတ်မှတ်ရန်ကိစ္စကို အာဂုံပြန်စိစဉ်ရေးအဖွဲ့ ယံသို့တာဝန်လွှဲတော်မူသည်။

၅။ ယခုအထိ စာရင်း ပေးပြီးဖြစ်သော အာဂုံပြန်အဖွဲ့များကို အထက်ပါ စည်းနည်းများနှင့်အညီ ပြန်လည်ဖွဲ့စည်းရန်သက်ဆိုင်ရာ အဖွဲ့ဝင်များထံသို့ အကြောင်းကြားလျှောက်ထားရန်။

(၃၀-၄-၅၃-နေ့ ဝန်ဆောင်သံဃာအဖွဲ့အစည်း အစည်းအဝေးဆုံးဖြတ်ချက် များမှ ကောက်နုတ်ချက်။)

---

သည်လည်း၊ ဒုန္နိကြိုးစွာ- မကောင်းသဖြင့်ထားအပ်သည်၊ ဟောတိ-ဖြစ်၏၊

ဘိက္ခဝေ-ရဟန်းတို့၊ ဒုန္နိက္ခိတ္တသ-မကောင်းသဖြင့်ထားအပ်သော၊ ပဒ ဗျဉ္ဇနဿ-ပုဒ်ဗျည်း၏၊ အတ္ထောပိ-အနက်ကိုလည်း၊ ဝါ-အနက်သည်လည်း၊ ဒုန္နယော-သိနိုင်ခဲသည်၊ ဟောတိ-ဖြစ်၏၊ ဘိက္ခဝေ-ရဟန်းတို့၊ ဣမေ-နှစ်ပါးကုန်သော၊ ဓမ္မာ-ခြံ့ကုန်သော တရားတို့သည်၊ သဒ္ဓမ္မဿ-ပိဋကတ်သုံးပုံတည်းဟူသော သူတော်ကောင်းတရားအ၏၊ သမ္မောသာယ-တိမ်မြုပ်ခြင်းငှါ၊ အန္တရဓာနာယ-ကွယ်ပျောက်ခြင်းငှါ၊ သံဝတ္တန္တိ-ဖြစ်ကုန်၏။

| ကျမ်းအမည် | အမှတ်စဉ် | သံဃာ ဦးရေ | အဖွဲ့အမည် | မြို့နယ်ခရိုင် |
|---|---|---|---|---|
| ၃၀ ဝိမာနဝတ္ထု | ၄၉ | ၈ | နဘဲမောက်မြို့ | မကွေး |
| ၃၁ ပေတဝတ္ထု | ၅၀ | ၉ | တောင်တွင်းကြီး | ၎င်း |
| ၃၂ ထေရဂါထာ | ၅၁ | ၁၃ | ဟင်္သာတ | |
| | ၅၂ | ၁၃ | | |
| ၃၃ ထေရီဂါထာ | ၅၃ | ၅ | ဓနုဖြူ | မအူပင် |
| ၃၄ ပါရာဇိက (က) | ၅၄ | ၇ | ဒက္ခိဏာရာမ | မန္တလေး |
| | ၅၅ | ၇ | ၎င်း | ၎င်း |
| | ၅၆ | ၇ | ထီးလင်း | ၎င်း |
| ၃၄ မဟာ နိပါတ် (အထက် ခ ၅-ဇာတ်) | ၅၇ | ၅ | သုဓမ္မာနိကာယ | ပဲခူး |
| ၃၄ မဟာနိပါတ် (အောက် ဂ ၅-ဇာတ်) | ၅၈ | ၅ | ခရမ်း | ဟံသာဝတီ |
| ၃၅ မဟာနိဒ္ဒေသ က | ၅၉ | | ညောင်ရမ်း | မန္တလေး |
| ၃၅ ჩူဠနိဒ္ဒေသ ခ | ၆၀ | ၁၁ | ရွှေစေတီ | ရေနံချောင်း |
| ၃၆ ပဋိသမ္ဘိဒါမဂ္ဂ က (အရှေ့ပိုင်း) | ၆၁ | ၇ | ရွှေကျင်နိကာယ | ညောင်တုံး |
| | ၆၂ | ၇ | ၎င်း | မြောင်းမြ |
| | ၆၃ | ၁၃ | ၎င်း | ပုသိမ် |
| ၃၆ ပဋိသမ္ဘိဒါမဂ္ဂ ခ (နောက်ပိုင်း) | ၆၄ | ၁၀ | သုဓမ္မာနိကာယ | ညောင်တုံး |
| | ၆၅ | ၁၁ | ၎င်း | မြောင်းမြ |
| | ၆၆ | ၆ | ၎င်း | ပုသိမ် |
| ၃၇ ထေရ ထေရီအပဒါန | ၆၇ | ၈ | မိုးကောင်း | မန္တလေး |
| | ၆၈ | ၈ | ၎င်း | ၎င်း |
| ၃၈ ဗုဒ္ဓဝံသ | ၆၉ | ၁၀ | သုဓမ္မာနိကာယ | မော်လမြိုင် |
| ၃၉ စရိယပိဋက | ၇၀ | ၁၀ | ဇေယျဝတီ | အင်းစိန် |
| ၄၀ နေတ္တိ | ၇၁ | ၁၂ | မဟာဝိဇယာရာမ | ပခုက္ကူ |
| ၄၁ ပေဋကောပဒေသ | ၇၂ | ၁၂ | သထုံ | |
| ၄၂ မိလိန္ဒပဥှာ | ၇၃ | ၆ | ညောင်ရွှေ | တောင်ကြီး |
| ၄၃ ဘိက္ခုပါတိမောက် | ၇၄ | ၈ | ကျောက်မြို့ | သံတွဲ |
| ၄၄ ဘိက္ခုနီပါတိမောက် | ၇၅ | ။ | မာန်အောင် | ၎င်း |
| ၄၅ မူလသိက္ခာ | ၇၆ | ၁၀ | သံတွဲ | ၎င်း |
| ၄၆ ခုဒ္ဒသိက္ခာ | ၇၇ | ၁၀ | စစ်တွေ | |
| ၄၇ ဝိနယသင်္ဂဟအဋ္ဌကထာ | ၇၈ | ၁၁ | မှော်ဘီ | အင်းစိန် |
| ၄၈ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ (ပ) က | ၇၉ | ၁၂ | ရွှေဘို | |
| ခ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ (ဒု) | ၈၀ | ၈ | ရေဦး | |
| | မြန်မာ | | | |
| ၁ ဝါဒိတ် | ၁ | ၁၂ | ဘိုကလေး | ဖျာပုံခရိုင် |
| ၂ ဝါဒိတ် | ၁ | ၂၀ | ဖျာပုံ | ဖျာပုံမြို့ |
| ၃ မူလသိက္ခာ | ၁ | ၁၀ | ပေါက်တော် | စစ်တွေခရိုင် |
| ၄ သုတ်ပါထေယျ | ၁ | ၁၂ | ကျောက်တိုင် | ပုဇွန်တောင် ရန်ကုန် |
| ၅ ဓမ္မသင်္ဂဏီ | ၁ | ၁၀ | ဆင်ဖြူကျွန်း | မင်းဘူးခရိုင် |
| ၆ ပဌာန်း (ပဌမ) | ၁ | ၁၀ | မုံရွေး | မုံရွာခရိုင် |
| ၇ ဇာတိရတ္တက | ၁ | ၁၁ | အောင်မြေသာယာ | ရေစကြိုမြို့ ပခုက္ကူခရိုင် |
| ၈ သုတ္တနိပါတ | ၁ | ၈ | နဂါးရုံ | ရေစကြိုမြို့ ပခုက္ကူခရိုင် |
| ၉ ထေရီဂါထာ | ၁ | ၁၀ | မြန်အောင် | ဟင်္သာတခရိုင် |
| ၁၀ ပဋိသမ္ဘိဒါမဂ္ဂ | ၁ | ၂၁ | အနောက်ချောင်း | ကျုံပျော်မြို့ ပုသိမ်ခရိုင် |
| ၁၁ ပဋိသမ္ဘိဒါမဂ္ဂ | ၁ | ၈ | မြောင်းမြ | မြောင်းမြမြို့ |
| ၁၂ ပဋိသမ္ဘိဒါမဂ္ဂ | ၁ | ၅ | လပွတ္တာ | မြောင်းမြခရိုင် |
| ၁၃ ပေဋကောပဒေသ | ၁ | ၆ | သထုံ | သထုံ |
| ၁၄ မိလိန္ဒပဥှာ | ၁ | ၅ | မိုးမိတ် | ရှမ်းပြည်မြောက်ပိုင်း |
| ၁၅ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ | ၁ | ၁၁ | ပျော်ဘွယ် | ရမည်းသင်းခရိုင် |
| ၁၆ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ | ၁ | ၁၄ | ရမည်းသင်း | ရမည်းသင်း |
| ၁၇ ჩူဠနိဒ္ဒေသ | ၁ | ၁၀ | အာလံ | သရက်ခရိုင် |
| ၁၈ ဝိနယသင်္ဂဟအဋ္ဌကထာ | ၁ | ၁၁ | သုံးခွ | ဟံသာဝတီခရိုင် |

(နောက်ထပ် ၁၃ ဖွဲ့ကျန်သေးသည်ဖြစ်ပါကြောင်း။ ။အယ်ဒီတာ)



# ★ ပါဠိတက္ကသိုလ်ဗဟိုအဖွဲ့ ★



၁၃၁၄—ခုနှစ် မန္တလေးမြို့ ပါဠိတက္ကသိုလ် စာချတန်း ဒေမပွဲကြီးကို ပြီးဆုံးသည့်တိုင်အောင် ဆောင်ရွက်တော်မူကြသော ပါဠိ တက္ကသိုလ် ဗဟို အဖွဲ့ဝင် အုပ်ချုပ်ရေးဆရာတော်များ အမှုဆောင်ဆရာတော်များနှင့် ပါဠိတက္ကသိုလ်ရှုံးသားများ

လွတ်လပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ပရိယတ္တိသာသနာတော် တည်တံ့ခိုင်မြဲ ထွန်းကားပြန့်ပွါးစည်ပင်ရေးအတွက် ပါဠိတက္ကသိုလ်ကို မည်သို့သော စနစ်ဖြင့် အမြန် တည်ထောင်သင့်သည် ဟူသောအကြံဉာဏ်များကို သေချာစွာ အကြိမ်ကြိမ်စဉ်းစားခဲ့သော ပါဠိဘာသာပညာရေးအဖွဲ့ နာယကဆရာတော်ဘုရားများ၏ ဩဝါဒများကို ကြားနာရပြီးနောက် နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု၊ တရားလွှတ်တော် တရားဝန်ကြီး ဦးသိမ်းမောင်၊ သူဌေးကြီးဆာဦးသွင်တို့၏ နာယက ဆရာတော်များအား တောင်းပန် လျှောက်ထားချက်များအရ ပါဠိတက္ကသိုလ် တည်ထောင်ရေးနှင့် ဓမ္မာစရိယ ဆရာတော်များ လှူဒါန်းထောက်ပံ့ရေး ကိစ္စများကို အစီရင်ခံစာတင်သွင်းရန် စုံစမ်းစစ်ဆေးရေးကော်မီတီအဖွဲ့ကို ၁၉၅၀-ခုနှစ် စုံစမ်းစစ်ဆေးရေး ကော်မီတီများ အက်ဥပဒေပုဒ်မ ၃-အရ နိုင်ငံတော်သမတက ဖွဲ့စည်းခဲ့လေသည်။

၁။ ဥက္ကဋ္ဌ ဟယ်ာတမြို့ အဂ္ဂမဟာပဏ္ဍိတဘုရားကြီးဆရာတော်၊ ၂။ ဒုတိယဥက္ကဋ္ဌ မန္တလေးမြို့ အဂ္ဂမဟာပဏ္ဍိတ မစိုးရိမ်ဆရာတော်၊ အဖွဲ့ဝင်ဆရာတော်များမှာ ၃၊ မော်လမြိုင်မြို့ အဂ္ဂမဟာပဏ္ဍိတ တောင်ပေါက်ဆရာတော်၊ ၄၊ မန္တလေးမြို့အဂ္ဂမဟာပဏ္ဍိတဝံကျောင်းဆရာတော်၊ ၅၊ ညောင်တုန်းမြို့ရွှေဟင်္သာတောရဆရာတော်၊ ၆၊ ရန်ကုန်မြို့ ဘုရားကြီးဆရာတော်၊ ၇၊ မန္တလေးမြို့ ဆရာတော်ဦးကြယ်၊ ဒက္ခိဏာရာမ ဘုရားကြီးဘိုက်၊ ၈။ မုဒုန်မြွန်ဆရာတော် ဦးကောသလ္လ၊ ၉၊ သထုံမြွန်ဆရာတော် ဦးဝါသမ။ အဖွဲ့ဝင်ပုဂ္ဂိုလ်များမှာ ၁၀၊ ဦးသိမ်းမောင် တရားလွှတ်တော်ချုပ် တရားဝန်ကြီး၊ ၁၁၊ ဘဏ္ဍာတော်မင်းကြီး ဦးကြင် (ပါဠိဘာသာ ပညာရေး အဖွဲ့ဥက္ကဋ္ဌ) ၁၂၊ နိုင်ငံတော် ရှေ့နေချုပ်ကြီး ဦးချန်ထွန်း၊ ၁၃၊ ရန်ကုန်တက္ကသိုလ် အုပ်ချုပ်ရေးမှူး ဒေါက်တာထင်အောင်။ ၁၄၊ နိုင်ငံတော်တရားဥပဒေ ရေးဆွဲသူ ဦးဘသောင်း၊ ၁၅၊ ဦးကြီးဖေ ပဌမကျော် (ပါဠိပညာရေးအဖွဲ့ဝင်လူကြီး) ၁၆၊ ဦးဘမို (ပါဠိပညာရေးအဖွဲ့ဝင် လူကြီး) ၁၇။ ဦးလှအောင် (ပါဠိပညာရေးအဖွဲ့ဝင်လူကြီး) အတွင်းရေးမှူးမှာ ၁၈၊ ဦးဘဆွေ (အထူးအရာရှိ သာသနာရေးဌာနခွဲ) တို့ဖြစ်ကြလေသည်။

ယင်းကဲ့သို့ ဖွဲ့စည်းခဲ့သည့်အားလျော်စွာ ထိုအဖွဲ့၏အကြံဉာဏ်ပါရှိသည့် အစီရင်ခံစာကို မှတည်၍ရေးဆွဲသော စည်းမျဉ်းဥပဒေ အသေးစိတ်နှင့်တကွ အက်ဥပဒေကို ပါဠိတက္ကသိုလ်နှင့် ဓမ္မာစရိယ အက်ဥပဒေဟု ခေါ်တွင်စေလျက် ကောဇာသက္ကရာဇ် ၁၃၁၂-ခုနှစ် (သာသနာတော် သက္ကရာဇ် ၂၄၉၄ — ခုနှစ်) ၁၉၅၀-ခုနှစ်။ အောက်တိုဘာလ တွင် ကျင်းပခဲ့သော ပါလီမန် လွှတ်တော်မှ လက်ခံ အတည်ပြုခဲ့၍ ဤအက်ဥပဒေ၏ အာဏာကို ပြည်ထောင်စု မြန်မာနိုင်ငံတော်သမတ၏အမိန့်ဖြင့် ၁၉၅၀-ခုနှစ် အောက်တိုဘာလ ၁၈-ရက် နေ့တွင် တည်စေခဲ့လေသည်။

ဤ အက်ဥပဒေ အာဏာတည်သည့် နေ့မှစ၍ ပါဠိတက္ကသိုလ် ရပ်လုံးပေါ်စေရန်၊ ပထမဦးစွာ ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာန (သာသနာရေးဌာနခွဲ) မှ လုပ်ကိုင် ဆောင်ရွက်သာရာ ၁၉၅၁—ခု မတ်လ အသယ်လောက်တွင် ၎င်းအက်ဥပဒေပါလုပ်ငန်းတာဝန် ရှိသမျှတို့ကို ရုပ်လုံး ပေါ်အောင် ဆက်လက် ဆောင်ရွက်ရန် သာသနာ့ ညွှန်ကြားရေးဝန်အား တာဝန်ပေးအပ်ခဲ့လေသည်။ သာသနာ့ညွှန်ကြားရေးဝန်ကလည်း လက်ရှိ ဝိနိစ္ဆယဌာန မှုထမ်းရာထမ်းများနှင့်သာ နစ်ဌာနကို စီမံအုပ်ချုပ်လျက် ပါဠိတက္ကသိုလ်နှင့် ဓမ္မာစရိယ အက်ဥပဒေကို ရုပ်လုံးအမြန်ပေါ်စေရန် ၎င်းဌာန အတွက် မှုထမ်းရာထမ်းများ သီးသန့် ခန့်ထားရန် ပိုင်ခွင့်အမိန့် မရသေးမီအတွင်း ဝိနိစ္ဆယဌာန သာသနာရေး အရာရှိ တယောက်နှင့် စာရေးတယောက်ကို တာဝန်ယူစေပြီးလျှင် အချို့သောစာရေးများ အကူအညီဖြင့် အမှုတပြင်း မနေမနား ကြိုးပမ်း ဆောင်ရွက်လ ခဲ့ရာ အက်ဥပဒေပုဒ်မ ၄ (၁)နှင့် ၄ (၂)တို့ အရ ပြည်ထောင်စု မြန်မာနိုင်ငံတော် အရပ်ရပ်ရှိ ပါဠိတက္ကသိုလ် ကျောင်းပေါင်း ၁၉ ကျောင်းကို (၁၉၅၁ ခုမြေလနှင့် မေလ) ၁၃၁၃ ခုတန်ခူးလနှင့်ကဆုန်လအတွင်း နိုင်ငံတော်အစိုးရ ဂေဇက်ပြန်တမ်းတွင် ထည့်သွင်း ကြေညာနိုင်ခဲ့လေသည်။

## ပထမအစည်းအဝေး

ထိုနောက် အက်ဥပဒေပုဒ်မ ၈ (၁) အရ ပါဠိတက္ကသိုလ်ဗဟိုအဖွဲ့ကြီး တခုကို ဖွဲ့စည်းတည်ထောင်ရန်ထမြောက်အောင်မြင်ရေးအတွက် အက်ဥပဒေပုဒ်မ ၈ (၂) (က) နှင့်အညီ မြို့နယ်အရပ်ရပ်ရှိ ပါဠိတက္ကသိုလ်ကျောင်းပေါင်း ၁၉—ကျောင်းမှ ကိုယ်စားလှယ်ဆရာတော် တပါးကျစီပါဝင်သော ပါဠိတက္ကသိုလ် ကိုယ်စားလှယ်ဆရာတော်များ၏ ပထမဆုံး အစည်းအဝေးကို ၁၃၁၃—ခုနယုန်လဆုတ် ၁—ရက် (၁၉၅၁ ခုဇွန်လ ၂၀ ရက်) နေ့လည် ၁ နာရီအချိန်တွင် ရန်ကုန်မြို့ အတွင်းဝန်များရုံး ဗုဒ္ဓဘာသာ အသင်းတည်ရာခန်းမကြီး၌ ကျင်းပ ပြုလုပ်ခဲ့လေသည်။

ထိုအစည်းအဝေးသို့ နိုင်ငံတော်ဝန်ကြီးချုပ်ဦးနုနှင့်ပြည်ထဲရေးနှင့်သာသနာရေးဌာနဝန်ကြီးဦးခင်းတို့လည်းလာရောက်ရှုမျှော်ကြည်ညိုကြ၏၊

### ပြည်ထောင်စုမြန်မာနိုင်ငံတော် ဝန်ကြီးချုပ် (ကိုယ်စား) ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီး၏ လျှောက်ထားချက်

ယခု ကြွရောက်လာတဲ့ ပါဠိတက္ကသိုလ်ဗဟိုအဖွဲ့ဝင် ဆရာတော်ကြီးများကို

ရှိရုံလင်လင်ရှုးတွေ့ရသဖြင့် အလွန် ဝမ်းမြောက်ပါသည်ဘုရား။ အစိုးရနှင့်ဆရာတော်ကြီးများ ပူးတွဲ၍ ပူးပေါင်း ဆောင်ရွက်မှုကြောင့် တကမ္ဘာလုံး မှတ်တမ်းတင်ရမည့် ပါဠိတက္ကသိုလ်ကြီး အကောင်အထည်ပေါ်ကာ အောင်မြင် ပြီးမြောက်ပါပြီဘုရား၊

ပါဠိတက္ကသိုလ်ကြီး၏ အခြေအမြစ်ကို လျှောက်ထားလိုပါသည်၊ပါဠိတက္ကသိုလ်ကြီးမှာ ပထမပြန်စာမေးပွဲမှ ပေါက်ပွါးလာခဲ့ပါသည်၊

ပထမပြန်စာမေးပွဲမှာ ၁၂၅၇-ခုနှစ်ကစ၍ပေါ်ပေါက်လာခဲ့ရာ အတန်းအားဖြင့် ပဌမငယ်၊ပဌမလတ်၊ပဌမကြီး ၃-တန်းသာထား၍ပြုလုပ်ခဲ့ပါသည်၊

၁၂၉၉-ခုနှစ် ရောက်သော အခါ အဂ္ဂမဟာပဏ္ဍိတ ညောင်ရမ်း ဆရာတော်ဘုရားကြီး ကြီးမှူးတဲ့ကော်မီတီကို ဖွဲ့စည်းကာ ပဌမပြန်အစီရင်ခံစာ ပေါ်ခဲ့ပါသည်၊ထိုအစီရင်ခံစာအရ ပဌမပြန်စာမေးပွဲကို ပဌမငယ်၊ပဌမလတ်၊ပဌမကြီး၊ စာချတန်း(၄) တန်းထား၍ ကျင်းပပြုလုပ်ပါသည်၊

ထိုပဌမပြန်အစီရင်ခံစာ၌ ပါဠိတက္ကသိုလ်ကြီးပေါ်ပေါက်၍ ပါဠိဘာသာ အဆင့်အတန်းမြင့်ကာ ပရိယတ္တိသာသနာတော်ကြီး ကြီးပွါးထွန်းကားရန် အခြေခံအုဋ်မြစ်ချခဲ့ပါသည်၊

၁၉၄၁ ခုနှစ် ရောက်သော အခါ ဒေါက်တာသိမ်းမောင်ကြီးမှူးတဲ့ကော်မီတီကိုဖွဲ့စည်းကာ ဆရာတော် ဘုရားကြီးတို့ ချထားခဲ့တဲ့ အုဋ်မြစ်ကို အခြေခံပြု၍ ပါဠိတက္ကသိုလ် အစီရင်ခံစာ ပေါ်ခဲ့ပါသည်၊

၁၉၄၇-ခုနှစ်ရောက်သောအခါ ပထမ ပါဠိတက္ကသိုလ် အစီရင်ခံစာကို အကျဉ်းချုံး၍ ဆရာတော်ဦးဝိသုဒ္ဓ ကြီးမှူးတဲ့ ကော်မီတီဖွဲ့စည်းကာ ပါဠိတက္ကသိုလ်ဖြစ်မြောက်ရေး အပြီးသတ် အစီရင်ခံစာ ပေါ်ခဲ့ပါသည်၊

၁၉၅၀-ခုနှစ်သို့ ရောက်သောအခါ ပထမနှင့်ဒုတိယပါဠိတက္ကသိုလ်အစီရင်ခံစာတို့ကို မနှစ်သက်ကြသဖြင့် ပါဠိဘာသာပညာရေးအဖွဲ့ နာယက ဆရာတော်ကြီးများနှင့် လွှတ်တော်ကော်မီတီအချို့တို့ ကော်မီတီဖွဲ့စည်းကာ ပါဠိတက္ကသိုလ်နှင့် ဓမ္မာစရိယအက်ဥပဒေကိုစီစဉ်ခဲ့ပါသည်။ ထိုအက်ဥပဒေအရပါဠိတက္ကသိုလ် ဗဟိုအဖွဲ့ကြီးကိုဖွဲ့စည်းရခြင်းဖြစ်ပါသည်ဘုရား။

ယခုကြွလာတဲ့ဆရာတော်ဘုရားကြီးများ ဗဟိုအဖွဲ့ကြီး ဖွဲ့စည်းကာ တည်ဆောက်တော်မူတဲ့ ပါဠိတက္ကသိုလ်ကြီးမှာအစီရင်ခံစာအမျိုးမျိုး ရေးသားလျက် နှစ်ပေါင်းများစွာ တည်ဆောက် ရတဲ့ တက္ကသိုလ်ကြီးဖြစ်ပါသည်၊

နိုင်ငံတော် ဝန်ကြီးချုပ်နှင့် တပည့်တော်တို့ နိဂုံးချုပ်လျှောက်ထားလိုသည်မှာ ပါဠိတက္ကသိုလ်ကြီး ထူထောင်ပြီးလျှင် ကမ္ဘာပေါ်ရှိ တက္ကသိုလ်အမျိုးမျိုးတို့၏ ထိပ်တန်းသို့ရောက်၍ အမြင့်ဆုံး တက္ကသိုလ်ကြီးဖြစ်လာလျက် ပရိယတ္တိသာသနာတော် တနေ့တခြား စည်ကား တိုးတက်အောင် ဆောင်ရွက်တော်မူကြရန် လေးမြတ်စွာ လျှောက်ထား ပါသည်ဘုရား။

နိုင်ငံတော်ဝန်ကြီးချု[illegible] ကြီးမှူးသော တပည့်တော်တို့ အနိုးရ ဘက်ကလည်း ပစ္စည်းလေးပါးဖြင့်ပွဲနှင့်အားရှိသလောက် ထောက်ပံ့ပါမည်ဘုရား၊

## သဘာပတိ ဆရာတော်ကြီး၏ မိန့်ခွန်း

၎င်းနောက် သဘာပတိ ညောင်ရမ်း ဆရာတော်ကြီးက သာသနာတော်ကြီး ပွါးစေဘို့အတွက် အဘက်ဘက်က ဆောင်ရွက်ပြုကြရန် အကျဉ်းချုပ်မိန့်မြွက်တော်မူ၏။

ထိုအစည်းအဝေး၌ ပါဠိ တက္ကသိုလ်နှင့် ဓမ္မာစရိယ အက်ဥပဒေပုဒ်မ ၈(၂) (ခ) အရ၊ ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့အတွက် ရွေးချယ်တင်မြှောက်ခြင်းခံရသော ဆရာတော် ၅-ပါးနှင့် ပါဠိဘာသာပညာရေး နာယကဆရာတော်များအဖွဲ့မှ ရွေးချယ်တင်မြှောက်သော ဆရာတော် ၂၀ပါးပေါင်းဆရာတော် ၇ ပါးနှင့် ပါဠိတက္ကသိုလ် ကိုယ်စားလှယ် ဆရာတော် ၁၉ ပါး၊စုစုပေါင်း၊ ၂၆ ပါး ပါဝင်သော ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့ကြီးကို ၁၃၁၂ ခုနှစ် (၁၉၅၁—ဇွန်လ ၂၀) ရက် နေ့ ညနေ(၄)နာရီနှင့် ၅ မိနစ် အချိန်တွင် ဖွဲ့စည်းတည်ထောင်ပြီးစီးခဲ့လေသည်၊

၁၃၁၃—ခုနှစ် (၁၉၅၁—၅၂)ခုနှစ် အောက်တိုဘာလတွင် နောက်ထပ် ပါဠိ တက္ကသိုလ်ကျောင်း ၃—ကျောင်း ထပ်မံတိုးဘက်လာသဖြင့် ယခုအခါ ဗဟိုအဖွဲ့ဝင် ဆရာတော်ပေါင်း ၂၉-ပါးမျှရှိလေသည်၊

## အမှုဆောင်အဖွဲ့

ထို့နောက် အက်ဥပဒေပုဒ်မ ၁၆ (၁)အရ ပါဠိ တက္ကသိုလ်ဗဟိုအဖွဲ့ဝင် ဆရာတော်၁၀ ပါး ပါဝင်သောအမှုဆောင် အဖွဲ့ကိုလည်း ၁၃၁၃—ခု နယုန်လဆုတ် ၇ ရက်(၁၉၅၁—ခု ဇွန်လ ၂၆ ရက်) နေ့တွင် ဖွဲ့စည်းတည်ထောင်၍ ပြီးစီးခဲ့ပါသည်။

## ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့ဝင် ဆရာတော်များ

မှတ်ပုံတင်အဖွဲ့တော်သိက္ခာတော်အမည်နှင့်နေရပ်တို့ကို အစဉ်အတိုင်း ဖော်ပြထားပါသည်။

၁၊ ညောင်ရမ်းဆရာတော် ဦးရေဝတ(အဂ္ဂမဟာပဏ္ဍိတ)ဗဟိုအဖွဲ့ပထမဥက္ကဋ္ဌ ၅၈၊ မိုးကောင်းတိုက် (ပါဠိတက္ကသိုလ်)အနောက်ပြင် မန္တလေးမြို့၊ ၂။ စံကျောင်း ဆရာတော် ဦးနန္ဒိမာ (အဂ္ဂမဟာပဏ္ဍိတ) ၄၇၊ အလယ်ကျောင်းကြီး ခင်မကန်တိုက် အနောက်ပြင် မန္တလေးမြို့၊ ၃။ ဆရာ တော် ဦးရေဝတဓမ္မ ၄၇၊ဒေဝသာဂရ သိမ်ကုန်းဓမ္မိကာရုံကျောင်း (ပါဠိတက္ကသိုလ်) တော့ကိတ်လမ်း ရန်ကုန်မြို့၊ ၄၊ ဆရာ တော် ဦးဉာဏိက ၄၆၊ နှစ်ကျိပ်ရှစ်ဆူကျောင်း သရက်တောတိုက် လမ်းမတော် ရန်ကုန်မြို့၊ ၅၊ ဟံသာဝတီ ဆရာတော် ဦးကုန္တာသဘ ၄၄၊ ဒက္ခိဏာရာမ ဘုရားကြီးတိုက်(ပါဠိတက္ကသိုလ်) တောင်ပြင် မန္တလေးမြို့၊ ၆၊ ဇေယျဝတီ ဆရာတော် ဦးဥက္ကံသ ၄၃၊ ဇေယျဝတီ ကျောင်းတိုက် ကြည့်မြင်တိုင် ရန်ကုန်မြို့၊ ၇၊ဆရာတော် ဦးကြည်ခေါ် ဦးဥက္ကံသ(ဗဟိုအဖွဲ့ ဒုတိယ ဥက္ကဋ္ဌ) ၄၂၊ ရွှေဘုန်း[illegible]ကျောင်း ဒက္ခိဏာရာမ ဘုရားကြီးတိုက် တောင်ပြင် မန္တလေးမြို့၊ ၈၊ ဆရာတော် ဦးသုမန (ဓမ္မ စရိယ) ၃၉၊ အုန်းကျောင်း ရွှေပြည်တိုက် အနောက်ပြင် မန္တလေးမြို့၊ ၉၊ *ဆရာတော် ဦးကောသလ္လ ၃၉၊ မဂိုးရိပ်ကျောင်းတိုက်(ပါဠိတက္ကသိုလ်) အနောက်ပြင် မန္တလေးမြို့၊ ၁၀၊ ဆရာတော် ဦးကေတုမာလာ ၃၉၊ အဘယဓမ္မိက တောင်ဘလူးကျောင်းကြီး(ပါဠိတက္ကသိုလ်) သရက်တောတိုက် လမ်းမတော် ရန်ကုန်မြို့၊ ၁၁၊ ဆရာတော် ဦးခေမာသရ ၃၆၊ ဇေတဝန (ပါဠိတက္ကသိုလ်) အောင်မင်္ဂလာ လမ်း ကျောက်မြောင်းရပ် ရန်ကုန်မြို့၊ ၁၂၊ဆရာတော် ဦးဇောတိကမ္ဗီယ ၃၅၊ ဇောတိကာရုံကျောင်းတိုက် (ပါဠိတက္ကသိုလ်) အနောက်ဘောဂ်တန်းလမ်း၊ ပြည်မြို့၊ ၁၃၊ *ဆရာတော် ဦးနာဂဝံသ (သကျသီဟ ဓမ္မာစရိယ) အမှုဆောင်အဖွဲ့ ပထမ ဥက္ကဋ္ဌ ၃၃၊ ဗါးကရာ တောရကျောင်းတိုက် (ပါဠိတက္ကသိုလ်) ဦးဝိစာရလမ်း မြေနီကုန်း ရန်ကုန်မြို့၊ ၁၄၊ စိန်မမကျောင်း ဆရာတော် ဦးကုဏ္ဍလ ၃၁၊ ပန်းဘဲတန်း မင်းကျောင်း (ပါဠိတက္ကသိုလ်) ပန်းဘဲတန်းရပ် မော်လမြိုင်မြို့၊ ၁၅၊ ဆရာတော် ဦးရေဝတ ၃၀၊ ဖုသိန်ကျောင်း အနောက်ထီးလင်းတိုက် (ပါဠိတက္ကသိုလ်) အနောက်ပြင် မန္တလေးမြို့၊ ၁၆၊ ဆရာတော် ဦးဇာနေယျမုနိ ၂၉၊ မဟာဝိသုဒ္ဓါရုံတိုက်သစ် (ပါဠိတက္ကသိုလ်) အနောက်ပြင် မန္တလေးမြို့၊ ၁၇၊ *ဆရာတော် ဦးခေမိသေန (အမှုဆောင်အဖွဲ့ ဒုတိယ ဥက္ကဋ္ဌ) ၂၉၊ ညောင်းတုန်းကျောင်းတိုက် (ပါဠိတက္ကသိုလ်(ရေတာရှည်လမ်းဟောင်း၊ ဗဟန်း ရန်ကုန်မြို့၊ ၁၈၊ ဆရာတော် ဦးဗောဓာလင်္ကာရ ၂၈၊ ပါဠိဘာသီ ကျောင်းကြေတိုက် (ပါဠိတက္ကသိုလ်) အနောက်ပြင် မန္တလေးမြို့၊ ၁၉၊ *ဆရာတော် ဦးဝိသုဒ္ဓ (ပထမကျော် သကျသီဟ ဓမ္မာစရိယ) ၂၇၊ ဝိဇ္ဇာလင်္ကာရတိုက် အနောက်ပြင် မန္တလေးမြို့၊ ၂၀၊ *ဆရာတော် ဦးကလျာဏ ၂၇၊ မဟာဝေယန်ဘုံသာတိုက် (ပါဠိတက္ကသိုလ်)အနောက်ပြင် မန္တလေးမြို့၊ ၂၁၊*ဆရာတော် ဦးဝိမလ ၂၇၊ရွှေဟင်္သာတောရတိုက် (ပါဠိတက္ကသိုလ်) ညောင်တုန်း၊ ၂၂၊ ဆရာတော် ဦးကုသလဇမ္ဗူ ဇောတိကာရုံအုဋ်ကျောင်း (ပါဠိတက္ကသိုလ်) တောင်ထီးလင်းတိုက် တောင်ပြင် မန္တလေးမြို့၊ ၂၃၊ ဆရာတော် ဦးဥတ္တမသာရ မဟာဇောတိကာ ရာမတိုက် (ပါဠိတက္ကသိုလ်) မုံရွာမြို့၊ ၂၄၊ *ဆရာတော် ဦးပညိန္ဒာဘိဝံသ ၂၄၊ဇေယျသိန် (ပါဠိတက္ကသိုလ်) စစ်ကိုင်း တောင်ခိုး စစ်ကိုင်းမြို့၊ ၂၅၊ *ဆရာတော် ဦးသူရိယ (ဗဟိုနှင့် အမှုဆောင်အဖွဲ့ အတွင်းရေးမှူး) ၂၈၊ ခေါ်ရွှေသစ်ပိဋကတ်တိုက်ကျောင်း ထရံစုဝို့ လမ်း ဗဟန်း ရန်ကုန်မြို့၊ ၂၆၊ *ဆရာတော် ဦးသူရိယာဘိဝံသ ၂၈၊အလယ်တောရ စာချကျောင်းတိုက် (ပါဠိတက္ကသိုလ်) လောင်းဝွှလမ်း ရန်ကုန်မြို့၊ ၂၇၊ ဆရာတော် အရှင် သုပညိန္ဒာဘိဝံသ ၁၈၊ အတိသုဒ္ဓါရုံကျောင်း (ပါဠိတက္ကသိုလ်စစ်ကိုင်းတောင်ခိုး စစ်ကိုင်းမြို့၊ ၂၈၊ *ဆရာတော် ဦးပဏ္ဍိတ ၁၃၊ ရွှေတောင်ကျောင်းတိုက် (ပါဠိတက္ကသိုလ်)

စာမျက်နှာ ၄-၅ အဆက်

ရဟန်း×ပတန-ကျခြင်း-သက်ခြင်း-ဆင်းခြင်း) ထိုတောတစိုက်ရှိ တိရစ္ဆာန်တို့အား မည်သူမျှသတ်ဖြတ်ညှင်းဆဲခြင်း၊ မပြုရဟု မင်းမိန့်ဖြင့်ဘေးမဲ့ပေးရာဖြစ်သောကြောင့် မိဂဒါယဟုလည်း၊ ခေါ်ဆိုကြလေသည်။

## ပဉ္စဝဂ္ဂီ

အရှင်ကောဏ္ဍညအစရှိသော ပုဂ္ဂိုလ်ငါးပါးတို့အား ပါဠိကျမ်းဂန်များ၌ ပဉ္စဝဂ္ဂီဟု ခေါ်ဝေါ် သုံးနှုန်းကြ လေသည် (ပဉ္စ–ငါး×ဝဂ္ဂ–အစု)ထေရာဝါဒ ပါဠိကျမ်းဂန်များ၌ကောဏ္ဍည,ဝပ္ပ,အဿဇိ မဟာနာမ,အဿဇိဟု အစဉ်ရေတွက်ပုံနှင့် အမည်များကို ပြဆိုကြ လေသည်။ မြောက်ပိုင်း ဗုဒ္ဓဘာသာ ကျမ်းဂန်များတွင်ကား အစဉ်ရေတွက်ပုံနှင့်အမည်များ ကိုဖော်ပြရာ၌ အတန်ငယ်ကွာခြား၍ နေသည်ကို တွေ့ရလေသည်၊ပြာကရိတ်ဘာသာ ဗုဒ္ဓဘုရိတကဗျာကျမ်း၊ စာမျက်နှာ ၁၇၄–၌ကောဏ္ဍည,မဟာနာမ,ဘဒြက ဝါသဝ,အဿဇိဟု ဖော်ပြထားသည်ကိုတွေ့ရလေသည်၊



ဒိုးဘိုရပ် ရေနံချောင်းမြို့၊ ၂၉၊ *ဆရာတော် အရှင် ပညာ ရက္ခိတ ၁၇၊ ဆုတောင်းပြည့်ကျောင်းတိုက် (ပါဠိတက္ကသိုလ်) ပုဇွန်တောင် ရန်ကုန်မြို့၊

မှတ်ချက်။ ။ခရေပွင့်ပြအမှတ် အသား၊သည် အမှုဆောင်အဖွဲ့ဝင် ဆရာတော်များဖြစ်သည်။ အမှတ်အသား မပြသော ဆရာတော်များသည် ပါဠိတက္ကသိုလ် ကိုယ်စားလှယ် ဆရာတော်များဖြစ်သည်။

## အမှုဆောင် ဆရာတော် များ

၁၊ ဆရာတော် ဦးကောသလ္လ မဂိုးရိပ် ကျောင်းတိုက်ပါဠိတက္ကသိုလ် အနောက်ပြင် မန္တလေးမြို့၊ ၂၊ ဆရာတော် ဦးနာဂဝံသ(သကျသီဟ ဓမ္မာ စရိယ)၊ ဗါးကရာတောရ ကျောင်း တိုက် ပါဠိတက္ကသိုလ် ဦးဝိစာရ လမ်း-မြေနီ ကုန်း ရန်ကုန် ပထမဥက္ကဋ္ဌ၊ ၃၊ ဆရာတော်ဦးခေမိသေန ညောင်တုန်း ကျောင်း တိုက် ပါဠိ တက္ကသိုလ်ရေတာရှည်လမ်း ဗဟန်း ရန်ကုန် (ဒုတိယ ဥက္ကဋ္ဌ၊) ၄၊ ဆရာတော်ဦးဝိမလရွှေဟင်္သာတောရကျောင်း ပါဠိတက္ကသိုလ်ညောင်တုန်းမြို့၊ ၅၊ ဆရာတော် ဦးဝိသုဒ္ဓ ပထမကျော် (သကျသီဟ ဓမ္မာစရိယ) ဝိဇ္ဇာလင်္ကာရ တိုက် အနောက်ပြင် မန္တလေးမြို့၊ ၆၊ ဆရာတော် ဦးကလျာဏ မဟာဝေယန် ဘုံသာတိုက် ပါဠိတက္ကသိုလ် အနောက်ပြင် မန္တလေးမြို့၊ ၇၊ ဆရာတော် အရှင် ဇဝိန္ဒာဘိဝံသ ဆုတောင်းပြည့်ကျောင်းတိုက် ပါဠိ တက္ကသိုလ် ပုဇွန် တောင် ရန်ကုန်မြို့၊ ၈၊ ဆရာတော် ဦးပညိန္ဒာဘိဝံသ ဇေယျသိန် ပါဠိ တက္ကသိုလ် စစ်ကိုင်း တောင် ခိုး စစ်ကိုင်း မြို့၊ ၉၊ ဆရာတော်ဦးသူရိယာဘိဝံသ အလယ်တောရ စာ ချ ကျောင်း တိုက် ပါဠိ တက္ကသိုလ် လောင်းဝွှလမ်း ရန်ကုန်မြို့၊ ၁၀၊ ဆရာတော်ဦးပဏ္ဍိတ ရွှေတောင်



၃၀-၅-၅၃ နေ့က ပါဠိတက္ကသိုလ် စာချတန်းကို ထူးချွန်စွာ အောင်မြင်သည့် ပုဂ္ဂိုလ်ကျော်တို့အား၊ မြို့တော်ခန်းမကြီးတွင် နိုင်ငံတော်သမတ ကြီးက အောင်လက်မှတ်များဆက်ကပ်နေပုံ။



၃၁-၅-၅၃ နေ့ မြို့တော်ခန်းမတွင်ကျင်းပသည့် ရှင်သာမဏေစာပြန်ပွဲ အောင်သည့်ပုဂ္ဂိုလ်များအားလက်မှတ်ပေးပွဲတွင် ဖိုးဒယား၊ သာသနာပိုင်က သာမဏေကျော်အားမေတ္တာလက်ဆောင်ချီးမြှင့်နေပုံ။

ကျောင်းတိုက် ပါဠိ တက္ကသိုလ်အိုးဘိုရပ် ရေနံချောင်းမြို့။

အတွင်း ရေးမှူးမှာ ဆ ရာ တော် ဦးသူရိယ (သက္ကသီဟ မွှာစရိယ) ဒေါ်ငွေသစ် ပိဋကတ်တိုက်ထရန် စပို့လမ်း ဗဟန်း ရန်ကုန်မြို့နှင့် တွဲဘက် အတွင်းရေးမှူးမှာ သာသနာ့ ညွှန် ကြား ရေးဝန် ပထမကျော် ဦးကြီးဖေတို့ဖြစ်ကြလေသည်။

## ဆောင်ရွက်ချက်များ

## (အတိုချုပ်)

၁။ စာချတန်း စည်းမျဉ်း။ ၂။ ဂုဏ်ထူးဆောင်စည်းမျဉ်း။ ၃။ ပါဠိတက္ကသိုလ်ဝင်ကျောင်းစာသင် သားဇယား။ ၄။ စာသင်သားကိုယ်တော်တိုင်လက်မှတ် နှင့်ဝင်ခရောက်ခြေရှင်းပြီး ကျမ်း စာရင်း ပုံစံ။ ၅။ နေ့စဉ်စာတက် စာချ စာဝါဇယား ပုံစံ။ ၆။ ကျောင်းဝင် လက်မှတ် ပုံစံ။ ၇။ ကျောင်းထွက်လက်မှတ် ပုံစံ။ ၈။ ပါဠိတက္ကသိုလ်စာချတန်းစာမေးပွဲဝင်ခွင့်တောင်း ပုံစံလွှာ။ ၉ ပါဠိ တက္ကသိုလ် စာချတန်း စာမေးပွဲခုံနံပါတ်ပေးပုံစံလွှာ၊ ၁၀၊ ပါဠိ တက္ကသိုလ် စာမေးပွဲ အမှတ်ပေးပုံစံလွှာ။ ၁၁။ စာချတန်း စာမေးပွဲ စာဖြေစာရွက် ပုံစံ၊ ၁၂။ ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့တံဆိပ်တုံးနှင့် အောင် လက်မှတ်။ ၁၃။ စာ ချ တန်း စာ မေးပွဲ ကို ၁၃၁၅-ခုနှစ်ဘွင်တပေါင်းလ၌ ကျင်းပရန်ကိစ္စ၊ ၁၄ မှ ၁၃၁၄-ခုနှစ် (ယခုနှစ်) စာချတန်းစာမေးပွဲ အတွက် လိုအပ်သမျှ အထွေထွေကိစ္စများ၊ ၁၅။ အက်ဥပဒေ ပြင်ဆင် သင့်သည်တို့ကို ပြင်ဆင်ခဲ့ သည့် ကိစ္စများ။ ၁၆၊ အရေးတကြီးလိုအပ်သော ပြဿနာများကို ဆွေးနွေးဆုံးဖြတ် တော်မူခဲ့ကြခြင်းများ။

## အပြောင်းအလဲများ

မန္တလေးမြို့ စကုတိုက်ပါဠိတက္ကသိုလ်ကိုယ်စားလှယ် ဆရာတော်ဦးသောဘိတသည် ကျန်းမာရေးချို့ယွင်း၍အဖွဲ့မှ နုတ်ထွက်တော်မူသဖြင့် ထိုနေရာ၌ ၎င်းကျောင်းတိုက် တက္ကသိုလ် ကထိက ဆရာတော် ဦး ဇော ဓ လက်ာ ရ အား ၂၉-၁၁-၅၁-မှစ၍ တင်မြှောက်သည်ကို ဗဟိုအဖွဲ့ဝင်ဆရာတော် များက အသိအမှတ်ပြု၍အတည်ပြုတော်မူကြလေသည်။

ရန်ကုန်မြို့ ဆုဘောင်းပြည့် ကျောင်းတိုက် ပါဠိ တက္ကသိုလ် ကိုယ်စားလှယ် ဆရာတော် အရှင် ဇ.ဝိန္ဒာဘိဝံသ သည် သိက္ခာချ၍ လူ့ဘောင်သို့ ကူးပြောင်းသွားပါသဖြင့် ထိုနေရာ၌ ၎င်းကျောင်းတိုက် တက္ကသိုလ် ကထိက ဆရာတော် အရှင်ပညာဓဇကို တအား ၁-၅-၅၂ နေ့မှစ၍ တင်မြှောက်သည်ကို ဗဟို အဖွဲ့ဝင်ဆရာတော် များက အသိ အမှတ်ပြု၍ အတည်ပြုတော်မူခဲ့ကြလေသည်။

## တွဲဘက်အတွင်းရေးမှူး

သာသနာ့ ညွှန်ကြားရေးဝန်ဦးကြီးဖေ (ပထမကျော်) သည် ဝိနိစ္ဆယ ဌာန ပါဠိတက္ကသိုလ်နှင့် မွှာဓရိယဌာနဗဟုဦးဆင်ကျမ်းစာ ပြုစုရေးဌာနနှင့်အခြားသာသနာရေး ကိစ္စ အထွေထွေတို့ကို တွဲဘက် လုပ်ကိုင် နေရသဖြင့် ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့၏တွဲဘက်အတွင်းရေးမှူးနှင့်အကျိုးဆောင်ငွေထိန်းလုပ်ငန်းအတာဝန် ဝတ္တရားများကို လက်ထောက် သာသနာ့ ညွှန်ကြားရေးဝန်ရွှေပြည်တော်ဦးဘတင်အား အမျိုးသား စီးပွါးကိစ္စနှင့် သာသနာ ရေး ဝန်ကြီး ဌာန (သာသနာရေး ဌာနခွဲ)မှ ၁၃၁၄-ခု ဝါခေါင် လဆုတ် ၂-ရက် (၇-၈-၅၂) နေ့၌ဖြင့်ပြန်တမ်းအမှတ် ၅၅- အရ ၁၉၅၂-ခု ဩဂုတ် လ ၁၁-ရက် နေ့မှစ၍ ခန့်ထား ခဲ့သည် ကို ဗဟိုအဖွဲ့ဝင် ဆရာတော် များက အသိအမှတ်ပြုတော်မူခဲ့ကြလေသည်။

---

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ

## သာသနာပြုစာစောင်များ

၁။ သာသနာ့ရောင်ခြည် (သုံးလ တကြိမ်ထုတ်မြန်မာစာစောင်) ဒ်

၂။ ဓမ္မရောင်ခြည် (သုံးလ တကြိမ် ထုတ် အင်္ဂလိပ်စာစောင်) ဒ် ၅၀ ပြား

၃။ သံဃာယနာ (လစဉ် မြန်မာ စာစောင်) ၂၅-ပြား

၄။ သံဃာယနာ (လစဉ် အင်္ဂလိပ် စာစောင်) ၂၅-ပြား

ရနိုင်သောဌာန
နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့
ဟာမစ်တစ်လမ်း၊သာသနာ့ရိပ်သာ
ကုက္ကိုင်း-ရန်ကုန်မြို့။



ပါဠိတက္ကသိုလ်စာချတန်းတွင် ဂုဏ်ထူးနှင့်အောင်သည့် သီလရှင်အား နိုင်ငံတော် သမတကြီးက အောင်လက်မှတ်ချီးမြှင့်နေပုံ။

---

စာမျက်နှာ ၉-မှအဆက်

---

# ရှေ့နေချုပ်ကြီး၏ တင်လျှောက်လွှာ

ဘုရားတပည့်တော် ရိုသေ လေးမြတ်စွာရှိခိုးလျှောက်ထားပါသည် နိုင်ငံတော်ဝိနည်းဓိုရ် ဆရာတော် အရှင်မြတ်များ ဘုရား။

ယနေ့သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်တရားစီရင်ရေးဌာန၏ အချုပ်အခြာဖြစ်သည့် တရားလွှတ်တော် နှစ်ရပ်သက္ကရာဇ် ၁၃၁၅ ခုနှစ်အတွက် စတင်ဖွင့်လှစ်သည့် နေ့ဦး နေ့ထူး ဖြစ်ပါသည် ဘုရား။ ဤနေ့တွင် တရား သူကြီးများနှင့် ရှေ့နေများ ယခု ကဲ့သို့ မူးတွဲ၍ ရွှေတိဂုံစေတီတော် မြတ်ကြီးသို့ လာရောက်ကြပြီးလျှင် ဆရာတော်ဘုရားများ၏ရှေ့တော်မှောက်တွင် ငါးပါးသီလခံယူလျက် ရတနာ သုံးပါးကို ပူဇော်ကန်တော့ကြခြင်းသည် ပြည်ထောင်စုနိုင်ငံတော်၏ တရားမဏ္ဍိုင်ကြီးကို ကြံ့ခိုင်တည်မြဲအောင် ရတနာသုံးပါးကို ဦးထိပ်ထားလျက် တပည့်တော်များ အစွမ်းကုန်အားထုတ် ဆောင်ရွက်သွားကြမည် ဖြစ်ကြောင်းကို ထင်ရှားစွာ ထုတ်ဖော်ရန်ဖြစ်ပါသည်ဘုရား။

ဘုရားတရားသံဃာတည်း ဟူသော ရတနာမြတ်သုံးပါးတို့၏ တန်ခိုးတော်ဇော် မေတ္တာတော် အာနုဘော်တို့ကြောင့်–

တရားသူကြီးများနှင့်ရှေ့နေများသည် တရားမဏ္ဍိုင်ကြီးကို မယိမ်းမယိုင်စေရန် ပါရမီဘက် ကလျာဏမိတ္တများ ဖြစ်ကြသည်နှင့်အညီ မူးတွဲ ထိန်းသိမ်းနိုင်ကြပါစေသတည်း။

တော်ဘည့်ဖြောင့်မတ် မြင့်မြတ် မှန်ကန်သောတရားလမ်းသို့ အစဉ်တစိုက်ပို့နိုင်လိုက်နိုင်ကြပါစေသတည်း။

သတ္တဝါခပ်သိမ်းတို့ ငြိမ်းချမ်းမှု သုခရရာရကြောင်းကို နည်းကောင်း လမ်းပြပြုနိုင်ကြပါစေသတည်း။



R. No. 238





ဆဋ္ဌသင်္ဂါယနာတင် ဂူတော်ကြီးနှင့်
ဆက်စပ်အဆောက်အဦးများ



မုံသိမ်မြို့တွင် အစိုးရပထမပြန်စာမေးပွဲ ကျင်းပနေစဉ်။ (မြန်မာ့အလင်းမှ)



မြောင်မြို့ အစိုးရကျောင်း၌အစိုးရပထမပြန်စာမေးပွဲတွင် ဝင်ရောက်ဖြေဆိုတော်မူကြသောသံဃာတော်များ။ (ဟံသာဝတီ)

## မြေပြန့်ရှိ သံဃာတော် အရှင်မြတ်များသို့

အယ်ဒီတာမှ တဆင့် လျှောက်ထားပါရစေ အရှင်ကောင်းတို့ဘုရား မြန်မာတိုင်းရင်းသား တောင်တန်းကြီးများပေါ်တွင် တောင်ယာစူးထိုးဖြင့် အသက်မွေးပြီးယဉ်နတ်ကို ကိုးကွယ်၍ နေကြသောတိုင်းရင်းသား ညီနောင်တို့မှာအမြင်အားဖြင့် ရိုင်းစိုင်းသည်ဟု ထင်ရသော်လည်း သဘာဝနိုးသားမှု စေတ်ခံ့ကြသဖြင့် တကြိမ်ဘခါ ဟောပြော ဆုံးမပေးရုံမျှပင် ရင်းဘို့၏ မိရိုးဘလာ တနှစ် တကြိမ်တိရစ္ဆာန်ပေါင်း များစွာသတ်ဖြင့်ရင်း၊ အချို့ငွေမျိုးများဖြင့်ပင်ရင်း။ ယဉ်နတ်ပူဇော်သောအယူကိုစွန့်ပြီး ဗုဒ္ဓဘာသာသို့ ဝင်လာကြရုံသာမကဘဲ ယခုလက်ရှိ သာသနာ့ဌာနများနှင့် အလှူခံလက်လှမ်းဝေးကွာလှသော နာဂတောင်တန်း အပါအဝင်ပတ်ကျိုင် တောင်ခြေ ဟိုင်မိနသမှ တိုင်းရင်းသား ညီနောင်များပင် မကြာခဏ ဆိုသလို ဘုန်းကြီး လိုချင်ကြောင်း၊ ကျောင်းဆရာ လိုချင်ကြောင်း လာပြီးတောင်းကြသည်မှာ အလွန်သနားဘွယ်ကောင်းလှပေတော့သည်။ ယခုအခါတွင် နိုင်ငံတော်အစိုးရ ဘောင် တန်းသာသနာပြု အဖွဲ့ကြီးမှလည်း အားပေးကူညီထောက်ပံ့နေသည်မှာ အားရဘွယ်ကောင်းလှ၏၊ ဤကဲ့သို့ နိုင်ငံတော် အစိုးရက သာသနာတော်မြတ်ကြီး အားချီးမြှောက်နေသည်မှာ ထွန်းတောက်စေရန် အဘက်ဘက်မှ အားပေး ကူညီထောက်ပံ့နေသည် အားလျော်စွာ တောင်ခြေဒေသတွင် ခေါင်ရေအဘူမှုးလျက်ပင် ရှိနေသေးသော တိုင်းရင်းသား ညီနောင်များအား သနားသဖြင့် ဘာသာခြား အရောင်မလွှမ်းခင် အချိန်မှီ ကြွရောက် သာသနာပြုကြမည်ဆိုပါက နာဂတောင်တန်းမှာ သာသနာ့ အရောင်လွှမ်းမည်မှာ အမှန်ပင် ဖြစ်ပါလိမ့်မည် ဘုရား၊

ကိုယ်စိတ်နှစ်ဖြာ ချမ်းသာတော်မူကြပါစေ။

မျှော်ဘွယ် ဦးဥတ္တမ
ခိန်းကျူးနယ် သာသနာပြု
နာဂတောင်တန်း

## သံဂါယနာစာစောင်
## စာတည်းအဖွဲ့

၁။ မြန်ကြားရေး ဌာန ဝန်ကြီး ဦးထွန်းဝင်း [ဥက္ကဋ္ဌ]

၂။ နိုင်ငံတော် ရှေ့နေချုပ်ကြီး ဦးချန်ထွန်း (အကျိုးဆောင်)

၃။ တရားဌာန အတွင်းဝန်ဟောင်း စည်သူ ဦးစံညွန့်

၄။ မြန်ကြားရေးဌာနအတွင်းဝန် သီရိပျံချီဦးသန်း

၅။ မြန်ကြားရေးဌာန ညွှန်ကြားရေးဝန် ဝဏ္ဏကျော်ထင် ဦးယော (ဇေယျ)

အယ်ဒီတာ ဦးသာတင် [မာဃ]

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ ထုတ်ဝေသည်။
ဝင်ယ်လီဖုန်း (မြောက်) ၃၉၂။ သာသနာ့ရိပ်သာ-ကုတ်ကိုင်း-ရန်ကုန်

မြန်မာ့အလင်းသတင်းစာ ပုံနှိပ်တိုက်တွင် ပုံနှိပ်သည်၊

# သံဃါယနာ

## အမှန်လေးချက်-ဓမ္မစက်

### ခွဲဝက်ခြင်းရှ-ဆဲ့နှစ်ပြာ



**သေရမည့်ဘေး**

သတ္တဝါဟူသမျှ ဆူးစူးမည်ကို လည်း ကြောက် လန့် ၏။ သို့သော် သေ ဘေး လောက်မကြောက်လန့်။

ရေနစ်မည်ကိုလည်း ကြောက်လန့်၏။ သို့သော် သေဘေး လောက် မကြောက် လန့်။

မီးလောင်မည်ကိုလည်း ကြောက်လန့်၏။သို့သော်သေဘေးလောက်မကြောက် လန့်၊

မြွေကိုက်မည် ကိုလည်း ကြောက်လန့်၏။သို့သော်သေဘေးလောက်မကြောက် လန့်။

မေ့ခတ်ကား တိုက်မည်ကို လည်း ကြောက်လန့်၏။ သို့သော် သေ ဘေး လောက်မကြောက်လန့်၊

ကျွမ်းဂန်လာ ဘေးနှစ်ဆယ့် ငါးပါးမှ စ၍ ရာထောင်မက များပြား လှ သော ဘေးကြီး—ဘေးငယ် အသွယ်သွယ်တို့ကို ကြောက် လန့်ကြသည်မှာ မှန်ပါ၏။ သို့ သော် သေရမည့်ဘေးထက်ကြောက်လန့် ဘွယ်ကောင်းသည်ဟု ထင် မှတ် သော ဘေးဟူ၍မရှိ၊

ဆင်းရဲသူ၊ ချမ်းသာသူ၊ အဆင်းလှသူ အရုပ်ဆိုးသူ၊ အာဏာရှိသူ ၊ အာဏာမဲ့ သူပညာရှိသူ၊ ပညာမဲ့သူ၊ တန်းခိုးနည်း သူ တန်ခိုးကြီးသူမှစ၍ သေဘေးမှ မ ကြောက်သောသတ္တဝါတဦးမျှမရှိချေ၊ ထို ကြောင့် သဗ္ဗေဘာ ယန္တိ^မစ္စုနော ဟု ဟောကြားတော်မူခြင်းဖြစ်လေသည်။

မှတ်ချက်။ ။ဤနေရာတွင်ဆင်အာဇာနည် မြင်းအာဇာနည် နွားလား ဥသဘ အာဇာနည် ဒီဃာ သ ဝ (ရဟန္တာ)တို့သည် သေရမည် ကိုမကြောက်ဘူးဟူ၍ ကျမ်းဂန် များ၌ မိန့် ဆို တော် မူ ကြ သည့် မဟုတ်ပါလောဟု စောဒက ဝင် ဘွယ်ရှိ၏။ ဤစောဒကအရအာ ဇာနည်သုံးဦးတို့မှာသက္ကာယဒိဋ္ဌိ အားကြီးလွန်းသောကြောင့် ငြင်း ဒီဃာသဝမှာဒေါသကိုပယ်ပြီးဖြစ် သည့်ပြင် မသေရမည့်သူမရှိသည် ကို မြင်ပြီး ဖြစ်သောကြောင့် ငြင်း မကြောက် မလန့် ကြကြောင်းနှင့် အင်္ဂုကထာ ဆရာကြီး က ဖြေကြားတော်မူနိုင်ပြီး ဖြစ်လေသည်၊

ပုပ္ပုဋ္ဌသတ္တဝါဟူသမျှတို့ တွင် မသေရ မည့် ႏ တ္တဝါ သေဘေး က ကင်း လွတ် သောသတ္တဝါဟုမရှိကြချေ၊ပြေး၍လည်းမ လွတ်ပုန်း၍ လည်း မရ ခုခံ တိုက်ခိုက် ၍ လည်းမဖြစ်မှုချ သေရမည့် သတ္တဝါ ချည်း သာတည်း၊

**အသေကြီးအသေကလေး**

အသေကြီးမသေမီအသေ ကလေးအ နေနှင့်လည်းသေကြရမည့် သတ္တဝါ ချည့် သာတည်း၊နာရီမလွတ်၊မိနစ်မလွတ်စက္ကန့် မလွတ်အသေကလေး သေ၍ နေရသည် ကိုကားသတ္တဝါတို့သည် ပကတိ မျက်စေ့ ဖြင့် မ မြင် နိုင် ကြ ကုန်၊ ပ ညာ မျက် စေ့ဖြင့်သာ မြင် နိုင် ကြ ကုန် ၏။ တ အောင့် ကလေးအတွင်း တမှိတ် ကလေး အတွင်းမှာပင် အကြိမ်ပေါင်းများစွာ အ သေကလေး သေ၍ နေသဖြင့် နောက်ဆုံး တွင် အသေကြီး ဘဝသို့ကူးပြောင်းကြရ ကုန်၏။ ဤအချက်ကို ရည်ရွယ်၍ မာန် လည် ဆရာတော်ဘုရားကြီး၏ မဃဒေဝ လင်္ကာသစ်ကြီး၌—

တအော င့်တမှိတ်၊တဆိတ်ဆိတ် ဖြင့်၊ ငြိတ်ငြိတ်ရွေ့သွား၊ နေအ လားသို့၊ သုံးပါးချက်တိုင်း၊ရုပ်မ ဆိုင်းဘဲ၊သင်းချိုင်းရှေ့ရှူ၊ ပြေးဧမူ သား၊ ဤ လူပေါ်ယယ်၊ မျ ားကြီး ငယ်တို့၊ကိုယ့်ငယ်ဖြစ်ခြင်း၊ကိုယ့် ကြောင်းနှင်းကို။

ဟူ၍ငှင်း။

လှပ်စစ်တပြက်၊လက်တဖျက် ၌၊ ဖြစ်ပျက်အနေ၊ နာမ်ရုပ်သေ တို့၊ ကုဋေတသိန်း၊ရေကိန်းတမျိုး စုပုံရသော်၊ ကောသလထုံး၊တိုင်း သုံးမှတ်ခြင်း၊ တင်းရှစ်ဆယ်ဝင်၊ အကြင်ခေါ်ဝေါ်၊ ရာကျော်လှည်း ပေါင်း၊တင်လောက်ကောင်းသား၊ တသောင်းပုံပြု၊ စပါးစုထက်၊ အ ထု များစွာ၊ ကေရာဟု၊ ကျမ်း လာမဆိုက်၊ ဝိဂ ရိတ်တည့်၊ အနိစ္စ တာ၊ လက္ခဏာကို၊ အာကာမိုး ပြင်၊နေလသွင်သို့၊ ဒ ထင်အရှား၊ အမြင်သားလျက်။

ဟူ၍ငှင်း။ ရေးသား မိန့်ဆိုတော် မူခဲ့လေ သည်။

**သေဘေးလွတ်ကြောင်း**

ထို့ကြောင့်သေရမည့်ဘေးမှ လွတ်ရာ လွတ်ကြောင်းဖြစ်သော တရားကောင်း တရား စင်ကို ကိုယ် တိုင်လည်း သိ မြင် တော်မူ၍ နို သူတပါး ကိုလည်း ဟောပြ ရန် ဟူသော ရည်ရွယ်ချက်တော်ကြီးဖြင့် လေးသင်္ချေနှင့်ကမ္ဘာတသိန်း ကာလ ပဝ

အတွဲ-၁၊ အမှတ်-၄၊
၁၃၁၅-ခု ဒုတိယ-ဝါဆိုလ
အဘိုး ၂၅-ပြား

သုံး ကြိမ်စာ၊ အားထုတ် တော်မူပြီးနေ့၏ နောက်ဆုံးအချိန် ဗုဒ္ဓဂယာ မဟာ ဗောဓိပင် အောက်ဝယ် ပိုင်ပိုင်ကြီးသိမြင်တော် မူသောအဖြစ်သို့ ဆိုက်ရောက်တော် မူခဲ့လေသည်။ သိမြင်တော်မူသည့် တရားတော်ကိုလည်း တရားဦးအနေနှင့် ဝါဆိုလပြည့်နေ့ဝယ် ရဟန်းတော် ငါးပါးတို့အား ဟောကြားတော်မူခဲ့လေသည်။ ထိုတရားတော်ကြီးကား သစ္စာလေးပါး တရားတော်မြတ်ကြီးပင် ဖြစ်ပါပေသည် တကား။ (ဝါ) ဓမ္မစကြာ သုတ္တန်ဒေသနာ တော်ကြီးပင်ဖြစ်ပါပေသည်တကား။

# အရပ်သုံး စကား နှင့် ဓမ္မစကြာ ဘာသာပြန်

## ဆင်းရဲအမှန်

ချစ်သားတို့ ဟောဒါကတော့ ဆင်းရဲဆိုတဲ့ အရိယာသိတရားအမှန်ဘဲ၊ (ဘာလဲဆိုတော့) ဖြစ်ပေါ်ရတာဟာလဲ (ပဋိသန္ဓေနေရတာဟာလဲ) ဆင်းရဲဘဲ (မချမ်းသာဘူး)။ အိုရတာဟာလဲဆင်းရဲဘဲ၊ နာရတယ်ဆိုတာဟာလဲ ဆင်းရဲဘဲ၊ သေရတယ်ဆိုတာဟာလဲ ဆင်းရဲဘဲ၊ မချစ်တဲ့ဟာတွေနဲ့ ပေါင်းဖက်တွဲရတာဟာလဲဆင်းရဲဘဲ ချစ်ခင်မြတ်နိုးရတာဟာလဲဆင်းရဲဘဲ၊ လိုရင်းကတော့ စွဲလမ်းချက်ရဲ့ ကျက်စားရာဖြစ်တဲ့ ငါးပုံတရားစုဟာလဲ ဆင်းရဲပဲပါဘဲ၊ အဲ့ဒါတွေဟာဆင်းရဲပါကလားဆိုတဲ့ အရိယာသိ တရားအမှန်တွေပါဘဲ။

## ဆင်းရဲကြောင်းအမှန်

ချစ်သားတို့ ဟောဒါကတော့ ဆင်းရဲကြောင်းဖြစ်တဲ့ အရိယာသိတရား အမှန်ဘဲ (ဘာလဲဆိုတော့) ဘဝသစ်ကို ပြုလေ့ရှိတဲ့ နှစ်သက်တာ တပ်မက်တာနဲ့ ကျွဖြစ်တဲ့ ဖြစ်ရာဘဝထိုထိုမှာ အင်မတန် နှစ်သက်တတ်တဲ့ သည်တဏှာဆိုတဲ့ တရားဟာ ကာမကို တပ်မက်တာရယ်၊ ဘဝကိုတပ်မက် တာရယ်၊ ဝိဘဝ (ဘဝမရှိတာ) ကို တပ်မက်တာရယ်လို့ သုံးပါးရှိတယ်၊ အဲ့သည်တဏှာဟာ ဒုက္ခဖြစ်ကြောင်းပါကလားဆိုတဲ့ အရိယာသိ တရားအမှန်ဘဲ။

## ဆင်းရဲချုပ်ရာအမှန်

ချစ်သားတို့ ဟောဒါကတော့ ဆင်းရဲချုပ်ရာဖြစ်တဲ့ အရိယာသိတရားအမှန်ဘဲ (ဘာလဲဆိုတော့) သည်တဏှာ ဆိုတဲ့ တဏှာရဲ့ မကြွင်းမကျန် ကင်းရာ၊ ချုပ်ရာ၊ စွန့်ရာ၊ လွတ်လွတ်ကြီးစွန့်ရာ လွတ်ကင်းရာ မကပ်ငြိရာ (အာလယမရှိရာ) ဆိုတဲ့ နိဗ္ဗာန်ဟာ ဆင်းရဲချုပ်ရာဖြစ်တဲ့ အရိယာသိတရားအမှန်ပါဘဲ။

## ဆင်းရဲချုပ်ကြောင်းအမှန်

ချစ်သားတို့ဟောဒါကတော့ ဆင်းရဲချုပ်ရာ (နိဗ္ဗာန်) သို့ ရောက်ကြောင်းအကျင့်ဖြစ်တဲ့ အရိယာသိတရားအမှန်ပါဘဲ (တကယ့်အမှန်ပင်ဖြစ်သော) မြင့်မြတ်တဲ့ မဂ္ဂင်ကြောင်း ကြီးဟာ အင်္ဂါရှစ်ပါး ရှိတယ်၊ (ဘာလဲဆိုတော့) အမှန်ကို သိတာရယ်၊ အမှန်ကိုကြံတာရယ်၊ အမှန်ကိုပြောတာရယ်၊ အမှန်ကိုပြုတာရယ်၊ အမှန်အတိုင်း အသက်မွေးတာရယ်၊ အမှန်အတိုင်းအားထုတ်တာရယ်၊ အမှန်ကို အောက်မေ့တာရယ်၊ အမှန်အတိုင်း တည်ကြည်တာရယ်လို့ ဆိုတဲ့ ဒီရှစ်ပါးဟာ ဒုက္ခချုပ်ရာရောက်ကြောင်းအကျင့်ဖြစ်တဲ့ အရိယာသိတရား အမှန်ပါဘဲ။

## (၁-က) သစ္စဉာဏ်

ချစ်သားတို့ဟောဒါ-ဆင်းရဲဆိုတဲ့အရိယာသိတရား အမှန်ဘဲလို့ ငါ့ရှေ့က မကြားဘူးတဲ့ တရား တွေပေါ်မှာ မျက်စိ ပွင့်ခဲ့ပြီ (ဝါ မြင်ခဲ့ရပြီ) ဉာဏ်ထင်ခဲ့ပြီ ပညာပေါ်ခဲ့ရပြီ ၊ ထိုးထွင်းခဲ့ပြီ၊ အလင်းရခဲ့ပြီ။

## (၁-ခ) ကိစ္စဉာဏ်

ချစ်သားတို့၊ အဲဒီ ဆင်းရဲအမှန်ကိုသိ ထိုက်တယ်လို့ (သိစကောင်းတယ် လို့) ငါ့ရှေ့က မကြားဘူးတဲ့ တရားတွေ ပေါ်မှာ မျက်စိ ပွင့်ခဲ့ရပြီ၊ (ဝါ၊ မြင်ခဲ့ရပြီ) ပညာပေါ်ခဲ့ရပြီ၊ (ဝါ နိုက်နှဲခဲ့ရပြီ) အလင်းရခဲ့ပြီ။

## (၁-ဂ) ကတဉာဏ်

ချစ်သားတို့ အဲဒီဆင်းရဲအမှန်ကို သိပြီးပြီ လို့ ငါ့ရှေ့က မကြားဘူးတဲ့ တရားတွေပေါ်မှာ မျက်စိ ပွင့် ခဲ့ရပြီ (ဝါ မြင်ခဲ့ရပြီ) ပညာပေါ်ခဲ့ရပြီ (ဝါ နိုက်နှဲ ခဲ့ရပြီ) အလင်းရခဲ့ပြီ၊

> မှတ်ချက် စက္ခုံ ဉဒပါဒိ ဗိတိဒ သနန္ဒ္ဓနေ—ဟူးသောအင်္ဂကထာအရ (ဝါ မြင်ခဲ့ရပြီ) ဟု တမျိုး ပြန်လိုက်ခြင်းဖြစ်သည်။

## အခြင်းအရာ ၁၂ ပါး

(၂) ဆင်းရဲကြောင်း အမှန် (၃) ချုပ်ငြိမ်းရာအမှန် (၄) ချုပ်ငြိမ်းကြောင်းအမှန်ဟူသောကျန်အမှန်တရား ၃ မျိုးတို့၌လည်း၌ကဲ့သို့ပင် (က) အရိယာသိတရားအမှန်ဘဲဟုသိပုံ၊ (ခ) သိထိုက်တယ် (သိစကောင်းတယ်) ဟုသိပုံ၊ (ဂ) သိပြီးပြီဟု သိပုံများ သုံးမျိုးစီ ဖြစ် သောကြောင့် သုံးလေးလီတဆဲ့နှစ်ဖြစ်၏။ ၎င်းတို့ကို ခြင်းရာ ၁၂ ပါး (ဒွါဒသာ-ကာရ) ဟုခေါ်သည်၊ သိပုံ ၁၂ ပါးဟုလို၊

## ဘုရားဟုဝန်မခံပုံ

ချစ်သားတို့ ငါဟာ အဲဒီအမှန် လေးချက်တွေမှာ အဲ့ဒီလို အပြန် သုံးချက် (လည်ပတ်လည်ပုံသုံးမျိုး) ခြင်းရာ ၁၂ ချက်နဲ့ ဟုတ်မှန်တဲ့ အတိုင်း အသိ အမြင်မစင်ကြယ်သေးဘူးဆိုပါတော့၊ ချစ်သား တို့၊ အဲ့သလို မသိသေး သမျှ ငါဟာ နတ် အပါအဝင် မာရ် အပါအဝင်ဗြဟ္မာအပါအဝင်ဖြစ်တဲ့ လောကထဲမှာ ရဟန်းရှေ ပုဏ္ဏားရော၊မင်းရော၊လူရောအပါအဝင် ဖြစ်တဲ့သတ္တဝါထဲ မှာအတုမရှိတဲ့ (မြင့်မြတ်တဲ့) ကောင်းမွန် မှန်ကန်တဲ့ အသိ (သမ္မာသမ္ဗောဓိ) ကို ကျွန်တော်ပြီးသိပြီလို့ (ထိုးထွင်းသိမြင်ပြီလို့) ဝန်မခံခဲ့ကို မဟုတ်ပါ။

## ဘုရာ ဟုဝန်ခံပုံ

ချစ်သားတို့ ငါဟာ အဲ့ဒီ အမှန်လေး ချက်တွေပေါ် မှာ ဒီလို အပြန် သုံးချက် ခြင်းရာ ၁၂ ချက်နဲ့ဟုတ်မှန်တိုင်း အသိ အမြင် နတ်အပါအဝင်၊ လေး၊ ကျေး လွန် ပြီး၊ သိပြီ (ထိုးထွင်း သိမြင်ပြီ) လို့ ဝန်ခံတော်မူရာတာပါ။

## ပစ္စဝေက္ခဏာဉာဏ်

အသိ အမြင် ကလဲ ပေါ်ခဲ့တယ် (သဘော လဲပေါက်ခဲ့ သေးတယ်) (ဘယ်လို ပေါ်ပေါက်ခဲ့သေးသလဲ ဆိုကော့) ငါရဲ့ လွတ်ငြိမ်းရေးဟာဖြင့် မပျက်စီးတော့ဘူး (တနည်း ဆန့်ကျင်ဘက် တရား တွေက မဖျက်ဆီးနိုင်တော့ဘူး) ဒီဟာ (ဒီကိုယ်ရဲ့ ဖြစ်ဟာ) နောက်ဆုံးအဖြစ်ဘဲ၊ ခုဖြင့် တဖန်ဖြစ်ဘို့ (တဖြစ်လဲဘို့) မရှိတော့ဘူးလို့ သဘောပေါ်ပေါက်ခဲ့တယ်၊ (သဘောပေါက်ခဲ့တယ်)။

## ဝမ်းသာကြခြင်း

ဘုရားရှင်သည် ဤ တရား ကြောက်ကို ဟောတော်မူလေရာ ရဟန်းငါးဦးတို့သည် ဝမ်းသာကြပြီးသကာလ အားရဝမ်းသာ ဘုရားရှင် ဟောကြားချက်ကို အင်မတန် နှစ်ခြိုက်ကြ လေတော့သတည်း၊

## အရှင်ကောဏ္ဍည

ဤ စကားပြေကို ဟောကြား လိုက်သော်အရှင်ကောဏ္ဍညအဘို့မြင်းသည့် အညစ်ကင်းသည့်တရားမျက်စိ (ဓမ္မစက္ခု) ဖြစ်ပေါ်ခဲ့လေ၏၊ ဖြစ်ပေါ်ပုံကား ဘာမဆိုအဖြစ် တရားမှန်သမျှ ချုပ်ငြိမ်းမှာပါကလား ဟူ၍ဖြစ်ပေါ်ခဲ့လေသတည်း။

မှတ်ချက်။ နောက်တို့ကြွေးကြော်ပုံ၊ မြေလျှပ်ပုံများကို စာမဆန့်မည်စိုး၍ချန်ခဲ့သည်။

## ဥဒါန်းကျူးရင့်ခြင်း

ထိုအခါ ဘုန်းတော်ကြီး ဘုရားသည် ဤကျူးရင့်ချက်ကို ကျူးရင့်တော်မူလေ၏ (ကျူးရင့်ပုံကား) ကွယ်ရို့.....ကောဏ္ဍည ဖြင့်တကယ့်ကိုသဘောကျသွားပြီ။ ကွယ်ရို့၊ ကောဏ္ဍညတော့ တကယ့်ကို သဘောပေါက် သွားပြီ ဟု ကျူးရင့်တော်မူလေ၏။

## အညာသိကောဏ္ဍည

ဤ (ဥဒါန်းကျူးရင့်မှု) ကြောင့်ပင်အရှင်ကောဏ္ဍညအားသဘောပေါက်သော ကောဏ္ဍည (အညာသိ ကောဏ္ဍည) ဟု သာလျှင် အမည်တွင်လေတော့၏။

ထိုအခါ အရှင်အညာသိ ကောဏ္ဍညသည် မြင်ပြီးသော တရား သဘော၊ ရပြီး သော တရား သဘော၊ သက်ဝင်ပြီး သောတရားသဘော၊ ကူးမြောက်ပြီးသော ယုံမှားမှု (ယုံကြည်မှု) သဘော [ဝါ၊ မယုံကြည်ချက်ကို ကူးမြောက်ပြီးသော သဘော] ကင်းပြီးသောအင်ဘော င်၌၌ တွေးတောမှုသဘော [ထသင်ချ မပိုင်းနိုင်မှုကင်းကွာသောသဘော] ပေါ်လာပြီဖြစ်၍ ဆရာ ဆုံးမချက်အတွင်း၌ (ဝါ၊ ဘုရာ သာသနာအတွင်း၌) ရဲရင့်ခြင်းသို့ ရောက်ပြီ ဖြစ်၍ ဘုရားမှ တပါး တ ပါး ဘုရား ဟူသော ယုံကြည်ချက်မျိုး မဖြစ်တော့ပြီဖြစ်၍ ဘုရားရှင်ကိုဤသို့လျှောက် ၏။ လျှောက်ပုံကား—

အရှင်ဘုရားတပည့်တော်ဟာအရှင်ဘုရားရဲ့အထံတော်မှာ ရှင်အဖြစ်ကို ရလိုပါတယ်၊ ပဉ္စင်းအဖြစ်ကို ရလိုပါတယ် ဟု လျှောက်၏။

ရမည့်အဖြစ်

ချစ်သား လာခဲ့၊ ငါဟာ တရားကို ကောင်းကောင်း ဟောပြီးပြီ ဆင်းရဲအဆုံးကိုရောက်ရေးအတွက် ကောင်းမွန်တဲ့ အကျင့်မြတ် (အသက်ပြင်ပါး) ကိုကျင့် လေ ဦးဟု မိန့်တော်မူ၏။ သို့အရှင် အညာသိကောဏ္ဍညအားထိုရဟန်းပဉ္စင်း အဖြစ် ပြည့်စုံမှုသည်း ဖြစ်လေသတည်း။

[ဤဘာသာပြန်ကို ယခင် အတွဲ ၁ အမှတ် ၃ တရားစာ ၇ ၇ တနာ ဆောင်း ပါးနှင့်တွဲ ကြည့်ပါ]။

# ရှင်းလင်းချက်များ အတိုကောက်

## အသိ-စက်-လည်တရား

ဓမ္မစက္ကပဝတ္တနကို ပါဠိမှက်အားဖြင့် ဓမ္မစကြာဟု ခေါ်ခေါ်ကြ၏။ (အသိစက်—လည်) တရားဟုဆိုလိုရင်း ဖြစ်၏၊ အသိ (ဉာဏ်) သည်သည်၊ အချုပ်အားဖြင့် (၁) ထိုးထွင်းဉာဏ်၊ (၂) အဟောဉာဏ် ဟု နှစ်မျိုး ရှိသည်၊ ဗောဓိပင် အောက်၌ အသိပေါ်ခဲ့၏၊ မိဂဒါဝုန်၌ (အဟောဉာဏ်) ပေါ်ခဲ့၏၊ ဗောဓိပင်အောက်၌ အသိစက် လည်တော်မူခဲ့ ပြီးလျှင် မိဂဒါဝုန်၌အသိစက် လည်တော်မူ၏။

## ဓမ္မစကြာသုတ်အကျယ်

လက်ရှိဓမ္မစကြာ သုတ်သည် အကျဉ်းမျှသာ ဖြစ်၏၊ လုံရင်မျှသာဖြစ်၏၊ သူသူငါငါ့တို့ သွက်သွက်နှင့် ရွတ်လျှင် ၁၅ မိနစ်အတွင်းမှာပင် ပြီးစီးနိုင်၏။ အကျယ်ကားအဘယ်မျှရှိသနည်း။

ကျွန်ုပ်တို့ အလိုအားဖြင့် မဟာသတိပဋ္ဌာန် သုတ် တော်၌ သစ္စပဗ္ဗ သည် (သို့မဟုတ်) သစ္စပဗ္ဗ လာ သဘော မျိုးသည် အကျယ်ဖြစ်မည်ဟု ထင်မှတ် ယုံကြည်၏။

ဆရာဆရာကြီးတို့၏ အလိုအားဖြင့် ကားပဋိသမ္ဘိဒါ မဂ်ပါဠိတော် ပဋိသမ္ဘိဒါ ကထာ စ မျက်နှာ ၂၉၈—၂၉၉စသည်တို့၌လာသော သစ္စာလေးပါး တရားတို့၌ဖြစ်သည့်အတ္ထပဋိ သမ္ဘိဒါဉာဏ် ပါး၊ ဓမ္မပဋိသမ္ဘိဒါဉာဏ် ပေါင်း ၆၀၊ နိရုတ္တိပဋိ သမ္ဘိဒါဉာဏ် ပေါင်း ၁၂၀၊ ပဋိဘာန ပဋိ သမ္ဘိဒါဉာဏ် ပေါင်း ၂၄၀ (အားလုံးပေါင်း ၄၈၀) တို့ကို ယူတော်မူကုန်၏။ အသေးစိတ်ရတွက်ပုံများကို ၎င်း၌ ကြည့်ပါ။ (အယူနှစ်မျိုးလုံး ပေါင်းစပ်၍ ယူလျှင်လည်းသင့်မည်ပင်။)

## အနုဗောဓ-ပဋိဝေဓသို့

အမှန်လေးချက်တို့ကိုသိရာ၌အနုဗောဓသိပဋိဝေဓသိဟု နှစ်မျိုးရှိ၏၊ အနုဗောဓသိကားပုထုဇဉ်တို့၏ ဓမ္မကိုအသိမျိုးသာတည်း၊ ပဋိဝေဓဉာဏ်ကား အရိယာပုဂ္ဂိုလ်တို့၏ လောကုတ္တရာ အသိ မျိုးပေတည်း၊ ဗုဒ္ဓဘာသာဝင်သည် အနုဗောဓသိကို ပီးစွာအောင် ကြိုးစား ကြပြီးနောက် ပဋိဝေဓသို့ တက်လှမ်း နိုင်ကြပါစေသော်။

[မ ၁ သ]



၁၃၁၅–ခု၊ (ဒုတိယ) ဝါဆိုလ၊ အတွဲ ၁၊ အမှတ် ၄၊

## သံဃာ့ယနာကိစ္စကိုသဘောထားနည်း

ယခုအခါနိုင်ငံတော် မှုခွဲ သာသနာအရေးမှ ကြီးမှူး၍ တင်လတံ့ဖြစ်သော ဆဋ္ဌသံဃာယနာကိစ္စကြီးကို အကြောင်းပြု၍ တဦးတယောက် အနေအားဖြင့်၎င်း၊ အသင်းအဖွဲ့အနေအားဖြင့်၎င်း၊ စာတန်းချက်များ၊ ပြစ်တင်ချက်များ၊ ချီးကျူးချက်များမှစ၍ အမျိုးမျိုးသင် ပြောကြ၊ ရေးကြသည်များကို ကြားရ ဘတ်ရ ပေသည်။ ပြောနိုင်ခွင့် ရေးနိုင်ခွင့်ရှိ၍ ပြောကြ ရေးကြသော်လည်း အချို့က စိတ် စေတနာ ဖြူစင်စွာဖြင့် ပြောကြ ရေးကြပုံများကို ကြားရ ဘတ်ရပေသည်။ အချို့ကမူ ဘာသာရေးသက်သက်မဟုတ် စိတ်စေတနာ မဖြူစင်မှု၊ မရိုးသားမှုလက္ခဏာများနှင့်တကွ ပြောကြ ရေးကြသည်များကို ကြားရ ဘတ်ရပေသည်။

သံဃာ့ယနာကိစ္စမှာသာမဟုတ်၊ မည်သည့် အရေးကိစ္စမှာမဆို စေတနာထားပုံသည် လွန်စွာအရေးကြီးပေ၏၊ စေတနာထားပုံ ဖြူစင် မှန်ကန်ခဲ့ပါလျှင် ပြောမှားရေးမှားရှိစေဦးတော့ ခံသာသေးသည်ဟုဆိုရပေမည်။ စေတနာထားပုံ မဖြူစင် မဖြောင့်မှန်မှုကားအမှန်အကန်ကိုပင်ပြောကြား ရေးသားစေဦးတော့ ချီးမွမ်းထိုက်သည်မဟုတ်ချေ။ အပြုလုပ်ငန်းမဟုတ်ဘဲ အဖျက် လုပ်ငန်း သဘောသို့သာ သက်ရောက်ဘို့သာအကြောင်းရှိလေသည်။

သံဃာ့ယနာကိစ္စမှာ နိုင်ငံရေးသည်း မဟုတ်ချေ။ စီးပွားရေးလည်း မဟုတ်ချေ။ လူမျိုးရေးလည်းမဟုတ်ချေ။ ဘာသာရေး သက်သက် သာလျှင် ဖြစ်ပေသည်။ ဘာသာရေး သက်သက်ဖြစ်သည့် အားလျော်စွာ ဘာသာရေး သက်သက်ကို ရည်စူးသည့် စိတ် စေတနာ တို့ ဖြင့် ပြစ်တင်မှု (သို့မဟုတ်) ချီးကျူးမှုပြုသည်ဆိုပါကသင့်လျော်သော ပြုမူချက်မျိုး ဖြစ်သည်ဟုဆိုရပေမည်။

တချက်လည်း ရှိသေး၏၊ သံဃာ့ယနာတင်သည်ဆိုသောကိစ္စမှာ လွန်စွာကျယ်ပြန့်နက်နဲသည့်ဘာသာရေးကိစ္စကြီးတမျိုးဖြစ်သည်ကိုလည်း သတိပြုဘို့လို ပေသည် ကျယ်ဝန်းပြန့်ပြူးသည်နှင့် အမျှ ဘာသာရေး သမားရှိသမျှ တို့၏ အကြိုက် များသ ဘောထားများ လိုလားချက်များ နှင့် တခုမကျန်တိုက်ဆိုင် ညီညွတ် မိဘို့ ရန်ကားခဲယဉ်းလှပေလိမ့်မည်၊ သို့ပါ၍ချီးကျူးမှုကဲ့ရဲ့မှုမပြုမီအကောင်းတွေများသလား အဆိုးတွေများ သလားဟု ပဋိမ ကြိုတင်ချင်းစားဘို့လိုပေသည်။ အပြစ်ရှာအနာတွေ့ဟူသကဲ့သို့အကောင်းအမှန် ဟူသမျှကိုမမြင်နိုင်ဘဲ အနည်း ငယ်မျှ လောက်သော အပြစ်အနာ အဆာမျိုးကိုသာ လျှင်ထုတ်ဖေါ်၍ ဖျက်လိုဖျက်ဆီး ပြုမည်ဆိုပါကဘာရားမည်မဟုတ်ချေ။

ဥပမာ ယခုတင်မည့်သံဃာ့ယနာသည် အဋ္ဌကထာဋီကာ ကိစ္စကို အဓိ က ထား၍ တင်မည် ဖြစ်သည့်အတိုင်း အရာမတာ၊ အထောင်မဟာ အ ဓိသဘော မကအသိန်မကများပြားလှစွာသောပုဒ်—ပါဠိအက္ခရာသင်္ချာအနေအထားတို့ကို အနက်မှန်သို့ရောက်အောင်တည်းဖြတ်သုတ်သင်ရမည်ဖြစ်ရာ မလွယ်ကူလှသော ကိစ္စကြီးတရပ်ဖြစ်ရပေတော့သည်၊ ယခုတင်လတံ့ဖြစ်သောသင်္ဂါယနာ ဆရာတော်တို့တွင် သတိသမ္မာသ မောဟာဂတိ ကိုရှောင်ရှား နိုင်သည့် ဆရာတော်များသာဖြစ်ပါ ပေသည်ဟု မည်သူကမျှလည်း မပြောမရေး၊ ပြောလျှင်ရေးလျှင်လည်း၊ မည်သူကမျှ ယုံမည်'မဟုတ်၊ ထို့ကြောင့် ရောက်နိုင်ခဲ့လှစွာသော ရွှေဘောင်ကြီးသို့ ရောက်နေရပါလျက် ရွှေတောင် ကြီး ခြေရင်းရှိ မီးသွေးကျောက်ကိုသာ ကောက်ယူခဲ့ သဖြင့်အကျိုးမရှိနိုင်သကဲ့သို့ အလွန် ကောင်းမွန်မြင့်မြတ်သော ဆဋ္ဌသံဂါ ယနာ ကိစ္စကြီးအတွက် မပြောပလောက် သော အပြစ်အနာ အဆာ ကလေးများကို ပြောဆိုရေးသားနေခြင်းဖြင့်အကျိုးရှိမည်မဟုတ်ပေဘူး ဟု သဘောထားကြမည် ဆိုပါလျှင်အကောင်းဆုံးသော သဘော ထားမျိုးဖြစ်မည် ထင်ကြောင်း ကို ရေးသားလိုက်ရပေသတည်း။

## သူတော်ကောင်းတရား ကွယ်ပျောက်မှု

လေးသင်္ချေနှင့် ကမ္ဘာတသိန်းကာလပတ်လုံး ကြီးစွာသော လုံ့လတော်ဖြင့် ရှာကြံတော်မူမှသိတော်မူအပ်သောသာသနာတော်မြတ်တည်းဟူသော ရတနာထက် ရတနာကို လွယ်ကူပျောက်ပျက်မကွယ်စေကောင်းဟု ထောက်ရှုစာနာသင့်ရာ၏။ အက္ခရာပုဒ် ဗျည်းတို့ကို မကောင်းသဖြင့် ထားခြင်း၊ အနက် အဓိပ္ပာယ် တို့ကိုလည်း မကောင်းသဖြင့် ထားခြင်းတရား နှစ်ပါးတို့ကြောင့် ဝိနီကတ်သုံးပုံ တည်းဟူသော သူတော်ကောင်းတရားသည် တိမ်မြုပ်ကွယ်ပျောက်ခြင်းသို့ ရောက်သည်၏ အဖြစ်ကို ဂုဏ်သိပါတ်အင်္ဂုတ္တိုရ်ပါဠိတော်၌ဟောကြားတော်မူ၏။

အင်္ဂုတ္တိုရ် ဆရာတော်

## မြန်မာပြည်မြောက်ပိုင်းမှ ပွဲကျောင်းသာသနာပြုပြင်ရေး



ရှမ်း၊ တရုတ်နွာ၌ ကျောင်းဆိုင် လျက်ရှိသောပွဲကျောင်းဘုန်းကြီး ကော်ရိယ၏ပုံ

ရေးသူ အသျှင်ဦးဥတ္တမသာရ
[ တောင်တန်းနယ်ခြား သာသနာပြု ခေါင်းဆောင် ]

### ရဟန်းဆိုတာ

ရဟန်း ပုဂ္ဂိုလ်ဆိုသည်ကား အကြင် တရားကို ကြည်ရှောင်၍ အကျင့် တရားသို့ သက်ဝင်ပြီး သည်းခံခြင်း၊ ချီးခြင်း ၂ ဝါးလျှင်အမှီသဟဲ့ ပြုလျက် လော က သံသရာ ဆင်းရဲအားလုံးမှ ထွက်မြောက် ရာ နိဗ္ဗာန်ကိုသာ ရည်မျှော်တောင့် တသွားလာနေကြသော ပုဂ္ဂိုလ် တမျိုး ဟူ၍ အဓိပ္ပါယ် ရှိလေသည်။ ကမ္ဘာ ပေါ်ရှိ အရပ်ရပ်သောတိုင်းပြည်မှ အသီးသီး သော လူမျိုး တို့၏ ဆင်းရဲမှ ထွက် မြောက် ကြောင်း ဟူ၍ ကြံ ဆ ခြင်း၊ ချီးခြင်း၊ ကြည်ခြင်း၊ ကျင့်ခြင်း တို့နှင့် စာနာ လျှင် မြန်မာ ရဟန်းပုဂ္ဂိုလ်တို့ကိုကား အ လှမ်း ကွာခွာမှိုနိုင်ကြချေ။ တကယ် စာနာမှ တကယ် ကွာကြောင်းသိကြပေမည်။

### ထင်ဘွယ်ရှိပေသည်

ဘာသာတရားများတွင်လည်း မြန်မာ ရဟန်းသံဃာတော်တို့ ခံယူခဲ့ကြသောမုဒ္ဓဘာသာကား ထေရဝါဒဗုဒ္ဓဘာသာ ဖြစ်၍လရာမလိုရာ၌လွှန်ကဲခြင်းကိုရင်၊လိုရာ၌ ပေါ့တန် ချွတ်ယွင်းခြင်းကိုရင်၊ ဘုရားရှင်၏ အလိုတော်ကျ အတိုင်း တမှုဉ်း ကြီး တည်း သွားလျက် ရှိချေသည်။ ဒေသနာတော်အရဖြင့် တစုံတရာ အပြစ်ရှာဘွယ် မရှိပေသို့ကြောင့်လည်း မဇ္ဈိမ မပဋ္ဌိ ပဒါ လမ်း တွင် မှန်ကန် လျက် အ ကျင့်ကောင်းနှင့်ပြည့်စုံသော မွန်မြတ်စင်ကြယ်သည့်သမုတိ သံဃာတော်များ ဖြစ်ကြပေသည်၊ ယင်းသို့သောသံဃာတော်တို့သည် အရေအတွက်လည်း များစွာရှိ၍ မြဲချောတောပါ အနှံ့ တွေ့မြင် နိုင်ကြပေသည် ဟုထင်ဘွယ်လည်းရှိပေသည်။

### သို့သော်တွေ့ရသေး၏

သို့ရာတွင်ပြည်တွင်း အနားစရေး တိုင်းအောင်စုစမ်းမျှော်ထော်၍ကြည့်ချေသော် အကျင့်ကောင်း အကျင့်မှန် မရှိသော ရဟန်းအမည်ခံ ပုဂ္ဂိုလ်တမျိုးကို တွေ့ရချေသေး၏၊ ထိုပုဂ္ဂိုလ် တို့သည် ကား ပွဲကျောင်းနှင့် ယှဉ်းကျောင်း ခေါ် သော ဘုန်းကြီးများပင်ဖြစ်လေသတည်း။

အဆိုပါပွဲကျောင်း ဘုန်းကြီးတို့ကား သိက္ခာဟူ၍ မတော်မြင်စီးခြင်း၊ အရက် သောက်ခြင်း၊ဘိန်းရှုခြင်း၊ လူတို့နှင့်အတူ နေ လွှ ည စာ စား ခြင်း စသည် ဖြင့် ဖေါက်ပြန်မှားယွင်းသောအကျင့်မျိုးတို့ကို ၎င်းတို့သဘောရှိ ထင်ရာကျင့်နေကြသော နယ်စွန် တောကြားမှ သူတော် ကောင်း အမည်ခံ ခင်ကြီးများဖြစ်ကြသတတ်။

### အရည်းကြီး အဆက်လော

ထိုသူတို့ကားသိက္ခာမတင် သိမ်မဝင်သော ပွဲကျောင်း ခင်ကြီး တမျိုးတို ဖြစ်လေရာရသေ့တို့၏ အကျင့် အမျိုး လည်း မသက်ရောက်ချေ၊ ၎င်းခင်ကြီးတို့ ၏ အခြေအမြစ်အဆက်အနွယ်ကို စူးစမ်းရှာဖွေသော်ပုဂံပြည် အရည်းကြီး တို့မှ သက်ဆင်းလာခဲ့သော တပည့် လက်သား များ ဖြစ်ကြသည်ဟုကြားရဘူး၏၊ အမှန်လည်း ဟုတ်ဟန် တူပေသည်၊ သို့သော် ပန်းဦး ဆက်ဆိုသော ထုံးစံ ကိုကား မကြား မိတော့ချေ၊

### လက်ထက်တော် အခါက

အကျင့်မှန်ရေးနှင့် စင်လျှဉ်း၍ ပြော ဆိုသောအခါ အရှုးကပင် တမူသာသေးဟူသကဲ့သို့ပြောပြလိုက်ကြသေးသည် မှာ ဤသို့ဖြစ်၏၊ ပဥ္စမရင်းကဝေါ်တမဘုရားရှင် ၏ တပည့်သားသာဝကချင်း အတူတူပင် ဖြစ်ကြသည်၊ သက်တော်ထင်ရှားဘုရား ရှင် လက်ထက်တော်အခါက ၎င်းတို့၏ ဆရာ သမားများသည် ဘုရား စကား တော်ကို တသွေ မတိမ်း နားထောင်သူများဖြစ်ကြ၍ သိက္ခာ ပုဒ် မပညတ်ဘဲ သဘောကျအတိုင်းနေရန် ခွင့်ပြု ထားခဲ့ခြင်း ဖြစ်သည်၊ သုဂမ္မာဘုန်းကြီးများ ကား (အကျင့်မှန် မြန်မာ ဘုန်းကြီးများကို ပွဲကျောင်းနယ်၌သုဂမ္မာဟူ၍အသိအမှတ်ပြု ခေါ်ဝေါ်သုံးစွဲပြောဆိုမှုဖြစ်သည်၊)၊ ဘုရားစကားတော်ကို နားမထောင်ကြသော ကြောင့် ဒါမလုပ်ရဘူး၊ ဒါမှလုပ်စသည် ဖြင့်ပညတ်ထားခဲ့ ရခြင်း ဖြစ် သည်၊ သို့ကြောင့် ၎င်းတို့မှာ မည်သည့်အရာပင် ပြုကျင့်နေ စေကာ မူနည်း သိက္ခာပုဒ် အတွက်ဖြင့် အပြစ် မရှိနိုင်ကြောင်းဟူ၍ ချေ ပပြောဆိုကြလေသည်၊

### ဂရုကသိက္ခာပုဒ်ကြီးများ

ပွဲကျောင်းဘုန်းကြီးတို့သည်အများအားဖြင့်မြည်သူ လက္ခယ် ဥပုသ်နေ့များ၌ ၎င်းဒါယကာ၊ဒါယိကာတို့ရှိရာ သွားလာ၍သာ အခါ၌၎င်း သက်န်း ရောင်ဝါကို ဖတ် ရုံ သွားသာကြပြီး ပြန်လာသောအခါ ရှမ်းဘောင်းဘီ မြည်ဒီ ပြာတို့ဖြင့် သာလျှင် ဝတ်ဆင်၍နေတတ်ကြသည်၊၎င်းတို့ဝတ်ရုံ သောသင်္ကန်း၌ တရုပ်မြောင်းချုပ်ရိုး မပါ ချေ၊ သူတို့၏အကျင့်များတွင်ဂရုကသိက္ခာ ပုဒ်ကြီးတို့လည်းပါရှိလေ သည် (ဥပမာ) အဖြူဖွဲ့ရေ၊ယသိက္ခာပုဒ်ဦး၍လိုင်ခြင်း မရှိသော်လည်း သားမယားကိုထင်ရှား တိုက်ရိုက် မယူရ၊ မရှိရချေ၊ အကယ်၍တစုံတယောက် သော မာတုဂါမနှင့် ကျူးလွန်ကြောင်း ထင်ရှား ဖြစ်ခဲ့သော်၎င်း၊ သား သမီးရခဲ့သော်၎င်း၊ပါရာဇိကကျသည်ဟုလူထွက်

စာမျက်နှာ [၁၅] သို့ဆက်ကြည့်ပါ

# သီဟိုဠ်သွားမြန်မာဖြစ်သတော်ကြီးနှစ်စင်း

## ဟံသာဝတီပြည်ဇမ္ဗူစေတီမင်းတြားကြီး၏ ကောင်းမှုတော် ကလျာဏီသိမ်ကြီးကိုထပ်မံပြုပြင်၍နေကြပြီ

### မင်းတိုင်ပင်အမတ်ကြီး မဟာဓမ္မသင်္ကြံရေးသည် ဓမ္မစေတီမင်း

သက္ကရာဇ် ၈၂၀ ရောက်သော အခါ ဟံသာဝတီပြည်ကြီးဝယ်ဇမ္ဗူစေတီဟုယခု ထက်တိုင် ကျော်စောသော သီရိပရမ မဟာဓမ္မရာဇာဓိရာဇာနာမံတံဆိပ်ရှိသော ရာမာဓိပတိမင်းသည် ကုသိမမဏ္ဍလ ဟံသာဝတီ မဏ္ဍလ မုတ္တမမဏ္ဍလဟုသော မွန်တိုင်း ၃ ရပ်၌ လူအပေါင်းအား ရင်ဝယ်သားကဲ့သို့ သနားကြင်နာ သဖြင့် စောင့်ရှောက်လုံခြုံစေလျက်တရားနှင့်အညီ မင်းပြု၏။

(ယခင်အောက်ကပြခဲ့သည့်မွန်တိုင်း ၃ ရပ်တွင် ပုသိမ်တိုက်ကို ကုသိမမဏ္ဍလ ဥက္ကံလာပဇနပုဒ်ကို ဟံသာဝတီ မဏ္ဍလ သထုံတိုက်ကို မုတ္တမ မဏ္ဍလ ဆို သတည်း)၊

ထိုရာမာဓိပတိမင်းကား၊ ပိဋကတ်သုံးပုံ ဗေဒင် ၄-ပုံ အာဂုံပါဠိဋီကာကျမ်း မျှာ ကရုဏ်းကျမ်း၊ ဆန်း၊ အလင်္ကာ၊ ဟူးရားကျမ်း၊ ဂဏန်းကျမ်း၊ ဆေးကျမ်း အားဖြင့်ဗဟုသုတများစွာရှိ၏။အုတ်ငံသုကာသစ်ဗိသုကာအတတ်စသောအားဖြင့် များစွာသော အတတ်တို့လည်းရှိ၏။ အထူးထူးသော အရပ်ဘာသာ တို့၌လည်း လေ့လာကျွမ်းကျင်၏။ သဒ္ဒါ သီလ စသော များစွာသော ကျေးဇူး ဂုဏ်နှင့်လည်း ပြည့်စုံ၏။ ကုမ္ဘဒရာဂြာ၌ သင်းခွေနန်း သရေအခါ လရောင့်နှင့်တူသော ဆင်ဖြူရှင် လည်းဖြစ်၏။ ကုမုဒကုန္ဒသရေဒ ဝန္ဒီကာသမာနသေတဂဇ ပတိဘူတော ရာမာဓိပတိနာမ သီရိပရမ မဟာဓမ္မရာဇာဓိရာဇာဟူ၍ကျော်စော၌ဆိုသည်။

### ပဉ္စင်းဖြစ်ရေးကိစ္စကြီး

ထိုရာမာဓိပတိ မင်းသည် သာသနာတော်မြတ်၌ အလွန်တရာ ကြည်ညိုခြားရကား ဤသို့ ကြံ၏။ ဘုရား သာသနာတော်သည် ရှင်အဖြစ် ပဉ္စင်း အဖြစ်နှင့် စပ်၏။ ပဉ္စင်း အဖြစ်သည်လည်း၊ သိမ် ပရိသတ်၊ ပဉ္စင်းလောင်း၊ ဥတ်၊ ကမ္မဝါစာ၌အင်္ဂါငါးပါးပြည့်စုံမှ မြောက်၏။ထို ငါးပါးတွင် သိမ်၊ ပရိသတ်၊ ပြည့်စုံခဲ့၏။ အဘယ်သို့မှ ပြည့်စုံရာသနည်း ဟုကြံပြီး သော် ဝိနည်းပါဠိတော်၊ ဝိနည်း အဋ္ဌကထာ၊ ဝိနည်းဋီကာကြီး သုံးစောင်၊ ကင်္ခါဝိတရဏီအဋ္ဌကထာ၊ ၎င်းဋီကာ၊ ဝိနယဝိနိစ္ဆယစာကိုယ်၊၎င်းဋီကာ၊ ဝိနယသင်္ဂဟစာကိုယ်၊ ၎င်းဋီကာ၊ သီမာလင်္ကာရ သီမာ သင်္ဂဟ ကျမ်းများကို သဒ္ဒါအနက်အားဖြင့် ဆင်ခြင်၍ ပါဠိတော်နှင့်အဋ္ဌကထာ အဋ္ဌကထာ နှင့် ဋီကာ ကျမ်းနှင့်ကျမ်းချင်း အထက်နှင့် အောက် ရှေ့နှင့်နောက် နှိုးနှောတိုက်ဆိုင်၍ ဘုရား အလိုတော် အဓိပ္ပါယ်ကား အဘယ်သို့နည်း ကျမ်းပြုဆရာတို့ အလိုတော် အဓိပ္ပါယ်ကားအဘယ်သို့နည်း ဟူ၍ သိမ်အရေး၌ အဘန်တလဲလဲ ကောင်းစွာကြည့်ရှုဆင်ခြင်လတ်သော်ရာမညတိုင်း၌ ဗုဒ္ဓသမ္မုဒ္ဓရာ ဇာတာသရဂါမခေတ် ဟူသော အဗဒ္ဓ သိမ်များလည်း မြောက်နိုင်ခဲ့မည်၊ သိမ်မမြောက်လျှင် သိမ်နှင့်ပရိသတ် ပြည့်စုံခဲ့မည်ဟု မိမိဉာဏ်အား ထင်မြင်လေ၍ ရာမည တိုင်း၌တွင် ကျွမ်းဂန် တတ်ကျွမ်းသော တိပိဋကဓရ ဗျတ္တပဋိဗလ ဆရာတို့နှင့် နှီးနှောဆွေးနွေးလျှင် ရာမာဓိပတိမင်း၏ ဉာဏ်အထင်အမြင်အတိုင်း သိမ်နှင့် ပရိသတ် ပြည့်စုံခဲ့မည်ဟုဆုံးဖြတ်ကြကုန်၏။

ထိုရောအခါ ရာမာဓိပတိမင်းသည် ဤသို့ မသက်မသာရှိ၏။ ဩော်....အံ့ဘွယ်ရှိစွတကား၊....ဘုရားသာသနာနှစ်ငါးထောင်တိုင်အောင်တည်ထွန်းမည်ဟု ကျမ်းဂန်ရှိပါလျက်ဘုရားဖြစ်တော်မူသည်မှ နှစ်ထောင့်ခြောက်ဆဲ့လေးနှစ် ကာလ အခန့်မျှ ယခုကပင် သာသနာအညစ်အကြေး ဆူးငြောင့်ခေ ရန်ရှိ၍ရဟန်းပဉ္စင်း အဖြစ်၌ ယုံမှားဘွယ်ဖြစ်ခဲ့ဘိ၏။ အဘယ်သို့လျှင် နှစ်ငါးထောင်တိုင်အောင် သာသနာ တည်ထွန်းခြင်းငှါ ဖြစ်ကောင်းပါအံ့နည်းဟု မသက်မသာ ကြီးစွာရှိပြီးမှ ဤသို့တဘန်ကြံပြန်၏။ ယင်းသို့လောက်စင် သာသနာအညစ်အကြေး ဆူးငြောင့်ခေ ဘေးရန် ရှိသည်ကို မြင်လျက် ရဟန်း ပဉ္စင်း အဖြစ်၌ ယုံမှားဘွယ် ရှိသည်ကိုလည်း သိလျက်သန့်ရှင်းစင်ကြယ်အောင် မပြုချေဘဲ ကြောင့်ကြမဲ့လျစ်လျူသာနေချေသော် မြတ်စွာ ဘုရား၌ ကြည်ညိုမြတ်နိုး ရိုသေကြီးစွာ စုံမက် ချစ်ခင်သည် မဖြစ်ရာခဲ့၊ ထိုကြောင့် သာသနာကို သန့်ရှင်းစင်ကြယ်အောင် ပြုရအံ့၊ အဘယ် အရပ်မှ သာသနာကို ဆောင်၍ သန့်ရှင်းစင်ကြယ်အောင်ပြုစုပါရအံ့နည်းဟု ကြံစည်သော်၊

### သီဟိုဠ်သာသနာစင်ကြယ်ပုံ

ဘုရား ပရိနိဗ္ဗာန် စံယူတော် မူသည့်နောက် ၂၃၆ နှစ်ရောက်သောအခါအရှင်မောဂ္ဂလိ ပုတ္တတိဿကအရှင်မဟာမဟိန္ဒကို စေ၍ သီဟိုဠ်ကျွန်း၌သာသနာကို တည်စေ၏။ ထိုရော အခါဒေဝါနံ ပိယတိဿမင်းသည်မဟာဝိဟာရကျောင်းကို ဆောက်လုပ် လှူဒါန်းသည်မှ သာသနာ ၂၁၈-နှစ်ကျော် အောင် သန့်ရှင်း စင်ကြယ်၍မဟာဝိဟာရဝါသီတဂိုဏ်း တည်းသာဖြစ်၏။ ထိုနောက် အဘယဂိရိဝါသီတဂိုဏ်း၊ ဇေတဝနဝါသီတဂိုဏ်း ကွဲပြားပြန် သည်ကို သာသနာ -၁၇၀၈- နှစ်ရှိသော အခါ သီရိသံ ဗေါဓိ ပရက္ကမဗါဟု မဟာရာဇာမင်းသည်ဥဒုမ္ဗရဂိရိဝါသီ၊ မဟာကဿပ အမှူးရှိသော မဟာဝိဟာရဝါသီဂိုဏ်းသံဃာကို ချီးမြှင့်၍ယခင် ဂိုဏ်း နှစ်ပါးကို သုတ်သင်လျက် မဟာဝိဟာရ ဝါသီဂိုဏ်း တပါးကိုသာ ထားသဖြင့် သာသနာကို သန့်ရှင်း စင်ကြယ်စေ၏ထိုနောက်ဝိဇယဗါဟုပရက္ကမ

စာမျက်နှာ ၁၇ သို့ကြည့်ပါ


ပဲခူးမြို့ကလျာဏီသိမ်တော်ဟောင်းကြီး


ကလျာဏီကျောက်ချပ်များ

# ပါဠိဝိသောဓကအဖွဲ့ဝင်ဆရာတော်များ

## ကျမ်းအမှတ်စဉ်(၁) – (ဝိနည်း)ပါရာဇိကာဏ် ပါဠိတော်

အဖွဲ့ အမှတ်စဉ် (၁) စစ်ကိုင်းတောင် ရွှေကျင်နိကာယ ပါဠိ ဝိသောဓက အဖွဲ့ ဆရာတော်များ
( ခေါင်းဆောင်ဆရာတော်များကိုခရေးပွင့်နှင့်ပြထားသည် )

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးဇောတိပါလ | ၆၀ | မူလဓမ္မာစရိယ | ဧတိဝိသုဒ္ဓါရုံ ပါဠိတက္ကသိုလ် | စစ်ကိုင်း | စစ်ကိုင်း |
| ၂ | ဦးအဂ္ဂဓမ္မ | ၃၇ | ။ | အောင်မြေသာစည်ချောင် | ။ | ။ |
| ၃ | * ဦးပဏ္ဍိတ | ၃၇ | ။ | အနီးစခန်းချောင် | ။ | ။ |
| ၄ | ဦးဇရိယ | ၃၄ | သာသနဓဇသီရိပဝရ | ပဋ္ဌမဒုဿ္ဘာသယချောင် | ။ | ။ |
| ၅ | ဦးသော်ဘိတ | ၃၄ | ။ | ဟေမဝတီချောင် | ။ | ။ |
| ၆ | * ဦးဇနိန္ဒ | ၄၇ | မူလဓမ္မာစရိယ | ရတနာချမ်းချောင် | ။ | ။ |
| | **အဖွဲ့အမှတ်စဉ်(၂)စစ်ကိုင်းတောင် ရွှေကျင်နိကာယပါဠိဝိသောဓကအဖွဲ့ဆရာတော်များ** | | | | | |
| ၁ | * ဦးပဏ္ဍိတ | ၄၁ | မူလဓမ္မာစရိယ | ရွှေကျင်တိုက်သစ် | စစ်ကိုင်း | စစ်ကိုင်း |
| ၂ | ဦးရေဝတ | ၃၇ | ။ | မိဂဒါဝုန်ချောင် | ။ | ။ |
| ၃ | ဦးသုဝဏ္ဏဇောတိ | ၂၆ | သာသနဓဇသီရိပဝရ | ရွှေဟင်္သာတိုက်သစ် | ။ | ။ |
| ၄ | ဦးဓမ္မာနန္ဒ | ၂၁ | ပရိယတ္တိ ဓမ္မာစရိယ | ရတနာဗိမာန်ကျောင်း | ။ | ။ |
| ၅ | * ဦးသိရိသုမန | ၂၁ | သာသနဓဇ သီရိပဝရ | ရွှေဟင်္သာတိုက်သစ် | ။ | ။ |
| ၆ | ဦးသုပညိန္ဒာဘိဝံသ | ၂၀ | ပရိယတ္တိဓမ္မာစရိယ | ပဋ္ဌမဂန္ဓာရုံချောင် | ။ | ။ |
| ၇ | ဦးနာယက | ၁၈ | သာသနဓဇ သီရိပဝရ | ဇေယျာသီရိချောင် | ။ | ။ |
| | **အဖွဲ့အမှတ်စဉ်(၃)စစ်ကိုင်းတောင် ရွှေကျင်နိကာယ ပါဠိဝိသောဓကအဖွဲ့ ဆရာတော်များ** | | | | | |
| ၁ | ဦးသီလဝံသ | ၄၇ | မူလဓမ္မာစရိယ | ဝိပဿနာဂန္ဓာရုံချောင် | စစ်ကိုင်း | စစ်ကိုင်း |
| ၂ | ဦးဝိဇယ | ၄၇ | ။ | ဥက္ကဋ္ဌာချောင် | ။ | ။ |
| ၃ | ဦးပညာဝံသ | ၄၁ | ။ | မဟာဝိဇ္ဇောဒယချောင် | ။ | ။ |
| ၄ | ဦးဣန္ဒက | ၃၃ | ။ | မဟာသိဝချောင် | ။ | ။ |
| ၅ | * ဦးဝရသာမိ | ၂၇ | ပရိယတ္တိဓမ္မာစရိယ | ပါဠိတာရိသုံးခွတိုက် | ။ | ။ |
| ၆ | ဦးသုမင်္ဂလ | ၂၄ | မူလဓမ္မာစရိယ | မဟာဂန္ဓာရုံချောင် | ။ | ။ |
| ၇ | * ဦးအာစိဏ္ဏ | ၂၀ | သာသနဓဇသီရိပဝရ | ဝိဇ္ဇာဒပ္ပဏချောင် | ။ | ။ |
| ၈ | ဦးပညာဝံသ | ၁၈ | ။ | မဟာဝိဇ္ဇောဒယချောင် | ။ | ။ |
| ၉ | ဦးဝိမလ | ၂၂ | မူလဓမ္မာစရိယ | ဝိပဿနာဂန္ဓာရုံချောင် | ။ | ။ |
| | **အဖွဲ့အမှတ်စဉ် (၄) စစ်တောင် သုဓမ္မာနိကာယ အရှေ့ပိုင်း ပါဠိဝိသောဓကအဖွဲ့ဆရာတော်များ** | | | | | |
| ၁ | ဦးခေမာ | ၆၀ | မူလဓမ္မာစရိယ | ရွာသစ်တောင်ဘီလူးချောင် | စစ်ကိုင်း | စစ်ကိုင်း |
| ၂ | * ဦးဇောတ | ၃၉ | ။ | ရွှေလက်ကျွန်းသာယာချောင် | ။ | ။ |
| ၃ | ဦးမုနိန္ဒ | ၃၈ | ။ | အသောကာရုံချောင် | ။ | ။ |
| ၄ | ဦးသောဘိတ | ၃၆ | ။ | လေးကျွန်းချမ်းသာချောင် | ။ | ။ |
| ၅ | * ဦးပညိန္ဒ | ၂၆ | ပရိယတ္တိဓမ္မာစရိယ | ဇေယျာသိန်ပါဠိတက္ကသိုလ် | ။ | ။ |
| ၆ | ဦးကေတုမာလာ | ၁၉ | သာသန ဓဇသီရိပဝရ | ဇမ္ဗူထိန်လင်းချောင် | ။ | ။ |
| ၇ | ဦးဓမ္မာလောက | ၁၈ | ။ | မဟာရတနာဘုံစံချောင် | ။ | ။ |
| ၈ | ဦးဓမ္မသာမိ | ၁၈ | ။ | မဟာသီလကျွန္တချောင် | ။ | ။ |
| ၉ | ဦးဇာဂရ | ၁၄ | ။ | ဇေယျာသိန်ပါဠိတက္ကသိုလ် | ။ | ။ |
| | **အဖွဲ့ အမှတ်စဉ်(၅)စစ်ကိုင်းတောင်သုဓမ္မာနိကာယအနောက်ပိုင်းပါဠိဝိသောဓကအဖွဲ့ဆရာတော်များ** | | | | | |
| ၁ | ဦးဥတ္တမ | ၅၄ | အဂ္ဂမဟာပဏ္ဍိတ | တောသေးတပ်တိုက် | စစ်ကိုင်း | စစ်ကိုင်း |
| ၂ | ဦးပညာ | ၅၂ | မူလဓမ္မာစရိယ | ဓုဇ္ဈာသယ လောကမှန်ကူချောင် | ။ | ။ |
| ၃ | * ဦးဝိမလာဘိဝံသ | ၃၆ | ပရိယတ္တိဓမ္မာစရိယ | ဓမ္မာစရိယ ပါဠိ တက္ကသိုလ်ချောင် | ။ | ။ |
| ၄ | * ဦးပုည | ၂၈ | မူလစာချ | တောတောင်ဘီလူးချောင် | ။ | ။ |
| ၅ | ဦးတေဇ | ၂၃ | သာသနဓဇသီရိပဝရ | ဓမ္မာစရိယပါဠိတက္ကသိုလ်ချောင် | ။ | ။ |
| ၆ | ဦးကေသရ | ၂၉ | ။ | ။ | ။ | ။ |
| ၇ | ဦးဝိနယ | ၁၇ | ပရိယတ္တိဓမ္မာစရိယ | ကျောက်စိမ်းဘိုက် | ။ | ။ |
| | **အဖွဲ့ အမှတ်စဉ် (၆) ဖျာပုံ ပါဠိဝိသောဓက အဖွဲ့သစ် ဆရာတော်များ** | | | | | |
| ၁ | ဦးဝရသာ | ၅၅ | မူလဓမ္မာစရိယ | မင်းလှစုံကျောင်း | မင်းလှစုရွာ | ဖျာပုံ |
| ၂ | * ဦးနန္ဒဝံသ | ၄၆ | ။ | မင်္ဂလာဘုံကျော်ကျောင်း | ဖျာပုံမြို့ | ။ |
| ၃ | ဦးအတုလ | ၄၅ | ။ | ကျောင်းကြီး | သပိန်တောရွာ | ။ |
| ၄ | ဦးခေမာ | ၄၅ | ။ | ကျိုးနှစ်ပင်ကျောင်း | ကျိုးနှစ်ပင်ရွာ | ။ |
| ၅ | ဦးဇောတိက | ၄၅ | ။ | ဇေဝဇယန္တာကျောင်း | ဖျာပုံမြို့ | ။ |
| ၆ | ဦးဇောတိက | ၄၃ | ။ | သဒ္ဓမ္မဇောတိကာရုံကျောင်း | ဘုံကဒွန်းရွာ | ။ |
| ၇ | ဦးသီလက္ခန္ဓ | ၄၁ | ။ | တိုက်သင်ကျောင်း | ဖျာပုံမြို့ | ။ |
| ၈ | ဦးအဂ္ဂိန္ဒ | ၄၀ | ။ | အာသောကာရာမကျောင်း | ။ | ။ |
| ၉ | ဦးသံဝရာဘိဝံသ | ၃၈ | ။ | ကြောရှန်အောင်ကျောင်း | ။ | ။ |

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁၀ | ဦးနိမ္မလ | ၃၈ | မူလဓမ္မာစရိယ | သုသာန်ကျောင်း | ဖျာပုံ | ဖျာပုံ |
| ၁၁ | *ဦးဓမ္မစက္က | ၃၆ | 〃 | တိုက်သစ်ကျောင်း | 〃 | 〃 |
| ၁၂ | ဦးစန္ဒဝရ | ၃၅ | 〃 | တောလုံးကျောင်း | သမိန်တောရွာ | 〃 |
| ၁၃ | ဦးဝါယမ | ၃၁ | 〃 | ပုခန်းကျောင်း | ဖျာပုံ | 〃 |
| ၁၄ | ဦးဣန္ဒ | ၃၀ | 〃 | ကျုံ့ကူးတောင်ကျောင်း | ကျုံ့ကူရွာ | 〃 |
| ၁၅ | ဦးပဏ္ဍိတ | ၂၅ | 〃 | အဖျောင်ကျောင်း | ဖျာပုံ | 〃 |
| ၁၆ | ဦးပညာဝံသ | ၂၉ | 〃 | မင်းကျောင်း | 〃 | 〃 |
| ၁၇ | ဦးဥာဏသာမိ | ၂၀ | 〃 | ထန်းပင်ကျောင်း | 〃 | 〃 |
| ၁၈ | ဦးနန္ဒိယ | ၂၀ | 〃 | ပြသာဒ်ကျောင်း | 〃 | 〃 |
| ၁၉ | ဦးပညာဝံသ | ၈၈ | 〃 | ဘုရားကြီးကျောင်း | 〃 | 〃 |
| ၂၀ | ဦးနန္ဒမာလာ | ၁၇ | 〃 | ကံဦးကျောင်း | 〃 | 〃 |

အဖွဲ့အမှတ်စဉ် (၇) ဘိုကလေးမြို့ပါဠိဝိသောဓကအဖွဲ့ သစ်

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | *ဦးပဏ္ဍိတ | ၅၁ | ဝိနယဓရ | အနောက်ကျောင်း | မြင်းကကုန်း | ဖျာပုံ |
| ၂ | ဦးဝါယမ | ၄၈ | 〃 | သာသနဇောတိကာရုံကျောင်း | ဘိုကလေး | 〃 |
| ၃ | ဦးဇောတိပါလ | ၄၃ | အဘိဓမ္မာ အနုဝဏ္ဏနာ ကမ်းပြဆရာ | စက်ကျောင်း | မြင်းကကုန်း | 〃 |
| ၄ | ဦးသြဘာသ | ၄၀ | တိုက်အုပ်စာချ | ဓမ္မာယတနစက်ဝိုင်းကျောင်း | ဘိုကလေး | 〃 |
| ၅ | ဦးဇိစာရ | ၃၂ | တိုက်အုပ်စာချ | သဒ္ဓမ္မဇောတိကာရုံ | 〃 | 〃 |
| ၆ | ဦးပညာဝံသ | ၃၁ | သာသနာ့စိုပ်သာနည်းပြ ဆရာ | မိတ္ထီလာကျောင်း | 〃 | 〃 |
| ၇ | ဦးဂါရဝ | ၂၅ | ဇေတဝနစာချ | မဟာဝိသုတာရာမကျောင်း | 〃 | 〃 |
| ၈ | ဦးတေဇ | ၂၆ | တိုက်အုပ်စာချ | ဂမ်းနားကျောင်း | 〃 | 〃 |
| ၉ | ဦးပညိန္ဒ | ၂၄ | 〃 | ကံဦးကျောင်း | ဘိုကလေး | 〃 |
| ၁၀ | ဦးပုည | ၂၂ | 〃 | ကျော်ဇေကျောင်း | 〃 | 〃 |
| ၁၁ | *ဦးသီဟ | ၂၁ | စာချဝိနိစ္ဆယတာဝန်ခံ | မင်္ဂလာစံကျောင်း | 〃 | 〃 |
| ၁၂ | ဦးကုဿလ | ၁၄ | စာချတိုက်အုပ် | သာသနဇောတိကာရုံ | 〃 | 〃 |

အဖွဲ့အမှတ်စဉ် (၈) စစ်ကိုင်းခရိုင်မင်းကွန်း–ပါဠိဝိသောဓကအဖွဲ့ ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးဥာဏိန္ဒ | ၅၇ | မူလစာချ | မနောမယချောင် | မင်းကွန်း၊စစ်ကိုင်း | စစ်ကိုင်း |
| ၂ | ဦးလောကဏ | ၅၃ | 〃 | ရန်ကင်းချောင် | 〃 | 〃 |
| ၃ | ဦးအဂ္ဂိ | ၄၃ | 〃 | အရိယမဂ္ဂချောင် | 〃 | 〃 |
| ၄ | ဦးသုဇာတ | ၄၆ | 〃 | ရေဦးချောင် | 〃 | 〃 |
| ၅ | ဦးဣန္ဒာသိရိ | ၃၇ | 〃 | ရာဇနာဂရိုဏ်ချောင် | 〃 | 〃 |
| ၆ | *ဦးကေသိရိန္ဒ | ၃၃ | ပဋ္ဌမကျော် | အဘယာရုံချောင် | 〃 | 〃 |
| ၇ | ဦးဝိစိတ္တ | ၂၆ | ပရိယတ္တိဓမ္မာစရိယ | ဓမ္မနာဒချောင် | 〃 | 〃 |
| ၈ | ဦးဥက္ကံသ | ၁၇ | သာသနဓဇသိရိပဝရ | 〃 | 〃 | 〃 |
| ၉ | ဦးကုဿလ | ၁၈ | 〃 | ရှားခင်တိုက် | 〃 | 〃 |
| ၁၀ | ဦးစန္ဒိမာ | ၁၇ | 〃 | 〃 | 〃 | 〃 |

အဖွဲ့ အမှတ်စဉ် (၉) မိတ္ထီလာ–ပါဠိဝိသောဓက အဖွဲ့ ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | *ဦးဇနောဘာသ | ၃၈ | မူလစာချ | မြို့ရှေ့တိုက် | မိတ္ထီလာ | မိတ္ထီလာ |
| ၂ | *ဦးကုသလ | ၃၀ | 〃 | ဘုတာဟောင်းဦးယျာဉ်တိုက် | 〃 | 〃 |
| ၃ | ဦးဥက္ကဋ္ဌ | ၂၇ | 〃 | ဈေးကုန်းကျောင်းဥက္ကဋ္ဌာရာမတိုက် | 〃 | 〃 |
| ၄ | ဦးကဝိ | ၄၁ | 〃 | ဘုရားကြီးကျောင်းတိုက်ပျဉ်သာရွာ | 〃 | 〃 |
| ၅ | ဦးတေဇောဘာသ | ၂၄ | သာသနဓဇသိရီပဝရ | မြို့ရှေ့တိုက် | 〃 | 〃 |
| ၆ | ဦးပဏ္ဍာ | ၂၄ | 〃 | ကျောက်ဖူးကျောင်း | ကျောက်ဖူးရွာ | 〃 |
| ၇ | ဦးအဂ္ဂဓမ္မ | ၂၉ | 〃 | သန္တမ္မဝံသာရုံတိုက် | ကမ်းနားရပ် | 〃 |
| ၈ | ဦးဥာဏဝံသ | ၃၆ | မူလစာချ | ဥက္ကလာဒေယျုံ့တိုက် | 〃 | 〃 |
| ၉ | ဦးကေသရိန္ဒ | ၂၄ | 〃 | ရေလယ် ဘသင်တိုက် | ဆိုင်တန်းရပ် | 〃 |
| ၁၀ | ဦးဇဝန | ၂၇ | 〃 | သဒ္ဓမ္မဝံသာရုံတိုက် | ကမ်းနားရပ် | 〃 |

အဖွဲ့ အမှတ်စဉ် (၁၀) မြင်းခြံပါဠိဝိသောဓကအဖွဲ့ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးဝိသုဒ္ဓ | ၄၉ | မူလဓမ္မာစရိယ | တန်ဆောင်းကြီးတိုက် | မြင်းခြံ | မြင်းခြံ |
| ၂ | ဦးသဏ္ဍဝံသ | ၄၉ | 〃 | ကံဦးတိုက် | 〃 | 〃 |
| ၃ | *ဦးကုသလ | ၄၁ | 〃 | ရွှေကျင်တိုက် | 〃 | 〃 |
| ၄ | ဦးဥတ္တမ | ၃၆ | ပရိယတ္တိဓမ္မာစရိယ | ကိုးတောင်တိုက် | 〃 | 〃 |
| ၅ | ဦးဓမ္မသိရိ | ၃၅ | မူလဓမ္မာစရိယ | သုဓမ္မာကျောင်းတိုက် | 〃 | 〃 |
| ၆ | ဦးပဏ္ဍိတ | ၂၀ | 〃 | အသောကာရုံတိုက် | 〃 | 〃 |
| ၇ | ဦးဇာဂရ | ၃၅ | 〃 | ဇောတိကာရုံတိုက် | 〃 | 〃 |
| ၈ | ဦးဓမ္မဓရ | ၃၃ | 〃 | မဟာဝိသုတာရာမတိုက် | 〃 | 〃 |
| ၉ | ဦးသောဘိတ | ၂၄ | သာသနဓဇသိရိပဝရ | ကိုးတောင်တိုက် | 〃 | 〃 |
| ၁၁ | ဦးအဂ္ဂဝံသ | ၂၀ | 〃 | 〃 | 〃 | 〃 |
| ၁၁ | ဦးတိလောက | ၂၇ | မူလဓမ္မာစရိယ | တန်ဆောင်းကြီးတိုက် | 〃 | 〃 |
| ၁၂ | ဦးကေသရ | | ဝိနိစ္ဆယဋ္ဌာနတာဝန်ခံ ဆရာတော် | ကျွင်မိုးတိုက် | 〃 | 〃 |

# သီဟိုဠ်ကျွန်းမှသုတ်သင်ပြီးပိဋကတော်များ

## သီဟိုဠ်သံဂါယနာအဖွဲ့မှသုတ်သင်ပြီးပိနည်းနှင့်သံယုတ္တနိကာယ်ပိဋကများကို နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့သို့အပ်နှင်းတော်မူကြခြင်း

### သုတ်သင်ပြီး ပိဋကများ

ဆဋ္ဌ သံဂါယနာ တင်ဆောင်ရေး အတွက် ထေရဝါဒ ဗုဒ္ဓဘာသာ တိုင်းပြည် ငါးခု ပူးပေါင်းဆောင်ရွက်၍နေသည့် အကြောင်းကို ဗုဒ္ဓဘာသာဝင်အများပင် သိပြီးဖြစ်ကြပေလိမ့်မည်။ အဆိုပါ ငါးနိုင်ငံတို့တွင် တနိုင်ငံအဖြစ်ပါဝင်သော သီဟိုဠ်ကျွန်းရှိသံဃာတော်အရှင်မြတ်တို့သုတ်သင်ပြီးဖြစ်သောသံယုတ္တနိကါယ်ငါးရပ်ဝိနည်းပိဋကတို့ကိုနိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့သို့ အပ်နှင်းရန် ဆရာတော် အရှင် ဗုဒ္ဓဒတ္တနှင့် ဆရာတော် အရှင်မေဓာဝီသအရှင်မြတ်ကြီးနှစ်ပါး၊ ၎င်းပြင် လူပုဂ္ဂိုလ် နှစ်ဦး ပါဝင်သည့် သာသနာရေးမိတ်ဆက် အဖွဲ့သည် (၂၁-၇-၅၃) နေ့ နံနက် ၁၁ နာရီ ၄၅ မိနစ်အချိန် စတက်ဖို့ရှိုင်းရား ခေါ် သင်္ဘောနှင့် ရန်ကုန်မြို့သို့ ဆိုက်ရောက်လာကြလေသည်။

### ကြိုဆိုကြသူများ

အဆိုပါ ပိဋကတော် များနှင့် မိတ်ဆက် အဖွဲ့ဝင်တို့အား ကြိုဆိုရန်လှူမလမ်း သင်္ဘောဆိပ်သို့ ဝန်ဆောင်သံဃာအဖွဲ့ဝင် ဆရာတော်ကြီးများ သီဟိုဠ် သံအမတ်ကြီးနှင့် အဖွဲ့သားများ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ အကျိုးဆောင် စာချီ နိုင်ငံတော်ရှေ့နေချုပ် သတိုးမဟာသရေစည်သူ ဦးချန်ထွန်းနှင့် အမှုဆောင် လူကြီးများ၊ သီဟိုဠ် မြန်မာဗုဒ္ဓဘာသာ အသင်းအဖွဲ့များ၊ မိုးညှင်း မင်္ဂလာ ဂတိဝိသုဒ္ဓိ အသင်းသူ အသင်း သား များ၊ ဒေါ်ဥာဏစာရီအမှူးပြုသည့် သီလရှင်အဖွဲ့များမှစ၍ အသင်း အဖွဲ့များစွာတို့က ခမ်းနားညိုက်မြိုက်စွာ လာရောက် ကြိုဆို ကြကြောင်း။

### ပင့်ဆောင်ကြခြင်း

သုတ်သင်ပြီး ပိဋက တော်များ ကို သီဟိုဠ် ကိုယ်စားလှယ်တော်များက ဦးထိပ်ဖြင့် ရွက်ဆောင်၍ ထားရာမှ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီး၏ အကျိုးဆောင် စာချီ သတိုးမဟာသရေစည်သူ ဦးချန်ထွန်း၏ ဦးထိပ်သို့၎င်း၊ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ရုံးအုပ်ချုပ်ရေး အရာရှိချုပ် သီရိပျံချီ ဦးစိန်မောင်၏ ဦးထိပ်သို့၎င်း၊ တဆင့်ကမ်းလှမ်းလိုက်ကြကုန်၏။ အသင်းအဖွဲ့များမှလည်းစံနစ်တကျစီတန်း၍ နေရာမှ ရိုသေစွာ ပူဇော် ပူဇော်ကြကုန်၏။ ၎င်းနောက်လှပစွာမွန်းမံပြင်ဆင်ထားသည့်သဋ္ဌေးရထားပျံပေါ်ရှိကျောင်းဆောင် တွင်း၌ ပိဋက တော် များကို တင်ထားပြီးနောက် အစီအစဉ် ကျနစွာဖြင့် မြစ်ဆိပ်မှ သာသနာ့ရိပ်သာသို့ အရောက်ပင့်ဆောင်ခဲ့ကြကုန်၏။

### ပိဋကတော်အပ်ပွဲ

၂၂-၇-၅၃ နေ့ ညနေတွင် ရန်ကုန်မြို့ သာသနာ့ရိပ်သာ မှော်ရုံကြီး၌ဆဋ္ဌသံဂါယနာအတွက် သီဟိုဠ်ကျွန်းရှိ သံဃာတော်များ သုတ်သင်ပြီး ဝိနည်းငါးကျမ်းနှင့် သံယုတ္တနိကာယ် ပိဋကတော်များကို နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့သို့ အပ်နှင်းသည့် ပွဲသဘင်ကို ကျင်းပ ခဲ့လေသည်။

အခမ်းအနား စလျှင်စခြင်းနိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏ အကျိုးဆောင်စာချီ နိုင်ငံတော်ရှေ့နေချုပ်ကြီး ဦးချန်ထွန်းက ပဏ္ဍာမ်ခံ စကား အနည်းငယ် ပြောကြားလေသည်။

၎င်းနောက် သီဟိုဠ်သာသနာရေး အဖွဲ့ခေါင်းဆောင် ဆရာတော်အရှင်ဗုဒ္ဓဒတ္တမထေရ်က (အင်္ဂလိပ်ဘာသာဖြင့်) မိန့်ခွန်းစကား မြွက်ကြားတော်မူလေသည်။ (မိန့်ခွန်းကို သီးခြား ဖော်ပြထားသည်)။



သီဟိုဠ်မှ ယူဆောင် လာသည့် ပိဋကတော်များကို နိုင်ငံတော် ရှေ့နေချုပ်ကြီးဦးချန်ထွန်းနှင့် သီရိပျံချီ ဦးစိန်မောင်တို့က ဦးထိပ်ဖြင့် ရွက်ကာဘောတံတားမှ ပန်းရထား ဆီသို့ပင့်ဆောင်၍ လာကြပုံ။

၎င်းနောက် သီဟိုဠ် ဆဋ္ဌသံဂါယနာ အမှုဆောင် အဖွဲ့ အတွင်းရေးမှူး ဆရာတော် အရှင်ဇမ္ဗုဝံသမထေရ်က ဆဋ္ဌ သံဂါယနာအမှုဆောင် အဖွဲ့မှ ပေးပို့ အပ်သော သဝဏ်လွှာကို ပါဠိ ဘာသာဖြင့် ဘတ်ကြားတော်မူပြီးနောက် ညောင်ရမ်း ဆရာတော်ဘုရားကြီးသို့ ဆက်ကပ်တော်မူလေသည်။ ၎င်းနောက်၎င်းသဝဏ်လွှာကိုပင် အင်္ဂလိပ်ဘာသာဖြင့် မစ္စတာ ကာလ ဒီရာက ဘတ်ကြားပြီးလျှင် ညောင်ရမ်း ဆရာတော် ဘုရားကြီးသို့ပင် ဆက်ကပ် လေသည်။

၎င်းနောက် သီဟိုဠ်ကျွန်း ပြည်ထဲရေး ဝန်ကြီးထံမှ သဝဏ်လွှာကို မစ္စတာ ဘီ အိပ်ချ် ဝိလျံက ဘတ်ကြားပြီးနောက် သာသနာရေးဝန်ကြီး ဦးဝင်းသို့ အပ်နှင်း လေသည်။

၎င်းနောက်သီဟိုဠ်သာသနာရေးအဖွဲ့ ခေါင်းဆောင် ဆရာတော်အရှင် ဗုဒ္ဓဒတ္တ က သုတ်သင်ပြီး ပိဋကတော်များကိုသာသနာရေးဝန်ကြီးမှ တဆင့် ဝန်ဆောင်သံဃာအဖွဲ့ ဥက္ကဋ္ဌ ညောင်ရမ်းဆရာတော် ဘုရားကြီးသို့ ဆက်ကပ် တော်မူလေသည်။

၎င်းနောက် ညောင်ရမ်း ဆရာတော် ဘုရားကြီးနှင့် ဟံသာဝတီ ဆရာတော် ဘုရားတို့က အနည်းငယ်ပြန်ထည် မြွက်ကြားတော်မူလေသည်။

အမျိုးသားစီမံကိန်းနှင့်သာသနာရေး ဝန်ကြီး ဦးဝင်းက နိဂုံးချုပ်စကား ပြောထားပြီးနောက်အခမ်းအနားကိုရုတ်သိမ်း လိုက်လေသတည်း။

### သီဟိုဠ်ပြည်ထဲရေးဝန်ကြီးထံမှ သဝဏ်လွှာ

သို့—
ဆဋ္ဌသံဂါယနာကောင်စီနှင့်
မြန်မာနိုင်ငံတော်အစိုးရ

၁၉၅၄-ခုနှစ်မလမှစ၍ ၁၉၅၆ ခုနှစ်လတွင်ပြီးစီးမည်ဖြစ်သောဆဋ္ဌသံဂါယနာပွဲတော်ကြီးတွင် သီဟိုဠ်ကျွန်းက ပါဝင်၍ ကူညီဆောင်ရွက်ရန် ဘိတ်မံ တက ပြုပါသောကြောင့်၍သီဟိုဠ်ကျွန်းရှိ ရဟန်းရှင်လူအပေါင်းတို့က ရန်ကုန်မြို့ရှိ ဆဋ္ဌသံဂါယနာစိစဉ်သည့် ဗုဒ္ဓသာသနာ အဖွဲ့အား ကျေးဇူးဥပကာရတင်ရှိပါကြောင်း။

ဗုဒ္ဓဘာသာ တိုင်းပြည်တခု၌ အခါ အားလျော်စွာ ပိဋကတော် များကို စစ်ဆေး၍ တရားတော်အမှန်များကို ရရှိရန် ဆောင်ရွက်ခြင်းသည် အင်္ဂါမြတ် ဆုံးအမွန်မြတ်ဆုံးလုပ်ငန်း တခုဖြစ်ပါကြောင်း။ ကျွန်တော်များ သီဟိုဠ်နိုင်ငံကိုလည်း၊ ဤပွဲတော်ကြီး၌ပါဝင်၍ဆောင်ရွက်ရန် စကား ကမ်းလှမ်းသောအခါ သီဟိုဠ်နိုင်ငံတော်ရှိ သံဃာတော်အရှင်မြတ်များနှင့် လူ ဒါယကာတို့သည်နှစ်ထောင်းအားရစွာလက်ခံကြ၍ ဤမြင့်မြတ်သော လုပ်ငန်းကြီးတွင် အစွမ်းကုန် ဆောင်ရွက်လျက် ရှိကြသည့် ပြင်၊ နောင်ကိုလည်းဆက်လက်၍ ဆောင်ရွက်မည်ဖြစ်ပါကြောင်း။

သီဟိုဠ်နိုင်ငံတော် အစိုးရသည် မြန်မာနိုင်ငံတော်အစိုးရထံမှ အပ်နှင်းလိုက်သောပိဋက တော်များကို ကြည့်ရှုရန် အတွက် သံဃာတော် အရှင်မြတ်များအား ပစ္စယာနုဂ္ဂဟအားဖြင့် ချီးမြှောက် ခဲ့ပါကြောင်း။

ရန်ကုန်မြို့တွင် ကျင်းပမည် ဖြစ် သော ဆဋ္ဌသံဂါယ နာ ပွဲ တော် ကြီး လုံး ဝ အောင်မြင်ရေးအတွက် သီဟိုဠ်နိုင်ငံ အစိုးရကလည်းဆက်လက်၍စိတ်ရော ကိုယ်ပါ ကူညီထောက်ပံ့မည်ဖြစ်ပါကြောင်း။

အရှင်ဗုဒ္ဓဒတ္တမထေရ်အား ဆဋ္ဌသံဂါယနာအဖွဲ့ကြီးကပိဋကတော်များကိုသုတ်သင်ရန်ပါဠိပဏ္ဍိတသဘာ က အဖွဲ့တွင် အဖွဲ့ဝင် တဦးအဖြစ် တင်မြှောက် လိုက်သောကြောင့် သီဟိုဠ်နိုင်ငံရှိ သံဃာတော် အရှင်မြတ်များနှင့် အစိုးရ တို့က မြန်မာနိုင်ငံတော် ဆဋ္ဌသံဂါယနာ အဖွဲ့ကြီးအား များစွာ ကျေးဇူး ဥပကာရ တင်ရှိ ပါကြောင်း၊ အဖွဲ့ကြီး၏ အလိုဆန္ဒ အ တိုင်း သီဟိုဠ်ကျွန်းရှိ ရဟန်း တော် များ အား ကိုယ်တိုင်စစ်ဆေးပြီးသောဝိနည်း ပိဋက တော်ကို အရှင်ဗုဒ္ဓ ဒတ္တ ကိုယ်တိုင် ပင့် ဆောင်၍လာခဲ့ပါသည်။

သီဟိုဠ်နိုင်ငံတော်အစိုးရသည် မြန်မာနိုင်ငံတော် အစိုးရ ကြီးမှူး၍ ဆောင်ရွက်လျက်ရှိသော လုပ်ငန်းကြီးကို များ စွာ နှစ်သက်ပါ၍ကျန်ရှိသောပိဋကတော်များကိုသီဟိုဠ်နိုင်ငံရှိ သံဃာတော်များကို စစ်ဆေးသုတ်သင်စေ၍ ဆဋ္ဌသံဂါယနာ အဖွဲ့ကြီးမှ ပြဋ္ဌာန်းထားသောအချိန် စာရင်းအရ ရန်ကုန်မြို့သို့ ပို့အပ်ပေးမည်ဖြစ်ပါကြောင်း။

မြန်မာနိုင်ငံတော်အစိုးရသို့ဘော်ပြပြီး ခဲ့သည့်အတိုင်းရန်ကုန်မြို့ ဆဋ္ဌသံဂါယနာ တင်မည့် မြေပေါ်တွင် သီဟိုဠ်နိုင်ငံမှ အဆောက်အဦ တခုပြုလုပ်ရန် သီဟိုဠ်နိုင်ငံရှိဗုဒ္ဓဘာသာဝင်အပေါင်းတို့က ဆန္ဒပြင်း



ပိဋကတော်များကိုမော်တော်ယာဉ်များဖြင့် အစီအစဉ်ကျနစွာပင့်ဆောင်လာပုံ။

ပြုလျက် ရှိ ပါ ကြောင်း။ ထိုသံဂါယနာ အဆောက် အဦးများတွင် လက်ာမန္တီ ဟူသော သီဟိုဠ်ဗုဒ္ဓမာန်ကြီး တခုကို ဆောက်လုပ်လှူဒါန်းရန် သီဟိုဠ်ကျွန်းရှိ ဗုဒ္ဓဘာသာဝင် သူတော်စင် အပေါင်းတို့ ထံမှအလှူငွေကောက်ခံရန် စီစဉ်လျက် ရှိပါ ကြောင်း။

နိဂုံးချုပ် အနေ အားဖြင့် ကျွန်တော် ဖေါ်ပြလိုသည်မှာ၁၉၅၃–ခု ဇန်နဝါရီလ အတွင်းသာသနာရေးဝန်ကြီး ဦးဝင်း၊ အမှူးပြုသော မိတ်ဆက် အဖွဲ့သည် သီဟိုဠ်ကျွန်းသို့ ကြွလာသော အခါ ကျွန် တော်များ သည် များ စွာ ဝမ်းသာ၍ ဂုဏ်ယူမိပါကြောင်း၊ ယခုအခိုက်အခါတွင် သီဟိုဠ်နိုင်ငံအစိုးရကမိမိ၏ဝန်ကြီးတဦးကိုခေါင်းဆောင် စေ၍ ဆဋ္ဌသံဂါယနာ ကိစ္စနှင့် ပတ်သက်ပြီးလျှင် မြန်မာပြည်သို့စေလွှတ်ရန် အကြောင်း မညီညွှတ်သော ကြောင့် ဝမ်းနည်းမိပါကြောင်း။

သို့သော်ငြားလည်း –၁၉၅၄–ခု နှစ် ဆဋ္ဌသံဂါယနာတင်ချိန်တွင် သီဟိုဠ် နိုင်ငံမှရဟန်းတော်များနှင့် လူပုဂ္ဂိုလ်များပါ ဝင်သော သာသနာရေး မိတ်ဆက် အဖွဲ့ကြီးတခုကိုစေလွှတ် နိုင်လိမ့်မည်ဟု မျှော်လင့်ပါကြောင်း။

အေ– ရတနယာကေး
ပြည်ထဲရေးဝန်ကြီး–သီဟိုဠ်

# သီဟိုဠ်ကျွန်း သံဂါယနာ အဖွဲ့မှ သဝဏ်လွှာ

နမော တဿ ဘဂဝတော–
အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

မြန်မာ နိုင် ငံ တော် ရှိ သာ သ နာ့ အကျိုးဆောင် သာသနာတော်ကိုစောင့် ရှောက်တော်မူကြသော သံဃာ တော် အပေါင်းတို့သည် အမြဲတစေ ကိုယ်စိတ် နှစ်ပြာကျန်းမာချမ်းသာကြပါစေသော်။

ရိုးသေလေးမြတ်စွာ ခြေတော် ဦးခိုက် လျှောက်ထား ဝံ့ ပါ သည် ဆရာ တော် အရှင်မြတ်တို့ဘုရား။

လွန်ခဲ့သောအခါသမယကစ၍ မြန်မာ နိုင်ငံတော်ရှိရဟန်းတော် အရှင်မြတ် တို့ နှင့်ဗုဒ္ဓဘာသာဝင် သူတော်စင် အပေါင်း တို့သည်သုံးပါး ရတနာတည်း ဟူ သော သာသနာတော်ကြီးကို ကြည်ညိုလေးစား စွာနှင့် သာသနာကြီး စည်ပင်ထွန်းကား အောင်ဆောင်ရွက် နေကြောင်းကို သိရှိရ ပါသည်။ထိုအချိန်အခါမှစ၍ မြန်မာနိုင်ငံ တော် နှင့် သီ ဟိုဠ် နိုင်ငံရှိ ရ ဟန်း ရှင် လူအပေါင်းတို့သည် သာသနာရေး ကိစ္စ မှစ၍ ကူလူးဆက်ဆံခြင်း အမြဲတည်လျက် ရှိခဲ့ပါသည်။ ထိုမှတဖန် များမကြာမီ မြန် မာနိုင်ငံတော်ရှိသံဃာ အပေါင်းတို့သည် ဆဋ္ဌသံဂါယနာတင်မည် ဟူသောသတင်း ကိုကြားရသောအခါ အတိုင်း မသိ ဝမ်း မြောက်လှပါကြောင်း။

မြန်မာနိုင်ငံတော်မှဆရာတော် များ နှင့်ဂုဏ်သရေရှိ ပုဂ္ဂိုလ်များ ပါဝင်သော မိတ်ဆက်အဖွဲ့သည် ထိုဆဋ္ဌသံဂါယနာ တင်ရေးအတွက်သီဟိုဠ်ကျွန်း၏အကူအ ညီကိုတောင်းသောအခါ တပည့်တော် တို့သည်မိမိတို့တာဝန်ကို ကြေပွန် စွာ အကုတ်တပတ် ကြိုးစားဆောင်ရွက်ရန် အာသီသ ရှိကြပါ ကြောင်း။ တပည့် တော်တို့အားအကြံပေးချက်အရ ရဟန်း တော်အမှူးဆောင်အဖွဲ့နှင့်လူအမှူးဆောင် အဖွဲ့တခုကို ဖွဲ့စည်း၍ထိုကိစ္စကိုကူညီနေ ပါကြောင်း။

ထိုနောက် တပည့်တော်တို့ သည်လွှဲ အပ်ခဲ့သောပိဋကတော်များကို ပြင်ဆင် ကြပါကြောင်း။ ရှေးဦးစွာ ဝိနည်းတော် ကိုပြင်ဆင်၍ ၎င်း နောက် သံယုတ္တ နိ ကာယ်ကိုပြင်ဆင်ပါကြောင်း။

ဤသဝဏ်လွှာနှင့်အတူ ပိဋကတော် များကို အရှင်ဗုဒ္ဓ ဒတ္တမထေရ်မြတ်နှင့် အဖွဲ့ဝင်ပုဂ္ဂိုလ်များကိုအပ်နှင်း၍ မြန်မာ ပြည်သို့ စေလွှတ်လိုက်ပါကြောင်း၊

ဤနည်းအားဖြင့် တပည့်တော် တို့ သည် ဤဆဋ္ဌ သံဂါယနာတော်ကြီးကို မပြီးမခြင်းစွမ်းအားရှိသမျှ ကူညီဆောင် ရွက်သွားမည်ဖြစ်ပါကြောင်း။

ဤဆဋ္ဌသံဂါယနာကြီး မကြာမြင့်မီ လုံးဝ ဥဿုံ အဆုံးတိုင် အောင် ပြီး မြောက်ပါစေသတည်း။

သီဟိုဠ်ကျွန်း၊ရှိ ရဟန်းတော်အဖွဲ့

# သာသနာရေးဝန်ကြီး၏ လျှောက်ထားချက်

ဆရာတော် သံဃာတော် များ နှင့် သီဟိုဠ်ကျွန်းက ကြွရောက် လာကြ တဲ့ ဆရာတော်များနှင့်လူပုဂ္ဂိုလ်များကိုနှုတ် ခွန်းဆက်စကား ပြောကြားရတဲ့ အ တွက်အလွန်ဝမ်းသာပါတယ်။

ယနေ့သီဟိုဠ်ကျွန်းမှ ကြွရောက်လာ ကြ တဲ့ဆရာတော်များနှင့် ဂုဏ်သရေရှိ လူပုဂ္ဂိုလ်များကိုလက်ခံပြုစုရတာဟာမြန် မာပြည်အတွက်ဂုဏ်ယူစရာကောင်းတဲ့ အချက်တရပ် ဖြစ်တယ်လို့ ယူဆ ပါ တယ်။

## ၇–လလောက်က

လွန်ခဲ့သည့် ၇ လလောက်ကမြန်မာ ပြည်က သာသနာရေး မိတ်ဆက်အဖွဲ့ တခု သီဟိုဠ် ကျွန်း ကို သွား ရောက်ခဲ့ တာကို တိုင်းသူ ပြည်သားများ မှတ်မိကြ ပါလိမ့်မည်။ ရဟန်း တော်များ ထဲမှ သံဃဥက္ကဋ္ဌ ညောင်ရမ်း ဆရာတော် ဘုရား ကြီး က ခေါင်းဆောင် ပြီး လူပုဂ္ဂိုလ် ဒါယကာများ ကိုတော့ သာသနာရေး ဝန်ကြီးကခေါင်းဆောင် ပြီး သွား ရောက် ခဲ့ပါ တယ်။ဒီကနေ့ ဖြစ်လာ ရတဲ့ အစည်း အဝေး ကြီးဟာ၊ တခြားကြောင့် မဟုတ်ပါ။ မြန် မာပြည် မှသီဟိုဠ်ကျွန်းသို့ရဟန်း ရှေ့ လူများပါ တွဲပြီး သွားရောက် ခဲ့ ကြတဲ့ သာသနာရေးမိတ်ဆက် အဖွဲ့ သွားလာခဲ့တဲ့ အ တွက် ဒီနေ့မှာ ဒီလိုအ ခွင့်အရေး မျိုး၊ ဒီလိုအ စည်း အဝေး မျိုး ပေါ် ပေါက် လာရ ခြင်း ဖြစ်တယ် ဆိုတာ ယုံကြည်ကြပါ။



မစ္စတာဘီအိပ်ချ်ဝီလျံ က သီဟိုဠ်ပြည်ထဲရေးဝန်ကြီး၏သဝဏ်လွှာကို ဘတ်ကြားနေပုံ။

သီဟိုဠ်ကျွန်းကို သွားရောက်ခဲ့တဲ့ အချိန်ကာလ တုန်းက ရဟန်း သံဃာ ဆရာတော် များကရော၊ သီဟိုဠ်ကျွန်း အစိုးရခေါင်းဆောင်တဲ့ ကျွုံးသူကျွန်း သားများကရော၊ မြန်မာပြည်က သွား ရောက်တဲ့သာသနာရေးမိတ်ဆက် အဖွဲ့ ကို လိုလေသေးမရှိအဘက်ဘက်မှ ပြည့် ဝတ်ကြေပွန်စွာ ပြုစုလိုက်ကြ ခြင်း ကို ယနေ့တိုင် မမေ့ နိုင် အောင် ဖြစ်နေပါ တယ်။

## အောင်မြင်တဲ့ အတွက်

မြန်မာပြည်မှာဆဋ္ဌသံဂါယနာ တင် ရန်အတွက် ပိဋကတော်တွေ ပြင်ဆင် တည်းဖြတ်ပေးဘို့ပိဋကတော် သုံး စုံယူ ဆောင်သွားခဲ့တာဟာ အင်မတန် ကြီး ကျယ်မြင့်မြတ်တဲ့ လုပ်ငန်းကြီး ဖြစ်ပါ တယ်၊ ဒီလိုယူဆောင်ပြီး ပိဋကတော် များတည်းဖြတ်သုတ်သင်ပေးရန် ဟိုအ ချိန်က အပ်နှင်း ခဲ့တဲ့ အတွက် ဒီနေ့ သီဟိုဠ်ကျွန်းက သံဃာတော်အရှင်မြတ် များနှင့် မင်းပရိသတ်တို့က မြန်မာပြည် သို့သုတ်သင်တည်းဖြတ်ပြီးသော ပိဋက တော်များကို ပြန်အပ်တဲ့ပွဲသဘင်ကြီး ကိုဆင်ယင်ကျင်းပနိုင်တာဟာ တပည့် တော်ရဲ့ ဆောင်ရွက်ချက် အောင်မြင်တဲ့ အတွက် အထူးနှစ်ထောင်းအားရ ဝမ်း မြောက်လှပါတယ်။

ဒီ လို အောင် မြင် ခြင်း ဟာ အ ကြောင်းတခု ရှိပါ သေးတယ်။ ဒီ အ ကြောင်းက ဘာလဲဆိုလို့ရှိလျှင်၊ သာ သနာရေးမိတ်ဆက်အဖွဲ့မသွားခင်တုန်း ကနိုင်ငံတော် ရှေ့နေ ချုပ်ကြီး ဦးချန် ထွန်းကိုယ်တိုင် သီဟိုဠ်ကျွန်းသို့ သွား ရောက်ပြီး စုံစမ်းစေ့စပ် ဆောင်ရွက်ခဲ့ တာဟာလဲ အောင် မြင် ခြင်းရဲ့ အ ကြောင်းရင်းတခုဖြစ်ပါတယ်။

## ဝမ်းနည်းပါတယ်

သီဟိုဠ်ကျွန်းပြည်ထဲရေးဝန်ကြီးထံမှ ပိဋကတော်များ ပင့်ဆောင် လာသည့် သာသနာရေးမစ်ရှင်အဖွဲ့ ကြွလာပါပြီဟု ဆို တဲ့ ကြေး နန်း ကို မြော် လင့် နေခဲ့တာဟာ အချိန်ကြာ မြင့် ခဲ့ပါ ပြီ၊ မြော်လင့်ခဲ့တဲ့အတိုင်းယခုအခါမျက်မြင် ဒိဋ္ဌအားဖြင့်တွေ့ကြုံနေကြပါပြီ မစ်ရှင်အဖွဲ့သီဟိုဠ်ကျွန်းမှ ထွက်လာပြီလို့ ကြေး နန်းရကတည်းက ကြီးကျယ်ခမ်းနားစွာ နှင့်ပိဋကတော်များကိုကြိုဆိုရန် အစီအစဉ် ပြုလုပ်ထားပါတယ်၊ သို့ရာတွင် အ ကြောင်းမသင့်အခွင့်မသာဖြစ်လာရတာ က မစ်ရှင်အဖွဲ့ဟာ ရောက်ရမည့် ရက် ထက် အချိန်စောပြီးရောက်လာတဲ့ အ တွက် မူလအစီအစဉ်တွေ အကုန်ပျက် ကုန်ရတဲ့အတွက်အင်မတန်ဝမ်းနည်းပါ တယ်။

ဒါပေမဲ့ဒီလိုအချိန်စော ပြီးဆိုက်ရောင် လာသော်လည်း မိမိတို့ အစိုးရအဖွဲ့နှင့် တကွတိုင်းသူ ပြည်သားများကမေ့မေ့ လျော့လျော့ ပေါ့ပေါ့ ဆဆ မနေလိုက် ဘဲနှင့် သဒ္ဓါ တရားနှင့် စိတ်အား ထက် ထက်သန်သန်ကြိုဆို ပူဇော်ကြတယ် ဆို

တာကိုမစ်ရှင်အဖွဲ့ဝင်ဆရာတော် ဘုရားများနှင့်တကွလူပုဂ္ဂိုလ်များကို သိရှိထားပါရန်အစီရင်ခံပါတယ်။

နောက်တခု ဝမ်းနည်း သည့် အကြောင်းတရပ် ရှိပါသေးတယ်၊ သည်အကြောင်းက ဘာလဲ ဆိုလျှင် ယခုလို သီဟိုဠ်ကျွန်းသာသနာရေး မစ်ရှင် အဖွဲ့မှမြန်မာ နိုင်ငံတော် အစိုးရနှင့် ဆရာတော်သံဃာတော် အရှင်မြတ်များအား သုတ်သင်ပြီးသော ပိဋကတော်များကို အပ်နှံဆက်ကပ်သည့်အခမ်းအနား သဘင်တွင်သီဟိုဠ်ကျွန်းက နန်းရင်းဝန်ကြီး မပါရှိသည့်အတွက်ကြောင့် ဝမ်းနည်းရခြင်းဖြစ်ပါတယ်၊ သည်ပုဂ္ဂိုလ်ကြီးဟာ သာသနာ့ဒါယကာတယောက် ဖြစ်ပါတယ်။

သို့ရာတွင် ဆဋ္ဌသံဂါယနာ ဇမ္ဗူသဘင်ဆင်ယင်ကျင်းပသောအချိန်အခါ၌သီဟိုဠ်မှ ကြွရောက်လာကြသောပရိသတ်တို့တွင် ထိုပုဂ္ဂိုလ်ကြီးကိုယ်တိုင် ခေါင်းဆောင်၍ ကြွလာကာတက်ရောက်ကြလိမ့်မည်ဟုယုံကြည်မျှော်လင့်ထားပါတယ်၊

## ကျေးဇူးတင်လှပါတယ်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရရဲ့ ကိုယ်စား သာသနာရေး ဝန်ကြီးက သီဟိုဠ်ကျွန်းရှိ သံဃာတော် အရှင်မြတ်များက တည်းဖြတ် သုတ်သင် ပေးပါရန် ပေးအပ်ခဲ့သော ပိဋကတော်များကို အင်မတန်တိုတောင်းလှသော အချိန်အတောအတွင်းမှာ ပေးအပ်ခဲ့သော ပိဋကတော်များကို သုတ်သင် တည်းဖြတ်ပေးတာကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရနှင့်တကွ တိုင်းသူ ပြည်သားများက အထူး ကျေးဇူး ဥပကာရ တင်ရှိပါတယ်။

ပေးအပ်ခဲ့တဲ့ ပိဋကတော်များကိုသီဟိုဠ်ကျွန်းရှိဆရာတော်သံဃာတော်အရှင်မြတ်များက သုတ်သင်တည်းဖြတ် နေတဲ့ အချိန်အတောအတွင်းမှာ သာသနာရေးဝန်ကြီး အကြံပေးခဲ့တဲ့အတိုင်း အစစအရာရာ ပစ္စည်း လေးပါးတို့အတွက် လိုလေသေးမရှိစေရအောင် ထောက်ပံ့ လှူဒါန်းခဲ့သည့် သီဟိုဠ် ကျွန်းအစိုးရနှင့်တကွ ကျွန်းသူကျွန်းသားအပေါင်းတို့အား ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရနှင့်တကွ တိုင်းသူပြည်သားအပေါင်းတို့က ကျေးဇူးဥပကာရ အထူးတင်ရှိပါကြောင်း။

## အကြံ ၃ ချက်

မိမိသီဟိုဠ်ကျွန်းမှာ ရှိစဉ်အခါတုန်းက သီဟိုဠ်နန်းရင်းဝန်ကြီးနှင့်တွေ့စဉ်တွင်မည်သည့်အကြံများ ပေးလိုပါသလဲဟုမေးစဉ်က အကြံ ၃ ခုပေးခဲ့ပါတယ်။ အဲဒီအကြံ ၃ ချက်ဟာဘာလဲဆိုလျှင်....

(၁) ဆဋ္ဌသံဂါယနာတင်ရန် အတွက် ပိဋကတော်များကိုသီဟိုဠ်ကျွန်းမှ ဆရာတော် သံဃာတော် အရှင်မြတ်များစုဝေးသုတ်သင်နိုင်ရန် အဖွဲ့တခုဖွဲ့စည်းပေးပါ။

(၂) ထိုအဖွဲ့အစည်းဝင်သံဃာတော်များသည် ဆဋ္ဌသံဂါယနာပိဋကတော်များကိုသုတ်သင်တည်းဖြတ်နေစဉ်အတွင်း အစစအရာရာပင်ပန်းညှိုငြင်ခြင်းမရှိရအောင်ပစ္စည်းလေးပါး အတွက် သီဟိုဠ်အစိုးရနှင့် တိုင်းသူပြည်သားများကတာဝန်ယူပါ၊

(၃) ဗမာပြည် ဆဋ္ဌသံဂါယနာ တင်ရာဌာန ဖြစ်သည့် သီရိ မင်္ဂလာကမ္ဘာ့ေစေတီကုန်းတော်မှာ အဆောက် အဦ တ ခု သီး ခြား ဆောက်လုပ်လှူဒါန်းပါဟု အကြံပေးခဲ့ပါတယ်။

ဆဋ္ဌသံဂါယနာတင်မည့်သီရိမင်္ဂလာကုန်းတော်မှာ အဆောက်အဦတခု ဖြစ်မြောက်အောင် လာရောက်ပြီး ဆောက်လုပ်ရေးအတွက် လူကော်မီတီများ ဖွဲ့ပြီး ငွေကြေးများကောက်ခံကာ ဆောင်ရွက်လုံးပမ်းနေသည်ဆိုကာသိရသည့်အတွက် အလွန်ဝမ်းသာပါတယ်။

## ဗေါဓိပင် ၁၀၀

ကြေသေးမီကအင်္ဂလန်ပြည်ဘိသိတ်ပွဲမှာ သီဟိုဠ်နန်းရင်းဝန်ကြီးနှင့် ထပ်မံတွေ့ခဲ့ရပါသေးတယ်။ အဲ့ဒီတွေ့စဉ် အချိန်တုန်းက နန်းရင်းဝန်ကြီးကို ထပ်မံပြီး အကြံတခုပေးခဲ့ပါသေးတယ်။ အဲဒီအကြံကဘာလဲဆိုလျှင် ယခုပိဋကတော်အပ်နှင်းသည့်ပွဲသဘင်ကို ကြွရောက်လာကြတဲ့ ဆရာတော် သံဃာတော် အရှင်မြတ်များနှင့်တကွ ဒါယကာ၊ဒါယိကာမ အပေါင်းတို့ သိကြပါလိမ့်မည်။ သီဟိုဠ်ကျွန်းတွင် သင်္ဂမိတ္တာ ဗေါဓိပင်ရှိတယ်ဆိုတဲ့အကြောင်း ဖြစ်ပါတယ်။ ကျွန်တော်နန်းရင်းဝန်ကြီးကို ပေးခဲ့တဲ့အကြံက တခြားဟာ မဟုတ်ပါဘူး၊ အဲ့ဒီသင်္ဂမိတ္တာဗေါဓိပင်မျိုးစေ့များကို နန်းရင်းဝန်ကြီးကိုယ်တိုင် နန်းရင်းဝန်ကြီးမျက်မှောက်မှာစိုက်ပျိုးပြီးဖြစ်ထမြောက်လာသည့် ဗေါဓိပင်ငယ် ၁၀၀ ကို သီရိမင်္ဂလာကုန်းတော်မှာ စိုက်ပျိုးနှံ အလိုရှိပါတယ်၊ အဲ့ဒီအပင်ငယ်လေးတွေအရန်သင့်ရှိတဲ့အခါမှာကြီးကျယ်စွာဖြင့် သီဟိုဠ်ကျွန်းအထိ မြန်မာပြည်မှ သွားရောက်ကြိုဆိုပါမယ်။ သီဟိုဠ်ကျွန်း အစိုးရနှင့် တကွ ဟေ့ာရှင်ပရိသတ် အပေါင်းတို့က ဘင်္ဂလားအော် ပင်လယ်ပြင်အရောက်တဝက်ခရီးအထိပို့ပါ၊ ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရကလည်း တဝက်ခရီးမှစ၍ ထိုဗေါဓိပင်ငယ်များကို ကြီးကျယ် ခမ်းနားစွာသော ရေတပ်များဖြင့် ကြိုဆိုပင့်ဆောင်ပါမည်။

ထိုဗေါဓိပင်ငယ်များ မြန်မာ ပြည်သို့ရောက်ရှိလာသည့်အခါ၌ ဆဋ္ဌသံဂါယနာ ဇမ္ဗူသဘင်ဆင်ကျင်းပမည့်သီရိမင်္ဂလာကုန်းတော်မြတ်တွင် အစီအစဉ်ပြုလုပ်စိုက်ပျိုးရန်ဖြစ်ပါတယ်ဟုအကြံပေးသည့်အခါမှာ သီဟိုဠ်နန်းရင်းဝန်ကြီးက အင်မတန်ဝမ်းမြောက် ဝမ်းသာနှင့် လက်ခံသည့်အပြင်ကတိတခုထားသွားတာကသူသီဟိုဠ်ကျွန်းသို့ပြန်ရောက်သည့်အချိန်တွင်အစိုးရအဖွဲ့နှင့်ဦးဘငွေဆွေတို့ကိုတိုင်ပင်ပြီး ဒီကိစ္စကိုဖြစ်မြောက်အောင် ဆောင်ရွက်ပါမည်လို့ ပြောသွားပါတယ်၊ သို့ရာတွင် အကြောင်းမသင့်တဲ့ကိစ္စတခုက မြန်မာပြည်မှ စေလွှတ်ထားတဲ့ မြန်မာ သံအမတ်ကြီးဦးတင့်ဆွေဟာ ဒီကိစ္စမပြီးပင်ရသေးခင် ကွယ်လွန်အနိစ္စရောက်သွားရပါတယ် တာပေမည့် နန်းရင်းဝန်ကြီး က ဒီကိစ္စကိုမစွန့်လွှတ်ဘဲ ဆက်လက် ဆောင်ရွက်နေတယ်ဆိုတာကိုသိရပါတယ်၊ ဒါကြောင့်ဗေါဓိပင်တွေ ယူဆောင်လာတဲ့အခါမှာ ဒီမြန်မာပြည်မှပရိသတ်မြောက်မြားစွာအခမ်းအနားကြီးကျယ်စွာဖြင့် ကြိုဆိုရမည့် အခွင့်အရေးမျိုးကိုမြော်တွေးပြီး ကြိုတင် ဝမ်းမြောက် ဝမ်းသာဖြစ်လျက်ရှိကြောင်းနှင့် ဒီလိုသီဟိုဠ်ကျွန်းနှင့် မြန်မာပြည် တတိုင်းပြည်နှင့်တတိုင်းပြည် သာသနာရေးကိစ္စမှာ ဆက်သွယ်ပြီး ဆောင်ရွက်နေသည့်ကိစ္စတွင် သီဟိုဠ်ကျွန်း နန်းရင်းဝန်ကြီး၏စေတနာကို မြန်မာပြည်အစိုးရအဖွဲ့နှင့်တကွတိုင်းသူပြည်သားအပေါင်းတို့က ကျေးဇူးဥပကာရအထူးတင်ရှိကြောင်းကို ယခုမစ်ရှင်အဖွဲ့တွင်ပါဝင် ကြွရောက်လာကြသည့် ဆရာတော်များနှင့်တကွ လူပုဂ္ဂိုလ်ကိုယ်စားလှယ် တော်တို့က အကြောင်းကြားပေးပါရန်၊ ယခုကဲ့သို့ သာသနာရေးကိစ္စများကိုအထူးတလည် သီဟိုဠ်နိုင်ငံနှင့်မြန်မာ နိုင်ငံ ပူးပေါင်းဆောင်ရွက်နေခြင်းသည် နှစ်ပြည် တပြည် ရွှေလမ်း ငွေလမ်းပေါက်ပြီး သာသနာတော်ကြီး ပိုမိုထွန်းလင်းမည့် အကြောင်းများကို ကိုယ်စားလှယ်တော်များက မှတ်သားထား၍ အကြောင်းကြားပါရန်နိဂုံးချုပ်စကားပြောကြားပါတယ်။

....၀....



ပိဋကတော်များကိုအရှင်ဓမ္မာနန္ဒက သာသနာရေးဝန်ကြီးဦးဝင်းမှတဆင့် (ညောင်ရမ်းဆရာတော်ဘုရား) သို့ဆက်ကပ်နေပုံ

# စစ်ကိုင်းမြို့သာသနရက္ခိတအသင်း



စစ်ကိုင်းမြို့သာသနရက္ခိတအသင်း
အမှုဆောင်လူကြီးများ

စစ်ကိုင်းမြို့တွင်ဗုဒ္ဓသာသနာတော်နှင့်သက်ဆိုင်သည့် အရပ်ရပ် ကိစ္စများကို ဆောင်ရွက်နိုင်ရန်အတွက်၁၂၈၃ ခု နှစ်က သာသနရက္ခိတအသင်း အမည်ဖြင့် တည်ထောက်ခဲ့ရာ ယခုအချိန်အခါအထိ တည်တန့်လျက်ရှိသည်။ ဤအသင်းကြီး ဖွဲ့စည်းသော အချိန်အခါများတွင် အသင်းဝင်လူကြီး ဦးရေမှာ (၃၀၀) ကျော်မျှရှိ၍ အသင်းကြီး၏ ရည်ရွယ် ချက်များမှာ (၁)ပရိယတ်၊ (၂)ပဋိပတ်၊ (၃) ပဋိဝေဓဟူသောသာသနာတော်သုံးရပ်ကို မညှိုးမနွမ်းစေရန် ဆောင်ရွက်နိုင်သမျှကြိုးစား၍ဆောင်ရွက်ကြရန် ဖြစ်သည်။

၎င်းပြင်ဤသာသနရက္ခိတ အသင်းမှကြီးမှူးပြီးလျှင် ရဟန်းတော်များအားစာပြန်ပွဲ ကျင်းပခြင်း၊ ဆွမ်းဆန်စိမ်းများ လှူဒါန်းခြင်း၊ နှစ်စဉ်နှင့်အမျှ ဝါတွင်းသုံးလပတ်လုံး သံဃာတော် များအား ယာဂုဆွမ်းများ ကပ်လှူခြင်းတို့ပြင် ၁၉၅၂-ခုနှစ်တွင် မင်္ဂလသုတ် စာ မေး ပွဲ ကျင်းပခြင်း၊ အောင်မြင်သူများကိုဆုများအသီးသီးချီးမြှင့်ခြင်းပြုခဲ့ကြသည်။

ယခုနှစ်တွင်လည်းမင်္ဂလာစာမေးပွဲကို ၁၉၅၃-ခုနှစ် မေလ ၁၀ ရက်နေ့ကကျင်းပ၍စာမေးပွဲဝင်အောင်မြင်သူများအားဆုများချီးမြှင့်ရန် စိုင်းပြင်းလျက် ရှိလေသည်။

၎င်းပြင်စစ်ကိုင်းမြို့၌နှစ်စဉ်ကျင်းပသေါ အစိုးရပထမပြန်စာမေးပွဲကြီးတွင် သာသန ရက္ခိတ အသင်းဝင် လူကြီးများ အပေါင်းမှ ဆွမ်းကျွေးပွဲလက်မှတ်ဆက်ကပ်လှူဒါန်းခြင်းစသောကိစ္စများကို ဆောင်ရွက်ခဲ့ကြကြောင်း။

# အဂ္ဂမဟာပဏ္ဍိတနှင့် အဘိဓဇမဟာရဋ္ဌ

## ဗုဒ္ဓဘာသာစာပေကျမ်းဂန်တို့၌ ကျော်စောထင်ရှားသ အမြင့်ဆုံးသောဘွဲ့ထူးတံဆိပ်တော်



သက်တော် ၈၆၊ သိက္ခာတော် ၆၆ ရှိဟသ်ာတမြို့ ဘုရားကြီးတိုက်၊ အဘိဓဇမဟာရဋ္ဌဂုရု ဘွဲ့တော်ရ ဘုရားကြီးဆရာတော်ဘုရားကြီး

### လွှတ်လပ်ရေးအရသာ

ခန့်ညားထယ်ဝါသည့် သမ္မတ အိမ်တော်အတွင်းရှိ ခန်းမဆောင်ကြီး၌ လွှတ်လပ်ရေး၏ အောင်ဆုဖြန့်သောသာသနာရေးဆိုင်ရာ အရသာထူးကြီးကို အထက်တန်းကျကျ အကွက်ဖေါ်လိုက်သည့် နေ့သည်ကား၊ ၁၈–၇–၅၃ စနေနေ့ညနေ၃နာရီအချိန်ပင်ဖြစ်ပေသတည်း။ထိုအကွက်ဖေါ်မှုကား အခြားမဟုတ်။ အဂ္ဂ မဟာပဏ္ဍိတနှင့် အဘိဓဇ မဟာရဋ္ဌ ဂုရု ဘွဲ့နှင်းသဘင်ကျင်းပသည့် အခမ်းအနားပင်ဖြစ်ပါပေတော့သည်။

### ငုံ့လင့်တော်မူနေသကဲ့သို့

ညနေ၃နာရီမတိုင်မီ က ပင် ရွှေရောင် တ ဝင်းဝင်း ထွန်းလင်းတောက်ပ ၍ နေ သော သီဟာ သနပလ္လင်တော်ကြီး ပေါ်မှ တင့်တယ် တော်မူလှ သော ဗုဒ္ဓ ရှင်တော်ဘုရား၏ ရုပ်တု တော် မြတ်သည် မကြာမီ အတွင်းသာရောက်ဖူးမျှော် ကြမည့် ရှင်ကြီး၊ ထေရ် ကြီး၊ ဝါကြီး၊ လူကြီး အသီးသီးတို့အား ငုံ့လင့်တော်မူ နေသကဲ့သို့ထင်ရလေ၏။

### စောင့်ဆိုင်း၍နေသကဲ့သို့

ဝါတော်စဉ်အလိုက် တာဝန်အလိုက်တင့်တယ်လှပစွာပြင်ဆင်၍ထားအပ်သော သံဃာတော်အရှင်မြတ်တို့၏ ထိုင်ခင်းများသည်၎င်း၊ရာထူးအလိုက် ဌာနအလိုက် သိုက်မြိုက်စွာ ခွဲခြား ပြင်ဆင်ထားအပ်သော လူပုဂ္ဂိုလ်တို့၏နေရာများသည်၎င်း၊ နေ ရာရှင် များကို စောင့် ဆိုင်း၍ နေသကဲ့သို့ထင်မှတ်ရလေ၏။

### ပင့်သံဃာတော်များ

နိုင်ငံတော်တူရိယာအဖွဲ့မှ ဘုန်းတော်ဘွဲ့သီချင်းခံကြီးများကိုသာယာငြိမ့်ငြောင်းစွာ တီးမှုတ်ဖျော်ဖြေ၍ အပြီးတွင် ဧည့်သည်အပေါင်းတို့သည် ခန်းမဆောင်ကြီး အတွင်းရှိ ဆိုင်ရာ နေရာများသို့ တဦးပြီး တဦး တစုပြီးတစု ဆိုက်ရောက်၍ လာကြလေကုန်၏။ ပင့်သံဃာဆရာတော် များသည်လည်း သာသနာရေးဌာနပါလီမန်အတွင်းဝန် သီရိပျံချီ ဦးသန်းစိန်နှင့် သာသနာ့ညွှန်ကြားရေးဝန်ဦးကြီးဖေတို့၏ ပင့်လျှောက်ချက်အတိုင်း ဆိုင်ရာ နေရာများသို့ကြွရောက်ကာ သီတင်းသုံးတော်မူနှင့်ကြကုန်၏။

### အဂ္ဂမဟာပဏ္ဍိတ ဆရာတော်များ

၂ နာရီ ၅၅ မိနစ် အချိန်သို့ ရောက်သည်နှင့်တပြိုင်နက်အမျိုးသား စိမံကိန်းနှင့်သာသနာရေး ဌာနဝန်ကြီး ဦးဝင်းက ပန်းကလပ်ကိုကိုင်ရင်းအဂ္ဂမဟာပဏ္ဍိတ ဆ ရာ တော် ၁၄ ပါး တို့ အား ပင့်ဆောင်၍လာခဲ့ရာ ဆရာတော်ကြီးများ၏ နောက်ပါးက နိုင်ငံတော်ရွှေနေချုပ်ကြီးသတိုး မဟာသရေစည်သူ ဦးချန်ထွန်းကလည်း တံခွန် ကုက္ကားများကို ကိုင်လျက် လို ပါ၍ လာသည်ကိုရင်း။ သာသနာရေးဌာနတွဲဘက်အတွင်းဝန် ဦးသိန်းညွှန့်က ကွမ်းတောင်ကို ကိုင်လျက် လိုက်ပါ၍ လာသည်ကိုရင်းတွေ့မြင်ဖူးမျှော်ကြရလေကုန်၏။

အိမ်တော် ခန်းမဆောင်ကြီး အနီးသို့ရောက်သည်နှင့် တပြိုင်နက် ရွှေပြည်တော် ဦးဘတင်ကလေးနက်ခန့်ညားသောအသံဖြင့် (အဂ္ဂမဟာပဏ္ဍိတဆရာတော်) ဟု ကြေး ကြော် လိုက် သည်နှင့် တပြိုင်နက် ရောက်နှင့်၍ နေကြသော ပရိသတ် အပေါင်းတို့က ရိုသေစွာ လက်အုပ်ချီ၍ နေကြကုန်၏။ ပရိသတ်တို့အလယ်မှ ဆိုင်ရာနေရာများသို့ ကြွရောက်တော်မူနေစဉ် အတွင်၊ မင်္ဂလာစည်တော်ကြီးကိုလည်းရွှမ်း၍နေလေ၏။

### ဘုရားကြီးဆရာတော်

၃ နာရီတိတိထိုးသည်နှင့် တပြိုင်နက် (၁) နိုင်ငံတော် တရားလွှတ်တော်ချုပ်တရားဝန်ကြီးချုပ်သတိုးသီရိသုဓမ္မဦးသိမ်းမောင်က ပန်းကလပ်ကိုကိုင်လျက်။ (၂) လက်ထောက် သာသနာ့ ညွှန်ကြားရေးဝန် ဦးညွှန့်မောင်ကဘုရားကြီးဆရာတော်ဘုရား၏ တံဆိပ်တော်နှင့် ဘွဲ့ တော် ကို ရေးသားထားသော အောင်လံတော်နှင့် အဆောင်အယောင်ကို ကိုင်လျက်။ (၃) သက်တော် ဝါတော်ကြီးရင့်တော်မူလှပြီဖြစ်သော်သည်း သီလတော်၏ အ စွမ်းကြောင့် ကျန်းမာပြည့်ဖြိုးစွာရှိသည့်ပြင်အတွင်းသန္တာန်၌ကရုဏာတော်မေတ္တာတော်အဟုန်ကြောင့် ကြည်လင်သော အသားအရေတို့နှင့်ပြည့်စုံတော်မူလှပါဘကားဟု ယုံကြည်ဘွယ်ဖြစ်သည့် ဘုရားကြီး ဆရာတော်ဘုရားသည်လည်း မွန်မြတ်လှသော ရဟန်းတို့ဇာခြဖြင့် ဖြေးညှင်းစွာကြွတော်မူလျက်။ (၄) သာသနာရေးဌာန ပါလီမန်အတွင်းဝန် သီရိပျံချီ ဦးသန်းစိန်ကသည်း



သက်တော် ၈၃၊ သိ
စစ်ကိုင်း တောင်ရိုး
အဘိဓဇ မဟာ
စံကင်း ဆရ

ဘုရားကြီးဆရာတော်၏ နောက်ပါး
ခွန်ကုက္ကားကို ကိုင်လျက်၊ (၅) သာ
နာ့ ရောင်ခြည် စာစောင်နှင့် သံဃါယ
စာစောင်အယ်ဒီတာဦးသာတင်ကလ
ကွမ်းတောင်ကိုင်လျက် ခန်းမဆောင်
၏ အဝသို့ ရောက်အလာတွင် ရွှေပြ
တော် ဦးဘတင်က (အဘိဓဇမဟာ
ဂုရု) ဘုရားကြီးဆရာတော် –ဟု ကြေ
ကြော်လိုက်သည်နှင့် တပြိုင်နက်ပရိသ
အပေါင်းတို့က လက်အုပ်တည်းဟူသေ
ကြာဖူးကို မြှောက်ချီ ပူဇော်၍နေကြ



အခမ်းအနားခမ်းမဆောင်ကြီးသို့နိုင်ငံတော်တရားဝန်ကြီးချုပ် အမှူးပြု၍ဘုရားကြီးဆရာတော်အား ပင့်ဆောင်လာပုံ



ဘွဲ့နှင်းသဘင် အခမ်းအနား
ဘွဲ့အလှူခံဆရာ
သံဃာတော်

# ...ဂူ ဘွဲ့နှင်း သဘင် အခမ်း အနားကြီး

## ...၁၀ နှုပုဂ္ဂိုလ်မြတ်ကြီးတို့အားနိုင်ငံတော်သမတကြီးက
## ...ဆက်ကပ်လှူဒါန်းတော်မူလိုက်ပြီ

...း ၆၄ရှိ စစ်ကိုင်းမြို့
...နာ ဂန္ဓာရုံ ကျောင်း
...ဘွဲ့တော်ရ
...ဘုရားကြီး

...၏။ ပရိသတ်အလယ်မှ နေရာသို့ အ
...ကြ ကြွနေစဉ် အတွင်းဝယ် မင်္ဂလာ
...တော်ကြီးကိုရွမ်းရွှဲနေသံများကိုလည်း
...နွှဲနှုးဘွယ်ရာကြားရွှဲနေကြရကုန်၏။

...င်းဆရာတော်

...ည်တော်ရွှမ်းသံရပ်စဲသွားပြီးနောက်
...ာမီအတွင်းမှာပင် (၁) နိုင်ငံတော်
...ဟောင်း လူမျိုးစုလွှတ်တော် နာယ
...ကြီး စောရွှေသိုက်က ပန်းကလပ်ကို
...ျက်။ (၂) သာသနာရေးအရာရှိ ဦး
...မောင်လင်းက ဆရာတော် ဘုရား၏

အောင်လုံတော်နှင့် အဆောင်အယောင် ကိုကိုင်လျက် (၃) ရသေ့ရဟန်းတို့မည် သည်ကိုလွန်မှုတင့်တယ်၏ဟူသောလော ကနီတိဆရာကြီး၏ စကားအတိုင်း ကိုယ် ကာယအားဖြင့်အနည်းငယ်ကြုံလှီတော် မူသည်ဟု ထင်မှတ်ရသော်လည်း သီလ သမာဓိပညာအားဖြင့် အနည်းငယ်မျှကြုံ လှီမှု မရှိပါတကားဟု ယုံကြည်ဘွယ် ကောင်းလှသော စံကင်းဆရာတော် ဘု ရားကြီး သည်လည်း ရဟန်းတို့ ဣန္ဒြေဖြင့် ဖြေးညှင်းသာသာလိုက်ပါကြွမြန်းတော်မူ လျက်။ (၄) ဆရာတော်ဘုရား၏နောက် ပါးမှသာသနာ့ညွှန်ကြားရေးဝန် ဦးကြီး ဖေက တံခွန်ကုက္ကားကိုကိုင်လျက်။ (၅) ဗုဒ္ဓဘာသာ ငွေတိုက် ဦးဘသန်း ကလည်း ကွမ်းတောင်ကို ကိုင်လျက် ယခင်နည်း အတိုင်းကြွရောက်တော်မူလာကြလေကုန် ၏။

### ညောင်ရမ်း ဆရာတော်

တတိယအကြိမ် (၁) ပိုက်ကုတ်လွှတ် တော် တရားဝန်ကြီးချုပ်က ပန်းကလပ် ကိုကိုင်လျက် (၂) သာသနာရေး အရာရှိ ဦးညွှန့်ဆွေက အောင်လုံတော်နှင့် အ ဆောင်အယောင်ကိုကိုင်လျက် (၃) အချို့ ပုဂ္ဂိုလ်များ အဘို့ ကိုယ်တော် ကို မျက် မြင်မဖူးတွေ့ရ ဘူးသော် လည်း မွေးကြိုင် သည့် အမည်သတင်းတော်ကို ကြားသိ ရ ပြီးဖြစ်သည့်အတိုင်းညီညွတ်တော်မူပါပေ စွတကားဟုယုံကြည်ဘွယ်ကောင်းသော ညောင်ရမ်း ဆရာတော် ဘုရားကြီးလည်း ရဟန်းတို့၏ ဣန္ဒြေဖြင့်ဖြေးညှင်းသာသာ လိုက်ပါကြွမြန်းတော်မူလျက် (၄) ဆရာ တော်ဘုရား၏နောက်ပါးက သာသနာ ရေးဌာန အထူးအရာရှိ ဦးဘဆွေက တံ ခွန်ကုက္ကားကို ကိုင်လျက် (၅) သာသနာ ရေးအရာရှိ ဦးဆိုင်ကျော်က ကွမ်းတောင် ကိုကိုင်လျက်ယခင်နည်းအတိုင်းကြွရောက် တော်မူကြလေကုန်၏။

၃–နာရီ–၁၂–မိနစ်အချိန်တွင် နိုင်ငံ တော်သမ္မတကြီးသည်လည်းကိုယ်ရံတော် အတွင်းဝန် အိမ်တော်ဝန်များ ခြံရံလျက် ညောင်ရမ်းဆရာတော်ဘုရားကြီး၏ ရှေ့ တည့်တည့် ၁၅ ပေအကွာသို့ကြွရောက် တော်မူလာလေသည်။

### အခမ်းအနားစပြီ

၃–နာရီ–၁၅–မိနစ်အချိန်တွင် သာ သနာရေးဌာန အထူးအရာရှိ ဦးဘဆွေ ကဆရာတော် ဘုရားကြီးများ၏ ဩဝါဒ ကြာပန်းကို ဦးထိပ်ထက် ဆင်မြန်းလျက် နိုင်ငံတော် သမ္မတကြီး၏ အမိန့်အရ အ ခမ်း အနားကို ဖွင့်လှစ် ပါပြီဘုရား ဟု လျှောက်ထားဖွင့်လှစ် လေ၏။–၃–နာရီ ၁၇ မိနစ်အချိန်တွင် သာသနာရေးဌာန ဝန်ကြီးအား အခမ်းအနား ဖွင့်လှစ် ပါ မည့်အကြောင်းကို သာသနာရေးအရာရှိ ဦးခင်မောင်လင်းက ကေပိုဒ်ရ တုဖြင့် ပန် ကြားလေ၏။ –၃– နာရီ –၂၂– မိနစ် အချိန်တွင် သာသနာ ရေး ဝန် ကြီး ဦးဝင်း က အခမ်းအနား ဖွင့် လှစ် ပြီ ဖြစ် ကြောင်း ကို အခမ်းအနား ဖွင့် စာတမ်းဖြင့် လျှောက် ကြားလေရာ စာတမ်း အ ဆုံး သာ သ နာ ပြု ကုသိုလ်ထုကို မှူ မြော် မြင် ၍ သဘင် ကို ဆင်ယင် အသင့် ဖွင့်ပါပြီဘုရား–ဟုဆို ပြီးသည်နှင့်ဘုံပြိုင်နက် သီဟာ သန ပ လ္လင် တော်ပေါ်ရှိ ဘုရားရှင် ကိုယ် တော် မြတ်၏ ရှေ့မှ ကာထားသည့် ပုဝါ တော် သည် တ ဖြည်းဖြည်း ပွင့်ပြီးသာ လေရာ ခြောက်သွယ် ရောင်ခြည် ဟို သည် မြူးရှက် ပြိုးပြက် ထိန် လင်း တဝင်းဝင်း နေ သည်ကို ဖူးမြင် ကြရ လေ ကုန် ၏။ ပုဝါ တော် ပွင့်နေ ချိန် နှင့် မရှေး မနှောင်းပင် ဂင်္ဂုနဂါး အမျိုးသွီး အဖွဲ့မှ တေဒင်္ဂ ဘိက္ခုဝေအစချီသော အ မွှန်းဖြင့်သာယာချိုအေးစွာ ရွတ်ဆိုရှ်ကန် တော့ကြသည်များကိုလည်း ကြား ရ လေ ကုန်၏။

၃–နာရီ–၃၇–မိနစ်အချိန် တွင် သု ဓမ္မဝတီ ဦးပန်းမောင်က ဟသ်ာတမြို့ ဘု ရားကြီး ဆရာတော် ဘုရားအား ငါးပါး သီလ ချီးမြှင့်ရန် အဘိယာစနဂါထာဖြင့် လျှောက်ထားလေသည်။–၃–နာရီ–၄၂ မိနစ်အချိန်တွင်ပရိသတ်က ၅ပါးသီလခံယူ ကြ လေ သည်။ ၃–နာရီ ၄၇–မိ နစ် အ ချိန် တွင် သာ သ နာ ရေး ဝန် ကြီး က အဂ္ဂမဟာပဏ္ဍိတနှင့် အဘိဇ္ဇ မဟာရ ဋ္ဌဂုရုတံဆိပ်တော် ဆက်ကပ် ရခြင်း အ ကြောင်းကို စတင်လျှောက် ထား လေ သည်။–၃–နာရီ–၅၂–မိနစ် အချိန်တွင် ပါဠိတက္ကသိုလ် တွဲဘက် အတွင်းရေး မှူးရွှေပြည်တော် ဦးဘတင် က အဘိဇ္ဇ မဟာ ရဋ္ဌ ဂုရု ဘွဲ့ တော်ရ ဆရာ တော် ဘုရားကြီးများ၏ ထေရုပ္ပတ္တိများကို ဖတ် ကြား လေ သည်။ –၄– နာ ရီ –၁ မိနစ်အချိန်တွင် လက်ထောက် သာသနာ ညွှန်ကြားရေးဝန် ဦးညွန့်မောင်နှင့် သာသ နာရေး အရာရှိ ဦးဆိုင်ကျော် တို့က အဂ္ဂ မဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ဆရာ

သက်တော် ၇၀၊ သိက္ခာတော် ၆၀ ရှိမန္တလေးမြို့ မိုးကောင်းတိုက်အဘိဇ္ဇမဟာရဋ္ဌဂုရုဘွဲ့ တော်ရညောင်ရမ်းဆရာတော်ဘုရားကြီး

ဘွဲ့နှင်းသဘင်၌ သာသနာရေး ဝန်ကြီးက ဘွဲ့နှင်းသဘင် ဆင်ယင်ကျင်းပရကြောင်းကို လျှောက်ကြားနေပုံ

...ာသန ပလ္လင်တော် ရှေ့၌
...ရားကြီးများနှင့်
...ဖူးမြင်ရပုံ


သက်တော်ဂ၁၊ သိက္ခာတော် ၆၁ရှိ စစ်ကိုင်း တောင် ရိုး အဘိ ဓိသုဒ္ဓါရုံ ချောင်ရွှေကျင် နိကာယ မဟာနာယကဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့ တော်ရ ဦးဇောတိပါလ

ကြီးကဩဝါဒ စကား မိန့်ကြား တော်မူလေသည် ၎င်းနောက် ညောင်ရမ်းဆရာတော်ဘုရားကြီးကလည်း ဩဝါဒ စကား၊ များမိန့်ကြားတော်မူလေသည်။—၄—နာရီ ၅၈—မိနစ်အချိန်တွင် နိုင်ငံတော် သမ္မတကြီးက ရေစက်သွန်းချ အမျှပေးဝေတော်မူလ သည်။—၅—နာရီ—၃- မိနစ် အချိန်တွင် သာသနာရေးဌာန အထူး အရာရှိဦးဘခွေက ဆရာတော် ဘုရားကြီး များ

၏သီလဂုဏ်—သမာဓိဂုဏ် ပညာဂုဏ်တို့ကြောင့်၎င်း နိုင်ငံတော်သမ္မတကြီး အမှူးပြုသော ဒါယကာဒါယိကာမ အပေါင်းတို့၏ သဒ္ဓါစေတနာ တို့ကြောင့်၎င်းအဂ္ဂမဟာပဏ္ဍိတ နှင့် အဘိဓဇ မဟာရဋ္ဌဂုရုဘွဲ့နှင်း သဘင်ကြီးမှာ အောင်မြင်စွာ ပြီး ဆုံး ချိန် သို့ ရောက်ပါပြီ ဘုရား ဟု လျှောက် ထားခါ အခမ်းအနားကို ရုပ်သိမ်းလိုက်လေသတည်း။

တော်များ၏ ထေရုပ္ပတ္တိ များကို ဘတ်ကြား လေ သည်။၄—နာရီ၄၁—မိနစ်အချိန်တွင် နိုင်ငံတော် သမ္မတကြီးက အဘိဓဇမဟာရဋ္ဌ ဂုရုဘွဲ့တံဆိပ်တော်နှင့် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် တော်များ ကို တပါးစီ—တပါးစီ ဆက်ကပ် လှူ ဒါန်း


သက်တော်၇၄၊ သိက္ခာတော် ၅၄ရှိ ပခုက္ကူမြို့မဟာ ဝိသုတာရာမတိုက်နာယကဆရာတော် အဂ္ဂမဟာ ပဏ္ဍိတ ဘွဲ့တော်ရဦးသုန္ဒရ

တော်မူလေသည်။ ထိုသို့ဆက်ကပ်လှူဒါန်းတော် မူပြီးနောက် ဘွဲ့တံဆိပ်တော် ဆက်ကပ်ရခြင်း၏ အကြောင်းနှင့် ပတ်သက်သည့် အချက်များကို လျှောက် ထားတော်မူလေသည်။ —၄— နာ ရီ —၅၃— မိနစ်အချိန်တွင် စံကင်းဆရာတော် ဘုရား


သက်တော် ၇၁၊သိက္ခာတော် ၅၁ ရှိပခုက္ကူမြို့ မဟာဝိသုတာ ရာမ တိုက်နာယကဆရာတော်အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တော်ရ ဦးနန္ဒဝံသ

# ဘွဲ့နှင်းသဘင်အခမ်းအနားကြီးတွင် သာသနာရေးဝန်ကြီး၏ လျှောက်ထားချက်

## စိတ်အားတက်မိပါသည်

ရိုသေလေးမြတ်စွာ ခြေတော် ဦးခိုက်လျှောက်ထားဝံ့ပါသည် ဆရာတော်အရှင်မြတ်တို့ဘုရား

ယခု ပြုလုပ်တဲ့ ဘွဲ့နှင်းသဘင်ကြီးမှာ လွတ်လပ်တဲ့ မြန်မာ နိုင်ငံတော်ကြီးဝယ် ရှေးဦးအစ ပဌမဆုံးအကြိမ် ပြုလုပ်တဲ့ ပွဲသဘင်ကြီး ဖြစ်ပါတယ်။ ဘုန်းကံကြီးမားတဲ့မြတ်စွာဘုရားသာသနာတော်ကြီးဝယ် ဘုန်းကံ ကြီးမားတဲ့ ဆရာတော်—သံဃာတော်တို့အား ဘွဲ့တံဆိပ်တော်တို့ကို လှူဒါန်းခွင့် ပူဇော်ခွင့် ရခြင်းမှာလဲ ဘုန်းကံကြီးမားတဲ့အတွက် ရရှိခြင်းဖြစ်တယ်လို့ ယုံကြည်ကာ စိတ်အား တက်မိပါသည် ဘုရား။

## လမ်းရိုးကြီးတခု

ချီးမြှောက်ထိုက်သူကို ချီးမြှောက်ခြင်း ပူဇော်ထိုက်သူကိုပူဇော်ခြင်း အလေ့အထမှာ ယခုအခါမှဖြစ်ပေါ်လာတဲ့အလေ့အထမဟုတ်ပါ။ နှစ်ပေါင်းများစွာကမှာ အသချေ့ရှေးပဝေဏီအခါကပင် ဖြစ်ပေါ်လာခဲ့တဲ့ ပညာရှိသူတော်ကောင်းတို့ထုံးဟောင်းစဉ်လာ ဓမ္မတာ့လမ်းရိုးကြီးတခု ဖြစ်ပါသည်ဘုရား။

## ခံယူထိုက်ပါတယ်

ဘွဲ့တံဆိပ်တော်လှူဒါန်းပူဇော်ခြင်းကို သာမန်ပုဂ္ဂိုလ်တို့ ခံယူထိုက်သည် မဟုတ်ပါ။ သီလဂုဏ်။သမာဓိဂုဏ်။ ပညာဂုဏ်စသည်တို့ဖြင့် လွန်ကဲတဲ့ ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်တို့သာ ခံယူထိုက်ပါတယ်။ခံယူထိုက်သူကို လှူဒါန်းပူဇော်ခြင်းသည်သာဘွဲ့တံဆိပ် အမည်ပညတ်ဂုဏ်နှင့်ခံယူသူဂုဏ်အားတို့ တပြေးတည်းညီညွတ်သဖြင့် လူတို့အလယ်ဘွင် တင့်တယ်နိုင်ပါသည် ဘုရား၊

## ဂုဏ်တော်ကိုအစွဲပြုလျက်

သုံးလောကထွတ်ထား မြတ်စွာဘုရားကိုယ်တော်သည်ပင်မောဒိပင်နှင့်ရွှေပလ္လင်ဝယ်မာရ်ငါးပါးကို အောင်မြင်တော်မူတဲ့ ဂုဏ်တော်ကြောင့်(အနန္တဇိန) ဘွဲ့ မည်တော် လူနတ်ဗြဟ္မာသတ္တဝါ ထူးထူးခြားခြား ပူဇော်ခြင်းကို ခံယူထိုက်တဲ့ ဂုဏ်ကြောင့် (အရဟံ) ဘွဲ့မည်တော် သမ္မာသမ္ဗုဒ္ဓဘွဲ့မည်တော် စသည်တို့ဖြင့် ဂုဏ်တော်ကိုအစွဲပြု၍ဖြစ်သောအမည်တော်တို့မှာ မရေမတွက်နိုင်အောင်များပြားလျက် တလောကလုံး ထင်ရှားကျော်စောတော်မူခဲ့ပါသည်ဘုရား၊

## တေဒဂ်ဘွဲ့ထူး

မြတ်စွာဘုရား လက်ထက်တော်အခါကလည်း တပည့်သာဝကနှင့်ဒါယကာဒါယိကာမတို့တွင်ရှေးရှေးသောဘဝသံသရာတို့က ဖြည့်ကျင့် ဆည်းပူးခဲ့သော ပါရမီကုသိုလ်နှင့် တောင့်တခဲ့ ဘူးသော ဆုတောင်းအလျောက် သီလဂုဏ် သမာဓိဂုဏ်၊ပညာဂုဏ်စသည်တို့ဖြင့် ကဲလွန်တဲ့ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တို့ကို ပရိသတ်တို့အလယ် ရွေးချယ်ကာ ဘုရားကိုယ်တော်တိုင် (တေဒဂ်) ဘွဲ့တံဆိပ်ထူးကို ချီးကျူးပေးအပ်ဘူးသောထုံးရှိပါသည်ဘုရား။

တပည့်သာဝကထဲက အသိ အလိမ္မာဉာဏ်ပညာအရာ၌ အထူးခြား အကဲလွန်ဆုံးဖြစ်သော လက်ျာတော်ရံအရှင်သာရိပုတ္တရာအား (ပညာတေဒဂ်) ဘွဲ့တံဆိပ်တော် တန်ခိုးဣဒ္ဓိပါဒ်အရာ၌အထူးခြားအကဲလွန်ဆုံးသော လက်ဝဲ တော်ရံ အရှင်မဟာမောဂ္ဂလာန်အား (ဣဒ္ဓိတေဒဂ်) ဘွဲ့တံဆိပ်တော်တို့ကို မြတ်စွာဘုရား ကိုယ်တော်တိုင် ပရိသတ်တို့အလယ်၌ ချီးကျူးပေးအပ်ခဲ့ဘူးသောထုံး ရှိပါသည်၊ ထို့မှတပါးသော ပုဂ္ဂိုလ်တို့အားလည်း အရာဌာနအားလျော်စွာ အထူးခြား အလွန်ကဲဆုံး ဖြစ်သည်ကို အစွဲပြု၍ အသီးအသီး (တေဒဂ်) ဘွဲ့တံဆိပ်တော်တို့ကို ချီးကျူးပေးအပ်ခဲ့ဘူးသောထုံး ရှိပါသည်ဘုရား။

## မင်းအဆက်ဆက်တို့လည်း

ထိုနောက်မဇ္ဈိမဒေသ သီဟိုဠ်။ယိုးဒယား။ ကမ္ဘောဒီးယား စသောနိုင်ငံတို့မှာလည်း သာသန ဒါယကာမင်း အဆက်ဆက်တို့လည်း သီလဂုဏ်။ သမာဓိဂုဏ် ပညာဂုဏ် တို့ဖြင့် ထူးခြား ကဲလွန်သော ဆရာ တော်—သံ ဃာ တော် ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တို့အားအရာဌာနအားလျော်စွာ ဂုဏ်နှင့်ဂုဏ်အားတပြေးတည်းညီညွတ်အောင် ဘွဲ့တံဆိပ်ထူးတို့ကို အထိုက်အလျောက်ချီးမြှောက်ပူဇော်ခဲ့ဘူးသောထုံး ရှိပါသည်ဘုရား။

## ဘုဝနေကဗာဟုလက်ထက်

သီဟိုဠ်ကျွန်း၊ ဘုဝနေက ဗာဟု မင်းလက်ထက်၌ ဟံသာဝတီ နေပြည်တော် ဓမ္မစေတီမင်းကြီး တောင်းပန်ချက် အရ သီဟိုဠ်ကျွန်းသို့သွား၍ကလျာဏီ မြစ်အတွင်းဝယ်သိက္ခာသစ်တင်ကာရဟန်းပြုကြသော မောဂ္ဂလာန် မထေရ်အား (သိရိသင်္ဃဗောဓိ သာမိ) ဘွဲ့တံဆိပ်တော်။ မဟာသီဝလိ မထေရ်အား (တိလောကဂုရုသာမိ) ဘွဲ့တံဆိပ်တော် ဤသို့ခေါင်းဆောင်ဆရာတော် ၂၂ပါးတို့အား ၂၂မျိုးသော ဘွဲ့တံဆိပ်တော်တို့ကို အသီးသီး


သက်တော် ၇၁၊ သိက္ခာတော် ၅၀ ရန်ကုန်မြို့ ကျောင်းတော် ရာ ရွှေ ကျင်တိုက် အဂ္ဂမဟာ ပဏ္ဍိတ ဘွဲ့တော်ရ မန်းဦးဆရာတော် ဦးဇောတ

လှူဒါန်းပူဇော်ခဲ့ဘူးသောထုံး ရှိပါသည်ဘုရား။

## သုဘူတိမထေရ်

ယိုးဒယားပြည်ယိုးဒယားမင်းတို့လက်ထက် သီဟိုဠ်ကျွန်းသား သုဘူတိမထေရ်


သက်တော်၇၁၊ သိက္ခာတော်၅၁ ရှိ မန္တလေးမြို့ပတ္တမြားတိုက် အဂ္ဂမဟာ ပဏ္ဍိတ ဘွဲ့တော် ရ ပတ္တမြား ဆရာတော်ဦးဇာဂရ

အား(ပဝရနေရုတ္တိကာစရိယမဟာဝိဘာဝီရာဇဂုရု)' ဘွဲ့တံဆိပ်တော်ကို လှူဒါန်းပူဇော်ခဲ့ဘူးသောထုံး ရှိပါသည်ဘုရား။

## ဓမ္မရတနဆရာကြီး

ကမ္ဘောဒီးယားပြည် ကမ္ဘော ဒီးယားမင်းတို့လက်ထက် သီဟိုဠ်ကျွန်းသား ဓမ္မ


သက်တော်၆၇၊သိက္ခာတော်၄၈ ရှိ ကျိုက္ကမီ ခရိုင် ချောင်းဆုံမြို့ အနိုင်မုဒ်နန်ရွာ ဗိဋကတိုက်ကျောင်း၊ အဂ္ဂမဟာပဏ္ဍိတဘွဲ့တော်ရဦးကောသလ္လ



သက်တော် ၆၇ သိက္ခာတော် ၄၇ ရှိ ရန်ကုန်မြို့ ဘုရားကြီးတိုက် နာယက ဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တော်ရဦးကောဏ္ဍည။

ရတနဆရာကြီးအား (ဗုဒ္ဓသာသနမဟာ ဘူရသောမ)ဟု ရွှေပြား၌ရေးသားကာ နှုန်းသင်းကျစ်ဘွဲ့တံဆိပ်ကိုပေးအပ်ပူဇော် ခဲ့ဘူးသောထုံးရှိပါသည်ဘုရား။

## ကျန်စစ်မင်းလက်ထက်

မြန်မာနိုင်ငံတော်အထက်ပိုင်းပုဂံပြည်



သက်တော် ၆၇ သိက္ခာတော်၄၇ရှိ ညောင်လေးပင်မြို့အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တော်ရတောရကျောင်းဆရာတော် ဦးအရိယ၊

ဉာန်စစ်မင်းလက်ထက် သံဃာသေန မဟာ ထေရ်အား (သံဃသေန ဝရပဏ္ဍိတ) ဘွဲ့တံဆိပ်တော်၊ အလောင်း စည်သူမင်း လက်ထက် ဓာတုဣဿရာရာမကျောင်း၌ မဟာ ထေရ်အား(မဟာအဂ္ဂပဏ္ဍိတ) ဘွဲ့တံ ဆိပ်တော်၊နရပတိစည်သူမင်း လက်ထက်



သက်တော် ၆၆ သိက္ခာတော်၄၆ရှိ မန္တလေးမြို့ဘုရားကြီးတိုက် အဂ္ဂမဟာ ပဏ္ဍိတ ဘွဲ့တော်ရ ဟံသာဝတီဆရာ တော်ဦးဣန္ဒာသ ဘာဘိဝံသ၊

လောကပ္ပတ္တိ ပကာသနီ ကျမ်းပြု မဟာ ထေရ်အား (အဂ္ဂပဏ္ဍိတ) ဘွဲ့တံဆိပ် တော်၊ကျစွာမင်းလက်ထက်သဒ္ဒနီတိကျမ်း ပြု ဆရာတော် အား (အဂ္ဂဝံသ အဂ္ဂ ပဏ္ဍိတ) ဘွဲ့တံဆိပ်တော်၊နရ သီဟပ တေ့မင်းလက်ထက်နိရုတ္တိနယပါရဂူ ဖြစ် သော မဟာ ထေရ် အား (ဒိ သာ ပါမောက္ခ) ဘွဲ့တံဆိပ်တော်တို့ကို လှူ ဒါန်း ပူဇော်ခဲ့ဘူးသောထုံး ရှိပါသည် ဘုရား။

## ဓမ္မစေတီလက်ထက်

မြန်မာနိုင်ငံတော်အောက်ပိုင်း ဟံသာ ဝတီပြည် ရာမာဓိပတိဘွဲ့ခံဓမ္မစေတီမင်း လက်ထက်၌ ကလျာဏီ သိမ်တွင်ရဟန်း ပေါင်း(၁၅၀၀၀)ကျော်တို့ကို ဥပဇ္ဈာယ် ဆရာပြု၍ရဟန်းပြုပေးသောသုဝဏ္ဏသော ဘ မထေရ်ကြီးအား(ကလျာဏီတိဿ) ဘွဲ့တံဆိပ်တော်၊ ဒလမြို့ အရှင် သာရိ ပုတြာမထေရ်အား(ဓမ္မဝိလာသ) ဘွဲ့တံ ဆိပ်တော်တို့ကိုလှူဒါန်းပူဇော်ခဲ့ဘူးသော ထုံးရှိပါသည်ဘုရား။

## သာလွန်မင်းတရားလက်ထက်

မြန်မာနိုင်ငံတော်အထက်ပိုင်း ဝိဇယ ပုရအင်းဝ နေပြည်တော်ကြီး၌ သာလွန် မင်းတြားကြီးလက်ထက် ပြည်ပဒ္မင်ကျော် အား (တိပိဋကာလင်္ကာရ) ဘွဲ့တံဆိပ် တော်၊ အင်းဝ ပ ဉ္စင်း ကျော် အား (အရိယာလင်္ကာရ) ဘွဲ့တံဆိပ်တော်တို့ ကိုလှူဒါန်း ပူဇော်ခဲ့ဘူးသော ထုံးရှိပါ သည် ဘုရား။

## ကုန်းဘောင်ခေတ်

ရတနာ သိခ ကုန်းဘောင် နေပြည် တော်အလောင်းမင်းတရားကြီးလက်ထက် မှစ၍ မန္တလေးရတနာပုံပဉ္စမမြို့တည် နန်း တည် ပဉ္စမ သံဂါယနာတင်မင်းတုံး မင်း တရားကြီး လက်ထက် တိုင်အောင် ဆရာ တော်သံဃာတော်တို့အား(ရာဇဂုရု) ဘွဲ့ တံဆိပ်တော်နှင့် (ရာဇာဓိရာဇဂုရု) ဘွဲ့ တံဆိပ်တော် တို့ကို လှူဒါန်း ပူဇော်ခဲ့ဘူး ပါသည်။သီပေါမင်း တရားကြီးလက်ထက် (ရာဇာဓိရာဇဂုရု) ဘွဲ့တံဆိပ်တော်ကို ပင် ငါးမျိုးငါးဆင့်ထား၍ လှူဒါန်းပူဇော် ခဲ့ဘူးသောထုံးရှိပါသည်ဘုရား။

## အင်္ဂလိပ်လက်ထက်

အင်္ဂလိပ်မင်းတို့လက်ထက်၌လည်းမြန် မာမင်းတို့ထုံးတမ်းစဉ်လာကို လိုက်လျော သောအားဖြင့်ဆရာတော်သံဃာတော်တို့ အား (အဂ္ဂမဟာပဏ္ဍိတ) ဘွဲ့တံဆိပ် တော်တို့ကိုလှူဒါန်းပူဇော်ခဲ့ဘူးသောထုံး ရှိပါသည်ဘုရား။

ဤသို့ထုံးဟောင်းသာဓက အမျိုးမျိုး ကို ထောက်ထား၍ ဘွဲ့တံဆိပ်တော် လှူ ဒါန်းခြင်း ပူဇော်ခြင်းမှာ လောက ဓမ္မ ရာဇတန္တိပဝေဏီစဉ်ဆက် ဆင်းသက်ခဲ့ ရာကြက်သရေမင်္ဂလာကြီးတခုဖြစ်ကြောင်း ကောင်းကောင်းကြီး ထင် ရှား ပါသည် ဘုရား။

## ယခု ၁၈ ပါး

ယခုဘွဲ့တံဆိပ်တော် အလှူခံ ဆရာ တော်ကြီး(၁၈)ပါးမှာသီလဂုဏ်၊သမာဓိ ဂုဏ်၊ ပညာဂုဏ် သည်တို့ဖြင့် ထုံအပ် သော ဆရာတော်ကြီးများဖြစ်ရကား နိုင်ငံ တော် သမ္မတကြီး အမှူးရှိတဲ့နိုင်ငံတော် အစိုးရက ဘွဲ့တံဆိပ်တော်ကို လှူဒါန်းပူ ဇော်ခြင်းဖြင့်ဂုဏ်နှင့်ဂုံဏေးတပြေးတည်း ညီညွှတ်ရကား ဗုဒ္ဓ သာသနာတော်ကြီး ဝယ်နေအရောင် လအရောင်တို့ဖြင့် ထွန်း ပြောင်သည့်အလား အလွန် ကြက်သရေ မင်္ဂလာတို့ဖြင့် တိုးပွားတင့်တယ်ခဲ့ပါသည် ဘုရား။

နိဂုံးချုပ် အနေဖြင့် အထူး လျှောက် ထားလိုပါသည်ဘုရား။ နိုင်ငံတော် ဗုဒ္ဓ သာသနာအဖွဲ့က အမှူးပြုပြီး တပြည်လုံး ဆဋ္ဌသံဂါယနာတင်ရန် နှေညမအေးကြီး စားဆဲဖြစ်ပါတယ်။ လွတ်လပ်တဲ့ ပြည် ထောင်စုလူထုတရပ်လုံးအားကိုးရာဖြစ်တဲ့ လွတ်လပ်တဲ့ဗုဒ္ဓသာသနာတော်ကြီး၊ ဆီး နှင်းမြူတိမ်အသူရိန် မိုးခိုးညစ်မျိုး ငါးပါးမှ လွတ်ကင်းတဲ့ နေမင်းလမင်းတို့ အရောင် အဝါထွန်းလင်းတင့်တယ်သလိုဆရာတော် သံဃာတော် များနှင့် တိုင်းပြည် လူထု၏ စွမ်းအင် လုံ့လဖြင့် တင်အပ်သော ဆဋ္ဌ သံဂါယနာ(ဓမ္မစက်ဥပဒေအာဏာစက်)၏ စွမ်းအင်ကြောင့်အလဇ္ဇီ၊ ဒုဿီလ၊ မိစ္ဆာဝါဒ အညစ်အကြေးတွေ လွင့်ပါး ကင်းစင်ပြီးဗုဒ္ဓသာသနာတော်ကြီး ကမ္ဘာ တွင် အနှံ့အပြား ထွန်းကား တင့်တယ် အောင် ဆောင်ရွက်တော်မူကြပါရန်လေး လေးနက်နက်တောင်းပန်လျှောက်ထားပါ သည်ဘုရား။"



သက်တော် ၆၅ သိက္ခာတော်၄၅ရှိ မန္တလေးမြို့ ဘုရားကြီးတိုက်အဂ္ဂမဟာ ပဏ္ဍိတဘွဲ့တော်ရသာသနဓောတိကာ ရုံ အုတ်ကျောင်းဆရာတော်ဦးနာရဒ။

ဘွဲ့တံဆိပ်တော်တို့ကို ဆက်ကပ်လှူဒါန်း ခဲ့ကြပါသည်ဘုရား။

## ရဟန်းနှင့်လူ

ဘွဲ့တံဆိပ်တော်တို့ကို ဆက်ကပ် လှူ ဒါန်းခြင်း၏ အဓိကရည်ရွယ်ချက်မှာ ဗုဒ္ဓ သာသနာတော်ကြီးကို ချီးမြှောက်ခြင်းဆင်



သက်တော် ၆၄ သိက္ခာတော်၄၄ ရှိ မန္တလေးမြို့ အဂ္ဂ မဟာ ပဏ္ဍိတ ဘွဲ့ တော်ရရွှေဘုန်းရှိန်ဆရာတော်ဦးဥက္ကံသာဘိဝံသ (ဦးကြွယ်)။

ဖြစ်ပါသည်။ ဗုဒ္ဓသာသနာတော် ကြီးကို ချီးမြှောက် ရာ၌လည်း ရဟန်းတော်များ ချည်းသက်သက် မချီးမြှောက်နိုင်ပါ။ လူ ဒါယကာများချည်းသက်သက်လည်းမချီး မြှောက်နိုင်ပါ။ရဟန်းနှင့်လူတွဲဘက်၍ ချီး မြှောက်ရပါသည်။ရဟန်းနှင့်လူတွဲဘက်၍

# ဘွဲ့နှင်းသဘင်အခမ်းအနားကြီးတွင် နိုင်ငံတော်သမ္မတကြီး လျှောက်ထားချက်

## ဝမ်းမြောက်လှပါသည်

တပည့်တော် ရှိသေလေးမြတ်စွာ ပန် ကြားလျှောက်ထားပါသည်ဘုရား။

ယနေ့ပွဲသဘင်ကြီး၌ သီလဂုဏ် သမာ ဓိဂုဏ်ပညာဂုဏ်တို့နှင့် ပြည့်စုံ၍သာသနာ တော်စောင့်ဖြစ်သောဆရာတော်ကြီးများ ကိုဖူးမျှော်ကန်တော့ရပြီး ကြွရောက်လာကြ သောလူကြီးလူကောင်းပရိသတ်အပေါင်း တို့နှင့်တွေ့ဆုံရသည့်အတွက် အလွန်အား တက်ဝမ်းမြောက်လှပါသည်ဘုရား။

ယခုကျင်းပသည့် ပွဲသဘင်အခမ်း အ နားကြီးမှာ (အဂ္ဂမဟာပဏ္ဍိတ) ဘွဲ့ တံဆိပ်တော်နှင့်(အဘိဇမဟာရဋ္ဌဂုရု) ဘွဲ့တံဆိပ်တော်တို့ကို ဆက်ကပ်လှူဒါန်း ခြင်းဖြင့်ဗုဒ္ဓသာသနာတော်ကြီးကိုချီးမြှင့် သောပွဲသဘင်ကြီးဖြစ်ပါသည်ဘုရား။

## ရှေးယခင်ကပင်

ဘွဲ့တံဆိပ်တော် တို့ကို ဆက်ကပ်လှူ ဒါန်းသည်မှာလည်းယခုအခါမှဆက်ကပ် လှူဒါန်းသည်မဟုတ်ပါ။ ရှေးအခါကပင် ဆက်ကပ်လှူဒါန်းသောထုံးတမ်းစဉ်လာ ရှိပါသည်။ လွန်ခဲ့သောနှစ်ပေါင်း ၂၅၀၀ ကျော်ကာလ မြတ်စွာဘုရား ပွင့်တော်မူ သော အခါသမယကစ၍ လွန်ကဲသော သီလဂုဏ် သမာဓိဂုဏ် ပညာဂုဏ်တို့ဖြင့် လွှမ်းထုံကျော်ကြားသည့် ရဟန်းသံဃာ တော်များအားသင့်လျော် ထိုက်တန်သော



သက်တော် ၆၄ သိက္ခာတော် ၄၄ရှိ မန္တလေးမြို့ မဟာဝိသုဒ္ဓာရုံတိုက်သစ် အဂ္ဂမဟာပဏ္ဍိတဘွဲ့တော်ရ ပြောင်း ဖြူ ဆရာတော် ဦးဥာနာဘိဝံသ။



သက်တော် ၆၀ သိက္ခာတော် ၄၀ ရှိ ရန်ကုန်မြို့ ကန်ဘဲ့ကျောက်ကုန်းတောရ အဂ္ဂမဟာပဏ္ဍိတဘွဲ့တော်ရ မေဒိနီဆရာတော် ဦးအာဒိစ္စ။

ချီးမြှောက်ပါမှလည်း သာသနာတော်ကြီး အရှည်သဖြင့်ကြီးပွါးနိုင်ပါသည်ဘုရား။

သာသနာတော်ကြီးကိုချီးမြှောက်ရာ၌လည်း......

(၁) ပစ္စယာနုဂ္ဂဟ—
(၂) ဓမ္မာနုဂ္ဂဟ—

နှစ်မျိုးဖြစ်ပါသည်၊ ၎င်းနှစ်မျိုး အနက် ပစ္စယာနုဂ္ဂဟမှာလူဒါယကာတို့ လုပ်ငန်းဖြစ်ပါသည်။ ဓမ္မာနုဂ္ဂဟမှာ ရဟန်းတော်တို့လုပ်ငန်းဖြစ်ပါသည်။ ရဟန်းနှင့်လူ တွဲဘက်ကာ မိမိတို့သက်ဆိုင်ရာ လုပ်ငန်းဖြင့် ချီးမြှောက်ရပါသည်ဘုရား၊

မုဒ္ဓသာသနာတော်ကြီးမှာလည်း....

(၁) ပရိယတ္တိ သာသနာ—
(၂) ပဋိပတ္တိသာသနာ—
(၃) ပဋိဝေဓသါသနာ—

သုံးမျိုးဖြစ်ပါသည်။ ၎င်းသုံးမျိုးကိုအနက်ပရိယတ္တိ သာသနာ ဟူသည်မှာ ပိဋကတ်ကျမ်းစာများဖြစ်ပါသည်။ ပဋိပတ္တိ သာသနာဟူသည်မှာ အယုတ်ဆုံး ငါးပါးသီလမှစ၍ အရဟတ္တဖိုလ်ဆိုက်ထိအောင် ကျင့်ရသော ကျင့်ဝတ်ပဋိပတ်ဖြစ်ပါသည်။ ပဋိဝေဓ သာသနာ ဟူသည်မှာ မဂ်ဖိုလ်နိဗ္ဗာန် လောကုတ္တရာ တရား ကိုးပါးဖြစ်ပါသည်၊

ဗုဒ္ဓသာသနာတော်ကြီး၌ ပြုလုပ်ရမည့် လုပ်ငန်းမှာလည်း—

(၁) ဂန္ထဓူရလုပ်ငန်း။
(၂) ဝိပဿနာဓူရလုပ်ငန်း။

နှစ်မျိုးဖြစ်ပါသည်၊ ၎င်းနှစ်မျိုးအနက် ပိဋကတ်စာပေကျမ်းဂန်သင်အံ ပို့ချခြင်းမှာ ဂန္ထဓူရလုပ်ငန်းဖြစ်ပါသည်။ သမထ ဝိပဿနာ ဘာဝနာတို့ကို ပွားများ အားထုတ်ခြင်းမှာဝိပဿနာဓူရလုပ်ငန်းဖြစ်ပါသည်။ ဂန္ထဓူရလုပ်ငန်းတခုကိုသာ အားထုတ်နေပါလျှင် ပရိယတ္တိသာသနာတော်ကြီးသာကြီးပွားနိုင်ပါသည်၊ ဝိပဿနာဓူရ လုပ်ငန်းကိုပါ အားထုတ်ပါမှ ပဋိပတ္တိသာသနာနှင့် ပဋိဝေဓ သာသနာကြီးတို့ကြီးပွားနိုင်ပါသည်ဘုရား၊

## မျက်မြင်ဒိဋ္ဌ

ယခုပရိယတ္တိ သာသနာ ကြီး ပွါးကြောင်း ဂန္ထဓူရ လုပ်ငန်း မှာ ပဌမပြန်စာမေးပွဲပါဠိပဏ္ဍိတက္ကသိုလ် စာမေးပွဲ အဘိဓမ္မာစာမေးပွဲ၊ မဂ်လာစာမေးပွဲ၊ ဗုဒ္ဓဘာသာစာမေးပွဲ ၊ ဝိနည်းစာမေးပွဲ အစရှိသောနိုင်ငံတော်ရှိစာမေးပွဲ အရပ်ရပ် တို့မှာဝင်ရောက်ဖြေဆိုသူ အောင်မြင်သူ တို့ တနှစ်ထက်တနှစ်ပေါ်များ တိုးတက် လာသည်ကို တွေ့မြင်ရသည့် အတွက် ပရိယတ္တိသာသနာတော်ကြီးတနေ့ တခြားကြီးပွါးလာသည်မှာ မျက်မြင် ဒိဋ္ဌဖြစ်၍အလွန်ဝမ်းမြောက်မိပါသည်ဘုရား။

## သာသနာ့ရိပ်သာမှစ၍

ပဋိပတ္တိသာသနာနှင့် ပဋိဝေဓ သာသနာကြီးပွါးကြောင်းဖြစ်သောဝိပဿနာဓူရလုပ်ငန်းမှာလည်း လွန် ခဲ့ သော နှစ်ပေါင်းများစွာက ကွယ်ပျောက်လှ မတတ်နေသော်လည်း ယခုအခါရန်ကုန်မြို့ သာသနာ့ရိပ်သာမှစ၍နိုင်ငံတော် အရပ်ရပ်၌ သာသနာ့ ရိပ်သာ အများ ဖွင့်လှစ် ကာ တနေ့ တခြား ကမ္မဋ္ဌာန်း အားထုတ် သူယောဂီပေါ်များလာသည်ကို မြင်ရကြားရသဖြင့်အလွန် အားတက်မိပါသည် ဘုရား

## ဆဋ္ဌသံဂါယနာတင်ခြင်းမှာ

ရှေးရှေး သော သာ သနာပြု မင်းကောင်းမင်းမြတ်တို့သာသနာ တော်ကြီးကိုအစွမ်းကုန် ချီးမြှောက် ကြသည့် မှာ သံဂါယနာတင်လုပ်ငန်းကြီးများ ဖြစ်ပါသည် လာမည့်၁၃၁၆ခု ကဆုန်လပြည့် မိုဃ်နေ့ကအစပြုပြီး (၁၃၁၈ခု ကဆုန်လပြည့်မိုဃ်နေ့အထိ) ၂၄လတိုပတ်လုံး ဆဋ္ဌသံဂါယနာ တင်ခြင်းမှာ သံဂါယနာငါးတန်တင်ကာ သာသနာတော်ကြီးကို ချီးမြှောက်ခဲ့သော ထုံးကိုနှလုံးမူလျက်လွတ်လပ်သောပြည်ထောင် စု မြန် မာ နိုင် ငံတော်ကြီးကအစွမ်းကုန် သာသနာတော်ကြီးကိုချီးမြှောက်ခြင်းဖြစ်ပါသည် ဘုရား။

## စောင့်ရှောက်ရစ်ကြလိမ့်မည်

ထိုသို့ပစ္စယာနုဂ္ဂဟ၊ဓမ္မာနုဂ္ဂဟဖြင့်အမျိုးမျိုးချီးမြှောက်၍တစတစကြီးပွားလာသော သာသနာတော်ကြီးကိုနှစ်ပေါင်း ၂၅၀၀ တည်တံ့နိုင်မြဲအောင် စောင့်ရှောက် ရန် အရေးကြီးပါသည် (အနာဂတေလဇ္ဇိနော ရက္ခိဿန္တိသာသနံ) နောင်အခါသာသနာတော်ကြီးကို လဇ္ဇီ ရဟန်းများ စောင့်ရှောက် ရစ်ကြလိမ့်မည် ဟု သံဂါယနာတင် ရဟန္တာ အရှင်မြတ်ကြီးတို့မိန့်ခွန်းတော်အရအနာဂတ်သာသနာ ၂၅၀၀ တည်တံ့နိုင်မြဲအောင် လဇ္ဇီရဟန်းများ စောင့်ရှောက် ရစ်ကြပါလိမ့်မည်ဘုရား။

## အာဏာစက်, ဓမ္မစက်

သာသနာတော်ကိုစောင့်ရှောက်ရာ၌လည်း....

(၁) ဓမ္မစက်—
(၂) အာဏာစက်—

နှင်မျိုးဖြစ်ပါသည်၊ ထိုနှစ်မျိုး အနက် ဓမ္မစက်မှာပိဋကတ် တော်များကို သင်အံပို့ချကာ အဆုံးအမဩဝါဒပေးနေသော ရဟန်းတော်များ လုပ်ငန်း ဖြစ်ပါ သည်၊ အာဏာစက်မှာ တရားဥပဒေအရ နိုင်ငံတော်ကိုစီမံအုပ်ချုပ်သော အစိုးရ များ၏ လုပ်ငန်းဖြစ်ပါသည်။ ထိုဓမ္မစက်အာဏာစက်နှစ်မျိုးလုံးဖြင့် စောင့်ရှောက်ပါမှသာ သနာတော်ကြီး ကြီးပွားရ၍တည်တံ့ ခိုင်မြဲနိုင်ပါသည်ဘုရား။

နိဂုံးချုပ်အနေဖြင့် လျှောက်ထား လိုသည်မှာထူးခြားသော ဆရာတော်များအား ဘွဲ့တံဆိပ် တော် လှူဒါန်း ကာ ချီးမြှောက်ခြင်းဖြင့်၎င်း၊ ဆဋ္ဌသံဂါယနာတင် ကာချီးမြှောက်ခြင်းဖြင့်၎င်း တစတစကြီးပွား တိုးတက်လျက်ရှိသောဗုဒ္ဓသာသနာတော်ကြီးကိုနှစ်ပေါင်း (၂၅၀၀) တည်တံ့ခိုင်မြဲရစ်အောင် ဂန္ထဓူရလုပ်ငန်း၊ဝိပဿနာဓူရလုပ်ငန်း ကြိုးပမ်းအားထုတ်ကြလျက် ရဟန်းတော်များဘက်က ဓမ္မာနုဂ္ဂဟ နှင့် ဓမ္မစက်လူဒါယကာများဘက်က ပစ္စယာနုဂ္ဂဟနှင့် ဥပဒေအာဏာစက်တို့ဖြင့် ချီးမြှောက်စောင့်ရှောက်ကာ ဗုဒ္ဓ သာသနာတော်ကြီး နှစ်ပေါင်း(၂၅၀၀)တည်တံ့ခိုင်မြဲ ပါစေ သော်ဟု အကြိမ်ကြိမ် ဆုတောင်းပဏ္ဍနာပြုခြင်း ဖြစ်ပါသည်ဘုရား။

## စံကင်းဆရာတော်ဘုရားကြီး၏ဩဝါဒ

ဤဘွဲ့တံဆိပ်တော် ကပ်လှူပွဲ မှာ အသီးသီးဘတ်ကြားသွားကြတဲ့ အဖ္ဖုပ္ပတ္တိတို့ကိုနားထောင်လိုက်သည့်အခါ ပူဇော်ဆိုသည့်စကားလုံးကို မကြာမကြာကြားရ



သက်တော် ၅၄ သိက္ခာတော် ၃၄ ရှိ အမရပူရမြို့ မဟာဂန္ဓာရုံ ကျွန်းကျောင်းအဂ္ဂမဟာပဏ္ဍိတဘွဲ့တော်ရ ဆရာတော် ဦးဇနကာဘိဝံသ။

သည်၊ ပူဇာဆိုသည့် ပါဠိဘာသာကိုမြန်မာက ပူဇော်လို့ ခေါ်ကြခြင်း ဖြစ်သည်။ မြန်မာစကား အစစ်တော့မဟုတ်ဘူး ပေးကမ်းလှူဒါန်းခြင်း အရိုအသေပြုခြင်းမြတ်နိုးခြင်းဆိုသော သဘောများကို ပူဇော်တယ်လို့ ဆိုလိုသည်၊ အမှန်မှာတော့ ကုသိုလ်ကိုပြုလိုသောသူ၏ ကိုယ်တွင်းသန္တာန်မှာ ဖြစ်ပေါ်လာသော စေတနာပင်ဖြစ်သည်။

ဤသို စေတနာ အလျောက် ယခု—ယနေ့ကျင်းပသည့်ပူဇော်ပွဲကြီးမျိုးကိုလွန်ခဲ့သော တသက်တာတွင် တကြိမ် တခါ မျှမတွေ့မကြုံခဲ့ရဘူးပေ၊ဘွဲ့တံဆိပ် ကပ်လှူခြင်းဖြင့်သာသနာပြုသည့်ပူဇော်ပွဲကြီးလို့ ခေါ်ဆိုသင့်သည်။

ဤလိုပူဇော်ရသည့်အတွက် ရရှိလာသည့် ကုသိုလ် စေတနာဟာ ဘယ်မျှ လောက်တန်ဘိုးရှိပါသလဲ။ဘယ်လောက် အကျိုးထူးရစေနိုင်ပါသလဲဆိုတာ စိစစ်သင့်သည်။ သာသနာတော် အတွင်းမှာ တန်ဘိုးရှိတယ်ဆိုတာဒုက္ခခပ်သိမ်း ကင်းငြိမ်းရာဖြစ်သောနိဗ္ဗာန်ချမ်းသာကိုရရှိစေနိုင်သောကုသိုလ်မျိုးဖြစ်မှ တန်ဘိုးရှိတယ်လို့ဆိုရသည်၊နိဗ္ဗာန်ချမ်းသာကို ရစေနိုင်သော အကြောင်းမျိုးမဟုတ်လျှင် စကြာမင်းကြီး၏စည်းစိမ်ချမ်းသာမျိုးပင် ဖြစ်စေကာမူ တန်ဘိုး ရှိတယ်လို့ မဆိုနိုင်ဘူး မြတ်ဘုရားဟောကြားတော်ခဲ့တဲ့ကျမ်းဂန်ပိဋကတ်တော်တွင်—

စတုန္နံ ပိစဒီပါနံ၊
ဣဿရံယော ကာရယေ။
ကေိသပူဇနာယေတံ၊
ကလံနဂ္ဃတိသောဠသိံ။

ဟုအထင်အရှားပြဆိုချက်ရှိသည်၊ မြန်မာပြန်လျှင်၊ ယော အကြင် သူသည် ဣဓ ဤလောက၌ စတုန္နံ ပိစဒီပါနံ ကျွန်းကြီးလေးကျွန်းတို့ကိုသော်လည်းဣဿရံအစိုးရခြင်းကို၊ကာရယေ ပြုရာ၏ (ဝါ) စကြာမင်းဖြစ်ရာ၏။ ဟော်ဤစကြာမင်းဖြစ်ရခြင်းသည်၊ ကေိသပူဇနာယ ရတနာသုံးပါးကိုရည်မှန်း၍တကြိမ်တခါ လှူဒါန်းပူဇော်ရခြင်း၏၊ သောဠသိံ ကလံ တဆဲ့ခြောက်စိတ်စိတ်၍တစိတ်စာကိုမျှ နအဂ္ဃတိ တန်ဘိုးမရှိချေ။ (ဝါ) အဘိုးနှုန်းပြိုင် မမှီနိုင်။

ဆိုလိုရင်းကတော့ ယနေ့ ဘွဲ့တံဆိပ် ဆက်ကပ်ပွဲမှာ စေတနာသန့်သန့်နှင့်လှူဒါန်းပူဇော်ရသော ကုသိုလ် စေတနာကို တဆဲ့ခြေ က်စိတ်—စိတ်ပြီး တစိတ် စာကို ချိန်ခွင်တဘက်တွင် တင်ထား၊ လေးကျွန်းလုံးကိုအ စိုး ရ သော စ ကြာ မင်း စည်းစိမ်ကြီးကို အားလုံးစုပြီး ချိန်ခွင် တဘက်တွင်တင်ထား ဤလိုချိန်ခွင်နှင့်စက်လိုက်လျှင် ပူဇော်စေတနာအစိတ်အပိုင်းကလေးဘက်ကအချိန်စီးသွားလိမ့်မည်ဟု ဆိုလိုသည်။

ဘာ့ကြောင့် တန်ဘိုး ရှိပါ သလဲဆိုလျှင် ယနေ့လှူဒါန်း ပူဇော်ကြသဖြင့် ရရှိလာတဲ့ကုသိုလ်စေတနာဟာ ဒို—နာ—သေရေးဒုက္ခဘေးတို့နှင့်ရောထွေးနေတဲ့ သံသရာဝဋ်ဆင်းရဲမှ လွန်မြောက်ပြီး အိုခြင်းကင်း နာခြင်းကင်းရာ သေခြင်းကင်းရာနိဗ္ဗာန်ချမ်းသာသို့ရောက်အောင် ပို့ဆောင်နိုင်သော အစွမ်းသတ္တိရှိသည်။ ဤလို အစွမ်းသတ္တိ ရှိသောကြောင့် ဤမျှလောက်တန်ဘိုးရှိသည်လို့ဆိုရသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဟာ ့လွတ်လပ်သောအစိုးရ ဖြစ်သည့်

စာမျက်နှာ ၁၉ သို့ကြည့်ပါ



သက်တော်၄၉ သိက္ခာတော် ၂၉ရှိ ရန်ကုန်မြို့ အဂ္ဂမဟာပဏ္ဍိတဘွဲ့တော်ရမဟာစည်ဆရာတော် ဦးသောဘန။

စာမျက်နှာ ၃ မှအဆက်

ရတော့သည်၊ သို့ရာတွင် မထွက်ဘဲနေသူလည်းရှိတတ်သည်။

## ပွဲကျောင်းဂိုဏ်းများ

ထို ပွဲကျောင်း ဘုန်းကြီး မှု းသည် ဂိုဏ်းအားဖြင့် (၄) မျိုး ရှိသေး၏။ ထိုလေးဂိုဏ်းမှာ (၁) ဒုက္ခ တင်ဂိုဏ်း။ ၎င်းတို့ကား ညာဘက် ပခုံး၌ သင်္ကန်းစွပ်ယ်တင်၍ဝတ်ကြသည်၊ ရုံခြင်းကို လုံးဝမပြုကြချေ။ (၂) ဘောနေဂိုဏ်း။ ၎င်းတို့ကား တောကျောင်း၌ အမြဲ နေရ၏၊ ဘုန်း ကြီ ပုံကား၊ ပွဲကျောင်း နည်းပင်သင်္ကန်း မှာမူ ဘယ် ဘက်တင် ဖြစ်၏၊ (၃) ယွင်းကျောင်းဂိုဏ်း၊ ယွင်းကျောင်းဂိုဏ်းနှင့် ၎င်းဘုန်းကြီးတို့၏ အကြောင်းကို နောင်မှ သီးခြား ရေးသားပါမည်၊ (၄) ဇောတိဂိုဏ်း၊ ၎င်းတို့ကား ဇောတိ ညွှန် အကျင့် လွန်၏ ဆိုသည့် အတိုင်း အကျင့်လွန်လူများဖြစ်သောဟူ၏၊ သိကြလည်းမဘောင် သိမ် မဝင်သော ဇောတိဂိုဏ်းကိုသာဆိုပါသည် (ရန်ကုန် အင်းစိန်နယ်ရှိ ဘုရားဇောတိ၊ ကျောင်းဇောတိတို့ကို ဆိုလိုခြင်းမဟုတ်ပါ)။

## မြန်မာပြည်မြောက်ပိုင်းတွင်

အဆိုပါ ပွဲကျောင်း ဘုန်းကြီးတို့ကား မြန်မာပြည်တွင် မြောက် ပိုင်း၌ ရှိကြ၍ မိုင်းလ၊ ဧနွ၊ စီးမော်စသော စော်ဘွားနယ်ထဲ၌ ဖြစ်လေသည်၊ ပွဲကျောင်း နယ်သည်မသေးငယ်လှရာ အတွင်းပွဲကျောင်းအပြင် ပွဲကျောင်း ဟူ၍ ခွဲခြားလျက် ရှိသေး၏၊ ထိုတွင် အတွင်း ပွဲကျောင်းမှာ စော်ဘွား သုံးနယ် ဟိုဘက် တရုတ်ပြည်တွင်း ထင်ချုံးစသောနယ်တို့၌ဖြစ်၍ အပြင် ပွဲ ကျောင်းကား မြန်မာပြည်တွင်းရှိ ကျောင်းပေါင်း ၂၀၀ ကျော်မျှသော ပွဲကျောင်း သာသနာထွန်းကားရာတို့ ဖြစ်ကြလေသည်။

## သာသနာပြုရန်

ထိုထိုပွဲကျောင်းနယ်များ၌လည်း ဗုဒ္ဓဘာသာ သာသနာပြုရန် လိုနေ ပေရာ မြန်မာပြည်မမှ ရဟန်း သံဃာတော် တို့သည်၎င်း၊ လူဒါယကာတို့သည်၎င်း၊ သိ ညှုနည်းပါးသလောက် စိတ်ဝင် စားခြင်းလည်း ရှိကြမည်မဟုတ်ချေ၊ သိပြီးသာယနေ့ ကစ၍ စိတ်ဝင်စားကာ စာသင်ခြင်းကိစ္စပြီးပြီးသော ရဟန်းတော်တို့သည် အမှတ်မဲ့မနေကြမူ၍ စေတနာ သဒ္ဓါတရား ကောင်းကောင်းနှင့် ကြိုးစား ကြပါရန် အထူး တိုက်တွန်း လျှောက်ထားလိုပါသည်။

သို့သော် ပွဲကျောင်းနယ်၌ သာမ အ ရည်အချင်း ငှဲ သတ္တိ ရှိရုံမျှနှင့် တိုးနိုင်ကြမည်မဟုတ်ချေ၊အထူးခိုင်မာသောသမာဓိရှိသည့် ဝါရင့်ပုဂ္ဂိုလ်တို့သာ ပိုမိုသင့်မြတ်မည်ထင်ပါကြောင်း၊ ပွဲကျောင်းဘုန်းကြီးတို့ထံရောက်လျှင် ၎င်းတို့ကဲ့သို့ ပြုမူစေရန် တိုက်တွန်းတတ်ကြ၏၊ သို့ရာတွင် ဘုန်းကြီးကောင်းတို့က ငြင်းပယ် သော်လည်း တစုံ တရာရန်မူခြင်းမရှိကြပါ၊ ပြော်..., သူတို့ကဘာမျိုးဘဲကိုနေ်ဟူ၍သာ ညည်းတွားပြောဆိုကာ မကျေနပ်ဟန်နှင့် နေတတ်ကြသည်။

# ဆဋ္ဌသံဂါယနာပါဠိဝိသောဓကအဖွဲ့များ

## (ယခင်တပတ်က အဆက်)

| | ကျမ်းအမည် | သံဃဦးရေ | အဖွဲ့အမည် | မြို့နယ်ခရိုင် | |
|---|---|---|---|---|---|
| ၁၉ | ဝိသုဒ္ဓိမဂ်အဋ္ဌကထာ (ပ) | ၁၀ | ရွှေဘိုဝက်လက် | ရွှေဘိုဝက်လက် | ရွှေဘို |
| ၂၀ | ၎င်း (ဒု) | ၈ | မိုးကုတ် | မိုးကုတ် | ရွှေဘို |
| ၂၁ | ဓမ္မသင်္ဂ | ၁၀ | မြင်တံဆာ | မြင်တံဆာ | ပွဲခူး |
| ၂၂ | မဟာနိပါတ်ဇာတ်(အောက်၅) | ၁၂ | ကျောက်တန်း | ကျောက်တန်း | ပွဲခူး |
| ၂၃ | ဝိသုဒ္ဓိမဂ် ဒုတိယ | ၈ | ကသာပါဠိဝိသောဓက | ကသာ | ကသာ |
| ၂၄ | ဓါတုကထာ | ၁၅ | ပွင့်လှသိမ်ကုန်း | ပြည်—ပွင့်လှသိမ်ကုန်း | ပြည် |
| ၂၅ | ဓမ္မပဒ | ၇ | ရွှေကျင် | တောင်ငူ—ရွှေကျင် | တောင်ငူ |
| ၂၆ | ဓမ္မပဒ | ၈ | ဖြူး | ဖြူး | တောင်ငူ |
| ၂၇ | ဝိနယသင်္ဂဟအဋ္ဌကထာ | ၈ | ကံဘဲ့ပါဠိဝိသောဓက | အင်းစိန်—ကံဘဲ့ | အင်းစိန် |
| ၂၈ | ဓမ္မပဒ | ၁၃ | ကွေ့ကြီး | ဝေါ—ကွေ့ကြီး | ပွဲခူး |
| ၂၉ | ဓါတုကထာ | ၆ | မင်းလှ | မင်းလှ | သာယာဝတီ |
| ၃၀ | ခုဒ္ဒသိက္ခာ | ၁၀ | မင်းပြား | စစ်တွေ—မင်းပြား | စစ်တွေ |
| ၃၁ | ဓမ္မမာတိကာ | ၁၀ | ရသေ့တောင် | စစ်တွေ—ရသေ့တောင် | စစ်တွေ |
| ၃၂ | ဓါတုကထာ | ၁၀ | မိုးညိုပါဠိဝိသောဓက | မိုးညို—ဝေဇယန္တာ | သာယာဝတီ |
| ၃၃ | ဝိနယဝိနိစ္ဆယကျမ်း | ၁၃ | ကြခ်ားအဖွဲ့ | ကြခင်းမြို့ | ဟင်္သာတ |

# ပဋိဝိသောဓကဆရာတော်များ

### ပါရာဇိကဏ် ပါဠိတော်နှင့် ပါစိတ်ပါဠိတော် ပဋိဝိသောဓက ဆရာတော်များ

| | | | |
|---|---|---|---|
| (၁) | ဟံသာဝတီဆရာတော် | အဂ္ဂမဟာပဏ္ဍိတ | မန္တလေး |
| (၂) | ဆရာတော်ဦးနာရဒ | အဂ္ဂမဟာပဏ္ဍိတ | ၎င်း |
| (၃) | ဆရာတော်ဦးကောဏ္ဍည | အဂ္ဂမဟာပဏ္ဍိတ | ရန်ကုန် |
| (၄) | ရွှေစေတီဆရာတော် | .... | မန္တလေး |
| (၅) | ဆရာတော်ဦးဝိသုဒ္ဓ | ပရိယတ္တိဓမ္မာစရိယ | မန္တလေး |
| (၆) | ဆရာတော်ဦးဥက္ကံသ | ပရိယတ္တိဓမ္မာစရိယ | ၎င်း |
| (၇) | ဆရာတော်ဦးကောသလ္လ | မူလပရိယတ္တိဓမ္မာစရိယ | ၎င်း |

### ဥပဋ္ဌာက အဖွဲ့ဝင်များ

| | | | |
|---|---|---|---|
| (၁) | ဦးတက္ကသီလ | သာသနဓဇသီရိပဝရ ဓမ္မာစရိယ | မန္တလေး |
| (၂) | ဦးသာသန | ပရိယတ္တိဓမ္မာစရိယ | ၎င်း |
| (၃) | ဦးသီလာနန္ဒ | ပရိယတ္တိဓမ္မာစရိယ | ၎င်း |

### မဟာဝါပါဠိတော်နှင့် ပရိဝါပါဠိတော် ပဋိဝိသောဓက ဆရာတော်များ

| | | | |
|---|---|---|---|
| ၁ | မဟာနန္ဒိသေနာရာမဆရာတော် | မူလဓမ္မာစရိယ | မန္တလေး |
| ၂ | ဆရာတော်ဦးဝိစိတ္တာဘိဝံသ | ပရိယတ္တိဓမ္မာစရိယ | မင်းကွန်း |
| ၃ | ဆရာတော်ဦးရေဝတ | မူလဓမ္မာစရိယ | မန္တလေး |
| ၄ | ဆရာတော်ဦးအရိယ | မူလဓမ္မာစရိယ | မန္တလေး |
| ၅ | ဆရာတော်ဦးဥက္ကံသ | မူလဓမ္မာစရိယ | ၎င်း |

### ဥပဋ္ဌာက အဖွဲ့ဝင်များ

| | | | |
|---|---|---|---|
| ၁ | ဦးကောဝိဒ | သာသနဓဇသီရိပဝရ ဓမ္မာစရိယ | မန္တလေး |
| ၂ | ဦးကောဏ္ဍည | | မင်းကွန်း |

### စူဠဝါပါဠိတော် ပဋိဝိသောဓက ဆရာတော်များ

| | | | |
|---|---|---|---|
| ၁ | ဆင်တဲဆရာတော် | အဂ္ဂမဟာပဏ္ဍိတ | မန္တလေး |
| ၂ | ဆရာတော်ဦးပညာ | အဂ္ဂမဟာပဏ္ဍိတ | ရေနံချောင်း |
| ၃ | အနီးစခမ်းဆရာတော် | | စစ်ကိုင်း |
| ၄ | ဆရာတော်ဦးအာနန္ဒာ ပဏ္ဍိတ | ပရိယတ္တိဓမ္မာစရိယ | မန္တလေး |
| ၅ | ညောင်ရွှေဆရာတော် | ပရိယတ္တိဓမ္မာစရိယ | ညောင်ရွှေမြို့ |
| ၆ | ဆရာတော် ဦးဓမ္မာနန္ဒာဘိဝံသ | ပရိယတ္တိဓမ္မာစရိယ | စစ်ကိုင်းမြို့ |

### ဥပဋ္ဌာကအဖွဲ့ဝင်

| | | | |
|---|---|---|---|
| ၁ | ဦးပညာဝံသ | သာသနဓဇသီရိပဝရဓမ္မာစရိယ | စစ်ကိုင်းမြို့ |

## မြော်လင့်နေကြသကဲ့သို့

ထိုနယ်ရှိ လူဒါယကာတို့ကား ဘုရားဟော တရားမှန်ကို ဟောပြ နားချပေးမည့် ဗုဒ္ဓဘာသာရဟန်းတော်များကို အထူးမြော်လင့်တောင့်တ နေသကဲ့သို့ ရှိကြပေသည်၊ လူမျိုးများကား ရှမ်း၊ တရုပ်၊

## စာမူများရှိက လှူဒါန်းကြပါရန်

ဆဋ္ဌသံဂါယနာတင် ကိစ္စအတွက် အောက်ပါစာမူများကို အရေးတကြီး လိုနေပါသဖြင့် စာမူရှိသောပုဂ္ဂိုလ်များက ကူညီ၍ကုသိုလ်ပါဝင်ခြင်းအားဖြင့် ပေးပို့လှူဒါန်းကြပါမည့် အကြောင်း မေတ္တာရပ်ပါသည်။

၁။ ဗုဒ္ဓဝံသဋီကာ။

၂။ ဝိနယဝိနိစ္ဆယကျမ်း (အရှင်ဗုဒ္ဓဒတ္တ)

၃။ ဥတ္တရဝိနိစ္ဆယကျမ်း (အရှင်ဗုဒ္ဓဒတ္တ)

ဝိန်းမောင်

အုပ်ချုပ်ရေးအရာရှိချုပ်

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့

၁၆—ဟာမင်တိတ်လမ်း ရန်ကုန်။

...o...

ဗမာ ပြောက်ကြားနှင့်ဂကန်း၊ဂဒူး၊ကချင်၊ ရှမ်းနီ၊လောတို့ ဖြစ်လေသည်၊ ထိုနယ်များ၌ နိုင်ငံခြား ဘာသာပြ (၂) မျိုးတို့ကား ရောက်နေကြပြီဖြစ် ကြောင်း သိရသတည်း။

သတ္တဝါအားလုံးကိုယ်စိတ် ၂ ဖြာချမ်းသာကြပါစေ။ ဆရာတော်ဦးဘမသာရ

လွိုင်စော်ရွာကျောင်း

ရှမ်းတရုပ်နှင့်မချွန်းနယ်

မြန်မာပြည်မြောက်ပိုင်း

၁၁၅ တပေါင်းဆန်း၄



ဖျာပုံမြို့ဝိနယဓမ္မပဋ္ဌမပြန်ဆွမ်းကျွေးအသင်းမှစာမေးပွဲအောင် ကိုယ်တော်များ မြို့တွင်းအပူဇော်ခံကြွမြန်းစဉ်

# ဓမ္မဝိနယပဋ္ဌမပြန် ဆွမ်းကျွေးအသင်း

## စတင်တည်ထောင်ခြင်း

ဤအသင်းကြီးကိုဖျာပုံမြို့မနယ်လုံးဆိုင်ရာဓမ္မဝိနယစာမေးပွဲ အသင်းဟူသော အမည် ဖြင့် –၁၃၀၀– ပြည့်နှစ် တပေါင်းလဆန်း (၁၀) ရက်နေ့ မှ စတင် တည်ထောင်ပြီးလျှင်ဖျာပုံနယ်အတွင်းရှိ သံဃာတော်များအားမြို့ပေါ်ရှိဩဝါဒါစရိယ နာယကဆရာတော်ကြီး (၁၀) ပါးတို့ကကြီးကြပ်အုပ်ချုပ်လျက် ဝိနည်းစာမေးပွဲနှင့်ရှင်သာမဏေစာမေးပွဲများကို ကျင်းပပြီးလျှင်အောင်မြင်တော်မူသောပုဂ္ဂိုလ်များ အားအောင်လက်မှတ်နှင့်တကွဆွမ်းဆန်တော် ဝတ္ထုငွေများဆက်ကပ်လှူဒါန်းခဲ့ပါသည်။

## အမှုဆောင် ပုဂ္ဂိုလ် များ

အသင်း၏အမှုဆောင် ပုဂ္ဂိုလ်များမှာ ဦးပြည်ဘာသာဘိဝံသ (မြန်မာအဘိဓါန် ကျမ်းပြုဆရာတော်) ဥက္ကဋ္ဌ၊ ဦးဘိုးအိမ် (ဈေးကန်ထရိုက်) ဒုတိယဥက္ကဋ္ဌ၊ သူဌေးဦးအုံးခင်ငွေထိမ်း၊ ပညာအုပ် ဦးမောင် (ယခုနိုင်ငံတော်အစိုးရ ကျောင်းသုံးစာအုပ် ငါးရမ်းရေးအရာရှိ) အကျိုးတော်ဆောင်တို့ဖြစ်ပါသည်။

## အသင်းကြီး၏အမည်သစ်

၁၃၀၈–ခုနှစ်မှ စတင်၍ဖျာပုံမြို့ဓမ္မဝိနယပဋ္ဌမပြန် ဆွမ်းကျွေးအသင်း ဟူသော အမည်ဖြင့်ခေါ်တွင် စေပြီး၊ အမှုဆောင် ပုဂ္ဂိုလ်များမှာ ဦးဓမ္မစက္က (ဖျာပုံမြို့ နယ်ယာယီဝိနည်းဓိုယ ဌာန တာဝန်ခံ ဆရာတော်) ဥက္ကဋ္ဌ၊ ဦးတင်(ပင်စင်အငြိမ်းစာကျောင်းဆရာကြီး) နှင့် ဦးဘတင် (ပင်စင်အငြိမ်းစား စာရေးကြီး ဖျာပုံ ခရိုင်ဒေသကိုယ်စား လှယ်) ဒုတိယ ဥက္ကဋ္ဌ ပညာအုပ်ဦးဘသန်းနှင့် အစိုးရ ကျောင်းဆရာ ဦးကျော် သောင်း၊ အကျိုးတော်ဆောင် ဦးကျင်အုံ ကုန်သည် ငွေထိမ်း တို့ဖြစ်ကြပါသည်၊

## ဆောင်ရွက်မှုများ

ဖျာပုံမြို့နယ်အတွင်းရှိ သံဃာ တော် အရှင်မြတ်များအားပရိယတ္တိ သာသနာတော်ကို အားပေးသော အားဖြင့် ဓမ္မဝိနယစာမေးပွဲကြီးများကို ၁၃၀၀–ခု နှစ် မှစ၍ ၁၃၀၄–ခု နှစ်အထိ သိုက်မြိုက်စွာ ကျင်းပခဲ့ကြပါသည်။

၁၃၀၅–ခုနှစ်တွင် ဂျပန်ခေတ် အဂ္ဂဝိ ကိုယ်စား ဖျာပုံခရိုင် ဝန်မင်းက အောင်လက်မှတ် နှင့် ဆွမ်း ဆန် တော် ဝတ္ထုငွေများကို ချီးမြှင့်ပူဇော် လှူဒါန်းခဲ့ပါသည်။ အသင်းကြီး၏ ငွေထိမ်း လူကြီးဖြစ်သောဖျာပုံသူဌေးဦးအုံးခင်ကလည်း အစိုးရ ချီးမြှင့် လှူဒါန်း သည့် ဆွမ်းဆန်တော်ဝတ္ထုငွေ နှင့် အညီ ဆွမ်းဆန်တော် ဝတ္ထုငွေများကို ချီးမြှင့် လှူဒါန်း ပူဇော်ခဲ့ပါသည်။

၁၃၀၆ ခုနှစ်နှင့်၁၃၀၇–ခု နှစ် များ တွင်စစ်အတွင်း ဆူပူသောင်းကျန်းမှုများ ကြောင့်စာမေးပွဲများကိုဆိုင်းငံ့ထားခဲ့ကြပါသည်။

## ဆုနှင်းသဘင်

၁၃၀၈–ခုနှစ်မှစ၍ အစိုးရ ပါဠိပဋ္ဌမပြန် စာမေးပွဲကို ဖျာပုံမြို့၌ ဌာန တခု ဖွင့်လှစ်ပြီးလျှင် ကျင်းပနိုင်ရန် အ တွက် ဆောင်ရွက် အားထုတ်ရာ အောင်မြင်ပါသဖြင့်ယနေ့အထိ ဆက်လက်ဆောင်ရွက်လာခဲ့ကြရာ မြို့ပေါ်ရှိ ဆရာတော် အရှင်မြတ်များနှင့် သာသနာရေး အသင်းအစရှိသောလူကြီးလူကောင်း အပေါင်း တို့၏အားပေးကူညီရိုင်းပင်းမှုကိုခံယူရပါသဖြင့် ဤစာဖြေဌာနမှပဋ္ဌမကျော်တန်း (၁) ပါး၊ ပဋ္ဌမကြီးတန်း (၄) ပါး၊ ပဋ္ဌမလတ်တန်း (၈) ပါး၊ ပဋ္ဌမငယ်တန်း (၂၄) ပါး၊ ပေါင်း (၃၇) ပါး စသောသာသနာ့ အာဇာနည်တို့အား ချီးမြှင့်ပူဇော်ထောက်ပံ့သောအားဖြင့် စာမေးပွဲများကျင်းပရခြင်း ဆုနှင်းသဘင် ကျင်းပရခြင်းများပြုလုပ်ခဲ့ရသည့် အလှူငွေများမှာ ၁၃၀၈ခုနှစ်မှစ၍ ယခု၁၃၁၅ခုနှစ်အထိငွေပေါင်း၈၇၀ဝိကို ဝမ်းမြောက်စွာလှူဒါန်းပူဇော်ခဲ့ပါသည်။

(မှတ်ချက်) စာမေးပွဲအောင်ပုဂ္ဂိုလ်များအား နိုင်ငံတော် အစိုးရ ဆက်ကပ်လှူဒါန်းသော ဆွမ်းဆံတော် ဝတ္ထုငွေ၏ထက်ဝက်နှင့် ညီမျှသော ဝတ္ထုငွေကို ဤအသင်းကြီးမှဆက်ကပ် လှူဒါန်းသည့်အပြင် ထီး၊ဘိနပ်၊ ဒယ်နဲ့ဖွဲ့စုံ စသော အလှူ ဝတ္ထုများကိုလည်း အသင်းကြီးမှ ကြီးကြပ်လျက် နှစ်စဉ်မပျက် အောင်မြင်စွာလှူဒါန်းပူဇော်ကြပါသည်။

အထက် ဖော်ပြပါ ဆောင်ရွက်မှုများအပြင်သာသနာတော်ရေးကိစ္စအဝဝ တို့ကို နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့ကြီးမှ ညွှန်ကြားချက်အတိုင်းဆောင်ရွက်လျက်ရှိပါသည်။

# ဆဋ္ဌသံဂါယနာလိုက်ဂူအတွက်

## ရက်ရောစွာလှူဒါန်းသည့်ကုသိုလ်ရှင်များ



ရန်ကုန်မြို့ ဗိုလ်ချုပ်လမ်း ဒေါ်ခင်ညွန့် ဆေးလိပ်ခုံပိုင်ရှင် ကျောင်းအမကြီးဒေါ်အေးဆင့်နှင့် ဆွေမျိုးတစုကနိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ဒုတိယဥက္ကဋ္ဌ သတိုးသီရိသုဓမ္မ နိုင်ငံတော်တရားဝန်ကြီးချုပ်အားလိုဏ်ဂူအတွင်းကျောင်းတထပ်အတွက် အလှူငွေ ၆၈၀၀၀ (ခြောက်သောင်းရှစ်ထောင်) တို့ကို အပ်နှင်းနေပုံ



ဒေါ်ခင်ညွန့်ဆေးလိပ်ခုံပိုင်ရှင်နှင့် ဆွေမျိုးသားချင်းတစု



ဒေါ်ခင်ညွန့်ဆေးလိပ်ခုံအလုပ်သမားများကလည်း ကုသိုလ်ပါဝင်ကြရှိသာမက သာဟတ္ထိကဒါန အနေနှင့် လိုဏ်ဂူဆောက်လုပ်ရာတွင် ဝင်ရောက် လုပ်ကိုင်နေကြပုံ



အသစ်ဆောက်လုပ်မည့် ကလျာဏီသိမ်တော်ကြီး

စာမျက်နှာ ၄ မှအဆက်

မဟာပဟမင်းနှစ် ဆက်လည်း သာသနာကို သန့်ရှင်းစင်ကြယ်စေ၏။ ထိုသို့ဖြစ်၍ သီဟိုဠ် ကျွန်း၌ ယခု အခိုက် သာ သနာ သန့်ရှင်းစင်ကြယ်စွာ၏။

## ကြွတော်မူကြပါဘုရား

ထိုကြောင့်ရကားမျှော ပဋိဗလရဟန်း ဖြိုကို တောင်းပန်တိုက်တွန်း၍ သီဟိုဠ် ကျွန်းမှာရဟန်းဆွဥ်းအသစ်ခံစေအံ့၊ ထို ရဟန်းတို့မှ ဆက်လက် ပွါးများ၊ သဖြင့် ရှုမည့တိုင်း၌သာသနာသန့်ရှင်းစင်ကြယ် စွာဖြစ်လတံ့ဟုကြံပြီးသော် မောဂ္ဂလာန် မထေရ် စသောမထေရ်–၂၂–ပါးတို့ကို သီဟိုဠ်ကျွန်းသို့ကူးစိမ့်သော၄ါ တောင်း ပန်၏မထေရ်တို့သည် သာသနာရေးကို နှလုံးထား၍ဝန်ခံကြ၏။

## သင်းဘောကြီးနှစ်စင်း

ရာမာဓိ ပတိမင်း လည်း စွယ် တော် ဂါတ်ကိုပူဇော်ရန်၊ ရဟန်းသဃ်ာ တို့ကို ပူဇော်ရန်၊ဘုဝနေကမဟာ(သီဟိုဠ်မင်း)] အာ၊ဆက်သရန် ဒေယျဓမ္မ ပဏ္ဏာကာရ များကို စီရင်ပြီးလျှင် စိတြဒူတ၊ ရာမဒူတ အမတ်နှစ်ယောက်တို့ကို သင်းဘောနှစ် စင်းနှင့် ခန့်ထား၍ သက္ကရာဇ်–၈၃၇–ခု တပို့တွဲ လပြည့်ကျော်–၁၁–ရက်တနင်္ဂ နွေနေ့ စိတြဒူတ သင်းဘောကိုလွှင့်စေ၏ တပေါင်းလပြည့်ကျော်–၈–ရက်နေ့ ပင် သီဟိုဠ်ကျွန်းကလမ္ဗုဆိပ်သို့ရောက်လေ၏

[ကလမ္ဗုဟူသည် ယခု ကော် လမ္ဗို ပင်ဖြစ်သည်။ အယ်ဒီတာ၊]

ထိုသက္ကရာဇ်တပို့တွဲလပြည့်ကျော်၁၂ ရက်တနင်္လာနေ့ ရာမဒူတ သင်းဘော ကိုလွှင့်စေ၏။ မုဿုံလေ မသင့် သော ကြောင့် တန်ခူးလဆန်း ၉ ရက်နေ့မှ သီ ဟိုဠ်ကျွန်း ဝလ္လိဂါမသို့ရောက် လေ၏။ ထိုနောက် အမတ် နှစ် ယောက် လည်း သင်းဘော နှစ်စင်းတွင် ပါသောလှူဘွယ် ဝတ္ထု ပဏ္ဏာကာရ လျှောက်စာ ဆက်စာ များကို ဘုဝနေက မင်းနှင့် သဃ်ာတော် များအား လှူဒါန်း ဆက်သ လျှောက် ထားကြ၏။ရှေ့ပေစာတွင် ဤရဟန်း များ ကို ကလျာဏီ မြစ် ရေသိမ်မှာ ပဥ္စင်း အသစ်ခံပါစေဟု ပါသည့်အတိုင်း ၎င်း မြစ်ရေသိမ်တွင် ပဥ္စင်းအသစ် ခံစေ၏။ ပဥ္စင်းအသစ်ခံလိုသည့် သိက္ခာ အသစ် တင်လိုသည့် ရဟန်းတို့ကို လူထွက်စေ၍ သာမဏေအဖြစ်၌ တည်စေပြီးမှ ပဥ္စင်း သစ်ခံမြဲ၊သိက္ခာသစ်တင်မြဲဟု သီဟိုဠ် ဆ ရာတို့ဆိုစိုင်းကြွင်ရသတည်း။

## ဘွဲ့များဆက်ကပ်ခြင်း

သိက္ခာအသစ် တင်ပြီး လျှင် ဘုဝနေ ကမဟာ သီဟိုဠ်မင်းက အထူးထူး အ ပြားပြား ရဟန်းအသုံး အဆောင် ပရိက္ခ ရာတို့ကိုလှူပြီးမှ ဤပစ္စည်း အလှူ ကား တသက်လျှာမျှသာ၊ အ ကြောင်း ရှိလျှင် ပျက်စီးလတံ့၊မပျက်စီးနိုင်သော နာမပ ညတ်ကိုလှူပါရစေတောင်းပန်၍ အမည် နာမကိုလှူ၏။ ရာမဒူတသင်းဘော၌ စီး သောဆရာ–၁၁–ပါးတို့အား အစဉ်အ တိုင်းသီရိသင်္ဃ ဗောဓိသာမိ၊ကိတ္တိသီရိ မေဃသာမိ၊ပရက္ကမ၊ ဗါဟုသာမိ၊ ဗုဒ္ဓ ဃောသသာမိ၊သီဟဠဒီပ ဝိသုဒ္ဓသာမိ၊ ဂုဏရတနဓရသာမိ၊ဇိနာလင်္ကာရသာမိ၊ ရတနမာလိ သာမိ၊ သဒ္ဓမ္မတေဇသာမိ၊ ဓမ္မာရာမသာမိ၊ဘုဝနေက ဗါဟုသာမိ ဟူ သောအမည်နာမကို လှူသတည်း။

စိတြဒူတ သင်းဘော၌ စီး သော ဆရာ–၁၁–ပါးတို့ အား လည်း အစဉ် အတိုင်း ဓမ္မကိတ္တိ လောကဂရု သာမိ သီရိဝနရတနသာမိ၊မင်္ဂလာထေရသာမိ၊ ကလျာဏီတိဿ သာမိ၊စန္ဒဂီရိ သာမိ၊ သီရိဒန္တဓာတုသာမိ၊ဝနဝါသီ တိဿသာ မိ၊ရတနာလင်္ကာရသာမိ၊မဟာဒေဝသာ မိ၊ဥဒုမ္ဗရဂိရိသာမိ၊စူဠာဘယတိဿသာမိ ဟူသောအမည်နာမကိုလှူသတည်း။

## ပြန်ကြွတော်မူကြခြင်း

ခေါင်းတည်ဆရာ–၂၂–ပါးတို့အား အမည်နာမံလှူ၊သိက္ခာအသစ်တင်ရာမှာ အပါရှိဟန်းများနှင့် တ ကွ–၄၄–ပါး လုံး ပင်တင် သ တည်းထိုသို့သိက္ခာ တင်ပြီးနောက် စေ ရေ တိမ် ကျောက်ကြ တွင်ငြိသဖြင့်မထွက် နိုင်ရကား၊ ဘောင် ဘွဲ့ ကူး ၍ ခြေလျင် ကုန်းကြောင်း လာ ကြရလေသည်။ သံ ဘက် လိုက် သော သီဟိုဠ်ကျွန်းအမတ် တီပုထိုး ပူဇော်ခြင်း ကိစ္စများကို ပြီးစေ ပြီးမှ ပြန်လာကြ၏။ စိ တြ ဒူ တ သင်း ဘောကား ရာမာဓိ ပတိမင်းအား ဆက် လိုက်သော ပဏ္ဏာ ကာ ရ စွယ် တော် တု များ နှင့် သံ ဘက်လိုက်ပါမည့် ၎င်လင့်ပါဦးဟု ဘုဝ နေကမဟာ မင်းကတားရှိင်လင့် ရသော ကြောင့်မုဿုံ အချိန်မသင့်ဘဲ လွှင့်ခဲ့ရ၍ ဟုတ်တွန်းလေပြင်းတိုက်ခတ်သဖြင့်သမုဒ္ဒ ရာမှာနစ်လေ၏ထိုကြောင့်သီဟိုဠ်မင်းက ဘက်လိုက်သေါ်သင်္ဘောမှာ၍လိုက် ပြန်ကြသည်။ ၃ရက်ခရီးလွန်လျှင် ဟုတ် တွန်းလေပြင်းတိုက်ခတ်ပြန်၍သမုဒ္ဒရာပြင် လည်း ပဏ္ဏာကာရ ပျက်စီးသည်နှင့် ပြန် သွားလေ၏။




## အရှင်ဓမ္မပါလ ကျောင်းတော် ရာနှင့် စွယ်တော်ထားဘူးသည့် နေရာ

ကုန်းကြောင်းလာရာ နာဂပဋ္ဋနဆိပ် တွင် နေတို့အဋ္ဌကထာစသော များစွာ သောကျမ်းပြုဆရာ အရှင်ဓမ္မပါလနေရာ



ကလျာဏီသိမ်တော်ကြီး နာယကအဖွဲ့ဝင်ဆရာတော်များ



**ကလျာဏီသိမ်တော်ကြီးကို အသစ်ဆောက်လုပ်ရန် နိုင်ငံတော် ဝန်ကြီးချုပ်ဦးနုပန္နက်ရိုက်နေစဉ်နှင့်အမျိုးသားစီမံကိန်းနှင့် သာသနာရေးဝန်ကြီး ဦးဝင်းက အုတ်မြစ်ချမည့်ဆဲဆဲပုံ**

သီရိဓမ္မာသောကမင်းကြီးကောင်းမှုတော် ကျောင်း ၈၄၀၀၀အဝင်ပါပဒရတိတ္ထဆီး တေါဆိပ်ကျောင်းတော်ရာကိုဘူးမြော်ကြ ရှ၏။ ကလိက်ရာဇ်ပြည်က ဟေမမာလာ ဒန္တကုမ္မာမင်းသို့မင်းသားတို့စွယ်တော်ကို သီဟိုဠ်ကျွန်းသို့ဆောင်ခဲ့သည့်ကာလစွယ် တော်ထားရာတွင် စိနပ္ပန်ရှိနမင်း တည် သောဂူကြီး၌ဘုရားဆင်းတု ကိုလည်း ရှိ ခိုးပူဇော်ကြရ၏။ သို့သို့ ဖြူ့ဖြင်စွာ လာ၍ သင်းသော ၂ စင်းတွင် စီးသော ဆရာတို့ ဟံသာဝတီသို့ရောက်လာကုန်၏။

## ကလျာဏီသိမ်တော်ကြီး

ထိုအခါသီဟိုဠ်ကူ ရဟန်း၄၄အနက် ဆရာခြောက်ပါး၊တပည့်ရဟန်း ၄ပါးတို့ ခရီးအကြားကပင် သေလွန်ခဲ့လေသည် (အဟော အနိစ္စာတ သင်္ခါရာ)

ရာမာဓိပတိမင်းလည်း သီဟိုဠ်ကျွန်း က သိက္ခာအသစ်တင်ခဲ့သော မဟာဝိ ဟာရဝါသီအဆက်အနွယ်သံဃာတို့ အ ရောက်ညီလျှင် ဟံသာဝတီ ပြည်ကြီးအ နေခံနရသူ အမတ်စားသောဂါမခေတ် တွင် ကျမ်းကြီးကျမ်းငယ်၊ ကျမ်းရင့် ကျမ်း နု၊ ကြည့်ရှုဆင်ခြင် စီရင်နှိုးဆော်၍ သိမ် နုတ်ခြင်း၊ သမုတ်ခြင်းကိုပြုစေ၏။ သီဟိုဠ် ကျွန်း၌ဘုရားရှင် ရေသပ္ပါယ်တော်မူဘူး သော ကလျာဏီမြစ်တွင် ရေသိမ်စီရင်၍ မဟာဝိဟာရဝါသီအဆက်အနွယ်သံဃာ တို့ဥဒ္ဒင်းအသစ်ခံလိုက်သောရဟန်းတို့သ မုတ်သည့်သိမ်ဖြစ်၍ ကလျာဏီ သိမ်ဟူ သောအမည်ကိုလည်းတွင်စေ၏။ ဤသို့ လျှင်ရာမါဓိပတိမင်းသည်သါသနာတော် မြတ်ဘည်ကြောင်းမကြံစည်းတေါင်းသေါ အကြံကောင်းကိုကြံမိ၍သီဟိုဠ်မှ သိက္ခာ ထပ်သူရဟန်း၂၀ကျော်ကို မဟာဝိဟာရ ဝါသီသံဃာအဆက်အနွယ် အခြေအမြစ် ပြု၍သာသနာတော်ကို သန့်ရှင်းစင်ကြယ် စွာသုဘ်သင်ပြုစုံတော်မူ၏။ သက္ကရာဇ်၈၃၈ ခုကစ၍ ၈၄၁ခုတိုင်အောင် ၂နှစ်၃နှစ်အ တွင်းတွင်ပင်ဂိုဏ်းဆရာပေါင်း ၈၀၀ တ ပည့်ရဟန်းပေါင်း၁၄၂၆၅ နှစ်ရပ်ရဟန်း ပေါင်း ၁၅၁၆၅တိုင်အောင်မဟာဝိဟာရ ဝါသီအဆက်အနွယ် သံဃာပွားများသ တည်း။

\+ \+ \+

## ထပ်မံပြုပြင်တော်မည်

သက္ကရာဇ် ၁၂၃၅ခုနှစ်၌ဟံသာဝတီ ခရိုင်သံလျင်မြို့ပိုင် ပုဂံတောင်ရွာ ဦးသိန်း ဒေါ်မှူ၀ဥတို့က မင်းတုံးမင်းကြီး၏ လက် ထက်တွင်မိဘားသင့်ခံရသောကလျာဏီ သိမ်တော်ကြီးကိုအသစ်ထပ်မံ ဆောက် လုပ်လှူဒါန်းခဲ့လေသည်။

၎င်းနောက် သက္ကရာဇ် ၁၂၆၄ ခုနှစ် တွင် ပုဂံတောင်ရွာ အမိဒေါ်ကျေ၊ သို့ ဒေါ်စိုး၊ မောင်နှမ ၄ ယောက်တို့က အ သစ်တဖန် ဆောက်လုပ်လှူဒါန်းခဲ့ရာနှစ် ပေါင်း ၅၀ကျော်ရှိသောအဆောက်အဦ ကြီးမှာ ပျက်စီးပြိုကွဲလုနီးဖြစ်လေသည်။

## ဆောက်လုပ်ရေးအဖွဲ့

ထိုသို့ ပျက်စီးလုနီး ဖြစ်သော သိမ် တော် အဆောက်အဦ ကြီးကို အသစ် တဖန်တည်ဆောက်ရန် အလှူတော်ငွေ (၁၁၅၅၅၅) တသိန်း၊တသောင်း၊ငါး ထောင်၊ငါးရာ၊ငါးဆယ့်၊ငါးကျပ်၊ ငါး မတ်ကို မတည်၍ ရွှေခြုံး ပရိယတ္တိဆွမ်း စာရေးတန်အဖွဲ့ကြီးနှင့် တကွ နာယက ဆရာတော်ကြီး (၉) ပါးကြီးမှူးတော်မူ သော ဥပသကာ လူပုဂ္ဂိုလ်အဖွဲ့ဝင် (၆) ဦးပါဝင်သည့် ကလျာဏီ သိမ်တော် ဆောက်လုပ်ရေးအဖွဲ့ကြီးကို ဖွဲ့စည်းခဲ့လ သည်။

ကလျာဏီ သိမ်တော် ဆောက်လုပ် ရေးအဖွဲ့ဝင် ပုဂ္ဂိုလ်များမှာ အောက်ပါအ တိုင်းဖြစ်ပေသည်။

## နာယကအဖွဲ့

(၁) ကလျာဏီဆရာတော် အရှင် ဥာဏဝံသ ဥက္ကဋ္ဌ၊ (၂) ရွှေဂူ ဆရာ တော် အရှင်ဥာဏာလင်္ကာရ၊ (၃) ဇမ္ဗူ ကာရာမတိုက်ကျောင်း၊ မြဲသပိတ် ဆရာ တော် အရှင်သုမန။ (၄) ခြေတော်ရင်း ကျောင်း ဆရာတော် အရှင် ပဏ္ဍာဝံသ၊ (၅) ဂန္ဓာရုံကျောင်းဆရာတော် အရှင် သုစိဏ္ဏ၊ (၆) ဇောင်းတူးကျောင်းဆရာ တော် အရှင် ဇဋိလ။ (၇) ဝိဇိတာရုံ တိုက်သစ်ဆရာတော် အရှင်ဂဏာပတိ အ ကျိုးဆောင်၊ (၈) ပုမ္ပါရုံကျောင်းဆရာ တော် အရှင်ပညာဝရ၊ (၉) မျက်နှာ တော်ကျောင်းတိုက် ဆရာတော် အရှင် နာဂိန္ဒ။

## တည်ဆောက်ရေးအဖွဲ့

(၁) ဦးဘဖိုး ရိက္ခာတော်ရ အရေး ပိုင်မင်း ဥက္ကဋ္ဌ။ (၂) ဦးသူတော်ရွှေခြုံး ဝန်ဆောင်ဒါယကာ။ (၃) ဦးအုန်းမောင် မော်တော်ယာဉ် အကျိုးတော်ဆောင်။ (၄) ဆရာခင် သားများကုမ္ပဏီ ဗိုလ်သု ကာ ဆရာကြီးများ၊ (၅) ဦးဘသောင်း ဆင်နှစ်ကောင် အကြံပေးပုဂ္ဂိုလ်၊ (၆) ဦးလှတင်ဆေးပွဲစားကြီး ပဲခူးမြို့။

## တောင်းပန်ကြခြင်း

အဖွဲ့ဝင်နာယက ဆရာတော်များ ဖြစ် ကြသော ကလျာဏီသိမ်ကျောင်း ဆရာ တော် အရှင်ဥာဏဝံသဥက္ကဋ္ဌ၊ ဇမ္ဗူကာ ရာမမြဲသပိတ်ဆရာတော်ဦးသုမန အကျိုး တော်ဆောင်ဆရာတော် ၃ပါးနှင့်အဖွဲ့ဝင် ဥက္ကဋ္ဌ ရိက္ခာတော် အရ အရေးပိုင်မင်း ဦးဘဖိုး၊ ဝန်ဆောင် ရွှေခြုံး ဦးသူတော် မော်တော်ယာဉ်ဥက္ကဋ္ဌ ဦးအုန်းမောင်၊အ ကျိုးဆောင် စက်သူဋ္ဌေး ဦးဘသွင်၊ မဂို လမ်း ရန်ကုန်မြို့ ဆင်နှစ်ကောင်ဆေးပြင်း လိပ်ကုမ္ပဏီဦးဘသောင်း၊ ရန်ကုန် လူကြီး မင်း ၅ ဦးတို့သည်၁၃၁၅ခုနယုန်လဆန်း ၁၁ ရက် ၇–၆–၅၃ တနင်္ဂနွေနေ့၌ နိုင်ငံ တော် ဝန်ကြီးချုပ်နှင့် တွေ့ဆုံ ပြီးလျှင် ကလျာဏီ သိမ်တော်ကြီး အပြီးတိုင် ဆောက်လုပ်ရန်ဝန်ကြီးချုပ်ကြီးမှူး၍လာ ရောက်ချီးမြှောက်ပန္နက်ချရန်မေတ္တာရပ်ခံ တောင်းပန်ကြလေသည်။

## ပန္နက်ချပွဲ

နိုင်ငံတော် ဝန်ကြီးချုပ်သည် ဆရာ တော်များ၏ မေတ္တာရပ်ခံချက်ကို လက်ခံ နာယူပြီးလျှင် ကလျာဏီသိမ်တော်ကြီး တည်ဆောက်ရေးအတွက်သာသနာရေး ဝန်ကြီး ဦးဝင်းနှင့်တကွ မဟာသီရိ သုဓမ္မ ဟံသာဝတီမြို့ကြီးမှူးသော သီရိမင်္ဂလာ ပရိတ်တော်အဖွဲ့ဝင်ပုဂ္ဂိုလ်များ၊ သာသနာ ရေးဆိုင်ရာပုဂ္ဂိုလ်များ၊ ဓမ္မာစရိယဆရာ များနှင့် ပဋ္ဌာန်း ဒေသနာ တော်ကြီးကို ၁၃၁၅ ခု ပဌမဝါဆိုလဆန်း ၁၃ ရက်နေ့ နံနက် ၃ နာရီမှစ၍ဝါဆိုလပြည့် နံနက် ၉ နာရီတိုင်အောင် ၅၄ နာရီမရပ်မနား ရွတ်ဘတ် ပူဇော် စေ၍ ပဲခူး မြို့ ပရိတ် တော် အသင်းများ ဖြစ်ကြသော ပဲခူးမြို့ တရားဌာနပရိတ်တော်အဖွဲ့၊ ရွှေခြုံးအမျိုး သမီးပရိတ်တော်အဖွဲ့၊ ဇေယျမင်္ဂလာ ပရိတ် တော်အဖွဲ့တို့က မဟာမင်္ဂလသုတ်၊ ရတ နသုတ်၊ မဟာသမယ သုတ်၊ အာဋာ နာဋိယ သုတ်၊ ဓမ္မ စက္ကပ္ပဝတ္တန သုတ် စသော ဆိုင်ရာ ပရိတ်တော်များကို ရွတ် ဘတ်ပူဇော်စေပြီးလျှင်—

ပဌမဝါဆိုလပြည့် ၁၂ နာရီ မင်္ဂလာ အချိန်အခါတော်၌နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု၊ သာသနာရေးဌာန ဝန်ကြီးဦးဝင်း၊ တရားဝန်ကြီးဦးအေးမောင်၊ ရိက္ခာတော် ရ ဥက္ကဋ္ဌ ဦးဘဖိုး၊ရိက္ခာတော်ရလယ်ဝန် ဦးဘစော၊ ဟံသာဝတီမြို့ သစ်ကုန်သည် ဦးစိန် ရိက္ခာတော်ရ ဦးလှရွှေ သစ် ကုန် သည် ဦးမြို့ လူကြီးမင်း (၉) ဦးတို့သည် ပန္နက်တင် မင်္ဂလာအခမ်းအနား အစီအ စဉ်အတိုင်းတချိန်တည်း တပြိုင်နက်ပန္နက် ရိုက်နှက် အုတ်မြစ်ချခဲ့ကြပေသတည်း။

…၀…

## သံဃါယနာစာစောင်

စာစောင်ကြည့်ရှုသူများထံသို့ ရောက် သင့်သော အချိန်တွင် ရောက် နေ ကျ အ တိုင်းစာစောင်မရောက်လာပါက အောက် ပါ ဌာနသို့ အကြောင်းကြား စေလိုပါ ကြောင်း။

စိန်ညွှန့်
ဖြန့်ချိရေးတာဝန်ခံ
နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့



| | | |
|---|---|---|
| ဝန်ဆောင်ဒါယကာ ရွှေခြုံး ဦးသူတော် | ဥက္ကဋ္ဌ ရိက္ခာရအရေးပိုင်မင်း ဦးဘဖိုး | အကျိုးဆောင် မော်တော်ယာဉ် ဦးအုန်းမောင် |

စာမျက်နှာ (၁၄) မှ အဆက်

အတိုင်းသာသနာရေးမှာ လွှတ်လွှတ်လပ်လပ်ရှေးမင်းမြတ်တို့ကဲ့သို့ဘွဲ့တံဆိပ်တော်ဆက်ကပ်ပူဇော်မှုကိုပြုကြရာ အလွန်တန်ဘိုးရှိတဲ့ကုသိုလ်စေတနာကိုငါတို့ ရရှိကြပြီလို့အထူးဝမ်းမြောက်ကြရမည်၊

ဝမ်းမြောက်ရုံမျှမက သာသနာတော်ကိုကောင်းသည်ထက် ကောင်း အောင်အစဉ်မပြတ်ဆက်သက် အားပေးစောင့်ရှောက်ကြရန် ကိုက်တွန်းလိုသည် ဤသို့သော သာသနာတွင်း သက်ဝင် သောကုသိုလ် တို့ကြောင့် နိဗ္ဗာန် ချမ်းသာကြီးကိုအပြီးမုချ ရကြပါစေသတည်း။

# ညောင်ရမ်း ဆရာတော် ဘုရားကြီး ၏ ဩဝါဒတော်

ဆရာတော် ဩဝါဒစကား မိန့်ကြားအပ်သည် ဘွဲ့တံဆိပ်တော်အလှူခံရှိသာသနာတော်ကိုချီး မြှောက်ရန် ကြွရောက်လာကြသောဆရာတော်တို့ ကိုယ် စားဆရာတော်အား ဩဝါဒပေးရန် တာဝန်ထားသဖြင့် ဩဝါဒစကား ပြောကြားရသည့်အတွက် အလွန် ဝမ်း မြောက် ပါသည်။

ဩဝဒေယျာ နုသာသေယျ၊
အသဗ္ဘာစနိဝါရယေ။
သတံဟိသော ပိယော ဟောတိ၊
အသတံဟောတိ အပ္ပိယော။

ဟူသော ဒေသနာတော်အရဆုံးမခြင်း၊ ကံမြစ်ခြင်းမသူတော်မှုကိုတားမြစ်ခြင်းကို သူတော်ကောင်းများ နှစ်သက် မြတ် နိုးကြမည်ဖြစ်သော်လည်း၊ သူ ယုတ် မာ များ နှစ်သက် မြတ်နိုးကြနိုင်မည် မဟုတ်ပေ။ ထိုကြောင့်ဆုံးမခြင်း၊ ကံမြစ်ခြင်း၊ မသူတော်မှုကိုတားမြစ်ခြင်းသူတော်ကောင်း ပဝိပဝိနှစ်သက်မြတ်နိုးကြမည်၊ဆုံးမကံမြစ်သည့် အတိုင်း လိုက်နာ ကျင့်ကြံကြရမည်။

ယခုလို ဆရာတော်တို့ကို ဘွဲ့တံဆိပ်တော်လှူဒါန်းပူဇော်ခြင်းအား [ပဋိပတ္တိ ပူဇာ] ချီးမြှောက်ထိုက်သူကို ချီးမြှောက်ရမည်ဟူသော မြတ်စွာ ဘုရား၏ တရားတော်အတိုင်းချီးမြှောက်ခြင်း ဖြစ်၍ ဂမ္ဘလမ်းကြောင်းနှင့်ညီညွတ်ပါသည်။ သာသနာတော်စောင့် ဖြစ်သော ဆရာတော်တို့အား ချီးမြှောက်ခြင်းသည်လည်း သာသနာပြု မင်းကောင်းမင်းမြတ်တို့ ထုံးတမ်းစဉ်လာနှင့် ညီညွတ်ကာ သာသနာတော်ကြီးကို ချီးမြှောက်ခြင်း၊ တည်တံ့နိုင်မြဲအောင်စောင့်ရှောက်ခြင်းပင် ဖြစ်ပေသည်။ သာသနာတော်ကြီး ဆုတ်ယုတ်မှု၊ကြီးပွားတိုးတက်မှုမှာလည်း ချီးမြှောက်သူလှူဒါယကာနှင့်ရဟန်းတော်တို့အပေါ်၌တည်ရှိပေသည်၊ မြတ်စွာ ဘုရား ပရိနိဗ္ဗာန်စံလွန်သည်မှစ၍ရေတွက်လျှင် နှစ်ပေါင်း၂၄၉၇နှစ်ရှိခဲ့ပေပြီ နောက်ကသာသနာဝင်ကိုရှုကြည့်မြဲလျှင်လည်း ထိုနှစ်အတွင်းမှာသာသနာတော်ကြီးအမြဲတမ်းကြီးပွားတိုးတက်နေသည်မဟုတ် တရံတခါဆုတ်ယုတ်၍ တရံတခါ ကြီးပွား တိုးတက်လျက်ရှိသည်။

ဆုတ်ယုတ်ခြင်း၊ ကြီးပွား တိုး တက်ခြင်းသည်လည်း သာသနာတော်ကိုကြည်ညိုသောဗုဒ္ဓဘာသာ လှူဒါယကာနှင့်သာသနာတော်ထမ်းရဟန်းတော်တို့ အပေါ်၌တည်ရှိပေသည်။ လှူဒါယကာ များ က ပစ္စယာနုဂ္ဂဟ၊ ရဟန်း တော် များ က ဓမ္မာနုဂ္ဂဟဖြင့်ချီးမြှောက်ခြင်း မရှိပါလျှင် ဆုတ်ယုတ်သည်။

ထိုကြောင့် သာသနာတော် ကြီးပွား တိုးတက်စေလိုလျှင် ရဟန်းတော်များက စာပေကျမ်းဂန်သင်အံပို့ချ ဆောင် ရွက်ခြင်း၊ တရားဟောခြင်း၊ အဆုံးမ ဩဝါဒပေးခြင်း ဓမ္မာနုဂ္ဂဟ။ လှူဒါယကာ များ ကကျောင်းသင်္ကန်း ဆွမ်း ဆေး ပစ္စည်းလေးပါးကိုလှူဒါန်းခြင်း ထောက်ပံ့ခြင်း ပစ္စယာနုဂ္ဂဟဖြင့် အစွမ်းကုန် ချီးမြှောက်ကြရန်ဩဝါဒစကား မိန့်ကြားအပ်သည်။

....o....

# ဆဋ္ဌသံဂါယနာဒိုင်ကြီးတွင်ကုသိုလ်ပါသူများ

၁ ရန်ကုန် မြို့ တောင် ညွန့် ကွက်သစ်ရှေကုန်သည် ဦးစိုးဝန်ဒေါ်မြအိ တို့က ငွေ၅၀ဝိ(ငါးရာ) နှင့်ရွှေ လက်စွပ် တ ကွင်း။

၂။ ကြည့်မြင်တိုင် ကျွန်းတောလမ်း အငြိမ်းစားပညာအုပ်ဦးလွန်းတင်၊ ဒေါ်ဒေါ်လှိုင်တို့ကငွေ၁၀၀ဝိ(တထောင်)

၃။ သာယာဝတီ ခရိုင် ဇီးကုန်းမြို့ သမိ မြို့ဝန်ရုံး စာရေး မောင်စိုးတန်က ငွေ၂၁ိ (နှစ်ဆယ့်တကျပ်)။

၄။ ရန်ကုန်မြို့ ဒေါ်ဆွန်းမေနှင့် သားက ငွေ၅၀ိ (ငါးဆယ်ကျပ်)။

၅။ ရန်ကုန်မြို့ ဦးဝိစာရလမ်း အမှတ် ၃၂၁ ဒေါ်ခင်လှမေးသီအတွက် မစ္စက်မာတီတီ ဒေါ်တင်မအေးက ငွေ၅၀ိ(ငါးဆယ်ကျပ်)။

၆။ ဘန်ကောက်မြို့စကားပြန်ဦးဘာဘူကငွေ၁၀ိ (တဆယ်ကျပ်)။

၇။ စစ်တွေခရိုင်မင်းပြားမြို့ ရှေပန်းတိမ်ဆရာဦးဘိုးဖြူ၊ဒေါ်ပန်းမြဦးသားသမီး တစုတို့ကငွေ ၁၀၀ိ [တရာ]။

၈။ စစ်တွေခရိုင် မင်းပြားမြို့ ရွှေပန်းတိမ်ဆရာဦးခွေးဘိုအောင် ဒေါ်ဖြူမကြီး သားသမီးတစုကငွေ၂၅ိ (နှစ်ဆယ့်ငါးကျပ်)။

၉ စစ်တွေခရိုင်မင်းပြားမြို့ရွှေပန်းတိမ်ဆရာဦးသာနီးအောင်မသာဖြူ၊ သားသမီး တစုတို့ကငွေ၅၀ိ (ငါးဆယ်)။

၁၀။ ကွမ်းခြံကုန်းမြို့မ ဝရွာ ဘုရားကြီးကျောင်းဦးဥယျာကငွေ၁၀ိ(တဆယ်ကျပ်)။

၁၁။ အမည်မဖေါ်လိုသူ တဦးကငွေ ၅ိ (ငါးကျပ်)။

၁၂၊ ကျူးသန်းချောင်းသင်္ဘော ကနေ ဒီယန်မှတဆင့် ကနေဒါပြည် ဘစ်တိုရီးယား မစ္စက်အိုင်ရင်၊ ဘိုဟဘ်ဆင်က ငွေ ၁၀ိ [တရာ]

၁၃ သာယာဝတီ ကန်ကြီး ပိုင်းရပ် ဦးကျယ်ဒေါ်မိုးကလေး၊ဦးဘိုးညွန့်၊ဒေါ်ဒေါ်သိန်း၊ ကိုထွန်းညွန့်၊ ကိုဖေဦး၊ မညွန့်မေ၊ မောင်စောဝင်း၊ သမီးကလေး ကျွားမကြီးတို့ကငွေ ၁၀ိ (တရာ)။

၁၄။ သာယာဝတီကန်ကြီး ပိုင်း ဦးစိုးမြ၊ ဒေါ်မြင့်၊ မညိမ်းညိမ်း၊ မောင် စောလွင်၊ မအုန်းအုန်း၊ မခင်ခင်၊ လှမျိုးကြီးတို့ကငွေ၁၀ိ (တရာ)။

၁၅။ ဟံသာဝတီ ကွမ်းခြံကုန်းမြေပိုင်း ထန်းမနိုင် ရွာ ရ ဟန်း ဒါယ ကာ ဦးသက်နှ ဒေါ်ငြိမ်းလှတို့က ငွေ၁ဝိ(တဆယ်)။

၁၆၊ ယိုးဒယားသာသနာရေး မိတ်ဆက်အဖွဲ့ဝင်တို့က ငွေ ၁၀၀ိ (တထောင်)။

၁၇။ မော်လမြိုင်မြို့ပိုင်းဝန်ကြင်းစိန်ပွဲစား ဒေါ်ဖွားရှင်နှင့်မြေး မြင့်မြင့်တို့က ဘီလပ်သံပြားပေါက်ကြီးတခုအလှူကငွေ ၁၅ိ (တရာငါးဆယ်)။

၁၈။ မန္တလေးမြို့အရှေ့မြင် စေကိုင်းတန်း အဖေဦးပုံ၊ သား မိုလ်ပေါကြီး၊ သမီး မအေးရှင်တို့က ငွေ၅၀ိ(ငါးဆယ်)။

၁၉၊ သီဟိုဠ်ကျွန်းကန္ဒီမြို့လေဒီဘလေအဆောက်အဦနေသီလရှင်ဒေါ်ဝိစာရီကငွေ၂၀ဝိ(နှစ်ရာ)။

၂၀။ သာယာဝတီမြို့ ကန်ကြီးပိုင်းရပ် ကိုဘိုးစိန်ကငွေ ၁ိ (တဆယ်)။

၂၁။ ရန်ကုန်မြို့ရေကျော်ရပ်မစိန်ညွန့်ဆေးလိပ်ခုံပိုင်ရှင် ကျောင်းအမကြီး ဒေါ်အေးဆင့်ကိုအမှူးထား၍ သား စ တော့ကိတ်လမ်းဦးဘသန်းကုမ္ပဏီ ပိုင်ရှင် ရာဘက် ခရိုင်စက်ရှင်တရားဝန် ဦးဘမောင်(ဘီအေ)ဇနီးဒေါ်ကြည်ကြည် သားသမီး မြေးတစုတို့က ဆဋ္ဌ လိုက်ပွဲ တော်ကြီးတိုင်တတိုင်အတွက်ပဋ္ဌမအရစ်ငွေ ၅၀၀ဝိ (ငါးထောင်)။

၂၂။ နိုင်ငံတော်ဗုဒ္ဓ သာသနာအဖွဲ့ အုပ်ချုပ်ရေးအရာရှိဗိုလ်ကျော်ထင်ဦးဘိုးစိန်မင်းကတော်နှင့်သားသမီး တစုတို့ကငွေ ၈၃ိ (ရှစ်ရာသုံးဆယ်)။

၂၃ ပုသိမ်ခရိုင်ရေကြည်မြို့ကုန်သည် ဦးမောင်ဖေ၊ဒေါ်စိန်နှစ်တို့က ငွေ ၁၀ိ (တရာ)

၂၄ ပုသိမ်ခရိုင်ရေကြည်မြို့ကုန်သည် ဒေါ်ငြိမ်းကငွေ ၁၅ိ (ဆယ့်ငါးကျပ်)

၂၅ ရန်ကုန်မြို့ ရေကျော်ရပ် ဗိုလ်ချုပ်လမ်း မစိန်ညွန့် ဆေးလိပ်ရုံပိုင်ရှင် အမိကျောင်းအမကြီး ဒေါ်အေးဆင့်နှင့် သား စတော့ကိတ်လမ်း ဦးဘသန်းကုမ္ပဏီ ပိုင်ရှင်ရာဘက်ခရိုင် စက်ရှင်တရားဝန် ဦးဘမောင်(ဘီအေ)။ ဇနီး ဒေါ်ကြည်ကြည် သား၊သမီး၊ မြေးတစုတို့ကဒုတိယအရစ်ငွေ ၂၀၀၀ဝိ (နှစ်သောင်း)

၂၆ ရန်ကုန်မြို့ ရေကျော်ရပ်ဗိုလ်ချုပ်လမ်း မစိန်ညွန့်ဆေးလိပ်ရုံပိုင်ရှင်ကျောင်းအမကြီး ဒေါ်အေးဆင့်နှင့် သမီး ဒေါ်သန်းတင်တို့က ငွေ ၂၁၅၀ိ (နှစ်သောင်းတထောင်ငါးရာ)

၂၇ ရန်ကုန်မြို့ ရေ ကျော်ရပ် ဗိုလ်ချုပ်လမ်း စိန်ညွန့် ဆေးလိပ်ရုံ ပိုင်ရှင်ကျောင်းအမကြီးဒေါ်အေးဆင့်နှင့် သမီးမစိန်ညွန့်တို့က ငွေ ၂၁၅၁ိ (နှစ်သောင်းတထောင့်ငါး..)။

၂၈ ရန်ကုန်မြို့ရေကျော်ရပ် ဗိုလ်ချုပ်လမ်းမစိန်ညွန့်ဆေးလိပ်ရုံ ဆေးလိပ်လိပ်အတတ်ပညာသည်များအဖွဲ့ကငွေ၃၀၀ဝိ (သုံးထောင်)

၂၉ ရန်ကုန်မြို့ ရေကျော်ရပ်မစိန်ညွန့် ဆေးလိပ်ရုံနေ ဒေါ် ညွန့် က ငွေ ၃၀ိ (သုံးရာ)

၃၀ တွံတေးမြို့ ကုန်သည်ဦးစိုးတင်၊ ဒေါ်သန်းတို့က ငွေ ၃ိ (သုံးကျပ်)

၃၁ တွံတေးမြို့ ကုန်သည် ဒေါ်ငွေညွန့်က ငွေ ၂ိ (နှစ်ကျပ်)

၃၂ ရန်ကုန်မြို့ အလုံရပ်ဒေါ်ခလေးမသီးဒေါ်စိန်ညွန့်၊သားမောင်ဘရှင်၊ မြေးမောင်လှမင်း၊ မောင်တင်လှ၊ မောင်မျိုးမင်း၊ ခင်မောင်ထွန်း တို့က ငွေ ၁၅ိ (တရာ့ငါးဆယ်)

၃၃ လက်ပံတန်းမြို့ကွယ်လွန်သူအင်ပေါ်ဆေးကြီးဦးကျော်ဒွန်၊ ဒေါ်ဒေါ်စိုး အမ၊ ဦးစံရွှန်း၊ ဒေါ်စောလှိုင်နှင့်ကွယ်လွန်သူရဲဇဝတ်ဝန်ထောက်ဦးဘဦးကိုညိုမှန်း၍ဇနီးမင်းကအောင် ဒေါ်ကြီးမေ၊ သမီးခင်ဆွေထား၊ တင်မဦး၊ သားကိုကိုကြီး၊ကိုကိုလေးနှင့် တူ ဗိုလ်ကြီးမြင့်လွင်တို့က ငွေ ၁၅၀ိ (ထောင့်ငါးရာ)

၃၄ ရန်ကုန်မြို့ ၃၇လမ်း ဆေးဝိဇ္ဇာတိုက် ဦးအာကာသံး၊ ဒေါ်ခင်သိန်း၊ သမီး မသန်းရီ၊မစိုးမြင့်၊မအေးကြိုင်၊သားမောင်လှဘိုး၊ မောင်မျိုးညွန့်၊ဘိုးလှဝင်း၊ ဘိုးလှမင်း၊ ကိုမျိုးချစ်နှင့် ရန်ကုန်မြို့ဘဏ္ဍာကားလမ်းအကောက်အရာရှိဦးထွန်းတင်၊ ဒေါ်တင်အေး၊ သမီး ခင်ပြုံး၊ သားမောင်အုန်းမြင့်၊ မောင်မာတိုင်း၊ ဘောဘီ အေးတို့က ငွေ ၅၀ိ (ငါးရာ)

(ကျန် ကုသိုလ် ရှင် များ ကို ဆက်လက် ဖေါ်ပြမည်ဖြစ် ပါကြောင်း။)

....o....

# စာမျက်နှာ၅နှင့်၆တွင် ပြင်ချက်များ

ဤစာစောင် စာမျက်နှာ၅တွင် ပါရှိသော ကအဖွဲ့ဝင် ဆရာ တော်များ စာရင်း၌ အောက်ပါအတိုင်း ဖြည့်စွက်၍ ဘတ်ရှုတော် မူပါမည့်အကြောင်း။

အဖွဲ့အမှတ်စဉ်(၄)တွင် ကျမ်းအမှတ်စဉ် (၂)ပါဠိတ်ပါဠိတော်။ အဖွဲ့အမှတ်စဉ် (၈) တွင်ကျမ်းအမှတ်စဉ်(၃)မဟာဝါပါဠိတော်၊ အဖွဲ့အမှတ်စဉ် (၉) တွင် ကျမ်းအမှတ်စဉ် (၄) စူဠဝါပါဠိတော်၊ အဖွဲ့အမှတ်စဉ်(၁၀)တွင် ကျမ်း အမှတ်စဉ်(၅) ပရိဝါပါဠိတော်၊

....o....

## သံဂါယနာစာစောင် စာတည်းအဖွဲ့

၁။ ပြန်ကြားရေး ဌာန ဝန်ကြီး ဦးထွန်းဝင်း [ဥက္ကဋ္ဌ]။

၂။ နိုင်ငံတော် ရှေ့နေ ချုပ်ကြီး ဦးချန်ထွန်း [အကျိုးဆောင်]။

၃။ တရား ဌာန သတွင်းဝန်ထောက်၊ စည်သူဦးစံညွန့်။

၄။ ပြန်ကြားရေးဌာန ညွှန်ကြားရေးဝန် ဝဏ္ဏကျော်ထင် ဦးယော [စာပေ]။

အယ်ဒီတာ ဦးသာတင် [မှာဿ]။

# အသက် ၂၇ နှစ်ရှိပြီဖြစ်သော ပရိယတ္တိသာသနာနုဂ္ဂဟအသင်းကြီး



ကြည့်မြင်တိုင် (အောက်ကြည့်မြင်တိုင်လမ်း) တွင် နှစ်ထပ်တိုက်ကြီးတည်ဆောက်ရန် အုတ်မြစ်ချပွဲ ကျင်းပစဉ်က တွေ့ရပုံ။ (ယခုအခါ အဆောက်အအုံ ပြီးစီးလုနီးပြီဖြစ်၏။)

## ပရိယတ္တိသာသနာ နုဂ္ဂဟအသင်း

### ပဌမ ဥက္ကဋ္ဌ

ရန်ကုန်မြို့လုံးဆိုင်ရာ ပရိယတ္တိသာသနာနုဂ္ဂဟအသင်းကို ၁၂၇၇ ခုနှစ်က ကြည့်မြင်တိုင် ထီးတန်းကောမြေ့ရွဲတွင် စတင်တည်ထောင်ခဲ့လေသည်။ အသင်းကြီး၏ ပဌမဦးစီးနာယက ဥက္ကဋ္ဌမှာ စည်ပင်သာယာရုံး အင်စပိတ်တော် ဦးဘိုးမြဖြစ်၏။ ဦးဘိုးမြသည် သာသနာတော်သုံးရပ်၏မူလဘူတဖြစ်သော ပရိယတ္တိသာသနာတော်ကို မည်ကဲ့သို့ထောက်ပံ့ ပူဇော်ရပါမည်နည်းဟု အကြံဖြစ်ရာ ဆရာတော်ဘုရားကြီးများ၏ အမိန့်ကိုခံယူကာ စိတ်တူသဘောတူ လူကြီးအချို့နှင့် အဆိုပါအသင်းကို တည်ထောင်လိုက်ခြင်း ဖြစ်လေသည်။

### ပဌမအနုဂ္ဂဟ

ရန်ကုန်မြို့ပေါ်တွင်ပရိယတ္တိသာသနာတော်ကို ကြီးပမ်းဆောင်ရွက်တော်မူကြသော သံဃာတော်များနှင့် သီလရှင်များအတွက် ဆွမ်း ကွမ်းနှင့် ပတ်သက်၍ အခက်အခဲမရှိစေရန် အသင်းကြီးက ထောက်ပံ့ရန်ပင်ဖြစ်ပေသည်။ ဦးဘိုးမြ အမှူးရှိသော အသင်းသား (၁၁) ဦးတို့မဆုတ်မနစ် ဆောင်ရွက်မှုကြောင့် ၁၂၇၈ ခုကဆုန်လပြည့်နေ့ မှသင် ကျောင်းတိုက်ပေါင်း ၅၈တိုက်ရှိ သံဃာပေါင်း ၈၀၀ ကျော်တို့အား ဆွမ်းဆန် အစောင်းပေါင်း ၆၀၀ ကျော်ဖြင့် ပဌမအကြိမ်စတင် လှူဒါန်းနိုင်ခဲ့လေသည်။

### တိုးတက်၍လာခြင်း

အသင်းတည်ထောင်ပြီး၍သုံးနှစ်ရောက်သောအခါ အသင်းကြီးမှာ ချောင်လင့်သည့်ထက် ပိုမိုတိုးတက်လာမည်ကို အံ့ဩဘွယ်တွေ့ရှိကြရ၏။ ထိုအခါ ဦးဘိုးမြသည် ဥက္ကဋ္ဌအဖြစ်မှ နုတ်ထွက်၍ အကျိုးတော်ဆောင်အဖြစ်နှင့် ပိုမိုထိရောက်စွာ ဆောင်ရွက်လေရာ ကြည့်မြင်တိုင် အင်းနှစ်လမ်း အငြိမ်းစား နယ်ပိုင်ဝန်ထောက် ဦးဘတင် အေတီအမ် က ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်လေသည်။ ကျောင်းတိုက်ပေါင်း ၅၈ တိုက်မှ သံဃာတော်ပေါင်း ၁၆၀၀ ကျော်အထိတိုးတက်၍လည်းလာခဲ့၏။

### လက်ရှိအခြေအနေ

ကမ္ဘာ့စစ်ကြီးတွင်အသင်းကြီး၏ လုပ်ငန်းဆောင်တာများရပ်စဲခဲ့၍ စစ်ကြီးပြီး၍ အေးချမ်းသာယာရှိသောအခါတဖန် အသင်းကြီးကို စတင်ကြပြန်လေသည်။ ယခုလက်ရှိ အသင်းကြီး၏ ဥက္ကဋ္ဌမှာ အငြိမ်းစားရဲဝိုလ်ချုပ်ကြီး ဦးဘရီဖြစ်လျက် သာသနာရေးဆိုင်ရာ လုပ်ငန်းမှာလည်း ပိုမိုကျယ်ပြန့်ကာလာပေ၏။ အသင်းသား ဦးရေမှာလည်း တသက်ပန် အသင်းသား ၂၀၆ ရှိ၍ သာမန်အသင်းသား ၁၉၀၀ ကျော်တို့ဖြင့် တိုးတက်ရည်ကား ပြန့်ပွားလာလေသည်။ အသင်းကြီး၏ လုပ်ငန်းအချုပ်မှာ အောက်ပါ အတိုင်းပင် ဖြစ်ကြောင်း။

၁။ လေးလသားကြိမ် ရန်ကုန် ခရိုင်အတွင်းရှိ စာချစာသင် သံဃာတော်များနှင့် သီလရှင်များအား ဆွမ်းဆန်တော် ထောက်ပံ့လှူဒါန်းခြင်း။

၂။ ပြည်ထောင်စုမြန်မာ နိုင်ငံတော် ပဌမပြန် စာမေးပွဲတွင် ဓမ္မာစရိယ စာချတန်း အောင်မြင်တော်မူသော ပုဂ္ဂိုလ်တို့အား နှစ်စဉ် တနှစ်တကြိမ် ချီးကျူး ပူဇော်ပွဲပြုလုပ်ခြင်း၊

၃။ အဘိဓမ္မာသင်တန်းဖွင့်လှစ်၍ပို့ချသင်ကြားပေးခြင်း။

၄။ အသင်းသားများဘုရားဝတ်တက်ဝတ်ကပ် အမြဲမပြတ်ပြုလုပ်ခြင်း။

၅။ အခိုန် အခါအားလျော်စွာပေါ်ပေါက်လာသော သာသနာရေး ကိစ္စများကိုအားပေးကူညီခြင်းများ ဖြစ်လေသည်။

....—၀—....

## ဆဋ္ဌသံဂါယနာလိုက်ဂူကြီးနှင့် တရုပ်မျိုးချစ် လူငယ်များ၏ စေတနာ



မြန်မာပြည် တိုးတက်သောတရုပ်မျိုးချစ် လူငယ်များအသင်းမှ ကမ္ဘာအေးစေတီလိုဏ်ဂူတည်ဆောက်ရာ၌ စေတနာ ဝန်ထမ်း ကူညီ လုပ်ကိုင် ပေးနေကြစဉ် ဤသို့ တွေ့မြင်ရလေသည်။

## မိဘမဲ့ ခလေးများ ရှင်ပြုပွဲ

ရန်ကုန်မြို့ အင်းယားလမ်း ဒေါ်တီတီ (လုစ်) ကျောင်းမှမိဘမဲ့ကျောင်းသားကလေး ၂၇ ဦးကိုဒုတိယဝါဆိုလပြည့်နေ့က နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ ကြီးမှူး၍ ကြည့်မြင်တိုင် ဝေဠုဝန်ကျောင်းတိုက်တွင် ဥလ္လံဘ ရှင်ပြုပွဲတရပ် ကျင်းပခဲ့သေး၏၊ ထိုဥလ္လံဘ သာမဏေကလေးများမှာ ဝါတွင်းသုံးလအတွင်း ဝေဠုဝန်ကျောင်းတိုက်အတွင်း၌ ပင်လျှင် နေထိုင်ကြလိမ့်မည် ဖြစ်ကြောင်း။

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှပုံနှိပ်ထုတ်ဝေသည်။ တယ်လီဖုံး (မြောက်) ၃၉၂၊ သာသနာ့ရိပ်သာ-ကုတ်ကိုင်း၊ ရန်ကုန်မြို့၊

# သံဂါယနာ

## လက်ဝဲအောက်စာတ်

စွယ်တော်မြတ်
ကိန်းဝပ်တော်မူရာ

ကောင်းမှုတော်ကြီး



**ကောင်းမှုတော်ကြီး**
**သနိုင်း ဆောင်ပုဒ်**

ကိုးရာ့ကိုးဆယ် နှစ်ခုစွန်းမှာ၊ပွင့်ထွန်းလျှံပ ခြောက်ရောင်ဖြာ၊ ရာဇာမဏိ မြတ်စူဠာရယ်၊ ညွှန်တော်သာယာ ကျောက်စာထိုး၊ ကောင်းမှုတော်ကြီးမြင့်သန့်ခြာမှာတောင်ပေါင်း၊ တရာ နှစ်ဆယ်စွန်းလို့ မြှိုးလုံးဝန်းမဏ္ဍလ လေးရာကျယ်တယ်၊ ရှစ်ဆယ်နှစ်တောင်ကယ်တန်ခိုး၊ ဒါယကာတော်အင်းဝမိုးတယ်၊ မြတ်မျိုးသာကီ နေနတ်နွယ်သာ လွန်ရန်မှိုင်တည်ခဲ့ထား၊ လူနတ်အများ ဆပွားကြည်ညိုဘွယ်၊ နွယ်တော်သင်္ချိုင်တံ မြလျှံချယ်တယ်၊ အုံ့ညြတွယ် ဓမ္မတော်မြတ်တို့၊ ကိန်းဝပ် စံပယ်သွင်း ဌာပနာ၊ နိုင်ခန့်လွန်သေချာ၊ မြောင်ညွှတ်မျှ စံလွတ် ကွာတယ်၊ ငါးထောင်သာသနာ တည်ထွန်း ပါလိမ့်လေး။

(ညောင်ယင်သာ ဦးလှညွှ၏ ထုံ့ပင်တေးထပ်မှ)



နိုင်ငံတော် ဗုဒ္ဓ သာသနာ အဖွဲ့မှ တလ တကြိမ် ထုတ် ဝေ သည်
အတွဲ—၁၊ အမှတ်—၅၊ ၁၃၁၅—ခု၊ ဝါခေါင်လ (၂၅—၈—၅၃)တစောင် ၂၅ ပြား။

# သံဂါယနာငါးတန်တင် အဆ်ချင်းများ

## ၁။ ပထမ သင်္ဂါယနာတင်

မင်းချင်းလေး။ ။ကုသိနာရုံ၊ပန်းရဂုံဝယ်၊ဘုံပြီးသလက်၊ပြည့်ဝန်းရက်၌၊ဘုံစက်မပြန်၊ သုံးနိဗ္ဗာန်တွင်၊ နှစ်တန်ကျမြောက်၊ ထွန်းတောက်ကိုယ်ဝါ။မင်းဘဒ္ဒါနှင့်၊ပြဟ္မာအသွင်၊လူကရှင်သို့။ ဓုတင်တေရသ်။ သျှ ထက်မြတ်သား၊ ထေရ်ကဿပ၊သာဝကတို့၊ ခ,ခ,ပဉ္စာ၊ရဟန္တာနှင့်၊ပြည်ရာဇဂြိုဟ်၊နဂိုရ်စိုးဖြင်း၊ သံဝေပြင်းသား၊ မင်းဇာတသတ်၊ သမုနတ်ကို။ ထေရ်မြတ်တစု၊ အနှိုပြု၍၊ ငါးခုသာတောင်၊ပြည်ရန်အောင်ဝယ်။မြရောင်ဆိုင်းဆိုင်း၊ညို့ညို့မှိုင်းသား၊ ခက်ကျိုင်းညွန့်ရှင်၊စရည်းပင်နှင့်။ခေါ်တွင်ပဗ္ဗတ၊ ဝေဘာရဟု၊သာလှရိပ်ချမ်း၊လိုက်သာဝှမ်းဝယ်၊ကျမ်းပုဒ်ပဒ၊ညှိနှိုင်းဆ၍။ပထမသံဂါယနာ၊တင်သောခါဝယ်၊ ကြယ်မာဃကြီး၊ လနှင့်နီးမှ၊ပြီးစီးအောင်မြင်၊ယင်းသဘင်ဝယ်၊ အရှင်အာနန်၊အရဟန်ဝစ်၊တိုင်းမြောက်ဖြစ်သည်။ ။ရှစ်ဆယ်ကျော်သက်တွင် တည့်လေး။ ။သူကောင်းပေါ်ရှေ့မင်းချင်းတို့။ ။ (စာဆိုတော်–ဦးယာဆို

## ၂။ ဒုတိယသင်္ဂါယနာတင်

မင်းချင်းလေး။ ။တိုင်းမဂဓိရ်၊ ရာဇဂြိုဟ်ဝယ်။ ထိုဇာတသတ်၊နွယ်မပြတ်သား၊ သည်းပွတ်မြေးမြစ်၊ မင်းအဖြစ်ကို၊ညစ်ပစ်သတ်လု၊ငါးဆက်ပြုမှ။သုသုနာဂါ၊သာသနာကို၊ဝေသာလီမည်၊ချက်မြှုပ်ပြည်သို့၊ ယွန်းစည်ကျူးရင့်၊ ချီလေပင့်သော်၊ နှစ်မြင့်ငြိမ်ဆိမ်၊နန်းရွှေအိမ်ထက်၊ စည်းစိမ်စံပြီး၊ နတ်ဘုံမှီးသော်၊ သားကြီးရတနာ၊ ကာလာသောက၊ရိပ်ဖြူသရှင့်၊ဘုရားသာသနာ၊နှစ်တရာသည်၊ကြိုက်လာပြန်လျှင်၊ထိုဘုရင်ကို၊အရှင်ယသ၊တူကွမကွာ၊ ခုနစ်ရာတိ၊ ရဟန္တာစု၊ အနှိ တိုင်ပင် ပြု၍၊ ဝါဠုကာရုံ၊ ကမ္ဘည်းခံသည်၊ သာစံထပ်ထပ်၊နက်သန်ရပ်ဝယ်၊ မဏ္ဍပ်ကြီးစွာ၊ သုဓမ္မာသို့၊ ရတနာကိုးသွယ်၊မွှမ်းမံချယ်သား၊ ပန်းနွယ်ခြူးစိပ်၊ သဘင်ရိပ်ဝယ်၊စက်အိပ်နည်းဘိ၊ ထေရ်မုနိသို့၊ ဒုတိယသင်္ဂါယနာ၊တင်သောခါသည်။ ။ရှစ်မာသတိုင်တိုင်တည့်လေး။ ။သူကောင်းပေါ်ရှေ့မင်းချင်းတို့။ ။ (စာဆိုတော်–ဦးယာဆို

## ၃။ တတိယသင်္ဂါယနာတင်

မင်းချင်းလေး။ဝဋ္ဋမိတိုင်းချာ၊ပြည်ဝေသာဝယ်၊ကာလာမင်းနောက်၊ဆဲ့ကိုးယောက်တွင်၊မင်းမြောက်စိမ့်ရန်၊ပုဏ္ဏားဖန်သည်၊ စဏ္ဍာဂုတ်မြေး၊ မိန္ဒုသွေးဟု၊ ဘုန်းကျေးဇူးဟုန်၊ မြေမိုးတုန်မျှ၊ ရှေးကုန်သည်ဖြစ်၊ ဘဝစစ်က၊ ပျားနှစ်ရသာ၊ ကုသိုလ်ပါသည်၊ ဓမ္မာသောက၊ နရိန္ဒလျှင်၊မဏ္ဍာဘူမိ၊ပါဋ္ဋလိဝယ်၊ဆယ်ဗိုဒ်သာလုံ၊၊အာဏာကျုံးသား၊ ပေါင်းရုံးများစွာ၊ဇောဇုဗ္ဗါတွင်၊ ဗျည်း,တိ,ဥါတွင် ၊ မဟာမောဂ္ဂလိပုတ္တ၊ ထေရ်တိဿတို့၊ ဓမ္မမင်းအား နိမန်ကြား၍၊ လက်သားအရဟန် တထောင်မှန်နှင့်၊ မိမာန်ရတနာ ကျယ်ဝန်းစွာသည်၊သောကာရာမ၊ရွှေကျောင်းလှထက်၊တတိယသင်္ဂါယနာ၊အာဏာဖေါ်ပြ၊တင်ကုန်ကြသည်၊သုံးလယုတ်တနှစ်တည့်လေး။ သူကောင်းပေါ်ရှေ့မင်းချင်းတို့။ ။ စာဆိုတော်–ဦးယာဆို

## ၄။ စတုတ္ထ သင်္ဂါယနာတင်

မင်းချင်းလေး။ ။ကုသဝတီ ပုရိပြည်ထူး။စံလွတ်ကျူးဝယ် တန်ခိုးလည်းကုန် နတ်မြှူးခုန်သား။ ကဆုန်ပုဏ္ဏမာ နေ့အင်္ဂါဟု။ ဗေသာခါနက် တည့်မွန်းရက်တွင်။စက်သော်မပြန် ဓါတ်နိဗ္ဗာန်ကို။ ချန်ခဲ့တုံမြောက် ဆန်ကြွနောက်ဝယ်။ သာလျှောက်လူမိုလ်၊ ကာမ်နှိုနိုသည်။သီဟိုဠ်ရာဇာ၊ရှစ်ဆယ်လာသား။သဒ္ဓါတိဿ၊မင်းတရား၊ရင်သွေး။မြတ်လေးသက်နှံ၊ချစ်အားသန်သည်။ဝဋ္ဋဂါဘုန်းတောက် နန်းစံမြောက်တွင်။အရောက်ထိုခါ၊သာသနာမှူး။ရာလေးခုပေါ်၊ ငါးဆယ်ကျော်ဟု။တော်မဟာဝင် သံပိုင်းတင်ရှင့်။ရဋ္ဌင်သတ္တ ပြည့်စုံလှသည်။အမရ ရန်အောင် ပြည်ထောင်မင်းအား။ညွတ်တွားရိုသေ ဆက်လာပေသည်။ သန္တေသကထာ၊ သီဟိုဠ်စာ၌။ လေးရာတွက်ပွယ် သုံးဆယ်နှင့်သုံး။ပါဠိစီကုံးရှင့်။ထုံးနှစ်ဖြာထွက် ထိုနှစ်ချက်ကို။နှစ်သက်ကြရာ မှတ်လေပါလော့။နှစ်မှာတွက်ဖွဲ့ ဆဲ့ခုနှစ်သား။မျှလောက်ကွာ၏ မဟာသမယ။ထိုကာလဝယ်။ဝဋ္ဋမင်းအား၊အနှိထား၍။ငါးခုနစ်ရာ ထောင်သဿတို့။သုံးခါတိုင်တိုင် သံပြိုင်တွတ်တွတ်၊ရှေ့ကရွတ်သား၊ မုခပါဋ္ဌမြတ်စွာ။ထေရ်ငါးရာတို့ ပေါ်ထွက်ကာရုဋ္ဌ။ စတုတ္ထ သင်္ဂါယနာ တင်ပြန်လာသည်။ အာလောကာလိုဏ်းတွင်တည့်လေး။ ။ သူကောင်းပေါ်ရှေ့မင်းချင်းတို့။ ။ (စာဆိုတော်-ဦးယာဆို

## ၅။ ပဉ္စမသင်္ဂါယနာတင်

မင်းချင်းလေး။ ။ကုန်းဘောင်ရွှေပြည် ထောင်ဦးတည်သား။ဇာနည်ဥတ္တဋ္ဌ ဘေးလောင်းနတ်မှ။မပြတ်စည်းရုံး ပွါးပြုံးပွါးပြုံး။မုတ္တာကုံးသို့ မင်းဆုံးနှင့်နှင်။ သိုက်ဝင်ဘသမ ကွာပိန္ဒကာ၊။ စကြာ့တန်ခိုး သဿဘုန်းဖြင့်။ကုန်း,အင်း,ကိုင်,ဘ,မ၊ ငါးဌာနတွင်။မအကွရာ မဏ္ဍလာကို။ပထမာဒိက လက်မွန်စ၍။ရာဇနဂရေ မင်းနေပြည်ကြီး။ဖန်ဆင်းပြီးသော် စေတီမြတ်စွာ၊ န–လေးဖြာဖြင့် မှာတော်မူခဲ့ ပုန်းရာမှ့ကို ပြို့ပြို့ထင်မြင် ရှုဆင်ခြင်၍ သံရာဝတ် လွတ်ပစေသော၊ ကျွတ်စေဩဟု မနောပဏီဓိ၊ ရည်သန်ရှိလျက် ပကတိငွေရောင် သလင်းတောင်မှ ယူဆောင်ကျောက်ချပ် တမေ့အပ်၍ ပွတ်သပ်ပြီးခါ သာသနာမူ ယ,နာ,ဝ,ရ ကောစပုံရေး ဓေ့,ဓေ့,ဓေ့ က သရဒသဘင် ဦးရက်တွင်၌ ရေးတင်ဆစ်ထု လက်သားစုကို သုမက်လာ၊ ဇာဂရာနှင့် နရိန္ဒာဘိဓဇ အတုလမိပဲ တံဆိပ်တင်မှတ် ဒိဋ္ဌကတ်ကို ပတ်ပတ်ရစ်လှုမိ့ စက်နှယ်အိမ့်သား နှစ်သိမ့်လောက်စွာ ထေရ်သုံးဖြာတို့ သေချာဖြဋ္ဌတည်း ပြင်ဆင် လှည်းသည် ဝိနည်းဘိဓမ္မာ သုတ္တန္တာဟု ရာတဆဲ့တစ် နှစ်ရာ့ရှစ်နှင့်။ဇော,အစ်,သုည။ပေါင်းလကမူ။ ခုနစ်ရာ့နှစ်ဆယ်။ကိုးသွယ်ချပ်မှန်။ဓမ္မခန့်ရှစ်သောင်း။လေးထောင်ပေါင်းက။သျှင်ကောင်းသာသနာ။နှစ်ထောင်သာလျက်။လေးရာဆဲ့နှစ်၊သဏ္ဍာရာဇ်မူ။တစ်,နှစ်,သုံး,နောက်။သုညပေါက်၍။လရောက်ကဆုန်။ပုဏ္ဏာမိတ်နေ့။ပြီးစုံစေ့ရှင့်။ချမ်းမြေ့နှစ်သက်။ အထက်လေးဖြာ။သင်္ဂါယနာတွင်။သေလာရုဋ္ဌ။ပဉ္စမသင်္ဂါယနာ။တင်ပြန်လာသည်။ရတနပုံနန်းတွင်တည့်လေး။ ။သူကောင်းပေါ်ရှေ့မင်းချင်းတို့။ ။(ဆီးပနီဆရာတော်ဆို)



၁၃၁၅-ခု၊ဝါခေါင်လ၊ အတွဲ-၁၊ အမှတ်-၅။

# ရှေးဟောင်းဗုဒ္ဓဘာသာအဆောက်အဦများ

လူမျိုးအသီးသီး၊ နိုင်ငံအသီးသီးမှာ ပင် ရှေးဟောင်း အထိမ်း အမှတ်အဆောက်အဦများနှင့် ပတ်သက်၍ ထိမ်းသိမ်းစောင့်ရှောက်မှုများကို နည်းများမဆို ပြုလုပ်ခဲ့ကြလေသည်။ ဥရောပ-အမေရိက စသည်တို့၌ ရှေးဟောင်း အထိမ်းအမှတ်အဆောက်အဦများ ထိမ်းသိမ်း စောင့်ရှောက်းရာနှင့် ပတ်သက်၍၊ နောက်ဆုံးအဆင့်အတန်းသို့ပင် ဆိုက်ရောက်လုနီးနီး ဖြစ်၍နေကြပေပြီ။ အရှေ့နိုင်ငံများ၌ကား ထိုကိစ္စအတွက် အနောက်နိုင်ငံများအဘို့ အထိုက်အလျောက်မျှသာ ဆောင်ရွက်ပြီးစီးကြပြီးလျှင်၊ အချို့နိုင်ငံများ အဘို့မှာမူကား အလွန်နောက်ကျနေလျှော့လျက် ရှိသည်ကိုတွေ့ရလေသည်။

အိန္ဒိယပြည်ကြီးကို ကြည့်မည်ဆိုပါလျှင်၊ ရှေးဟောင်းပစ္စည်းများ ထိမ်းသိမ်းစောင့်ရှောက်ရေးနှင့်ပတ်သက်၍ များစွာနှံးကြားလျက် အားကြီးမာန်တက်ဆောင်ရွက်ပြီး၊ ဆောင်ရွက်ဆဲ လုပ်ငန်းတို့ကို မြင်ရ-ကြားရခြင်းအားဖြင့် ခရီးရောက်လှပြီဟုထင်မှတ်ဘွယ်ရှိသော်လည်း၊ ဆောင်ရွက်ဘွယ်ရှိသမျှကိုချိန်ထိုးကြည့်လိုက်မည်ဆိုပါက စ ရုံမျှသာရှိသေးကြောင်းကို အိန္ဒိယပညာရှိကြီးတဦးကိုယ်တိုင် ထုတ်ဖေါ်ပြောကြားခဲ့ဘူးလေသည်။ သို့ရာတွင်အိတ်ဆောင် ကမ္ဘာကလေးဟု ခေါ်လောက်အောင် တိုင်းပြည်ကြီး၊ ကျယ်ဝန်းစုံလင်သည်နှင့်အမျှ အိန္ဒိယပြည်ကြီး၏ အထိမ်းအမှတ် ရှေးဟောင်းပစ္စည်းများမှာလည်း အလွန်ပင်များပြားလှပေရာ၊ ယခုဆောင်ရွက်ပြီးကိစ္စအတွက် နည်းသည်ဟု မဆိုသာချေ။ မြန်မာပြည်နှင့် စာလျှင်ကား၊ ဆင်နှင့်ဆိတ်ကဲ့သို့လွန်စွာကွာခြားလျက် ရှိသည်ကို တွေ့ရပေသိမ့်မည်။

မြန်မာ နိုင်ငံတော်၌ ရှေးဟောင်းပစ္စည်းများ ထိမ်းသိမ်းစောင့်ရှောက်ရေးနှင့်ပတ်သက်၍ ရှေးမြန်မာတို့ ကိုယ်တိုင်များစွာ အလေးပြုခဲ့ကြကြောင်းကို အထောက်အထားပြစရာ အချက် အလက်ပေါင်းများစွာပင်ရှိလေသည်။ ဥပမာ ရွှေတိဂုံ-ရွှေမော်ဓော စသောစေတီတော်တို့သည် မူလတည်စဉ်အခါက မကြီးကျယ်လှသော်လည်း၊ တခေတ်ပြီးတခေတ်၊ တမင်းပြီး တမင်းဆိုသကဲ့သို့၊ ဖျက်စီးတိုင်းဖျက်စီးတိုင်း၊ ငုံ၍ ငုံ၍ တည်ခဲ့ကြလေသောကြောင့်၊ ယခုကဲ့သို့ကြီးမားလှစွာသော စေတီတော်ကြီးများအဖြစ်သို့ ဆိုက်ရောက်၍ လာခဲ့ရကြောင်းကို၊ ဆိုင်ရာသမိုင်းများက သက်သေခံလျက် ရှိပေသည်။ မြန်မာနိုင်ငံတော်ရှိ ရှေးဟောင်းကျောက်စာများနှင့်ပတ်သက်၍၊ မူလထိုးကျောက်စာအပြင်၊ ဆင့်ထိုး စစ်ထိုး ဟူသော ကျောက်စာများရှိနေခြင်းအားဖြင့်၊ ရှေးဟောင်းပစ္စည်း ထိမ်းသိမ်းစောင့်ရှောက်ရေးအတွက်၊ ရှေးမြန်မာတို့သည် မည်မျှနိုးသားလေးစားခဲ့ကြောင်း ထင်ရှားလှပါပေသည်။ ခေတ်ကာလပညာရှိတို့၏ အမြင်အရ ထိုသို့ဆင့်ထိုး စစ်ထိုးများ ရှိခဲ့ကြသော်လည်း၊ ယခုခေတ်ကဲ့သို့၊ စံနစ်ကျ,မကျ သည်ဖြင့် ဝေဖန်ရန်ကိစ္စမှာကား တသီးတခြားဖြစ်လေသည်၊

ကုန်းဘောင်ခေတ်၌ ရေးသားအပ်သော၊ မှန်နန်း ရာဇဝင်တော်ကြီးသည် ရှိသမျှရှေးဟောင်းမြန်မာရာဇဝင်တို့၏အမှားများကိုညှိနှိုင်းပြင်သည့်ပြင်၊ ပိုမိုပြည့်စုံစွာခေါ်ပြနိုင်သဖြင့်၊ ပြင်ပနိုင်ငံများသို့ပင် ကျော်စောထင်ရှားခဲ့လေသည်။ ၎င်းမှာ ရှေးဟောင်း အထိမ်းအမှတ်ပစ္စည်းများကို နိုးသလေးစားမှု၏အကျိုးပင်ဖြစ်လေသည်။

ရှေးဟောင်းပစ္စည်းများ၊ ထိမ်းသိမ်းစောင့်ရှောက်ရေးနှင့်ပတ်သက်၍ အချုပ်အားဖြင့် နည်းနှစ်နည်းသာ ရှိလေသည်။ (ပဌမနည်းကား) ရှေးဟောင်းပစ္စည်းဘရပ်ကို၊ မူလရှိရင်းနေရာအတိုင်း၊ မူလရှိရင်း ပုံစံအတိုင်း၊ မူလရှိရင်း အရွယ်အတိုင်း၊ (တတ်နိုင်ခဲ့လျှင်) မူလရှိရင်းအမျိုးအစားအတိုင်း ပြန်လည် ပြုပြင်မှုမျိုးဖြစ်လေသည်။ (ဒုတိယနည်းကား) မူလရှိရင်းနေရာမှပြောင်းရွှေ့ယူငင်လျက် ခေတ်ကာလအလျောက် ဆိုင်ရာ ပြတိုက်ကြီးများရှိရာသို့ရွှေ့ပြောင်း ထားရှိခြင်းမျိုးဖြစ်လေသည်။

ရှေးဟောင်းပစ္စည်းများကိုထိမ်းသိမ်းရာ၌ အထက်ပါအချက် ကြီးနှစ်ရပ်တို့ကို လွန်စွာ ဂရုစိုက်၍ လိုက်နာအပ်လှပေသည်၊ ဥပမာ ပုဂံခေတ်က ပန်းချီကျော်ကြီးတဦးသည် တောထွက်ခန်းကိုရေးသားခဲ့သည်ဆိုကြပါစို့။ ထိုရေးသားချက်မှာ ကာလကြာင့်ဖြစ်သောကြောင့်၊ မထင်တချို့ ထင်တချို့ ဖြစ်နေသည်ဆိုကြပါစို့။ ယခုခေတ်ပန်းချီတဦးက၊ ထင်မပြုပြင်လိုသဖြင့် မူလရှိရင်းအရပ်ထက် အချီးကျူးအောင် လှပအောင် ဟူသောသဘောနှင့် ပြင်ဆင် ရေးသားမည်ဆိုပါက ရှေးဟောင်း အနုပညာတရင်ကို ထိမ်းသိမ်းရာ မရောက်သည့်ပြင်၊ ဖျက်ဆီးရာရောက်ကြောင်း၊ သတိပြုသင့်လှပေသည်။ ခေတ်ပန်းချီဆရာသည် ပုဂံခေတ်ပန်းချီဆရာ၏ပဋိသာတ်ကိုမိမိပဋိသာတ်အဖြစ်သို့ အဘင်းအမြှယူသွင်းလိုက်ရာ ရောက်ပေသည်။ ခေတ်ပန်းချီဆရာ၏ လက်ရာကိုလည်း ကြည့်ရှုလိုပါသည်၊ သို့သော် ပုဂံခေတ်ပန်းချီကျော်၏ လက်ရာကိုလည်း ကြည့်ရှုလိုပါသည်ဟူသော သဘောထားရှိသူတို့ကိုလည်း၊ ကန့်ကွက်ရာ ကျလေသည်။

ကာလ-ဒေသအခြေအနေအရင်း ရင်းနေရာမှ၊ ပြောင်းရွှေ့ကာ၊ ပြတိုက်စသည့်တို့သို့ ယူဆောင် သိမ်းဆည်းထားသင့်သောအရာမျိုးလည်းရှိလေသည်။ ဥပမာ ဗုဒ္ဓဘာသာ လွှမ်းစွာပြန့်ပွား ထွန်းကားခဲ့သော မြန်မာပြည်အဘို့ ရှေးဟောင်းစေတီ ပုထိုးတို့သည်၊ များစွာပင်ရှိကြပေကုန်၏။ အချို့စေတီ ပုထိုးများမှာ၊စေတီမှန်း ပုထိုးမှန်းမသိနိုင်လောက်အောင်ပင် ပျက်စီးလျက်ရှိသည်ကို၊ အများအပြားတွေ့မြင်နိုင်လေသည်။ ထို့ကြောင့် ''ဘုရားမှတ်လို့ ကိုးကွယ်ပါ၊ ဖွတ်ထွက်မှတောင်ပို့မှန်းသိ''ဟူသောစကားပုံတခုပင် ဖြစ်လာခဲ့ရလေသည်။ နေရာကလည်း မသင့်လျော်၊ အရေအတွက်အားဖြင့်လည်းလွန်စွာပင် များပြားလှသည့်ပြင် ဘုရားမှန်းမသိ၊ တောင်ပို့မှန်း မသိ ဖြစ်လောက်အောင်ပျက်စီးနေသည့်အချို့စေတီ ပုထိုးများကိုလုံးဝတူးဖေါ်ပြီးနောက် အတွင်းမှ ရှိသမျှပစ္စည်းများကိုဆိုင်ရာပြတိုက်ကြီးသို့ ရွှေ့ထားသင့်လှပေသည်၊ထင်မိ၍လည်းမ တည်နိုင်၊ ပြတိုက်သို့လည်း၊ မရွှေ့နိုင်ဆိုပါက၊ တနေ့တွင် အချည်း အနှီး မြေအောက်သို့ ရောက်သွားဘွယ်ရာသာ ရှိလေသည်။

မြန်မာနိုင်ငံ၌ (၁) ရှေးဟောင်းမြန်မာ့ယဉ်ကျေးမှု၏သမိုင်း၊ (၂) အတိတ်ရာဇဝင်၏ အကောင်းဆုံးသက်သေကြီးများ သဖွယ် ဖြစ်ကြကုန်သော၊ ရှေးဟောင်းပစ္စည်းများ၊မြေအောက်သို့ မည်မျှရောက်ခဲ့ရပြီဖြစ်ကြောင်းကို မခန့်မှန်းနိုင်အောင် ဖြစ်ရလေသည်။ကွန်ဘခေတ်တွင်သာလွန်ပျောက်ပျက်ခဲ့ရသည်။

အတိတ်သက်သေတို့သည်၊ ပစ္စုပ္ပန်ကာလနှင့် အနာဂတ် ကာလအတွက် နှိုင်းချိန်စရာ အချက်ကြီးများဖြစ်သည့်အတိုင်း လူမျိုးရေးအတွက်ဖြစ်စေ၊နိုင်ငံရေးအတွက်ဖြစ်စေ၊ စီးပွားရေးအတွက် ဖြစ်စေ၊ ဘာသာရေးအတွက်ဖြစ်စေ၊ နည်းများမဆိုကျေးဇူးပြုစွမ်းနိုင်လေသည်။

မြန်မာနိုင်ငံသည် နှစ်ရှည်လများအနှံ့အပြား ဗုဒ္ဓဘာသာထွန်းကားခဲ့သော နိုင်ငံဖြစ်သည့်အတိုင်း၊ ရှေးဟောင်း အဆောက်အဦတို့တွင် ဗုဒ္ဓဘာသာနှင့်ဆိုင်သောအဆောက်အဦတို့က ပိုမိုများပြားလှပေရာ ဗုဒ္ဓဘာသာ အပေါင်းတို့သည် ရှေးဟောင်း ဗုဒ္ဓဘာသာ အဆောက်အဦများကို ဆိုခဲ့သော စံနစ်များအတိုင်း အချိန်မလွန်မီ စောင့်ရှောက် သင့်လှပေသတည်း၊

# ဩဝါဒါစရိယ—သံဃနာယကအဖွဲ့ဝင်
# တောင်ပေါက် ဆရာတော်ကြီး

## ၁၂၃၉-ခုတွင်ဖွားသည်။

ရတနာပုံ နေပြည်တော် ပဌမ မြို့တည်နန်းတည် ပဌမ သင်္ဂါယနာတင် ဘဝရှင်မင်း တုံး မင်း တြား ကြီး ရွှေလက်ထက် တောင်တွင်းကြီးနယ် မြင်းကွန်းမြို့အဘ



စစ်ကဲတော်မင်း (ဦးယော) နှင့် (တိုက်သူကြီးမျိုး ဦးရာမပျက်) အမိဒေါ်သက်တို့မှ ၄ ယောက်မွေးချင်းတွင် ကြီးရသည်းချာအဖြစ် သန့်စင်ရာသက္ကရာဇ်ကား တစ် နှစ် သုံးကိုး ၁၂၃၉-ခု ရတုဟေမန္တတန်ဆောင်မုန်း လပြည့်ကျော် တရက် အင်္ဂါနေ့ ညဥ့်စက် ၉ နာရီ ၄၀ မိနစ် မြန်မာ့နာရီညဥ့်တချက်တီးကျော် ၂ နာရီ ၂ ပတ် ကြာကင်လက် ပြီသာစန်း မြဿဂဏ္ဍန်ကုမ်မှာ ခြင်္သေ့ မရွှေ့ သမှု ကြွက်စနေ မြဿဂဏ္ဍန်ဆင်နှင့်ကြံလျက်ကုမ်မှာခြင်္သေ့ ဟိုင်းမြေတွေ့ဘီမရွှေ့သမှု ကြွက်စနေတွင် ပုံနှင့်ယှဉ်ကာစင်မှာ ၂ လုံးတပါဒ်ကော ဒသမဇာတာ လကွဲ်နက္ခတ် ၇ လုံး တပတ် အသဲဂဏီ နက္ခတ် ၃ အံသာ ၂၇ လိတ္တာ မှန်းတည့်မတ်ချိန်ဒွေးဒွေးသုညသုဒ္ဓ ဌာန်အရတွင် ရွှေဘုံစွာ ငုံပွင့်ကြသို့ပညာဘုန်းရှင် ငယ်နာမည် မောင်ဘခင် ကိုဘွားသန့် စင်တော်မူသည်။

### သင်္ဂဇာနှင့် ဝဇီရာ ရာမ

ငယ်ရွယ်စဉ် မြို့လုလင်တွင် ငယ်ဆရာခင်ကြီး အရှင်ဦးသိန်သီးမှအစ သင်္ဂဇာနှင့်ဝဇီရာ ရာမ ဆရာတော်ဘုရားကြီးများတိုင်အောင် ဂန္ထဓူရ ဘာသဓူရ ဒေသဓူရ အရပ်ရပ်နှံ့စပ်၍ စတုပ္ပါလ ဘွဲ့နာမဖြင့် ပညာတ်လျက် မော်လမြိုင်မြို့ သဒ္ဓါဘောဂ နှစ်ဝင်ညှိခဲ့ မြေပိုင်ရှင် သူဋ္ဌေးကျောင်းဒါယကာကြီးဦးတိုးလုံ ဒေါ်သွယ်တို့၏ ရှင်အဖြစ် ရဟန်းအဖြစ် ချီးမြှင့်ကိုကွယ်မှု ဂုဏ်ရည်ကို ကာလ အငွေ့ရှည်သက်ဆုံးတိုင်အောင်ခံယူရရှိတော်မူသည်။

### ဝေယံဘုံသာ ကျောင်း
### တိုက်ကြီး

စစ်ကိုင်းမြို့ရတနာဘုမ္မိချောင်တွင်ငုံမန္တလေးမြို့ မလှုန်ရင်တွင် မဟာ ဝေယံဘုံသာ ကျောင်းတိုက်ကြီးကိုရင်းတည်ထောင်၍ စာပေများ ပို့ချနေတော် မူပြီးနောက် မော်လမြိုင်မြို့ တောင်ပေါက်ကျောင်းတိုက်ကြီးသို့ ကြွရောက်ကာပရိယတ္တိ သဒ္ဓမ္မပါလ အသင်းကြီးကို တည်ထောင်၍ အဆောက်အဦ မြောက်များစွာတိုးတက် တော်မူပြီး၊ စာပေများ ပို့ချကာ သဒ္ဓမ္မပါလ စာမေး စာပြန်ပွဲကြီးကိုနှစ်စဉ် ကျင်းပတော်မူခဲ့လေသည်။

## ဂုဏ်ထူးများ

ပဋ္ဌမ မြောက်ရှော့ ဘုရင်လက်ထက် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် တော်ရ ရှိ တော်မူသည်။ အစိုးရ ပဋ္ဌမပြန် ပါဠိပညာရေး နာယကဆရာတော်များ အဖွဲ့တွင် ဥက္ကဋ္ဌအဖြစ်ဖြင့်၎င်း၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရဒိနိဿယဌာန ဝိနည်းမိုရ် ဆရာတော် အဖြစ် ဖြင့်၎င်း၊ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ချုပ်ကြီး၏ဆဋ္ဌသင်္ဂါယနာဆိုင်ရာ ဩဝါဒါစရိယ သံဃနာယကအဖြစ်ဖြင့်၎င်း၊ နိုင်ငံတော်မဟာနာယက အဖြစ် ဖြင့်၎င်း၊ ပရိယတ္တိသဒ္ဓမ္မပါလမဟာနာယက အဖြစ်ဖြင့်၎င်း၊ သာသနာရေးကိစ္စ အဝဝတို့ကို တာဝန်ကျေစွာ ဆောင်ရွက်နေတော်မူစဉ်အခါမှာပင် ၁၃၁၅ – ခုနှစ် ဒုတိယ ဝါဆိုလပြည့်ကျော် ၃ ရက်၊ ဗုဒ္ဓဟူးနေ့ ညနေ ၄ နာရီနှင့် မိနစ် ၂၀ အချိန်ဝယ် လောကကို စွန့်ပယ်ရှာသိမ်း၍ ချုပ်ငြိမ်းပျံလွန် တော်မူသည်။

## ထူးခြားသည့် နိမိတ်များ

ဒုတိယ ဝါဆိုလပြည့် နေ့က တပည့်ရင်းတပါး ဖြစ်သော ရှမ်းပြည်မှ ဦးနေမိန္ဒ ကြွရောက်လာပြီး ဆရာတော်ဘုရား ကြီးကိုဖူးမြော်လျှောက်သောအခါဆရာတော် ဘုရားကြီး၏ ဝေဒနာမှာ စကား တော်မပြောနိုင်ပါသဖြင့် ဦးနေမိန္ဒအား ဆရာတော်ဘုရားကြီးကလက်တော်၃ချောင်းကို ထောင်ပြတော်မူလေသည်၊ ထိုသို့ လပြည့်နေ့ကလက်တော် ၃ ချောင်း ထောင်ပြတော်မူပြီးနောက် လပြည့်ကျော် ၃ ရက်နေ့ ရောက်သော အခါ ပျံလွန်တော်မူလေသည်။

ဆရာတော် ဘုရားကြီးသည် အထက်ပေါ်ပြပါ ဒုတိယ ဝါဆိုလပြည့်ကျော် ၃ ရက် ဗုဒ္ဓဟူးနေ့ ညနေ ၄ နာရီတိတိမှာ ပျံလွန်တော်မူတော့မည် ဟူသော လက္ခဏာကို ထင်ရှားစွာ ပြတော်မူလျှင် မူခြင်းမိုးများ မဲမှောင်၍ လာကာ သည်းထန်စွာ ရွာသွန်းသာပြီ၊ နောက် ကောင်းကင်မှ (ထိန်း) ဟူသောအသံကြီး ပေါ်ထွက်လာလေသည်။

ဤကဲ့သို့ ပဲ့တင်သံများ ပေါ်ထွက်လာကာ မိုးနတ် ဒေဝါသိကြား မြဟ္မာတို့ ပူဇော်ကြသည့် အသံ၊ ထိန်း–ထိန်း–ထိန်း–ဟူသော အသံကြီး ၃ ကြိမ်တို့တွင် နောက်ဆုံးထိန်း ဟူသော အသံကြီးသည် ဆရာတော် ဘုရားကြီး ပျံလွန် တော်မူသည့် ၄ နာရီနှင့် မိနစ် ၂၀ တိတိ အချိန်ဖြစ်ပေ၍ အလွန် အံ့ဖွယ် လှပေတော့သည်၊ ရဟန်း ရှင် လူ အများကောင်းထုး ဆန်းလှစွာသော မိုးခြိမ်းသံကြီးကျကာ သီးထန်စွာ ရွာသွန်းပြီး ပဲ့တင်သံကြီးများ ၃ကြိမ် ၃ခါမြည်၊ ပေါ်ထွက်ဟိန်းလာသည်ကိုအလွန်ထူးဆန်းသည်ဟု ပြောဆို အံ့ဩကြရသည်။

ဆရာတော် ဘုရားကြီး၏ ဘခမည်းတော် စက်ကဲတော်မင်း၊ ဦးယော နှင့်ခေါင်းဆောင်ကြီး ဗိုလ်ချုပ်အောင်ဆန်း၏ အဘိုး ဦးမင်းရောင် ဦးမင်းရောင် တို့မှာ မင်းမှုထမ်းဘက် ဖြစ်ကြပါသည်။

ဤကဲ့သို့ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ချုပ်ကြီး၏ ဆဋ္ဌသင်္ဂါယနာတင် ဩဝါဒါစရိယ သံဃနာယက ဖြစ်တော် မူသော သီလဝန္တ လဇ္ဇီပေသလ သိက္ခာကာမ ဝိနယဆောက ဝိနယဓရ ဝိနယဂရုက ဝိနယညူ ဖြစ်တော်မူသည့်ပြင် ပရိယတ္တိဆောက ပရိယတ္တိဝိသာရဒ ပိဋကတ္တယပါရဂူနှင့် ဘာသန္တရကောဝိဒ ဘာသန္တရ ပါဠမောက္ခသဗ္ဗဂုဏာဗဟုသုတ ပြည့်စုံတော်မူလှသည့်ဆရာတော်ဘုရားကြီးဖြစ်ရကား ယခုလို အခါမှာ နိဗ္ဗာန် နန်းသို့ မြန်းကြွ စံဝင်တော်မူသွားသည်မှာစောလှပါသဖြင့် နှစ်မြော တသ ဝမ်းနည်းစရာ ကောင်းလှပါကြောင်း။

တပည့်ရင်း ဦးပညိန္ဒ
မဂ်သာသာစည်ကျောင်း
သရက်တောကျောင်းတိုက်
ရန်ကုန်မြို့။

## ပြုစုသည့်ကျမ်းများ

### မန္တလေးတွင်နေစဉ်

(၁)သဒ္ဒတ္ထဘာသာ၊ (၂)ဆန္ဒောမဉ္ဇရီ ဥဒါဟရုဏ် ဂါထာများနှင့် တကွ ချနက်နိဿယ။ (၃) ရူပသိဒ္ဓိဆရာဗုဒ္ဓပိယမထေရ်စီရင်အပ်သောပဉ္စမနိဿယ (၄) သဗ္ဗိဘာအနိရုဒ္ဓမထေရ် စီရင်အပ်သော သဒ္ဒတ္ထဘာသာ အနိရုဒ္ဓနိဿယ၊ (၅) ဒိဋ္ဌိနိဂတဘ နိဿယ၊ (၆) ပဋ္ဌတန္တရနိဿယ၊ (၇) သဒ္ဓမ္မဝါကျောပဒေသ နိဿယ၊ (၈) နာဠိပရိက္ခာ နိဿယ၊ (၉) ကာဗျဒသနိဿယ၊(၁၀) ရသဝါဟိနီ ဂါထာများ နိဿယ၊

### သီဟိုဠ်ကျွန်းတွင်နေစဉ်

(၁၁) သီဟဠဘာသာသဒ္ဒါ၊ သိဒ္ဓန္တသင်္ဂဟနိဿယ၊ (၁၂) ဗောဓိဂတက နိဿယ၊ (ဘတ္တိဂတကလ) (၁၃) ဝာလာဝတာရချနက် နိဿယ၊ (၁၄) ဗာလာဝတာရ ဂဏ္ဌိဒတ္ထိဒိနိဿယသာရ ကျမ်း။ (၁၅) နာမဒါမာလာနှင့် အာချာတဒါမာလာ အကျယ် အမိပ္ပါယ်။ (၁၆) ကစ္စာယနဓါတုမဉ္ဇူသာနိဿယ (၁၇) သဒ္ဒသာရတ္ထ ဇာလိနီ နိဿယ၊ (၁၈) ဂန္ထာဘရဏ နိဿယ၊ (၁၉) ဝိဘတ္တိခါလာ နိဿယ၊ (၂၀) ဝာလပ္ပဗောဓန နိဿယ၊ (၂၁) ပဒသာဓနပဋ္ဋယောဇနိက နိဿယ။ (၂၂) ပါဠိ ဘာသာ ဝတ္တောဒယ နိဿယ၊ (သီဟိုဠ်ဘာသာမှ ပြန်သည်။) (၂၃) အလင်္ကာနိဿယ၊ (၂၄) ခုဒ္ဒသိက္ခာ နိဿယ၊ (၂၅) သဗ္ဗိဟ်နိဿယ၊ (၂၆) အဘိဓမ္မာဝတာရ အဋ္ဌကထာ နိဿယ၊ (၂၇) ၎င်းဋီကာအဘိဓမ္မတ္ထဝိကာသိနီနိဿယ၊ (၂၈) အဘိဓာန် ချနက် နိဿယ၊ (၎င်းကျမ်းသည်၊ ဂဏ္ဌိဌာန ဝိနိစ္ဆယတို့ဖြင့် စုံလင်၍ နှစ်သက်ဘွယ်ကောင်းသော ကျမ်းကြီး ဖြစ်သည်။ ယခုအခါ ကျောက်စာဝန် ဦးလှဖေငင်းက တာဝန်ခံ၍ ရိုက်နှိပ်ဆဲ ဖြစ်သည်၊) (၂၉) မောဟဝိစ္ဆေဒနီ အဋ္ဌကထာ နိဿယ၊ (၎င်းကျမ်းသည်၊ သီဟိုဠ်ကျွန်း ပထမ ပရက္ကမဗာဟု မင်း၏ ဆရာ သျှင်မဟာကဿပ မထေရ် စီရင် အပ်သော ကျမ်းဖြစ်သည်။ မြန်မာပြည်၌ဟိမ်မြုပ်နေခဲ့ရာ ဆရာတော်ဘုရားကြီးကိုယ်တိုင် ပင်ပန်းကြီးစွာ ရှာမှီး ထုတ်ဖေါ်၍ နိဿယ ရေးသားတော်မူခြင်းဖြစ်သည်၊) (၃၀) မုခမတ္တဒီပနီ အဘိဓမ္မာဝတာရ နိဿယ၊ (၃၁) ဝိဒဂ်နိဿယ၊ (၃၂) အမရကောသ နိဿယ၊ သင်္ကတ ဘာသာ အဘိဓာန် (၃၃) ဟိတောပဒေသ နိဿယ၊ သင်္ကတ ဘာသာ၊ (၃၄) တြိဘာသာ ရာဇနာကရနိဿယ၊ သီဟိုဠ်ဘာသာမှပြန်သည်၊ (၃၅) ဒင္ဂိကမ္မဝိနိစ္ဆယ၊ သာသနာ့ပိုင် ဆရာတော် တိုက်ဘွန်းချက် အရ ပါဠိဘာသာ ပြန်ရသည်။ (၃၆) ဇာတကစတြိကာ နိဿယ၊ (သင်္ကတ ဘာသာ) (၃၇) ဗုဒ္ဓသာသနိကပထဝီဝင်ကျမ်းကြီး၊ ၎င်းကျမ်းသည် အလွန်ကြီးကျယ်ခမ်းနား၍ ဝုဒ္ဓဘာသာဝင် အပေါင်းတို့ အရေးတယူ အသေးမှုအပ်သော ကျမ်းကြီးဖြစ်၏။ (၃၈) ဝုတ္တောဒယဆန်း နိဿယ၊ (၃၉) သဏ္ဍာစဒ္ဒာ နိဿယ၊ (သီဟဠ ဘာသာပြန်) (၄၀) နဒ္ဒ စာကျ နိဿယ၊ (သင်္ကတဘာသာပြန်) (၄၁) မုဒ္ဒဂဒ္ဒ နိဿယ။ (သင်္ကတ ဘာသာပြန်) (၄၂) နာမဒ္ဒိကနိဿယ၊ (သင်္ကတ ဘာသာပြန်) (၄၃) နလောဒယကာဗျ နိဿယ၊ (သင်္ကတ ဘာသာပြန်) (၄၄) ဝုတ္တောဒယ ဂဏ္ဌိပဒတ္ထ ဝိနိစ္ဆယ၊ ၎င်းကျမ်းသည်၊ ဂဏ္ဌိဌာနဝိနိစ္ဆယ စုံလင်စွာဖြင့် တခမ်းတနား ရေးသား ထားသော ကျမ်းဖြစ်သည်၊ (၄၅) နရေဝကာရ ကျမ်း။ (၄၆) ဝုတ္တိမောဂ္ဂလာန် နိဿယ၊ (၄၇) မဟာဗောဓိဝံသအဋ္ဌကထာ နိဿယ၊ ၎င်းကျမ်းကို ယခု ရိုက်နှိပ်ရန် အားထုတ်ဆဲဖြစ်သည်။ (၄၈) ဗာလာဝ ဗောဓန ဗျာကရဏ နိဿယ၊ (သင်္ကတ ဘာသာပြန်) (၄၉) ပါကတပကာသ ဗျာကရဏနိဿယ၊ (ပါကတ ဘာသာကို သေချာတျန သင်ယူတော်မူပြီးမှ ခရေးဥာ ပြန်ဆို ရေးသားတော် မူသော ပါကတဘါသာ(၅၀)ပါကတ၊ ပင်္ဂလဆန်း (ပါကတဘာသာပြန်) (၅၁) ဒေသိသဒ္ဒ သင်္ဂဟကောသ အဘိဓာန် နိဿယ ၎င်းကျမ်းသည်၊ ပါဠိ၊ ဟိန္ဒီ၊ သင်္ကတ၊ ပါကတဘာသာတို့ဖြင့်ဆက်သွယ်နေသော အိန္ဒိယပြည်ရှေး–အရပ်သုံး (ဒေသိယ) ဘာသာမှ ခရေးဥာ ပြန်ဆိုသော ကျမ်း ဖြစ်သည်၊

## အခြားကျမ်းများ

ထို့မှတပါး စစ်ကိုင်းတောင်ရိုးရတနာဘုမ္မိ ခေါင်း၌ သီတင်း သုံးတော် မူစဉ် (သိက္ခာတော် ၈ ဝါတွင် ကျောင်းဒါယကာကြီး ဦးဘိုး၊ တောင်းပန်ချက် အရ ရေးသားအပ်သော၊ (၅၂) မဟာမြတ်မုနိ ဥယျာဉ်တော် ဒါနအကြောင်း ဂါထာပါဠိနိဿယ။ ကျေးဇူးရှင်ဝဇီရာရာမိက ဆရာတော်ကြီး၊ အမိန့်အရ ရေးသား စီရင်အပ်သော (၅၃) ၎ဏ္ဍနမုဒ္ဒိ ဝိနိစ္ဆယ၊ (၅၄) အာရက္ခနှင့် ပဗ္ဗာဇနိယ ကမ္မဝါစာ နိဿယ၊ (၅၅) ဗုဒ္ဓဒသာနှင့် အန္တဒသာ တွက်နည်း သောဗေဒင်နှင့်စပ်ရာ မှတ်ဘွယ်ရာလက်ာများ။ သည်တို့ဖြစ်လေသည်။

....o....



အမျိုးသား ဝိ ကိန်းဖြင့် သာသနာရေးဝန်ကြီး ဦးဝင်းအ ုရှိသော မိတ်ဆက်အဖွဲ့မှဆောင်ယူသွားသည် သံဂါယနာအတွက် မြန်မာ့ ပိဋကတော်များကို သီဟိုဠ်ကျွန်းရှိ ကာရကမဏ္ဍလခေါ် ဝိဒေသကောင်းပတီ ဂ-မှဲ့တိုက သုတ်သင်ပြီးနောက်၊ သီဟိုဠ်ရှိ ဂိုဏ်းကြီး ၃ ဂိုဏ်းတို့မှ အထူးရွေးချယ် ဖွဲ့စည်ထားသည့် ဥက္ကဒီတရပဏ္ဍလ (အမြင့်ဆုံးအဖွဲ့)မှ ဆရာတော်ကြီးများ ဝင်ဆောင်တော်မူနေကြပုံ။ (ဗိုလ်ပိန့်–ခေါ် သီဟိုဠ်ဘာသာသတင်းစာမှရသည်)

# ဒီဃနိကာယ် - သုတ်သုံးကျမ်း

# ၅၀၀ ပါဠိဝိသောဓကဆရာတော်များ

## ကျမ်းအမှတ်စဉ်(၆) ဒီဃနိကာယ် - သီလက္ခန္ဓပါဠိတော်

### ကြည့်မြင်တိုင် စလင်း ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးဇောတိက | ၄၉ | မူလဓမ္မာစရိယ | စလင်းကျောင်းတိုက် | ကြည့်မြင်တိုင် | ရန်ကုန် |
| ၂ | ဦးပဏ္ဍိတ | ၃၄ | ။ | ။ | ။ | ။ |
| ၃ | ဦးနန္ဒိယ | ၃၃ | ။ | ။ | ။ | ။ |
| ၄ | ဦးသုမန | ၂၇ | ။ | ။ | ။ | ။ |
| ၅ | ဦးကုသလ | ၁၉ | အစိုးရဓမ္မာစရိယ | ။ | ။ | ။ |
| ၆ | ဦးကုဏ္ဍလ | ၉ | ။ | ။ | ။ | ။ |
| ၇ | ဦးသညိန္ဒ | ၁၇ | မူလဓမ္မာစရိယ | ။ | ။ | ။ |
| ၈ | ဦးဝိမလ | ၁၀ | ။ | ။ | ။ | ။ |
| ၉ | ဦးအာစိဏ္ဏ | ၂၂ | ။ | ပြည်လုံးချမ်းသာ | ။ | ။ |
| ၁၀ | ဦးရာဇိန္ဒ | ၁၄ | ။ | ။ | ။ | ။ |
| ၁၁ | ဦးနန္ဒဝံသ | ၂၂ | ။ | လက်ခုပ်ကျောင်း | ။ | ။ |
| ၁၂ | ဦးနန္ဒောဘာသ | ၁၇ | ။ | ။ | ။ | ။ |
| ၁၃ | ဦးအာစာရ | ၂၉ | ။ | သာခရကျောင်းတိုက် | ။ | ။ |
| ၁၄ | ဦးဉာဏောဒယ | ၂၁ | စေတီယင်္ဂဏဓမ္မာစရိယ | ။ | ။ | ။ |
| ၁၅ | ဦးအရိယာဝံသ | ၂၉ | မူလဓမ္မာစရိယ | ။ | ။ | ။ |
| ၁၆ | ဦးဇာဂရကြီး | ၂၅ | ။ | ။ | ။ | ။ |

### ကြည့်မြင်တိုင် ရှင်စောပု ပါဠိဝိသောဓကအဖွဲ့ဝင် ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးကောသဇ | ၄၅ | စေတီယင်္ဂဏဓမ္မာစရိယ | ဘုရားကရာတောရတိုက် | မြေနီကုန်း | ။ |
| ၂ | ဦးနာဂဝံသ | ၃၄ | သက္ကသီဟဓမ္မာစရိယ | ။ | ။ | ။ |
| ၃ | ဦးတေဇနိယ | ၂၀ | စေတီယင်္ဂဏဓမ္မာစရိယ | ။ | ။ | ။ |
| ၄ | ဦးဉာဏိန္ဒာဘာသ | ၁၉ | အစိုးရဓမ္မာစရိယ | ။ | ။ | ။ |
| ၅ | ဦးနာဂဝံသာဘိဝံသ | ၁၇ | ။ | ။ | ။ | ။ |
| ၆ | ဦးဝိစိတ္တ | ၁၃ | ။ | ။ | ။ | ။ |
| ၇ | ဦးကောသလ္လ | ၄၂ | ခရိုင်ဝိနည်းဓိုရ် | ရှင်စောပုကျောင်းတိုက် | ရှင်စောပုကုန်း | ။ |
| ၈ | ဦးဉာဏိန္ဒ | ၄၁ | မူလဓမ္မာစရိယ | ။ | ။ | ။ |
| ၉ | ဦးဝါသဝ | ၄၃ | ။ | ကန်တော်မင်္ဂလာကျောင်း၊ | ဝင်ဆာလမ်း | ။ |
| ၁၀ | ဦးနာရဒ | ၃၅ | ။ | ပဌာန်းကျောင်းတိုက် | ပြည်လမ်း | ။ |
| ၁၁ | ဦးစန္ဒ | ၁၀ | ။ | ။ | ။ | ။ |
| ၁၂ | ဦးပဏ္ဍိတ | ၂၄ | အစိုးရဓမ္မာစရိယ | ပဏ္ဍိတာရုံကျောင်းတိုက် | ဦးဝိစာရကွက်သစ် | ။ |
| ၁၃ | ဦးအရိယဝံသ | ၂၃ | မူလဓမ္မာစရိယ | စေတီကျောင်းတိုက် | ဟံသာဝတီကွက်သစ် | ။ |
| ၁၄ | ဦးခေမိဏ္ဍ | ၃၇ | ။ | မဟာရာဇိကာရုံကျောင်း | ကြည့်မြင်တိုင် | ။ |
| ၁၅ | ဦးသုစိတ္တ | ၁၄ | အစိုးရဓမ္မာစရိယ | ။ | ။ | ။ |

### ကြည့်မြင်တိုင် ဇေယျဝတီ ပါဠိဝိသောဓကအဖွဲ့ဝင် ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးဥက္ကံသ | ၄၄ | မူလဓမ္မာစရိယ | ဇေယျဝတီတိုက် | ကြည့်မြင်တိုင် | ။ |
| ၂ | ဦးဉာဏ | ၃၇ | ။ | ။ | ။ | ။ |
| ၃ | ဦးဥတ္တမ | ၁၉ | ။ | အောင်မင်္ဂလာသိဒ္ဓိကျောင်း | ။ | ။ |
| ၄ | ဦးအာဒိစ္စရံသီ | ၁၄ | စေတီယင်္ဂဏဓမ္မာစရိယ | သီရိမင်္ဂလာကျောင်း | ။ | ။ |
| ၅ | ဦးဣန္ဒဝံသ | ၁၂ | အစိုးရဓမ္မာစရိယ | ဝေဠုဝန်ကျောင်း | ။ | ။ |
| ၆ | ဦးဥတ္တရ | ၁၀ | ။ | ။ | ။ | ။ |
| ၇ | ဦးနန္ဒိယ | ၃၁ | စေတီယင်္ဂဏဓမ္မာစရိယ | ဝံသမေဒနီကျောင်း | ။ | ။ |
| ၈ | ဦးတိလောကာဘိဝံသ | ၂၄ | သက္ကသီဟဓမ္မာစရိယ | တိလောက ရှုံးကျောင်း | ။ | ။ |
| ၉ | ဦးကေသရ | ၂၀ | မူလဓမ္မာစရိယ | ဘုရားကရာတိုက် | ။ | ။ |
| ၁၀ | ဦးကုမုဒ | ၂၀ | ။ | ။ | ။ | ။ |
| ၁၁ | ဦးဥတ္တမသာရ | ၃၂ | ။ | မင်္ဂလာမှန်ကျောင်း | ။ | ။ |

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁၂ | ဦးခန္တီစာရ | ၂၃ | အစိုးရဓမ္မာစရိယ | တိုက်အုပ်ကျောင်း | ကြည့်မြင်တိုင် | ရန်ကုန် |
| ၁၃ | ဦးဣန္ဒြိယ | ၁၅ | 〃 | ဘုံမြင့်ကျောင်း | 〃 | 〃 |
| ၁၄ | ဦးပညာသာမိ | ၂၇ | မူလဓမ္မာစရိယ | ဘုံပျံကျောင်း | 〃 | 〃 |
| ၁၅ | ဦးနာဂဝံသ | ၂၀ | အစိုးရဓမ္မာစရိယ | ဇေယျသုခတိုက် | 〃 | 〃 |
| ၁၆ | ဦးတိက္ခာစာရ | ၂၀ | မူလဓမ္မာစရိယ | ရှမ်းကျောင်းကြီး | 〃 | 〃 |
| ၁၇ | ဦးအာဒိစ္စ | ၂၀ | 〃 | ရတနာစံကျောင်း | 〃 | 〃 |
| ၁၈ | ဦးပဏ္ဍိတ | ၂၀ | 〃 | သုဝဏ္ဏဘုမ္မိကျောင်း | 〃 | 〃 |

## ကျမ်းအမှတ်စဉ်(၇) ဝိသုဒ္ဓိမဂ္ဂ မဟာဋီကာ ပါဠိတော်

| အမှတ်စဉ် | ရန်ကုန်ဘုရားကြီးတိုက် ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ | | | | | |
|---|---|---|---|---|---|---|
| ၁ | ဦးဓမ္မကာလုဏ္ဍ | ၄၆ | အဂ္ဂမဟာပဏ္ဍိတ | ဘုရားကြီးတိုက် | မြောက်ထပ်ကြီး | ရန်ကုန် |
| ၂ | ဦးအာစိဏ္ဏ | ၂၃ | မူလဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၃ | ဦးကောသလ္လ | ၂၇ | 〃 | 〃 | 〃 | 〃 |
| ၄ | ဦးကောဏ္ဍညလေး | ၂၇ | 〃 | 〃 | 〃 | 〃 |
| ၅ | ဦးရေဝတ | ၂၆ | 〃 | 〃 | 〃 | 〃 |
| ၆ | ဦးပညာဇောတ | ၂၆ | 〃 | 〃 | 〃 | 〃 |
| ၇ | ဦးသာဂရ | ၂၆ | 〃 | 〃 | 〃 | 〃 |
| ၈ | ဦးအာဒိစ္စ | ၂၁ | 〃 | 〃 | 〃 | 〃 |
| ၉ | ဦးဝါသဝ | ၂၀ | 〃 | 〃 | 〃 | 〃 |
| ၁၀ | ဦးကုမာရ | ၂၇ | 〃 | 〃 | 〃 | 〃 |
| ၁၁ | ဦးဝရသာမိ | ၁၀ | 〃 | 〃 | 〃 | 〃 |

| အမှတ်စဉ် | ရန်ကုန် အလယ်တောရ ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ | | | | | |
|---|---|---|---|---|---|---|
| ၁ | ဦးသူရိယာဘိဝံသ | ၂၁ | အစိုးရဓမ္မာစရိယ | စာချကျောင်းတိုက် | ဘောင်ဒရီလမ်း | ရန်ကုန် |
| ၂ | ဦးသီလ | ၁၂ | 〃 | ပါဠိတက္ကသိုလ် | 〃 | 〃 |
| ၃ | ဦးကဝိန္ဒာဘိဝံသ | ၈ | 〃 | 〃 | 〃 | 〃 |
| ၄ | ဦးဝိနယာစာရာဘိဝံသ | ၁၄ | 〃 | 〃 | 〃 | 〃 |
| ၅ | ဦးဥတ္တမာဘိဝံသ | ၁၄ | စေတိယင်္ဂဏဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၆ | ဦးအဂ္ဂဝံသာဘိဝံသ | ၂၆ | အစိုးရဓမ္မာစရိယ | အောင်မြေဘုံစံကျောင်း | ဗဟန်း | 〃 |
| ၇ | ဦးဂုဏဝံသာဘိဝံသ | ၁၆ | 〃 | 〃 | 〃 | 〃 |
| ၈ | ဦးပညိန္ဒာဘိဝံသ | ၁၂ | စေတိယင်္ဂဏဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၉ | ဦးနာဂဝံသာဘိဝံသ | ၁၀ | 〃 | စကဝါဠင်ကျောင်း | 〃 | 〃 |
| ၁၀ | ဦးဓမ္မသေန | ၃၀ | သကျသီဟဓမ္မာစရိယ | ညောင်ထုံးကျောင်း | 〃 | 〃 |
| ၁၁ | ဦးစန္ဒာဘိဝံသ | ၁၁ | အစိုးရဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၁၂ | ဦးသူရိယာဘိဝံသ | ၂၃ | သကျသီဟဓမ္မာစရိယ | ဒေါ်ရွှေသစ်ပိဋကတိုက် | 〃 | 〃 |
| ၁၃ | ဦးပညာသာရ | | ဝိသိဋ္ဌဝိနယဓရ | ဓမ္မသုခတိုက် | 〃 | 〃 |

| အမှတ်စဉ် | ရန်ကုန်မြို့ ရွှေကျင်ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ | | | | | |
|---|---|---|---|---|---|---|
| ၁ | ဦးဇောတ | ၅၁ | အဂ္ဂမဟာပဏ္ဍိတ | ကျောင်းတော်ရာရွှေကျင်တိုက် | ဗဟန်း | ရန်ကုန် |
| ၂ | ဦးဓမ္မဝံသ | ၃၃ | မူလဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၃ | ဦးဥာဏုတ္တရ | ၃၂ | 〃 | 〃 | 〃 | 〃 |
| ၄ | ဦးနန္ဒဝံသ | ၃၁ | 〃 | 〃 | 〃 | 〃 |
| ၅ | ဦးဥာဏိန္ဒ | ၃၁ | 〃 | 〃 | 〃 | 〃 |
| ၆ | ဦးဝဏ္ဏ | ၁၈ | အစိုးရဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၇ | ဦးသာသန | ၁၈ | 〃 | 〃 | 〃 | 〃 |
| ၈ | ဦးရာဇိန္ဒ | ၁၅ | 〃 | 〃 | 〃 | 〃 |
| ၉ | ဦးဣန္ဒ | ၁၁ | 〃 | 〃 | 〃 | 〃 |
| ၁၀ | ဦးကဥ္စန | ၁၁ | 〃 | 〃 | 〃 | 〃 |
| ၁၁ | ဦးပဏ္ဍိတ | ၁၁ | 〃 | ကျိုက္ကစံရွှေကျင်တိုက်သစ် | ကျိုက္ကစံဘုရား | 〃 |

| အမှတ်စဉ် | ရန်ကုန် သရက်တောတိုက် ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ | | | | | |
|---|---|---|---|---|---|---|
| ၁ | ဦးနန္ဒသာမိ | ၅၀ | မူလဓမ္မာစရိယ | သာသနာလင်္ကာရကျောင်း | သရက်တော | ရန်ကုန် |
| ၂ | ဦးဣန္ဒာစာရာဘိဝံသ | ၂၇ | စေတိယင်္ဂဏဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၃ | ဦးဥာဏိက | ၄၇ | မူလဓမ္မာစရိယ | နှစ်ကျိပ်ရှစ်ဆူကျောင်း | 〃 | 〃 |
| ၄ | ဦးသောဘဏ | ၃၅ | 〃 | 〃 | 〃 | 〃 |
| ၅ | ဦးသြဘာသ | ၂၅ | 〃 | 〃 | 〃 | 〃 |
| ၆ | ဦးကေတုမာလာ | ၃၉ | 〃 | တောင်ဘီလူးပါဠိတက္ကသိုလ် | 〃 | 〃 |
| ၇ | ဦးသိရိန္ဒာဘိဝံသ | ၁၃ | အစိုးရဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၈ | ဦးနာဂဝံသ | ၁၅ | 〃 | 〃 | 〃 | 〃 |
| ၉ | ဦးဥက္ကဋ္ဌဥာဏ | ၁၀ | 〃 | 〃 | 〃 | 〃 |
| ၁၀ | ဦးဥာဏုတ္တရ | ၂၉ | မူလဓမ္မာစရိယ | ကျောက်ပတောင်းကျောင်း | 〃 | 〃 |
| ၁၁ | ဦးသာသနဝံသ | ၂၀ | အစိုးရဓမ္မာစရိယ | သာသနဝံသကျောင်း | 〃 | 〃 |
| ၁၂ | ဦးဥတ္တရာဘိဝံသ | ၂၀ | 〃 | မေဃဝတီကျောင်း | 〃 | 〃 |

(စာမျက်နှာ ၁၅ သို့ ဆက်ကြည့်ပါ)

# နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီး

## အက်ဥပဒေ ဖြစ်ပေါ်လာပုံနှင့် အက်ဥပဒေအရ ရုပ်လုံး ဖော်ခဲ့ပုံများ

### ဗုဒ္ဓသာသနာအဖွဲ့အက်

လွှတ်လပ်ပြီး ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရ၏ ပါလီမန် လွှတ်တော်ကြီးမှ သာသနာရေးနှင့် ပတ်သက်သည့် အက်ဥပဒေ ၃-ရပ်တို့ကို ပြဋ္ဌာန်းခဲ့ရာ ထိုအက်ဥပဒေ ၃–ရပ်အနက်မှာ(၁)ဝိနိစ္ဆယဋ္ဌာန အက်ဥပဒေ (၂) ပဉ္စိတက္ကသိုလ်နှင့် ဓမ္မာစရိယ အက်ဥပဒေ (၃) ဗုဒ္ဓသာသနာအဖွဲ့ အက်ဥပဒေတို့ဖြစ်လေသည်။ ထိုအက်ဥပဒေ ၃– ရပ်တွင် ဗုဒ္ဓသာသနာအဖွဲ့ အက်ဥပဒေနှင့် ပတ်သက်၍ စတင်ဖြစ်ပေါ်လာပုံများကိုအကျယ်တဝင့်ဖော်ပြဘွယ် များစွာရှိသော်သည်း ထိုအက်ဥပဒေကို မြန်ကြားရေးနှင့် သာသနာရေး ဝန်ကြီး ဦးထွန်းဖေ ကိုယ်တိုင် ပါလီမန်လွှတ်တော်ကြီး၌ တင်သွင်းစဉ် အခါက ရှင်းလင်း ပြောဆိုချက်များကို ဖော်ပြရလျှင် အချုပ်အားဖြင့် လုံလောက်ပြီဟု ဆိုရပေမည်။ မြန်ကြားရေးနှင့် သာသနာရေး ဝန်ကြီး ဦးထွန်းဖေ (၎င်းနောက် – မြန်ကြားရေးနှင့် ပညာရေးဝန်ကြီး ဦးထွန်းဖေ ၎င်းနောက် – ယဉ်ကျေးမှုဌာန ဝန်ကြီး ဦးထွန်းဖေ–ယခုထွန်းနေ့စဉ်သတင်းစာ အုပ်ချုပ်အယ်ဒီတာ ဦးထွန်းဖေ) ၏ထိုအခါက ရှင်းလင်းချက်စကားများမှာ အောက်ပါအတိုင်းဖြစ်လေသည်။



နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ကိုယ်စားလှယ်တော် လူကြီးများ

### ဝန်ကြီး ဦးထွန်းဖေ၏ အဆို ရှင်း လင်း ချက် စကား

ဥက္ကဋ္ဌကြီး ခင်ဗျား၊ ၁၃၁၂– (၁၉၅၁) ခုနှစ် ဗုဒ္ဓ သာသနာအဖွဲ့ အက် ဥပဒေကြမ်းကို ဆွေးနွေးရန်အဆိုတင် သွင်းပါတယ်။

ဥက္ကဋ္ဌကြီး ခင်ဗျား၊ သည်ဥပဒေကြမ်း တင်သွင်းရခြင်း၏ ရည်ရွယ်ချက်နှင့် ပတ်သက်ပြီးတော့ အကျဉ်းချုပ်မှုဥပဒေကြမ်း၏နောက်ဆွယ်တွင် ပါရှိသော ရည် ရွယ်ချက်နှင့် အကြိုးအကြောင်း ဖော်ပြချက်တွင် အတော် အတန် ရေးသားထားပါပြီ။ အဲသည်လို ရည်ရွယ်ချက်နှင့် အကြိုးအကြောင်း ဖော်ပြချက်မှာ ကျဉ်းကျဉ်းဘဲရေးသားထားတဲ့ အတွက်ဥက္ကဋ္ဌကြီးရဲ့ခွင့်ပြုချက်အရ ကျွန်တော် အနည်းငယ်ဘတ်ပြပါရစေ။

'ပြည်ထောင်စု မြန်မာ ,နိုင်ငံတော် အတွင်း တွင် မှီတင်းနေထိုင်ကြကုန်သော ဗုဒ္ဓဘာသာဝင် အပေါင်း တို့၏ ဦးစီး ခေါင်းဆောင် ကိုယ်စားလှယ်ပြုနိုင်သော အဖွဲ့ ဖွဲ့စည်းပေးရန်၎င်း၊ ကံကံ၏ အကျိုးကို ယုံကြည် လေးစားကြကုန်သော ဗုဒ္ဓဘာသာဝင်အပေါင်းတို့သည်မိမိတို့ ကုသိုလ်ဒါနပြုကြရာတွင် အညီအညွတ်ပင်ဆောင်ရွက်နိုင်ကြရန်၎င်း၊ ဗုဒ္ဓဘာသာဝင် နိုင်ငံတော်သူ နိုင်ငံတော်သားအပေါင်းတို့သည် ပရိယတ္တိ–ပဋိပတ္တိ ပဋိဝေဓဟူသော သာသနာ သုံးရပ်ကို တိုးတက်ထွန်းကားပြန့်ပွားရေးကိုထိရောက်စွာ ဆောင်ရွက် နိုင်စေရန်၎င်း၊ ဤ မိုသောညွှန်ကြားချက်မျိုးဖြင့် ဤဥပဒေကြမ်းကိုတင်သွင်းရခြင်းဖြစ်ပါသည်' လို့ ရေးထားပါတယ်၊အချုပ်မှာတော့ဗုဒ္ဓဘာသာဝင်အပေါင်းတို့၏ကိုယ်စားလှယ် ဦးစီး ခေါင်းဆောင်အဖွဲ့ကြီးတခု ဖွဲ့စည်းပေးရန် ညွှန်ကြားခြင်းပင် ဖြစ်ပါတယ်။ သည်ဥပဒေကြမ်း ဖြစ်ပေါ်လာပုံနှင့် သည်ဥပဒေကြမ်း ဆွေးနွေးရန် ရောက်လာရပုံ အကြောင်းတို့ကို အခါ အခွင့်ကြုံကြိုက်ရသည့်အားလျော်စွာ ဥက္ကဋ္ဌကြီးရဲ့ အမိန့် အရ ကျွန်တော်အနည်းငယ်မြေ ပြပါရစေ။

ပထမဦးဆုံး–၁၉၅၀ –ခုနှစ် ဩဂုတ်လ–၅– ရက်နေ့မှာ သာသနာ့ရိပ်သာတွင် ရန်ကုန်မြို့ရှိ ဗုဒ္ဓ ဘာသာ အဖွဲ့ ပေါင်းစုံနှင့် ဆွေးနွေးပြီးပါပြီ။ ၎င်းအစည်းအဝေးကြီးမှ ကော်မီတီ တခုကို ခန့် လိုက်ပါသယ်။ သည်ကော်မီတီအဖွဲ့ထဲတွင်–၇–ဦးပါရှိပါတယ်။(၁)သာသနာရေးဝန်ကြီး(၂)နိုင်ငံတော်တရားဝန်ကြီး ဦးမောင်(၃)တရား လွှတ်တော်ချုပ် တရား ဝန်ကြီး ဦးသိန်းမောင် (၄) တရားဝန်ကြီးဦးအုန်းဖေ (၅) ဦးစံကြူ၊ ပရိယတ္တိ သာသနာ့ဟိတအသင်း (၆) ချမ်းသင်၊ ဦး ဘတင် (၇) နိုင်ငံတော် ရှေ့နေချုပ် ကြီး ဦးချန်ထွန်း တို့ပါဝင်သော အက်ဥပဒေကြမ်း ရေးဆွဲရန် ကော်မီတီတခုကို ဖွဲ့စည်း လွှဲအပ်လိုက်ပါတယ် အဲသည်နောက် –၁၉၅၀– ခုနှစ် ဩဂုတ်လ၁၂–ရက်နေ့မှာတကြိမ် ဗုဒ္ဓဘာသာအဖွဲ့ ပေါင်းစုံတို့ရှေ့မှာအနုလုံ ပဋိလုံ အပြန် ပြန် အလှန်လှန် ဆွေးနွေးပြီးခဲ့ပါပြီ။ ၎င်းနောက်တတိယအကြိမ်ဆက်လက်ဆွေးနွေးခဲ့ပါသေးတယ်။

၁၉၅၀ ခုနှစ်၊ စက်တင်ဘာလ ၁၀ ရက်နေ့ သာသနာ့ရိပ်သာတွင်နိုင်ငံတော် ဝိနည်း ဓိုရ်နှင့်ဩဝါဒါစရိယဆရာတော်ကြီးများ အဖွဲ့ပေါင်းစုံမှ ဆရာတော်များ၊ ဂိုဏ်း အသီးသီးမှ ဆရာတော်များပါဝင်တဲ့ သံဃာတော် အပါးတရာကျော်တို့၏ ရှေ့မှောက်တွင်သည်ဥပဒေကြမ်းကို တင်ပြတဲ့အခါမှာ ဆရာတော် သံဃာတော်များက သာရနုမောဒနာ ခေါ်ပြီး ဥပဒေကြမ်းကို ထောက်ခံ အတည်ပြုခဲ့ပါတယ်။

၎င်းပြင်–၁၉၅၀– ခုနှစ် စက်တင်ဘာလ–၁၆– ရက်နေ့မှာ မန္တလေး အိန်ဒော်ရာ ဘုရားတွင် မြို့ပေါင်းဆရာတော်များနှင့် ဗုဒ္ဓဘာသာအဖွဲ့ပေါင်းစုံရှေ့မှောက်တွင် ကျွန်တော်ကိုယ်တိုင် တင်ပြခဲ့ပြီးပါပြီ။ ၎င်းအစည်းအဝေးတွင်သဘာပတိအဖြစ် ဆောင်ရွက် တော်မူတဲ့ ညောင်ရမ်း ဆရာတော်ဘုရားကြီးက 'သာသနာမှာ တကယ်အကျိုးရှိပါတယ်' လို့ မိန့်ကြားသွားပါတယ်။ ကျွန်တော်နှင့် နိုင်ငံတော်ရှေ့နေချုပ်ကြီးဦးချန်ထွန်းတို့ကိုယ်တိုင်ဖော်ပြခဲ့တဲ့အတိုင်း မန္တလေးမြို့သို့သွားပြီး ဥပဒေကြမ်းနှင့်ပတ်သက်၍ရှင်းလင်းပြောပြခဲ့ပါတယ်။

၎င်းနောက် ဦးခင်မောင် ခွေးရဲ့အိမ်မှာ ဗုဒ္ဓဘာသာ အဖွဲ့ဝင်အသီးသီး တို့ကို ဖိတ်ကြားပြီး ဥပဒေကြမ်းနှင့် ပတ်သက်သမျှကို ရှင်းလင်း ပြောပြီးခဲ့ပါပြီ၊ ဗုဒ္ဓဘာသာဝင် အပေါင်း တို့ကလည်း ဥပဒေကြမ်းကို နှစ်ထောင်းအားရစွာဖြင့် ထောက်ခံခဲ့ကြပါတယ်။ သည့်ပြင် သည်ဥပဒေကြမ်း မဖြစ်မြောက်အောင် ကြိုးစားတဲ့ အထဲမှာ ဖ–ဆ–ပ–လ အဖွဲ့ ခေါင်းဆောင် များနှင့်လည်း တွေ့ဆုံ ဆွေးနွေး ခဲ့ပါတယ်။ တွေ့ပြီးအပြန်ပြန်အလှန်လှန် ဆွေးနွေးခဲ့ပါတယ်၊ သည်လိုဆွေးနွေးပြီး ဖျက်သင့်သမျှဖျက်၊ ပြင်သင့်သမျှပြင်ပြီးမှ သည်ဥပဒေကြမ်းဟာ သည်လွှတ်တော်ရှေ့ကိုရောက်လာရတဲ့အကြောင်းကို ကျွန်တော် ရှင်းခဲ့ လိုပါတယ်။ သည်ဥပဒေကြမ်းနှင့် ပတ်သက်ပြီး ကျွန်တော်ကတိတခုပေးလိုပါတယ်။ သည်ဥပဒေ ကြမ်းကို တင်သွင်းဆွေးနွေး အတည်ပြုခြင်းအားဖြင့် အခြားဘာသာများကိုမထိခိုက် စေရပါဆိုတဲ့ ကတိကိုအမတ် မင်းများရှေ့တွင်အတိအလင်းကတိပေးပါတယ်၊ဥက္ကဋ္ဌကြီးခင်ဗျား၊ သည်လောက်နှင့်ဘဲသည်ဥပဒေကြမ်းကို ဆွေးနွေးရန်တင်သွင်းပါရစေလို့ ကျွန်တော် တောင်းပန် လိုပါတယ်။

### ပထမဆုံးညီလာခံ

ထို အက်ဥပဒေအတည်ဖြစ်ပြီးနောက်၊ အက်ဥပဒေအရ၊ ရုပ်လုံး ပေါ်ရေးအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ပြည်ထဲရေးနှင့် သာသနာရေး ဝန်ကြီးဌာနကြီးမှု၍ (၂၆–၈–၅၀) နေ့ ၁ နာရီ ၂၅ မိနစ်အချိန်တွင် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၏၊ ပထမဆုံးအကြိမ် ညီလာခံကြီးကို ရန်ကုန်မြို့တက္ကသိုလ်ဓမ္မာရုံကြီး၌ ကျင်းပခဲ့လေသည်။ ထိုညီလာခံ၌ ကိုယ်စားလှယ်တော်ပေါင်း ၅၁ ဦးတို့၏ အမည်များကို ကြေညာ ခဲ့လေသည်။ ထိုနောက်နိုင်ငံတော် အဖွဲ့ ဗုဒ္ဓ သာသနာ၏ အမှုဆောင် အဖွဲ့ အတွက် ရွေး

ဆိုင်ရာ ကိုယ်စားလှယ် ၁၀–ဦး။ နိုင်ငံတော် ပြဲဝါဒါ စရိယ ဆရာတော်များက ရွေးချယ်သည့်ပုဂ္ဂိုလ် ၉ ဦး၊ နိုင်ငံတော် သမတ ကြီးက ခန့်အပ်သည့်ပုဂ္ဂိုလ် ၈ ဦးအား ဖြင့် သုံးရပ်ပေါင်း ၂၇ ဦး တို့ကို ရွေးချယ် ခဲ့လေသည်။ ကိုယ်စား လှယ်တော် များနှင့် အမှုဆောင် တို့၏ အမည်စာရင်းမှာ အောက် ပါအတိုင်း ဖြစ်လေသည်။

## ကိုယ်စား လှယ် တော်ကြီးများ

### (၁) နိုင်ငံတော် ပြဲဝါဒါ စရိယဆရာတော်များ ရွေး ချယ်သည့်ပုဂ္ဂိုလ် ၉ ဦး

(၁) မဟာသိရိသုဓမ္မ ဦးမြဟသာတ (၂) သတိုးမဟာ သရေစည်သူ ဦး ချန်ထွန်း (နိုင်ငံတော်ရှေ့နေချုပ်ကြီး) (၃) ဦးဘဆွေ (သာသနာရေးဌာနအထူး အရာရှိ) (၄) ဦးစင်းရိန (အကျိုး ဆောင်ကြီး စေတီ ယင်္ဂဏ ပရိယတ္တိ အသင်း) (၅) ဦးဘိုးမြ (အကျိုး ဆောင်ကြီး ပရိယတ္တိ သာသနာ နုဂ္ဂဟ အသင်း) (၆) ဦးသိန်းအောင် အဘိ ဓမ္မာနည်းပြဆရာ ဒဂုံး၊ရုံ။ အရှေ့ဘက် မန္တလေး (၇) ဦးဘင်အောင် (သာသ နာရေးအရာရှိ) ၃၁ လမ်း မန္တလေး။ (၈) ဦးစံရီ (စက်ပိုင်) ဗိုလ်ချုပ်လမ်း မန္တလေးမြို့။ (၉) ဦးမြင့်ဟန် ကုန်သည် ဒေဝန်အရှေ့ပိုင်း၊ပုတ်တန်းမန္တလေးမြို့)

### (၂) နိုင်ငံတော်သမတခန့်အပ် သည့်ပုဂ္ဂိုလ် ၈ ဦး

(၁၀) ဦးဘဘင်(ချုပ်သင်း) (၁၁) ဦးအုန်းဖေ (လွှတ်တော်ဘရားဝန်ကြီး) (၁၂) ဦးဘခင် (ငွေစာရင်းဝန်) (၁၃) ဦးကြီးဖေ (သာသနာ့ညွှန်ကြားရေးဝန်) (၁၄) စည်သူဦးစံညွှန့် (အတွင်းဝန် တ ရားဌာန) (၁၅) စကား စော်ဘွားကြီး (၁၆) ဦးစံသိမ်း ( နိုင်ငံတော်လေ ကြောင်းသယ်ယူပို့ဆောင်ရေးအဖွဲ့ဥက္က ဋ္ဌ) (၁၇) ဦးအဂ္ဂခွက် (ဗုဒ္ဓဘာသာတရုပ် အမျိုးသားကိုယ်စားလှယ်)

### (၃) ပဲခူးတိုင်း

#### (က) ရန်ကုန်ခရိုင်မှ

(၁၈) သတိုးသီရိသုဓမ္မ ဆာဦးသွင် (၁၉) သတိုးသီရိသုဓမ္မ ဦးသိမ်းမောင် (တရားလွှတ်တော်ချုပ် တရား ဝန်ကြီး) (၂၀) ဦးစံဖေ (အဘိဓမ္မာ ပြန့်ပွားရေး အသင်း)

#### (ခ) သာယာဝတီခရိုင်မှ

(၂၁) ဦးသူငယ် (အထက်တန်း အ မိန့်တော်ရရှေ့နေ) သာယာဝတီမြို့။

#### (ဂ) ဟံသာဝတီခရိုင်မှ

(၂၂) ဦးလှထွန်း ဈေးအတွင်း ခ ရမ်းမြို့။

#### (ဃ) အင်းစိန်ခရိုင်မှ

(၂၃) ဦးသူငယ် (သုံးဆယ်ရှစ်ဖြာ မင်္ဂလာအဖွဲ့ဥက္ကဋ္ဌ) ဘုရားကြီးလမ်းဥက္ကံမြို့

#### (င) ပြည်ခရိုင်မှ

(၂၄) ဦးဘဘွား (ကုန်သည်) ဘုရားလမ်း ရွှေပလ္လင်မော် ပြည်မြို့။

#### (စ) တောင်ငူခရိုင်မှ

(၂၅) ဦးလှလေး (အမိန့်တော်ရ ရှေ့နေ) ဆေးရုံလမ်း ဖြူးမြို့။

#### (ဆ) ပဲခူးခရိုင်မှ

(၂၆) ဦးဘမိုး (အေ–တီ–အမ်) ဝိနယာဓိကပရိယတ္တိ အသင်းအဖွဲ့ဝင် ၁၄ လမ်း ဈေးပိုင်း တောင်ပိုင်းရပ် ပဲခူးမြို့

### (၄) မန္တလေးတိုင်း

#### (က) မန္တလေးခရိုင်မှ

(၂၇) ဦးကျော်ဇော (မြန်မာ နက္ခတ် ဗေဒင်ပညာရှိ) အိမ်တော်ရာ ဆင်တံတား မန္တလေးမြို့။ (၂၈) ဦး မောင်မောင်လေး (အေ–တီ–အမ်) အငြိမ်းစား အသင်းငန်ထောက်မင်း။ စိတ္တရမဟာ ေတာင်ပြင် မန္တလေးမြို့။ (၂၉) ဦးကိုညွန့် (မြန်မာနက္ခတ်ဗေဒင် ပညာရှိ) ခဲ့သန်တန်း သကျသီဟဘုရား တောင်ဘက်မလွန်ဈေးဟောင်းမန္တလေး မြို့။ (၃၀) ဦးဥာဏ်ကြီး (ပင်စင် အငြိမ်း စားဘွဲ့ဘက်ဝန်ထောက်မင်း) မြစ်သားမြို့။

#### (ခ) မိတ္ထီလာခရိုင်မှ

(၃၁) ဝဏ္ဏကျော်ထင် ဦးဘိုးစိန် (နယ်ပိုင်ဝန်ထောက်) သာစည်မြို့။

#### (ဂ) မြင်းခြံခရိုင်မှ

(၃၂) ဦးကျွန်းကျော် (တီ–ပီ–အက်) အထက်တန်းရှေ့နေ မြင်းခြံမြို့။

(စာမျက်နှာ ၁၃ သို့ ဆက်ကြည့်ပါ။)



နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ အမှုဆောင်လူကြီးများ



နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ပထမအကြိမ် ညီလာခံ၌ဥက္ကဋ္ဌကြီးဆာဦးသွင် သဝ္ဘာဆိုနေပုံ



နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ပထမအကြိမ် ညီလာခံ၌သာသနာရေးဌာန ဝန်ကြီးဦးဝင်းသဝ္ဘာဆိုနေပုံ

# သံဂါယနာ အခါတော် နေ့တွင်

## မဟာစည်ဆရာတော်ဘုရားကြီး၏မိန့်ခွန်းတော်



### နမောဗုဒ္ဓဿ နမောဓမ္မဿ နမောသံဃဿ

### နမော သင်္ဂီတိကာရကာနံ မဟာကဿပါဒီ မဟာထေရာနံ

ဒီကနေ့ဟာ သံဂါယနာ အခါတော်နေ့ကြီးဖြစ်တယ်။ ဒါကြောင့် ဒီကနေ့ သံဂါယနာ အကြောင်းကို ပြောရလိမ့်မယ်။ လွန်ခဲ့တဲ့နှစ် ဝါခေါင်လပြည့်ကျော့ကလဲ ဒီအကြောင်းကို တကြိမ်ပြောခဲ့ဘူးတယ်။ အဲဒီတုံးကတော့ပထမသံဂါယနာတင်ပုံကို ပြောခဲ့တယ်။ မှတ်မိကြသေးရဲ့လား။ ယခုတော့ဒုတိယ တတိယ စတုတ္ထ သံဂါယနာတွေနဲ့ ရှေ့နှစ်မှာတင်မဲ့ ဆဋ္ဌသံဂါယနာ အကြောင်းများကိုပြောရလိမ့်မယ်။

### ဒုတိယ သံဂါယနာ

ပထမသံဂါယနာတင်ပြီးတဲ့နောက်၊ အနှစ်တရာခန့်ကြာတဲ့အခါမှာ၊ ဝေသာလီပြည်က ဝဇ္ဇီတိုင်းသား ရဟန်းတွေဟာ မပြုအပ်တဲ့ အမှု ဆယ်မျိုးကို ပြုကောင်းတယ်လို့ ယူဆ ပြောဟောပြီး ဖေါက်ပြန်စွာကျင့်နေကြသတဲ့။ အဲဒီဆယ်မျိုးက ဘာတွေလဲဆိုရင် ....။

(၁) သားချိုကျည်တောက်နဲ့ထည့်ပြီးဆောင်ထားတဲ့ ဆားကို၊ အလိုရှိတဲ့အခါမှာ ဆွမ်းနဲ့ယောပြီး စားကောင်းတယ်။ သန္နိဓိ အာပတ် မသင့်ဘူးလိုယူတာက တချက်။

(၂) မွန်းလွဲတဲ့နောက် နေရိပ်လက်နှစ်သစ် ထွာသည့်တိုင်အောင် ဆွမ်းစားကောင်းတယ်။ ဝိကာလ ဘောဇနပါစိတ်အာပတ် မသင့်ဘူးလို့ ယူတာကတချက်။

(၃) ပဝါရိတ်သင့်တဲ့ ရဟန်းဟာ တခြားမြို့ရွာသို့သွားစရာရှိရင်၊ အတိရိတ်ဝိနည်းကံ မပြုဘဲ ဆွမ်းစားကောင်းတယ် အာပတ်မသင့်ဘူးလို့ယူတာက တချက်။

(၄) တသိမ်တည်းမှာ၊ ကိုယ့်ကျောင်းနှင့်ကိုယ် အသီးအသီး ခွဲပြီး ဥပုသ်ပြုကောင်းတယ်၊ အာပတ်မသင့်ဘူးလို့ယူတာက တချက်။

(၅) သိမ်တွင်းမှာရှိနေတဲ့ သံဃာတွေအစုံအလင်မရောက်သေးပေမဲ့၊ သူတို့ရောက်လာတော့ ကြေနပ်အောင် ပန်ကြားမယ်လို့ နှလုံး သွင်းပြီး ဝဂ်ဖြစ်လျက်နဲ့ ကံပြုကောင်းတယ်၊ အာပတ်မသင့်ဘူးလို့ ယူတာက တချက်။

(၆) နိသျည်းဆရာ ဥပဇ္ဈာယ် ဆရာများပြုလုပ်တဲ့အမှုဆိုရင် ဘာမဆိုလုပ်ကောင်းတာချည်းဘဲ၊ အပြစ်မရှိဘူးလို့ ဒီလိုတထစ်ချယူတာက တချက်။

(၇) နို့ချဉ်မဖြစ်တတ်သေးတဲ့ နို့ရည်ပျက်ကို အတိရိတ်ဝိနည်းကံ မပြုဘဲ သောက်ကောင်းတယ်။အာပတ်မသင့်ဘူးလို့ ယူတာက တချက်။

(၈) သေရည် မဖြစ်တတ်သေးတဲ့ သေနုကိုသောက်ကောင်းတယ်လို့ ယူတာကတချက်။

(၉) အမြိတ်အဆာမရှိတဲ့ နိသီဒိုင်အခင်းကို သုံးဆောင် ကောင်းတယ်လို့ ယူတာက တချက်။

(၁၀) ရွှေငွေကို ခံယူ ကောင်းတယ် အာပတ်မသင့်ဘူးလို့ ယူတာကတချက်။

ဒီဆယ်ချက်ပါဘဲ။ ဟိုခေတ်တုံးကတော့ ဒါလောက်ဆိုရင် အပြစ်ကြီးလှပြီးလို့ယူဆပြီးတော့၊ အရှင်မဟာ ယသမထေရ်က သံဂါယနာတင်ရန် နှိုးဆော်တိုက်တွန်းခဲ့တယ်။ ဒါကြောင့် သမ္ဘာကာမိ မထေရ်အမှူးရှိတဲ့ ဓမ္မဝါဒီမထေရ် (၇၀၀)တို့က အဲဒီချွတ်ယွင်းချက်ဆယ်ခုကို ရှင်းလင်းသုတ်သင်ပြီးတော့၊ ဝေသာလီပြည် ဝါလုကာရုံကျောင်းတိုက်မှာဒုတိယ အကြိမ်မြောက် သံဂါယနာတင်တော်မူကြတယ်။ ရှစ်လ ကြာမှ ပြီးစီးသွားတယ်။

အဲသည်တုံးက၊ သံဂါယနာတင်တဲ့ အရှင်မဟာယသတို့ဓမ္မဝါဒီပုဂ္ဂိုလ်တွေကတဖက်။ ဝဇ္ဇီတိုင်းသားအဓမ္မဝါဒီရဟန်းတွေကတဖက်။ ဒီလို၂ဖက်ကွဲနေတယ်။ ဝေသာလီပြည်ကို အုပ်စိုးနေတဲ့ ကာဠာသောကမင်းကလဲအစပဌမမှာတော့ ဝဇ္ဇီတိုင်းသား အဓမ္မဝါဒီ ရဟန်းတွေဘက်ကဖြစ်နေဘယ်။ ဒါကြောင့် အဓမ္မဝါဒီရဟန်းတွေရဲ့ စကားကို နားယောင်ပြီးတော့၊ သူက အရှင်မဟာယသတို့ဘိုက်ကို တောင်တားမြစ်ဘို့ အမိန့်ပေးလိုက်မိသေးတယ်။ နောက်ကျတော့မှ၊ သူ့နှမဖြစ်တဲ့ နန္ဒထေရီရဟန္တာမက ပြောပြလို့ အရှင်မဟာယသ ့်ကို ဓမ္မဝါဒီမှန်းသိသွားတယ် ဒီတော့မှဝဇ္ဇီတိုင်းသားတွေကိုစွန့်ပြီး၊ အရှင်မဟာယသ တို့ကို အားပေးချီးမြှောက်တယ်။

ဒါကြောင့်ဝဇ္ဇီတိုင်းသား အဓမ္မဝါဒီရဟန်းတွေဟာ အားကိုးစရာ မရှိတာနဲ့ လျှော့ပေးလိုက်ကြတယ်။ ဒါပေမဲ့သူတို့ကလုံးလုံးလျှော့တာတော့မဟုတ်သေးဘူး။ တခြားတနေရာမှာသွားပြီးတော့သဘောတူပုဂ္ဂိုလ်ချင်းစုပေါင်းပြီး၊ သူတို့ကစင်ပြိုင် သံဂါယနာ တင်လိုက်ကြသေးသတဲ့၊ သူတို့ သံဂါယနာမှာ သံဃာဦးရေက ပိုပြီးတော့တောင် များသေးတယ်။ သံဃာ တသောင်းတောင်ရှိဆိုဘဲ။ ဒါကြောင့်အဲဒီစင်ပြိုင်သံဂါယနာအဖွဲ့ကိုမဟာသင်္ဂီတိဂိုဏ်းလို့သူတို့ဟာသူတို့အမည် ပေးထား ကြဘယ်။ အရှင်မဟာ ယသ တို့ဂိုဏ်းတော့ထေရဝါဒဂိုဏ်းလို့ဘဲခေါ်ပါတယ် အရှင်မဟာကဿပအစရှိသောမထေရ်ကြီးများ၏အဆုံးအမအတိုင်းကျင့်တဲ့ ဂိုဏ်းလို့ ဆိုလိုတယ်။

### တတိယ သံဂါယနာ

ဒုတိယ သံဂါယနာတင်ပြီးတဲ့နောက်၊ သာသနာတော်အနှစ်(၂၂၈ကျော်၂၃၀) အတွင်းမှာ သာသနာ့အရှုပ်အထွေးတွေ ပေါ်လာခဲ့ ပြန်တယ်။ ဘယ်လိုလဲ ဆိုတော့ကား ...

ဓမ္မဒီဘ်တကျွန်းလုံးကိုအစိုးရတယ်

စာမျက်နှာ ၁၂ သို့ဆက်ကြည့်ပါ။



နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ ကြီးမှူးကျင်းပခဲ့သော ရန်ကုန်မြို့ အင်းယားလမ်း၊ ဒေါ်တီတီလု(စ်)မိဘမဲ့ကျောင်းမှ ကျောင်းသားများကို ရှင်သာမဏေဝတ်ဖြင့် ဖူးတွေ့ရပုံ။



# ဆဋ္ဌသံဂီတိမ

## သံဂါယနာလိုဏ်ဂူတော်ကြီး

### နာရီပေါင်း ၁၆၀၀

၁၃၁၆–ခု ကဆုန်လပြည့်နေ့၊ ၁၃၁၈ ခုကဆုန် လပြည့်နေ့အထိ ဘုရားရှင်ဇ်စကားတော်များ ဖြစ်သော နိကာယ်ငါးရပ်ပိဋကပါဠိတော်များကို ငါးကြိမ် ခွဲ၍ ရက်ပေါင်း ၃၂၆- ရက်၊ နာရီ ပေါင်း ၁၆၀၀ အတွင်းဆဋ္ဌသံဂါယနာတင်ရန် သတ်မှတ်၍ထားပြီး ဖြစ်ကြောင်းကို ကျွန်ုပ်တို့သံဂါယနာ စာစောင်၌ ဖော်ပြခဲ့ပြီး ဖြစ်လေသည်။

### ကမ္ဘာ့စေတီတော် အနီးတွင်

ထိုဆဋ္ဌ သံဂါယနာကိုကမ္ဘာ အရပ်ရပ်ရှိ သံဃာတော်ပေါင်း၄၃ တို့နှင့်တကွ အချိန်ကာလ ကြာမြင့်စွာ တင်ရမည် ဖြစ်သောကြောင့် အဆောက်အအုံနေရာယိုင်ခင်းများ ပြည့်စုံရန် အရေးကြီး လှပေရာ ဆဋ္ဌသံဂါ ယနာတင်ကိစ္စကို ဦးစီးဆောင်ရွက်လျက်ရှိသော နိုင်ငံတော်ဗုဒ္ဓ သာသနာအဖွဲ့ချုပ်သည် ရန်ကုန်မြို့မှ ငါးမိုင်အကွာ ရေကျော်ရပ်ရှိ သီရိဂုဏ ကမ္ဘာ့စေတီ တော်အနီး ကုန်းမြင့်ကြီးကို သံဂါယနာ အဆောက်အဦများ ဆောက်လုပ်ရန်ရွေးချယ်ခဲ့ကြလေသည်။ ထိုနေရာ၌သံဃာတော်ပေါင်း ၅၀၀ တို့ဖြင့် (၇) ရက်တိုင်တိုင် ပရိတ်တော်များကို ရွတ် ဖတ်သရဇ္ဈာယ်တော်မူကြပြီး နောက် နိုင်ငံတော်ဝန်ကြီးချုပ် ဦးနုနှင့်တကွ ဗုဒ္ဓသာသနာအဖွဲ့ ငေ်ပုဂ္ဂိုလ်ကြီးများသည် လိုဏ်ဂူတော်ကြီး တည်ဆောက်ရန် ၁၃၁၄ ခု တပို့တွဲလဆန်း ၁ ရက်နေ့ နံက် အချိန်တွင် အခမ်းအနားနှင့်တကွ ပေါက်ရိုက်ခဲ့ကြလေသည်။

### နဝင်္ဂါန

ဆဋ္ဌသံဂါယနာ တင်မည့် နယ်နိမိတ်အတွင်း၌ အဆောက်အဦပေါင်း ၉ ခု ရှိမည်ဖြစ်လေသည်။၎င်းတို့မှာ (၁) ဆဋ္ဌ သင်္ဂါတိ မဟာပါသာဏဂုဟာခေါ် ဆဋ္ဌသံဂါယနာတင်မည့် လိုဏ်ဂူတော်ကြီး (၂) အာဂန္တုကျောင်း ဆောင် (၃) ဆွမ်းစားကျောင်း (၄) နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့အုပ်ချုပ်ရေး အရာရှိချုပ်ရုံး (၅) သံဃာတော်များအတွက်ဆေးရုံ (၆) ပိဋကတိုက် ဘော်ကြီး (၇) အမှုထမ်းများ ဂေဟာ (၈) ပိဋကတ် ပုံနှိပ်တိုက်ကြီးနှင့် (၉) မဟာသိမ်တော်ကြီးတို့ဖြစ်လေသည်။

### ရာဇဂြိုဟ်က လိုဏ်ကြီးနှယ်

ဆဋ္ဌသံဂါယနာ တင်မည့် လိုဏ်ဂူတော်ကြီး၏ပုံကိုလည်း နိုင်ငံတော်ဝန်ကြီးချုပ်ဦးနု၏ အကြံ ပေးချက်အရ ပဌမ သံဂါယနာ တင်စဉ်က ရာဇဂြိုဟ်ပြည် စရည်းပင်ရောက်ရာ လိုဏ်ဂူတော် ကြီးနှင့်တူအောင် တည်ဆောက်ခဲ့လေသည်။

### လိုဏ်ဂူကြီး၏ အနေ အထား

ထိုလိုဏ်ဂူတော်ကြီးကို မြောက်ဘက်မှ တောင်ဘက်သို့အလျားထားကာတည်ဆောက်လျက် ရှိလေသည်။ မြောက်ကြမ်းမြောက် သံဂါယနာဟူသော အဓိပ္ပါယ်ကိုပေါ်လွင် စေရန် လိုဏ်ဂူ တော်ကြီး၏ ဝင်ပေါက် ထွက်ပေါက် မုခ်ကြီး ပေါင်း ၆ ခုမျှပါရှိမည့်ပြင် ဗတိုခမ်းမကြီး၌အမြင့် ၅၅ ပေ လုံးပတ်–၁၈ ပေမျှရှိမည့် တိုင်ကြီး ၆ တိုင်ပါရှိမည်ဖြစ် လေသည်။ ဆောက်လုပ် ပြီးစီးသောအခါ ထိုတိုင်ကြီး ၆ တိုင်၏ အောက်ဘက်၊ ၆ ပေခန့်ကိုလည်း၊ ရတနာ ခုနစ်ပါးတို့ဖြင့် မွမ်းမံစီ ခယ်ထားမည် ဖြစ်လေသည်။ အတွင်း၌သံဃာတော်ပေါင်း ၅၀၀၀ နှင့် လူပေါင်း တသောင်းမျှ စည်းဝေးနိုင်မည် ဖြစ်လေသည်။ သံဃာစင်ပေါင်း ၁၃ စင်နှင့်တကွ၊ ၂၄ ပါးသောပဋ္ဌာန်းပစ္စည်းတို့ကို ရည်ရွယ်၍ ၃ ထပ်ရှိ အဆင့်ကလေးပေါင်း ၂၄ ဆင့်မျှပြုလုပ်မည်ဖြစ်လေသည်။ အဆင့် တခု တခုတွင် အထက်အောက် ၇ ဆင့်၊ ၇ ဆင့် ရှိမည်ဖြစ်လေရာ အဆင့်တခုတွင် သံဃာတော်ပေါင်း ၆၀ မျှ သီတင်းသုံးတော် မူနိုင်လိမ့်မည် ဖြစ်၏။ ဘုံဆင့်များသို့တက်ရန် ဗဟို

စရည်းပင်ရေ
ဆဋ္ဌသံဂါယနာ
ယနာကို ရည်ရွ
လုံးပါရှိမည်။ခ
နှင့်လူပေါင်း ၁
ဖြစ်ရာ၊ ရန်ကုန်
ခန့် ကြီးမည်။
များ တပ်ဆင်
ဆောင် ၄ ဆေ
သီတင်း သုံးနိုင်
၁၅၀၀ တို့ကို
ဆွမ်းစားကျော

ခမ်းမဆောင်ကြီးမှာ၊ ရန်ကုန်မြို့
ကြီးထက် ၈ ဆခန့် ပိုမိုကျယ်
ဖြစ်လေသည်။ လိုဏ်ဂူတော်ကြီး
သို့ တောင်ဘက်မှ ကျောက်လှ
နှင့် ဓါတ်လှေခါးများကိုပါ တ
ထားမည်ဖြစ်လေသည်။ လှေခါး
အောက်တွင် ကုဋီ ၈ ခု တိုက်
ထားရှိမည်ဖြစ်လေသည်။ (လိုဏ်
ကြီး၏မြောက်ဘက်၌ကား) သံဃာ
များအနားယူရန် ၄ ထပ်တိုက်
ထားရှိမည်ဖြစ်လေသည်။ အပေါ
ဝင်ဝ၌၊ ဓမ္မစကြာတရားတော်ကို
၍ ဖွဲ့မြီးပြင့် စီချယ်ထားမည့်
ကြီးကိုလည်း ပြုလုပ်ထားလိမ့်မည်
ဂူကြီး၏အခင်းကို အိတာလျ
ပြားကဲ့သို့သော (မြန်မာကျောက်
ခင်းထားမည်ဖြစ်၏။



သံဂါယနာတင်အရှင်တို့သီတင်းသုံးရန်အာဂန္တုကျောင်းဆောင်





ပိဋက

# ါသာဏဂုဟာ

ဂုကြီးနှင့်တူသော
ာ်ကြီး၌ဆဋ္ဌသံဂါ
း ၆ ချ၊ တိုင်ကြီး ၆
ံဃာတော်၅၀၀၀
စည်းဝေးနိုင်မည်
းမကြီးထက် ၈ ဆ
ါး ဓါတ်လှေခါး
အာဂန္တု ကျောင်း
ဃာ ၁၀၀၀ ခန့်
ဃာ တော်ပေါင်း
းဆွမ်းကပ်နိုင်မည့်
း။

လိုဏ်ဂူတော်ကြီး၏ အတွင်းဘက် မကြီး၌၊ အလင်းရောင်ရရှိစေရန်အ မှ မှန်အုပ်များ၊ အုပ်မိုး၍ ထားမည့် (Air Condition) ခေါ်လေဝင် များတပ်ဆင်ထားမည်ဖြစ်လေသည်။ ဂ်ဂူတော်ကြီး၏ အစုရအကျယ်အ မှာ၊ အနံပေပေါင်း ၃၉၀ အလျား ပေါင်း ၂၂၀၊ ဘေးအမြင့်ပေပေါင်း မြောက်ဘက် ၄ ထပ်တိုက်ခန်းမ ၌၊ အမြင့်ပေပေါင်း ၉၀ မျှရှိမည် လေသည်။

**ပြီးစီးခဲ့သော အခြေ**

(၁၀-၈-၅၃) နေ့အထိ၊ လိုဏ်ဂူ ာ်ကြီးအတွက် ၁၄ ပေအနက်ရှိသော ၌င်း အောက်ခြေအုတ်မြစ်နှင့်၊ ၎င်း မြစ်ပေါ်မှ အမြင့် ၁၇ ပေခွဲရှိ၊ ပဌမ စ်ကြီး လုံးဝပြီးစီး၍သွားပေပြီ။ ဒုတိ ယ အဆင့်အတွက်၊ သံတိုင်များစိုက်ထူ ပြီးဖြစ်သည့်ပြင်၊ အချို့နေရာများအတွက် အင်္ဂတေများပင် သွန်းလောင်း၍ပြီးပေပြီ။ အတွင်းရှိ သံဃာ‌င် အားလုံးအတွက် အကြမ်းထည်များလည်း ပြီးစီး၍ သွားပေပြီ။ ဗဟိုခမ်းမရှိ တိုင်ကြီး ၆ တိုင်မှာ လည်း၊ ၂၅ ပေအထိ၊ ပြီးစီး၍သွားပေပြီ။

အိတ်တလျှံကျောက်ပြားကဲ့သို့မြန်မာ မြင်ကျောက်ပြားများကိုလည်း လေးပုံတ ပုံခန့်ပြီးစီး၍နေပေပြီ။ လိုဏ်ဂူကြီး၏ပြင် ဘက်မှ ကျောက်လိုဏ်ဂူ ပုံ ဖော်ရန် တောင်နံရံ အတွက် အခြေခံမြေ တူးခြင်း စသည် တို့ကို ပြုလုပ်လျက်ရှိ ပေပြီ။ လိုဏ်ဂူကြီး တခုတည်းအတွက် အလုပ်သမားပေါင်း ၈၀၀ ခန့်တို့ဖြင့် အပူတပြင်း၊ လုပ်ကိုင်လျက် ရှိကြသတည်း။

**အာဂန္တုကျောင်းဆောင်များ**

သင်္ဂါယနာ ရဟန်းတော်ပေါင်း ၁၀၀၀ ခန့်သီတင်းသုံး နိုင်ရန် အာဂန္တု ကျောင်းဆောင် ၄ ဆောင်ရှိလေသည်။ တဆောင်လျှင် ၃ ထပ်ရှိမည်၊သံဃာတော် ပေါင်း ၂၅၀စီ သီတင်းသုံးတော်မူ နိုင် လိမ့်မည်၊ထို ၄ ဆောင်အနက် နံပတ် ၁ အဆောင်မှာ ယခုအခါ ပဌမ အထပ်အ တွက် ခင်း၍ပြီးပေပြီ။ ဒုတိယ အထပ်အ တွက် ကွန်ကရိတိုင်များကို သွန်းလောင်း ၍ပြီးပေပြီ၊ တတိယအထပ်အတွက် အုတ် ရှုံးများတို့လည်း၊တက်လျက်ရှိပေပြီ။

နံပတ် ၂ အာဂန္တုကျောင်းဆောင်မှာ ပဌမ အထပ် အတွက် ကွန်ကရီအခင်းတ ဝက်ကျော် ကျော် ပြီးစီးခဲ့ပေပြီ။ ဒုတိယအ ထပ်သို့ အုင်နံရံနှင့် ကျောက်တိုင်များ



## ဆွမ်းစားကျောင်းဆောင်တော်

တက်လျက်ရှိနေလေသည်။ နံပတ် ၃ အာ ဂန္တုကျောင်းဆောင်မှာ ကွန်ကရီအခင်း ပြီးစီးသလောက်ရှိနေပေပြီ ဒုတိယအထပ် သို့နံရံနှင့် ကွန်ကရိတိုင်များ တက်လျက်ရှိ ပေပြီ။နံပါတ် ၄ အာဂန္တု အဆောင်မှာ ပဌမ အထပ်အတွက် အုတ် နံရံနှင့် ကွန် ကရိတိုင်များ ပြီးစီး၍သွားပေပြီ နံဘေးနှစ် ဘက်လှေခါး အောက် တွင်လည်း ကွန်က ရီသွန်းလောင်း၍ ပြီးပေပြီ။ပဌမ အထပ် အခင်း အတွက် သံဆောင်များနှင့် သစ် သား ပုံစံများတပ်ဆင်လျက်ရှိပေပြီ။

**ဆွမ်းစား ကျောင်း**

ပြီးခဲ့သည့် ၉ ငှာန အနက် ဆွမ်းစား ကျောင်းကြီးမှာ သင်္ဂါယနာ (သံ ဂါယနာတင်) ရဟန်းတော်ပေါင်း၁၅၀၀ တို့ကို တကြိမ်တည်း ဆွမ်းကပ်နိုင်မည် ဖြစ် ၏။ထိုဆွမ်းစားကျောင်းကို စမိုဆောင်နှင့် တွဲ၍ထားရမည် ဖြစ်လေရာ ဆွမ်းနှင့်ဟင်း လျာများကို ချက်ပြုတ်စီမံရေးအတွက် အ စမှအဆုံးအထိ (အော်တိုမက်တစ်) ခေါ် အလိုအလျောက် စက်ယန္တရား တပ်ဆင် ကာ ဆေး ပြီး ခု တ်ပြီး ချက်ပြီး၊ ခပ် ပြီး၊ပြင်ဆင်ပြီးသည်အထိ ပြုလုပ် မည်ဖြစ် ၏ ယခုအခါ (၁၈-၈-၅၃) နေ့အထိ ဆွမ်းစား ကျောင်းဆောင် ၃ ထပ်စလုံး အတွက် သံတိုင်ကြီးအားလုံး စိုက်ထူ၍ပြီး ပေပြီ။ ပဌမအထပ်အထိ တိုင်များကိုကွန် ကရိ လောင်း၍ ပြီးပေပြီ။ နံရံအတွက် လည်း ပဌမ အထပ်ပြီး၍သွားပေပြီ။ ဒုတိ ယ အထပ်သို့တက်လျက်ရှိပေပြီ။

**ပိဋကပုံနှိပ်တိုက်**

ယခင် ၉ ဌာနအနက် ပိဋကတ် ပုံနှိပ် တိုက် (၁၈-၈-၅၃) နေ့အထိ ပြီးစီးသ လောက်ရှိသဖြင့်နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့၏စာပုံနှိပ်တိုက်ကိုပင် သာသနာ့ရိပ် သာမှအဆိုပါအဆောက်အဦသို့ ပြောင်း ရွှေ့၍ ပြီးပေပြီ။ ထိုပိဋကတ်ပုံနှိပ်တိုက်ကြီး တွင် အမေရိကန်ပြည် စန်ဖရန်စစ် စကိုမြို့ ဇရီး အေရှား ကော်မတီမှ လှူဒါန်းအပ် သော စာပုံနှိပ်စက်ကြီးများကို စာပုံနှိပ် စက်ပါရဂူ မစ္စတာ စတင်တန် ကိုယ်တိုင် ကြီးကြပ်၍ တပ်ဆင် လျက် ရှိပေပြီ၊အောက် တိုဘာလတွင်သုမ်သင်ပြီး ငိနည်းငါးကျမ်း ပါဠိတော်တို့ကို စတင်ပုံနှိပ် တော့မည် ဖြစ်၏၊

.....၀.....









က်ကြီး



လိုဏ်ဂူကြီးတွင် ဖ–ဆ–ပ–လ အဖွဲ့ဝင်တို့ လုပ်အားလှူနေကြစဉ်

(စာမျက်နှာ ၉ မှ အဆက်)

ဆိုတဲ့ သိရိခေတ္တရာ သောကမင်းကြီးဟာ တိတ္ထိပရမိုဇ်တွေကိုးကွယ်နေရာက၊ ဗုဒ္ဓသာသနာကို သက်ဝင်ကြည်ညိုပြီး ကိုးကွယ်ဆည်းကပ်သတယ်။ အဲဒီအခါမှာ တိတ္ထိပရမိုဇ်တွေကို အလေးမပြုတော့ဘဲ သာသနာကိုဘော်သာအကြီးအကျယ်ချီးမြှောက်အားပေးနေတယ်။ ဒီတော့ တိတ္ထိပရမိုဇ်တွေမှာ လာဘ်လာဘ ချို့တဲ့တာနဲ့ သာသနာတော်တွင်းသို့ အများအပြား ဝင်လာကြတယ်၊ တချို့ကလဲ ကိုယ့်ဟာကိုယ်သင်္ကန်းဝတ်ပြီးတော့၊ ရဟန်းသံဃာများထဲမှာ ဝင်ရောက်နေထိုင်ကြတယ်။ ဒီလိုဝင်ရောက်လာကြတဲ့ ရဟန်းတု ရဟန်းယောင်တွေဟာ အကျင့်ကတော့တိတ္ထိတွေရဲ့ကျင့်ဝတ်ကိုသာကျင့်တယ်။ တချို့က နေကိုမော့ကြည့်နေကြနေကြတယ်၊ တချို့က လကို ကြည့်နေကြတယ်၊ တချို့က ရေငုပ်ကြတယ်။တချို့က မီးလှုံနေကြတယ်။နေပူခံနေကြတယ်၊ မီးပူဇော်နေကြတယ်၊ စသည်ဖြင့် တိတ္ထိတို့၏ ကျင့်ဝတ်အမျိုးမျိုးကို ထင်သလိုကျင့်နေကြတယ်။ တိတ္ထိတို့၏ အယူဝါဒတရားတွေကိုလဲ ဟောပြောနေကြတယ်။ ပြီးတော့ ရဟန်းကောင်း ရဟန်းမြတ်တွေ ဥပုသ်ပဝါရဏာ သံဃာကံပြုရာများမှာလဲ သူတို့က အတင်းဝင်လာကြတယ်၊ ဒါကြောင့် ပရိသတ် မစင်ကြယ်တာနဲ့ ပါဋလိပုတ်ပြည်က အသောကာရုံကျောင်းတော်မှာ ဥပုသ်ပဝါရဏာ မပြုနိုင်ဘဲပြတ်စဲနေတာ (၇) နှစ်တောင်ကြာသွားသတဲ့။ ဒီလို ရဟန်းတု ရဟန်းယောင်တွေနဲ့ ဖေါက်ပြန်တဲ့ အကျင့်အမျိုးမျိုးတွေ ပေါ်ပေါက်ပြီးတော့၊ သာသနာတော်မှာ အကြီးအကျယ် ရှုပ်ထွေးနေခဲ့တယ်။ ဒါကြောင့် အဲဒီ အရှုပ်အထွေးတွေကို ရှင်းလင်းသုတ်သင်ပြီးတော့ သံဂါယနာတင်ရန်အတွက် အရှင်မဟာ မောဂ္ဂလိပုတ္တတိဿမထေရ်ကသံဃာတော်(၆)သိန်းထဲက သံဃာ တထောင်ကို ရွေးချယ်တော်မူလိုက်တယ်။ ဒီလိုရွေးချယ်ပြီးတော့ ပါဋလိပုတ်ပြည်အသောကာရုံ ကျောင်းတော်မှာ သာသနာတော် (၂၃၅)ခုနှစ် နယုန်လက စပြီး တတိယ အကြိမ်သံဂါယနာတင်တော်မူကြရာ၉ လကြာမှ ပြီးစီးသွားတယ်။

အဲဒီ သံဂါယနာတင်ပြီးတဲ့အခါမှာ အရှင်မဟာ မောဂ္ဂလိပုတ္တတိဿမထေရ်က ၉ တိုင်း ၉ ဌာနသို့ သာသနာ ပြုရန် စေလွှတ်တော်မူတယ်။ အဲဒီ ၉ ဌာနထဲမှာ မြန်မာပြည်လဲ ပါတယ်၊ သီဟိုဠ်ကျွန်းလဲ ပါတယ်။ မြန်မာပြည်ကို အရှင်သောဏနဲ့ အရှင် ဥတ္တရ မထေရ်တို့ ကြီးမှူးတဲ့ သာသနပြုအဖွဲ့ ကြွလာတယ်။ ဟိုတုန်းက သုဝဏ္ဏဘူမိလို့ ခေါ်တဲ့ သထုံပြည်က စပြီး သာသနာ ပြုတော်မူကြတယ်။ အဲဒီ ကထဲကစပြီး မြန်မာပြည်အောက်ပိုင်းမှာ သာသနာ တော်ဟာ အဆက် မပြတ် တည်ထွန်းလာခဲ့တယ်၊

မြန်မာပြည်အထက်ပိုင်းမှာလဲ ပုဂံပြည် အနော်ရထာမင်း လက်ထက် သာသနာ တော်နှစ် (၁၆၀၁) ခု၊ မြန်မာသက္ကရာဇ် (၄၁၉) ခုနှစ်က စပြီး တည်ထွန်းလာခဲ့တယ်။ အဲဒီတုန်းက အရှင် အရဟံ အစရှိတဲ့ မထေရ်များကို သထုံမှ ပင့်ဆောင်ပြီးတော့ အနော်ရထာမင်းက သာသနာပြုခဲ့တယ်။ ဒါကြောင့်ယခုထက်ထိ မြန်မာပြည် တဝှမ်းလုံးမှာ ထင်ရှား တည်ရှိနေတဲ့ ဗုဒ္ဓသာသနာတော်ဟာ တတိယ သံဂါယနာမှ ဆင်းသက် လာခဲ့တဲ့ ထေရဝါဒဂိုဏ်း အဆက်အနွယ်ဖြစ်တယ်၊

## စတုတ္ထသံဂါယနာ

သီဟိုဠ်ကျွန်း ကိုတော့ ဒေဝါနံပိယတိဿမင်း လက်ထက် သာသနာတော် (၂၃၆) ခုနှစ်မှာ အရှင်မဟိန္ဒမထေရ်အမှူး ရှိတဲ့ သာသနာပြု အဖွဲ့က ကြွရောက်ပြီး သာသနာ ပြုတော်မူခဲ့တယ်။ ဒါကြောင့် သီဟိုဠ်မှာလဲ အဲဒီကထဲကစပြီးတော့ ဗုဒ္ဓသာသနာတော် တည်ထွန်းလာခဲ့တယ်၊ သာသနာနှစ် (၄၃၀) ကျော် ဝဋ္ဋဂါမဏိမင်း လက်ထက်မှာ သီဟိုဠ်တကျွန်းလုံး ဘေးရန် အကြီး အကျယ်တွေ့ခဲ့ရတယ်။ တွေ့ပုံတော့. ဝဋ္ဋဂါမဏိမင်း နန်းတက်လို့ ငါးလခန့် အကြာမှာ ဗြဟ္မဏတိဿဆိုတဲ့ ဒမြကြီးက ပုန်ကန်ထကြွတယ်။ ယခင် ကျေးကုလား မင်းများ၏ အဆက် အနွယ် ဖြစ်တဲ့ ကျေးကုလား ခုနစ်ဦးကလဲ အနုရာဓ မြို့ကို လာပြီး တိုက်ကြတယ်၊ (ကျေးကုလား ဆိုတာ ယခု တမယ်လို့ ခေါ်တဲ့ လူမျိုး ပါဘဲ)။ အဲဒီလို တိုက်ခိုက်ကြတဲ့ ရန်သူတွေရဲ့ ဒဏ်ကို မခံနိုင်လို့ နောက်ဆုံး ကြတော့ ဝဋ္ဋဂါမဏိမင်းဟာ အနုရာဓမြို့မှ အလွတ်ထွက်ပြေးရတယ်။ တိမ်းရှောင်ပြီး မထင်ရှားတဲ့ အသွင်နဲ့ (၁၄) နှစ် တိုင်တိုင် ပုန်းရှိုးနေရတယ်။အနုရာဓမြို့မှာတော့ အဲဒီတုံးက ကျေးကုလား တွေက အုပ်စိုးပြီး မင်းမူနေကြတယ်။ တိုင်းပြည် ကလဲ မသာယာ မိုးကလဲ ခေါင်တာနဲ့ အဲဒီ တုံးက သီဟိုဠ် တကျွန်းလုံးမှာ ငတ်မွတ်ခေါင်းပါးတဲ့ ဘေးဆိုးကြီး ဆိုက်ရောက်နေတယ်။ ဒါကြောင့်သံဃာတော် များမှာ ဆွမ်းအတွက် အလွန်ပင် ကြပ်တည်းတော်မူရာကြတယ်။ အများအားဖြင့် သံဃာတော်တွေဟာ ဇမ္ဗူဒီပဘက်ကူးပြီး သီတင်းသုံးတော်မူကြရတယ်။

သီဟိုဠ်ကျွန်း တွင်ဘဲ ကျန်နေကြတဲ့ မထေရ်များမှာလဲ ရသမျှ သစ်သီး သစ်ရွက်ပြုတ် ကလေးများနဲ့ဘဲ မျှတပြီးနေ တော် မူကြရတယ်။ ဒီလို အာဟာရက မပြည့်စုံပေမဲ့ ပိဋကတ်တွေကိုတော့ မမေ့ရအောင်ဘဲ နှလုံးသွင်း ပြန်ဆို နေတော်မူကြသတဲ့။ ဝမ်းထဲက ပူလောင်နေပေမဲ့ ရေကို သောက်ပြီးတော့ သဲပေါ်မှာ ဝမ်းလျားမှောက်လျက်သရဇ္ဈာယ်ပြန်ဆိုတော်မူကြသတဲ့. ဒီလိုမမေ့မပျောက်ရအောင် ခက်ခက် ခဲခဲ ဆောင်ခဲ့ ရတာလဲ ပေထက် အက္ခရာတင်ရခြင်းရဲ့အကြောင်းတပါးဘဲ

နောက် ဝဋ္ဋဂါမဏိမင်း နန်းပြန်တက်လို့ ဘေးငြိမ်းတဲ့အခါမှာ ဇမ္ဗူဒီပ ဘက် ကူးသွားတဲ့ မထေရ်များလဲ သီဟိုဠ်ကို ပြန်လာကြတယ်။ အဲဒီ မထေရ်များနဲ့ သီဟိုဠ်မှာ နေရစ်တဲ့ မထေရ်များဟာ ပိဋကတ်တော်များကို အချင်းချင်းတိုက်ဆိုင် နှိုးနှော ကြည့်ကြတယ်။ ဒီလို တိုက်ဆိုင် ကြည့်ကြတဲ့ အခါမှာ တပုဒ် တပါ ကျဖျက် တိမ်း ယိမ်း မှားယွင်း နေတာကို မတွေ့ ကြရဘူးတဲ့။

ဒါပေမဲ့ ခေတ်ပျက် ကာလပျက်ဘေး အန္တရာယ်တွေ အကြားထဲမှာ ခဲခဲ ယဉ်းယဉ်း အာဂုံဆောင်လာခဲ့ ရတာတွေနဲ့ နောင်ကာလများမှာ အာဂုံ ဆောင်ဘို ခက်ခဲမည့် အရေးတွေကို ဆင်ခြင်တော်မူကြပြီးတော့ ပိဋကတ်တော်များကိုပေထက် အက္ခရာတင်ရန်စဉ်းစား ဆုံးဖြတ်တော်မူကြတယ်။ ဒီလိုဆုံးဖြတ် ပြီးတော့ မဟာဓမ္မရက္ခိတ မထေရ်အမှူးရှိသော မထေရ်ငါးရာတို့ မလယဇနပုဒ်၊ယခုအာလုဝိဟာရ ခေါ်တဲ့ အာလောက လိုဏ်မှာ ပေထက်အက္ခရာ တင်တော်မူကြတယ်။တနှစ် ကြာမှပြီးတယ်။ ဒီပေထက် အက္ခရာတင် တာကိုဘဲ စတုတ္ထ ငိယာသင်္ဂါ စတုတ္ထသံဂါယနာတင်တာနဲ့ တူပါတယ်လို့ ဆိုတဲ့ သာသနဝံသ ဒီပကျမ်းနှင့် အညီ စတုတ္ထ သံဂါယနာတင်တယ်လို့ အသိအမှတ်ပြု နေကြရတယ်။

ဒီနေရာမှာ အထူးသတိပြုရမှာကတော့ ဝဋ္ဋဂါမဏိမင်း လက်ထက်မှာ စတုတ္ထ သံဂါယနာ တင်တယ်လို့ဆိုတာနဲ့ ဝဋ္ဋဂါမဏိ မင်းကိုဘဲ သံဂါယနာရဲ့ ဒါယကာလို့ ထင်မှတ် ပြောဆို နေကြတယ်။ အဲဒါကတော့ မဟုတ်ပါဘူး။အကြောင်းကတော့ အဲဒီစတုတ္ထ သံဂါယနာတင်ရာမှာ ဝဋ္ဋဂါမဏိမင်းက ဘာအကူ အညီမှပေးတယ်လို့ မထင်ရှားဘူး၊ အဲဒီဝဋ္ဋဂါမဏိမင်းဟာအဘယဂီရိကျောင်းတိုက်ကို စောင်ပြီး တည်ထောင် ကိုးကွယ်တဲ့ဒါယကာဖြစ်တယ်၊ဒါကြောင့်သူက အဘယဂီရိဂိုဏ်းကို အားသာတဲ့အကြောင်း သာထင်ရှားတယ်။ ပေထက် အက္ခရာတင်တဲ့ မထေရ်များမှာ အဘယဂီရိ ဂိုဏ်းကို အလေးမပြုတဲ့ မဟာဝိဟာရဝါသီဂိုဏ်းဝင်များ ဖြစ်နေပါတယ်။ ဒီပြင် ထောက်ထားစရာ တချက် ကတော့ ဝဋ္ဋ ဂါမဏိ မင်းက ဒါယကာ ခံပြီး သံဂါ ယနာတင်တယ်ဆိုရင် သူ့မြို့တော် အနုရာဓ မှာဘဲ တင်စရာ အကြောင်း ရှိတယ်။ သို့ဖြစ်ပါလျက် တကယ် သံဂါယနာ တင်ရာဌာနက အနုရာဓ မြို့တော်နဲ့ မိုင်ပေါင်း ၆၀ ကျော် ဝေးတဲ့ မလယဇနပုဒ် အာလောက လိုဏ်မှာ ဖြစ်နေတာကို တွေ့ရတယ်။ မကြာမီက ဆရာတော်များကိုယ်တိုင်လဲအဲဒီလိုဏ်ကို ရောက် သွားလို့ သံဂါယနာ တင်မထေရ်များကို အာရုံပြုပြီး ကန်တော့ခဲ့ရသေးတယ်။ခုပြောခဲ့တဲ့အကြောင်းများကြောင့် ပေထက်တင်တဲ့ သံဂါယနာ တင်မထေရ်များမှာ သာသနာပြုမင်း ဒါယကာ အကူအညီ မရှိဘဲနဲ့ သံဂါယနာ ကိစ္စကို အောင်မြင်စွာ ဆောင်ရွက်သွား တော်မူကြတယ်လို့ မှတ်ကြရမယ်။

ဒါကြောင့် အဲဒီ ပေထက် တင်တဲ့ စတုတ္ထ သံဂါယနာနဲ့ နှိုင်းယှဉ်ထောက် ဆကြည့်ရင် ယခုရှေ့နှစ်မှာတင်မဲ့ ဆဋ္ဌသံဂါယနာ အတွက်တော့ အများကြီးဘဲ အားတက်စရာ ကောင်းတယ်။ ဘယ်လိုဆိုရင် စတုတ္ထသံဂါယနာတင်တုံးက သီဟိုဠ်ဘုရင်ဝဋ္ဋဂါမဏိမင်းထံမှ အထောက်အပံ့ ဆိုရင် ဘာမျှမရခဲ့ဘူး။ ဒါတောင်မှသံဂါယနာ ကိစ္စဟာ အောင်မြင် ထမြောက်တဲ့ပြင် ယခုထက်တိုင် အဲဒီ သံဂါယနာမှ ဆင်း သက်လာတဲ့ ပိဋက စာမူတွေကြောင့် အကျိုးများ နေတာကိုတွေ့ကြရတယ် မဟုတ်လား။ ဒီတော့ ယခု ဆဋ္ဌသံဂါယနာတင်လိုက်ရင် ပိုပြီး အကျိုးများသွားမယ် ဆိုတာ ဘာမှ ယုံမှားစရာ မရှိတော့ဘူး။ ဘာကြောင့်လဲဆိုရင် ယခုတင်မဲ့ ဆဋ္ဌသံဂါယနာမှာ ပြည်ထောင်စုမြန်မာ နိုင်ငံတော် အစိုးရက သိန်းတရာမက အကုန်ခံပြီးတော့၊ သံဂါယနာတင်ရာတွင် ဒါယကာအဖြစ်နဲ့ အရာရာမှာ အင်တိုက်အားတိုက်ဆောင်ရွက်လျက်ရှိနေပါတယ် ဒါတွင်မကသေးဘူး၊သီဟိုဠ် ယိုးဒယား၊ ကမ္ဘောဒီယား၊လာအိုဆိုတဲ့ ထေရဝါဒ နိုင်ငံခြားများကလဲ အစိုးရများကရော ပြည်သူ ပြည်သား များကပါ စိတ်အားထက်သန်စွာနဲ့ အားပေးကြပါတယ်။ ဒီလိုအားပေးတဲ့ ဒါယကာတွေ ပြည့်စုံတဲ့အတွက် ဆဋ္ဌသံဂါယနာဟာ ခမ်းခမ်းနားနားကြီး အောင်မြင်ထမြောက်သွားတဲ့ပြင် အနာဂတ်သာသနာအတွက်လဲ အဘိုးမသိကျေးဇူးများသွားမယ်လို့ ဆိုတာ ခန့်မှန်းနိုင်ပါတယ်။ဒါလဲတချက်ပဲ။

ပြီးတော့ အဲဒီ ပေထက်အက္ခရာတင် နေတုံးက သံဂါယနာ တင်နေတယ်ဆိုတာကို သီဟိုဠ်ကျွန်းတွင် တောင်မှ၊ အလှမ်းဝေးတဲ့ မြို့ရွာများကသိချင်မှသိကြမယ်။ ယခု တင်မဲ့ ဆဋ္ဌသံဂါယနာကိုတော့ မြန်မာတပြည်လုံးမှာ ယခုထဲအနှံ့ အပြားသိနေကြတဲ့ပြင်၊သီဟိုဠ်ယိုးဒယား ကမ္ဘောဒီယား လာအိုဆိုတဲ့ ထေရဝါဒ နိုင်ငံအားလုံးကလဲ သိပြီဖြစ်နေပါတယ်။ ပြီးတော့ ဥရောပတိုက်၊ အမေရိကတိုက် များနှင့်တကွ တကမ္ဘာလုံးကတောင်သိ တန်သလောက် သိပြီဖြစ်နေပါတယ်။ ဒါလဲအားတက်စရာတချက်ပါပဲ။

ပြီးတော့ စတုတ္ထသံဂါယနာတင်တုံး က သွားရေးလာရေးစသည်ယခုလိုမလွယ်ကူတဲ့အတွက် သီဟိုဠ်ကျွန်းက သံဃာ များတောင်မှ နယ်တိုင်း နယ်တိုင်းမှ စုံစုံလင်လင် ဝင်နိုင်ကြမယ် မထင်ပါဘူး။ ယခု ဆဋ္ဌသံဂါယနာ မှာတော့ ပထမကစပြီး ဩဝါဒါစရိယ သံဃနာယကအဖွဲ့ကြီး ဖွဲ့လိုက်ကထဲက မြန်မာပြည်မှာ ထင်ရှား ကျော်စောတဲ့ ပိဋက ကျမ်းဂန်တတ် သီလဝန္တ လဇ္ဇီပေသလ သိက္ခာကာမ ပုဂ္ဂိုလ်တွေ နယ်တိုင်းနယ်တိုင်းမှ အစုံအလင် ပါဝင်နေတာကို တွေ့ရ ပါတယ်။ အဲဒီနောက် ပါဠိ ဝိသောဓက အဖွဲ့တွေ ထပ်မံပြီး ဖွဲ့လိုက်တဲ့ အခါမှာလဲ ထင်ထင်ရှားရှား ကျမ်းဂန်တတ် ပုဂ္ဂိုလ်တွေဆိုရင် ကုန်သလောက် နီးပါး စုံလင် နေတာကို တွေ့ရပြန်တယ်။ နောက်ဆုံး သံဂါယနာ တင်ပွဲကြီး ကျင်းပတဲ့အခါကျတော့ ပါဝင်သင့်တဲ့ မထေရ်ကြီးတွေမှန်သမျှမကျန်ရအောင် ပင့်ဆောင်သို့ရန်လဲ စီမံဆုံးဖြတ်ထားပါတယ်။ ဒါတွင် မက သေးဘူး။ ပထမ ဒုတိယ တတိယ စတုတ္ထ သံဂါယနာတွေမှာ ဆိုင်ရာသူ့တိုင်းပြည် တွင်းက သံဃာများလောက်သာ ပါဝင် ဆောင်ရွက်သွားကြတယ်။ သက္ကရာဇ် ၁၂၂၂ ခု၊ မှ စပြီး ၁၂၃၃ ခုနှစ်အတွင်းမှာ ကျင်းပ ပြုလုပ်ခဲ့တဲ့ ကျောက်ထက် အက္ခရာတင် ပဉ္စမ သံဂါယနာမှာလဲ၊ အထက် မြန်မာ ပြည်က သံဃာ လောက်သာ ပါဝင်နိုင်ခဲ့ တယ်။

(ဆက်ရန်ရှိသေးသည်)

(စာမျက်နှာ ၈ မှ အဆက်)

(ဃ) ရမည်းသင်းခရိုင်မှ

(၃၃) ဦးဦး ပရိက္ခရာ ကုန်သည် ရမည်းသင်းမြို့။

(၅) ရာဇဝတီတိုင်း
(က) ပုသိမ်ခရိုင်မှ

(၃၄) ဦးစံရှိန်၊ ဗုဒ္ဓဃောသ ဝ နအသင်း ရွှေမုဋ္ဌော ကုန်းတော် ပုသိမ်မြို့။

(ခ) ဟင်္သာတခရိုင်မှ

(၃၅) ဦးဘညို၊ (သစ်ကုန်သည် မြို့နီ ဗိုလ်လူကြီး)ကံ သွတာလေးရပ် ဟင်္သာတမြို့။

(ဂ) မြောင်းမြခရိုင်မှ

(၃၆)

(ဃ) မအူပင်ခရိုင်မှ

(၃၇) ဦးလှသွင်၊ သံနိသိဏ္ဍ ဆွမ်းလောင်းအသင်း၊ ညောင်းတုံးမြို့။

(င) ဖျာပုံခရိုင်မှ

(၃၈) ဦးဘတင် ရမ္မဝိနယ အသင်း၊ ဖျာပုံမြို့။

(၆) မကွေးတိုင်း
(က) သရက်ခရိုင်မှ

(၃၉) ဦးသက်ရှေ(ရှေ့နေ) အာလံမြို့။

(ခ) မင်းဘူးခရိုင်မှ

(၄၀) ဦးပန်၊ဓါတ်တော်ကုန်း၊မင်းဘူးမြို့။

(ဂ) မကွေးခရိုင်မှ

(၄၁)

(ဃ) ပခုက္ကူခရိုင်မှ။

(၄၂) ဦးခင်မောင်ကြီး၊ ကုသလ ဝါယာမ ဆွမ်းလောင်းအသင်း၊ဈေးဟောင်းရပ်၊ ပခုက္ကူမြို့။

(၇) တနင်္သာရီတိုင်း
(က) သထုံခရိုင်မှ

(၄၃) လယ်တီ ဦးလှတင်၊ မင်းလမ်း သထုံမြို့။

(ခ) ကျိုက္ကမိခရိုင်မှ

(၄၄) ဆရာ့ ဦးဘသန်း၊ နှင်ဗုဒ္ဓ ဃောသကျောင်း၊ မော်လမြိုင်မြို့။

(ဂ) ထားဝယ်ခရိုင်မှ

(၄၅) ဦးမောင်မောင်ခင်(အငြိမ်းစား ကျောင်းဆရာ) မြောက်ရွာရပ် ထားဝယ်မြို့။

(ဃ) မြိတ်ခရိုင်မှ

(၄၆) ဦးဘိုးလွင်၊ (အငြိမ်းစား ပညာအုပ်) ဆိပ်ငယ်ရပ် မြိတ်မြို့။

(၈) ရခိုင်တိုင်း
(က) စစ်တွေခရိုင်မှ

(၄၇) ဦးထွန်းအောင်၊ (အငြိမ်းစား စက်နှင်ဘရေးသူကြီး) စစ်တွေမြို့။

(ခ) ကျောက်ဖြူခရိုင်မှ

(၄၈) ဦးဘိုးလှ၊ ဝိဘဿနာ အသင်း ကျောက်ဖြူမြို့။

(ဂ) သံတွဲခရိုင်မှ

(၄၉) ဦးအောင်ထွန်း (အငြိမ်းစား စာရေးကြီး) ရွှေနန်းတောင် စေတီတော် ပြုပြင်ရေး အဖွဲ့ သံတွဲမြို့။

(၉) စစ်ကိုင်းတိုင်း။
(က) စစ်ကိုင်းခရိုင်မှ

(၅၀) ဦးကျော်မြင့်၊ပဋ္ဌမကျော်အတုလ ဝတ္ထိ စာပုံနှိပ်တိုက်နှင့် စစ်ကိုင်း။

(ခ) ရွှေဘိုခရိုင်မှ

(၅၁)

(ဂ) ကသာခရိုင်မှ၊

(၅၂) ဦးမြဒင်(ကုန်သည်)ကော်ပန်းရပ် ကသာမြို့။

(ဃ) အထက် ချင်းတွင်းခရိုင် (မော်လိုက်)

(၅၃)

(င) အောက်–ချင်းတွင်းခရိုင် (မုံရွာ)

(၅၄) ဦးဆင့်၊ ဒေသန္တရ အုပ်ချုပ်ရေး ဌာန ပဲတွင်းရေးမှူး မုံရွာ။

(၁၀) ချင်းဝိသေသတိုင်းမှ

(၅၅) စည်သူ ဦးသိန်းမောင် (အေ–တီ–အမ်) ချင်းဝိသေသ တိုင်းမင်းကြီး၊ ဗုဒ္ဓဘာသာအဖွဲ့ ဥက္ကဋ္ဌ ဖလန်းမြို့။ (ဦးခင်ညွန့် ကိုယ်စား) (၅၆) သခင် အောင်ညွန့်၊(တောင်ပိုင်း)ပြည်သူ့ဆက်ဆံရေး အရာရှိကန်ပက်လက်မြို့။ (၅၇) ဦးသန်းမောင်(တောင်ပိုင်း) ထောက်ပံ့ရေးအရာရှိဟောင်း၊ ကန်ပက်လက်

(၁၁) ရှမ်းပြည်နယ်မှ

(၅၈) စောခွန်ကြည်၊ ဥက္ကဋ္ဌ ရှမ်းပြည် သာသနာပြု အသင်း၊ တောင်ကြီးမြို့။ (၅၉) ဦးညို၊ ကျောင်းတကာ လမ်းဦး ရှမ်းပြည်၊ (၆၀) ဦးထွန်းလှ၊ ပဋ္ဌမပြန် သာသနာပြုအသင်း၊ ကလောမြို့။ (၆၁) စောဝိန်ဖ၊ ဝိနယာ နဂ္ဂဟ အသင်း ညောင်ရွှေမြို့။ (၆၂) ဦးမောင်မောင်၊ မဟာဒေါ်နန်ဝန် သီပေါမြို့။

(၁၂) ကချင်ပြည်နယ်မှ

(၆၃) ဦးဒီ၊ ပန်းတိမ်ဆရာ ရှမ်းစုရပ် မြစ်ကြီးနားမြို့။

(၆၄) ဦးလှတင် ကုန်သည် အသယ်ရပ် မိုးကောင်းမြို့။

(၆၅) ဦးဘခင် ရွှေကျီးနားနှင့် သိမ်တော်ကြီး မဟာစေတီဂေါပကအဖွဲ့ ဥက္ကဋ္ဌ ဗန်းမော်မြို့။

(၆၆) ဦးသာဝ အငြိမ်းစား တိရစ္ဆာန် ဆေးကုအင်စပက်တော်ဗန်းမော်။

(၁၃)ကရင်နီပြည်နယ်မှ၊

(၆၇) ဦးဘ၊ ဓါတ်မီးရွာ ဆရာကြီး လွိုင်ကော်မြို့။

(၆၈) ဦးဘ၊ ကုန်သည်လွိုင်ကော်မြို့။

(၁၄)ကော်သူလေးမှ

(၆၉) ဦးစံညွန့်သထုံကျေးလက်အရှေ့ပိုင်းအမတ်။

(၇၀) စောသာဒင်–ကျိုက္ကမိကျေးလက် အရှေ့ပိုင်းအမတ်။



နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ဒုတိယနှစ် ခြောက်လပတ်ညီလာခံကျင်းပနေပုံ

## နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ အမှုဆောင်များ

(၁) သဘိုးသိရိသုဓမ္မ ဆာဦးသွင် (ဥက္ကဋ္ဌ) (၂) ဦးဝင်း အမျိုးသားစီမံကိန်းနှင့်သာသနာရေးဌာနဝန်ကြီး။ (၃) သဘိုး သိရီ သုဓမ္မ ဦးသိန်းမောင် လွှတ်တော်ချုပ် တရားဝန်ကြီး (ဒုတိယ ဥက္ကဋ္ဌ) (၄) သဘိုးမဟာ သရေစည်သူ ဦးချန်ထွန်း နိုင်ငံတော် ရှေ့နေချုပ်ကြီး (အကျိုးဆောင်စာချီ) (၅) ဦးဘဆွေ သာသနာရေး အထူးအရာရှိ။ (အကျိုးဆောင်စာချီ) (၆) ဦးဘဘင်(ချပ်သင်း) ငွေထိန်း။ (၇) စည်သူ ဦးဘခင်၊ ငွေစာရင်းစစ် (စာရင်းစစ်) (၈) မဟာ သိရိသုဓမ္မ ဦးမြ၊ (ဟင်္သာတ) (၉)

ဦးစင်းရှိန် (အကျိုးဆောင်ကြီး စေတိယင်္ဂဏပရိယတ္တိအသင်း) (၁၀) ဦးဘိုးမြ (အကျိုးဆောင်ပရိယတ္တိ သာသနာနုဂ္ဂဟအသင်း) (၁၁) ဦးသိမ်းအောင် အဘိဓမ္မာနည်းပြဆရာ ဒင်္ဂါးရုံ အရှေ့ဘက် မန္တလေး။ (၁၂) ဦးတင်အောင် သာသနာရေး အရာရှိ ၃၁ လမ်း မန္တလေးမြို့။ (၁၃) ဦးစံရီ စက်ပိုင်ရှင် ဇိုလ်ချုပ်လမ်း မန္တလေးမြို့။ (၁၄) ဦးမြင့်ဟန် ကုန်သည် ဒေးဝန်းအရှေ့ပိုင်း ပွဲတိတန်းမန္တလေးမြို့ (၁၅) ဦးအုန်းဖေ၊ လွှတ်တော် တရားဝန်ကြီး။ (၁၆) ဦးကြီးဖေ၊ သာသနာ ညွှန်ကြားရေးဝန်။ (၁၇) စည်သူ ဦးစံညွှန့်၊ အတွင်းဝန် တရားဌာန။ (၁၈) စကားစော်ဘွားကြီး။ (၁၉) ဦးစံသိမ်း၊ နိုင်ငံတော်ရေကြောင်းပို့ဆောင်ရေးအဖွဲ့ ဥက္ကဋ္ဌ။ (၂၀) ဦးအိဇွက်၊ ဗုဒ္ဓဘာသာ တရုပ် အမျိုးသားကိုယ်စားလှယ်။ (၂၁) ဦးစံဖေ အဘိဓမ္မာ ပြန့်ပွားရေးအသင်း။ (၂၂) ဦးမောင်မောင်ကလေး၊ အေ–တီ–အမ်အငြိမ်းစား အသင်း ဝန်ထောက်မင်း စိတ္တဲရမဟာ တောင်ပြင် မန္တလေးမြို့။ (၂၃) ဦးအောင်ညွှန့်၊ ချင်းဝိသေသတိုင်း။ (၂၄) ဦးဘခင်၊ ဇန်းမော်၊ (၂၅) ဦးဘဖေ၊ ဓမ္မဝိနယဆရာကြီးလွယ်ကော်မြို့။ (၂၆) ဦးစံညွှန့်၊ သထုံကျေးလက်အရှေ့ပိုင်းအမတ် (၂၇) ဦးထွန်းအောင် အငြိမ်းစား စက်ရှင်တရားသူကြီး စစ်တွေမြို့။

## အဖွဲ့ငယ်များ

အထက်ပါအမှုဆောင်အဖွဲ့၏ ပဌမအကြိမ် အစည်းအဝေးကို၊ ၁၉၅၁ ခု၊ ဩဂုတ်လ ၂၇–ရက်နေ့ ၂ နာရီ အချိန်အတွင်းဝန်များရုံး ဗုဒ္ဓဘာသာ အသင်းတည်ဆာခန်းမကြီး၌ကျင်းပ၍ အက်ဥပဒေပုဒ်မ (၁၀) ပါ သာသနာရေးကိစ္စအဝဝတို့ကို အသီးသီးတာဝန်ခွဲဝေ၍ စေ့စပ်စွာဆောင်ရွက်နိုင်စေရန်။

(၁) ပရိယတ္တိအဖွဲ့ငယ်။

(၂) ပဋိပတ္တိအဖွဲ့ငယ်။

(၃) ဗုဒ္ဓသာသနာပြန့်ပွားရေးအဖွဲ့ငယ်။

(၄) ဘဏ္ဍာရေးအဖွဲ့ငယ်။

ပေါင်းအဖွဲ့ငယ် ၄ ခုကို၊ ဥပဒေပုဒ်မ ၁၃ နှင့်အညီဖွဲ့စည်းကြပြီးလျှင်၊ ထိုအဖွဲ့ငယ် ၄ ခုတွင် ပါဝင်ဆောင်ရွက်ရန်၊ အမှုဆောင်အဖွဲ့ဝင် လူကြီးတို့ကို အောက်ပါအတိုင်း အသီးသီး ရွေးကောက် တင်မြှောက်ကြပါကြောင်း။ အကျိုးဆောင် စာချီ ၂ ဦးမှာမူ ဖွဲ့စည်းသည့်အဖွဲ့ငယ်တိုင်းတွင် ရာထူးအလျောက်ထမ်းဆောင်နိုင်ခွင့်ရှိကြပါကြောင်း။

### ပရိယတ္တိအဖွဲ့ငယ်ဝင်များ

(၁) သတိုး သီရိသုဓမ္မ ဦးသိမ်းမောင် (ဥက္ကဋ္ဌ) (၂) တရားဝန်ကြီး ဦးအုန်းဖေ (၃) ဦးဘခင် (ကရင်ပြည်နယ်) (၄) ဦးစံဖေ။ (၅) ဦးကြီးဖေ (၆) ဦးသိန်းအောင် (မန္တလေး) (၇) ဦးတင်အောင် (မန္တလေး) (၈) ဦးမြင့်ဟန် (မန္တလေး)

### ပဋိပတ္တိအဖွဲ့ငယ်ဝင်များ

(၁) စည်သူ ဦးဘခင် (ဥက္ကဋ္ဌ) (၂) ဦးဘတင် (ချမ်းသာ) (၃) စကား စော်ဘွားကြီး၊ (၄) စည်သူ ဦးစံညွှန့်၊ (၅) ဦးစံရီ (မန္တလေး) (၆) ဦးစံသိမ်း (၇) ဦးစံညွှန့် (ကော်သူလေး)၊

### ပြန့်ပွားရေး အဖွဲ့ငယ် ဝင်များ

(၁) စည်သူ ဦးစံညွှန့် (ဥက္ကဋ္ဌ) (၂) ဦးစံဖေ (၃) ဦးဘိုးမြ (၄) ဦးစင်းရှိန် (၅) ဦးမောင်မောင်ကလေး (မန္တလေး) (၆) ဦးဘဖေ (ကယားပြည်နယ်) (၇) ဦးအောင်ညွှန့် (ချင်းဝိသေသတိုင်း)

### ဘဏ္ဍာရေး အဖွဲ့ငယ် ဝင်များ

(၁) သာသနာရေးဝန်ကြီး (ဥက္ကဋ္ဌ) (၂) မဟာသီရိသုဓမ္မ ဦးမြ (ဟသာတ) (၃) ဦးဘတင် (ချမ်းသာ) (၄) စည်သူ ဦးဘခင် (၅) ဦးအိဇွက် (၆) ဦးထွန်းအောင် စစ်တွေ (၇) ဦးစံညွှန့် (ကော်သူလေး)

(နောက်တပါတ် ဆက်လက်ဖေါ်ပြမည်)

# ကရင်ပြည်နယ်ဝန်ကြီးများ တာတပေါ်ရွာ၌ ဖေါ်မီပင်စိုက်ပျိုးခြင်း



မအူပင်ခရိုင် တာတပေါ်ရွာ ဘုန်းကြီးကျောင်းဝင်းအတွင်း၌ ဝန်ကြီး ဦးဝင်းမောင် ကိုယ်တိုင် ဖေါ်မီပင် စိုက်ပျိုးနေပုံ။



ဘုန်းတော်ကြီးများက ဖေါ်မီပင်ပျိုကို အနေကဇာတင်တော်မူကြပြီး နောက်တွင် ပရိသတ်များနှင့်တကွ သီလခံယူနေကြပုံ၊

ဇူလိုင်လ ၁၈ ရက်နေ့ ပြည်ထောင်စုမြန်မာ နိုင်ငံတော် အစိုးရ သယ်ယူပို့ဆောင်ရေးနှင့် လမ်းပန်း ဆက်သွယ်ရေး ဝန်ကြီးဦးဝင်း မောင် ခေါင်းဆောင်လျက် ကရင်ပြည်နယ် ဥက္ကဋ္ဌဝန်ကြီးဦးအောင်ပ ကရင်ပြည်နယ် အစိုး သာသနာရေး နှင့် ပြန်ကြားရေးဌာနဝန်ကြီး မန်းမြစိန် ပါလီမန် အတွင်းရေးမှူးကြီး သာမန်းဘခင် (ပုသိမ် အရှေ့ပိုင်း) ဦးကျော်ဇံ (မအူပင်အရှေ့) နှင့်အဖွဲ့သည် မအူပင်မြို့နယ် တာတပေါ်ကျေးရွာသို့ အထူးမီးသင်္ဘောဖြင့် သွားရောက်ကြကြောင်း။

ဝန်ကြီးအဖွဲ့သည် နိုင်ငံတော်ဝန်ကြီးချုပ် အိန္ဒိယနိုင်ငံမှ ပင့်ဆောင်လာသော ဖေါ်ဓိပင်ပျိုးပင် ၄ ပါ ရင်းပင်နှင့် အဘူ ပင့်ဆောင်လာကြလျက် ဇူလိုင်လ ၁၉ ရက်နေ့ နံနက် ၈ နာရီအချိန်တွင် တာတပေါ်ရွာ ဘုန်းကြီးကျောင်း ပရဝုဏ် အတွင်း၌ ဝန်ကြီးဦးဝင်းမောင် ကိုယ်တိုင်စိုက်ပျိုးခါ ကရင် ပြည်နယ် ဥက္ကဋ္ဌ ဝန်ကြီး ဦးအောင်ပနှင့် ကရင်ပြည်နယ် သာသနာရေး နှင့် ပြန်ကြားရေး ဌာန ဝန်ကြီး မန်းမြစိန်တို့က ဖေါ်မီပင်အား နံ့သာရေခြင်း ရေသနပ်ရေများကို သွန်းလောင်းခြင်းများ ပြုလုပ်ကြကြောင်း။

ထိုနေ့မှာ နိုင်ငံတော် ခေါင်းဆောင်ကြီးများ ကျရောက်သော ဇူလိုင်လ ၁၉ ရက် အာဇာနည် နေ့ကြီး ဖြစ်သည့်အားလျော်စွာ ဖေါ်မီပင်စိုက်ပျိုးသည့် အခမ်းအနားသို့လာရောက်ကြသော တာတပေါ်ကျေးရွာ လူထု ငါးရာကျော် တို့အား ဝန်ကြီး ဦးဝင်းမောင်က အာဇာနည်နေ့ အကြောင်းများကို အကျယ်တဝင့် ရှင်းလင်းပြောပြပြီးနောက် နိုင်ငံတော်ခေါင်းဆောင်ကြီးများ ကျဆုံးသည့် နံနက် ၁၀ နာရီခွဲအချိန် ကျရောက်သော အခါတွင် သင်္ဘော ဥဩများ၊ တုံး၊ ခြေးစည် ကုလားဘက် များကို တပြိုင်တည်း မှုတ်စေလျက် ကျဆုံး လေပြီးသော ခေါင်းဆောင်ကြီးများအား ကျေးဇူး တုံ့ပြန်၍ မမေ့ မလျော့သော အထိမ်း အမှတ်ဖြင့် အားလုံး ၂ မိနစ်ခန့် ငြိမ်သက်စွာ ရပ်၍ အလေးပြုကြကြောင်း။

တာတပေါ်ကျေးရွာ လူထုမှာ ရှိ့နှံ များအကြား၌ အောင်ပန်း အဆင်းရဲခံကြ၍ ယခုကဲ့သို့ ဝန်ကြီးများကိုယ်တိုင် ၎င်းတို့ ရွာသို့ လာရောက်ကြခါ ပေါ်ရှားလှူထုကောင်းကြီးအတွက်၊ ဖေါ်မီပင် စိုက်ပျိုးပေးခြင်း၊ ဟောပြောပွဲများ ပြုလုပ်ခြင်းနှင့် ရုပ်ရှင်များ ပြသခြင်းတို့ကို ၎င်းသာကျေးဇူးတင်၍ မဆုံးနိုင်အောင် အားရ ရွှင်လန်းသွက်ရှိကြကြောင်း။

ထို့နောက် ဝန်ကြီး ဦးဝင်းမောင်၊ ကရင်ပြည်နယ်ဥက္ကဋ္ဌ ဝန်ကြီး ဦးအောင်ပ နှင့် အဖွဲ့တို့သည် လေးအိမ်စု ကျေးရွာအထိ သွားရောက်ကြလျက် အခြေအနေများကို ကြည့်ရှုကြပြီးလျှင် ထိုနေ့ ညနေ ၃–နာရီ အချိန်တွင် ရန်ကုန်မြို့သို့ပြန်ခဲ့ကြကြောင်း။ (သုမေဓစာစောင်မှ)

(စာမျက်နှာ ၆ မှ အဆက်)

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁၃ | ဦးသီလက္ခန္ဓ | ၂၇ | မူလဓမ္မာစရိယ | ရေလယ်ကြီးကျောင်း | သရက်တော | ရန်ကုန် |
| ၁၄ | ဦးဝိနယ | ၂၈ | သကျသီဟဓမ္မာစရိယ | ရေလယ်ကလေးကျောင်း | 〃 | 〃 |
| ၁၅ | ဦးဝိမလဗုဒ္ဓိ | ၃၀ | မူလဓမ္မာစရိယ | မှန်ကျောင်း | 〃 | 〃 |
| ၁၆ | ဦးဝိသုတ | ၇ | အစိုးရဓမ္မာစရိယ | ကျွဲကူးကျောင်းတိုက် | ဘုရားလမ်း | 〃 |
| ၁၇ | ဦးသူရိယ | | 〃 | ပိဋကတိုက်ကျောင်း | လမ်းမတော် | 〃 |

# ကျမ်းအမှတ်စဉ် (၈) ဒီဃနိကာယ် ပါထေယျပါဠိတော်

## ရန်ကုန်မြို့ ဓမ္မိကာရာမ ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးပညာဝံသ | ၄၀ | နာယကဓမ္မာစရိယ | ဘုဘုားကြီးကျောင်းတိုက် | အရှေ့ပိုင်း | ရန်ကုန် |
| ၂ | ဦးအာဒိစ္စ | ၂၁ | မူလဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၃ | ဦးသကျ | ၁၈ | 〃 | 〃 | 〃 | 〃 |
| ၄ | ဦးဇောတိကာ | ၁၅ | 〃 | 〃 | 〃 | 〃 |
| ၅ | ဦးခေမိန္ဒ | ၁၂ | 〃 | 〃 | 〃 | 〃 |
| ၆ | ဦးလာဘ | ၄၀ | နာယကဓမ္မာစရိယ | ဓမ္မိကာရာမကျောင်းတိုက် | ဗိုလ်ကွက်သစ် | 〃 |
| ၇ | ဦးဣန္ဒာဘာသ | ၂၇ | မူလဓမ္မာစရိယ | မြသိန်းတန်ကျောင်း | ဘီဂင်းဘက်လင်း | 〃 |
| ၈ | ဦးသောဘန | ၁၀ | အစိုးရဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၉ | ဦးဉာဏာဘာသ | ၁၉ | 〃 | မင်္ဂလာရာမကျောင်းတိုက် | သိမ်ဖြူ | 〃 |
| ၁၀ | ဦးကေသရ | ၂၂ | မူလဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၁၁ | ဦးဒေဝိန္ဒက | ၂၅ | 〃 | ညောင်တုံးတိုက် | ပုဇွန်တောင် | 〃 |
| ၁၂ | ဦးပညာ | ၃၈ | 〃 | ပညာလင်္ကာရကျောင်း | 〃 | 〃 |
| ၁၃ | ဦးဝါသဝ | ၂၅ | စေတီယင်္ဂဏဓမ္မာစရိယ | ဘုရားဖြူကျောင်းတိုက် | 〃 | 〃 |

## ရန်ကုန်မြို့ ဆူတောင်းပြည့်ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးဉာဏဝံသ | ၄၄ | မူလဓမ္မာစရိယ | နေဘ်မီကျောင်းကြီး | တောင်လုံးပြန် | ရန်ကုန် |
| ၂ | ဦးဣဿရိယ | ၄၁ | 〃 | ရှင်အာဒိစ္စဝံသကျောင်း | 〃 | 〃 |
| ၃ | ဦးဝါယမ | ၄၁ | 〃 | 〃 | 〃 | 〃 |
| ၄ | ဦးတိလောက | ၃၇ | 〃 | 〃 | 〃 | 〃 |
| ၅ | ဦးဇနိန္ဒာဘိဝံသ | ၂၆ | အစိုးရပဋ္ဌာနကျော် | ကျိုက်ထီးရိုးကျောင်း | 〃 | 〃 |
| ၆ | ဦးသေဋ္ဌိလ | | အဘိဓမ္မာကထိက | ရန်ကုန်တက္ကသိုလ် | 〃 | 〃 |
| ၇ | ဦးရေဝတ | ၃၀ | မူလဓမ္မာစရိယ | ကျောက်ဘိုင် | 〃 | 〃 |
| ၈ | ဦးအာဒိစ္စ | ၃၈ | 〃 | အသီဘိဘိုက်ကျောင်း | 〃 | 〃 |
| ၉ | ဦးနန္ဒိယာဘိဝံသ | ၁၉ | စေတီယင်္ဂဏဓမ္မာစရိယ | အသီတိကျောင်းတိုက် | 〃 | 〃 |
| ၁၀ | ဦးပဏ္ဍိစ္စဓန္ဒ | ၂၂ | ပါဠိတက္ကသိုလ်ကျောင်းအုပ် | ဆူတောင်းပြည့်ပါဠိတက္ကသိုလ် | ပုဇွန်တောင် | 〃 |
| ၁၁ | ဦးဝါယမိန္ဒ | ၁၉ | 〃 | 〃 | 〃 | 〃 |
| ၁၂ | ဦးပညာရက္ခိတ | ၁၆ | ပါဠိတက္ကသိုလ်ကထိက | 〃 | 〃 | 〃 |
| ၁၃ | ဦးဓမ္မဓဇ | ၁၂ | အနုဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၁၄ | ဦးဝိလာသ | ၃၅ | နိုင်ငံတော်ဝိနည်းနှံ | ဘလုပ်ကျောင်း | 〃 | 〃 |

## ရန်ကုန်မြို့ ဓမ္မိကာရုံပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးရေဝတဓမ္မ | ၄၁ | ပါဠိတက္ကသိုလ်နာယကချုပ် | ဓမ္မိကာရုံပါဠိတက္ကသိုလ် | သိမ်ဖြူ | ရန်ကုန် |
| ၂ | ဦးမေဓါဝီ | ၂၅ | မူလဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၃ | ဦးသီလာစာရ | ၂၁ | 〃 | | 〃 | 〃 |
| ၄ | ဦးကေသရ | ၃၇ | 〃 | မင်္ဂလာသုခပါဠိတက္ကသိုလ် | 〃 | 〃 |
| ၅ | ဦးသုမန | ၃၄ | 〃 | 〃 | 〃 | 〃 |
| ၆ | ဦးမဟေသရ | ၂၅ | 〃 | 〃 | 〃 | 〃 |
| ၇ | ဦးနာဂသေနာဘိဝံသ | ၁၄ | စေတီယင်္ဂဏဓမ္မာစရိယ | နိဗ္ဗိန္ဒကျောင်း | 〃 | 〃 |
| ၈ | ဦးသုမနိန္ဒိယ | ၁၄ | မူလဓမ္မာစရိယ | နန္ဒဝံပါဠိတက္ကသိုလ် | 〃 | 〃 |
| ၉ | ဦးဉာဏဝရ | ၂၇ | 〃 | ဓမ္မဝိဟာရကျောင်း၊ | ကျောက်မြောင်း | 〃 |
| ၁၀ | ဦးရာဇိန္ဒ | ၁၃ | 〃 | ဓမ္မိကာရုံကျောင်း | အလုံ | 〃 |
| ၁၁ | ဦးတေဇိန္ဒာဘိဝံသ | ၁၂ | စေတီယင်္ဂဏဓမ္မာစရိယ | 〃 | 〃 | 〃 |

## ရန်ကုန်မြို့ ကျောက်တိုင်ကျောင်းတိုက် ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးရေဝတ | ၃၀ | မူလဓမ္မာစရိယ | ကျောက်တိုင်ကျောင်းတိုက် | ပုဇွန်တောင် | ရန်ကုန် |
| ၂ | ဦးမေဓာဝိယ | ၃၄ | 〃 | ပေတောကုန်း | 〃 | 〃 |
| ၃ | ဦးကဝိန္ဒ | ၃၀ | 〃 | ပုညသုခ | ဗိုလ်တထောင် | 〃 |
| ၄ | ဦးဉာဏ | ၃၀ | 〃 | ရတနာသိမ် | ရေကျော် | 〃 |
| ၅ | ဦးပဏ္ဍိတ | ၂၉ | 〃 | ကျောက်မြောင်း | ကျောက်မြောင်း | 〃 |
| ၆ | ဦးဣန္ဒဝံသ | ၂၄ | 〃 | 〃 | 〃 | 〃 |
| ၇ | ဦးတိလောက | ၂၅ | 〃 | သိဒ္ဓိမင်္ဂလာ | နေ့ာင်တိုဆိပ်ကြီး | 〃 |
| ၈ | ဦးပညာသီဟ | ၂၆ | 〃 | သာသနနုယာယပဒေသ | 〃 | 〃 |
| ၉ | ဦးဝရကိတ္တိ | ၂၆ | 〃 | နန္ဒဝန် | ကျောက်မြောင်း | 〃 |
| ၁၀ | ဦးနိဂြောဓ | ၁၅ | 〃 | ကျောက်မြောင်း | 〃 | 〃 |
| ၁၁ | ဦးဉာဏုတ္တရ | ၁၀ | 〃 | 〃 | 〃 | 〃 |
| ၁၂ | ဦးပဏ္ဍိတ | ၂၄ | 〃 | ပရိယတ္တိ | သိမ်ဖြူ | 〃 |

# ကမ္ဘာ့ဗုဒ္ဓဘာသာ ညီလာခံရန်ကုန်တွင်ကျင်းပရေး

**ပဌမအစည်းအဝေး၊**

မြန်မာပြည်တွင် ကျင်းပ လတံ့သော ရာဇဝင်တွင်မည့်တတိယ အကြိမ်မြောက် ကမ္ဘာ့ဗုဒ္ဓဘာသာ ညီလာခံကြီးအတွက် ပဌမ အစည်းအဝေးတရပ်ကို၊ ကမ္ဘာ့ဗုဒ္ဓဘာသာသာမဂ္ဂီမြန်မာနိုင်ငံအဖွဲ့ ချုပ်မှကြီးမှူး၍ ၁၆-၈-၅၃ နေ့နံက်၉-နာရီ ခွဲအချိန်တွင် ရန်ကုန်မြို့ ဂေါ်ဒဝင် လမ်း အဖွဲ့ချုပ်ဥက္ကဋ္ဌ နိုင်ငံတော် ရှေ့နေချုပ်ကြီး၏နေအိမ်တွင် ကျင်းပကြောင်း၊

အဆိုပါအစည်းအဝေးတွင်သဘာပတိ အဖြစ်အဖွဲ့ချုပ်ဥက္ကဋ္ဌ နိုင်ငံတော် ရှေ့နေချုပ်ကြီး သတိုးမဟာသရေစည်သူ ဦးချန်ထွန်းကရင်း၊ အတွင်းရေးမှူးအဖြစ်အဖွဲ့ အတွင်းရေးမှူးဦးသာငင်း ကရင်း ဆောင်ရွက်ကြပြီး နာယက ဆရာတော်များ ဖြစ်ကြသောအလယ်တောရ ဆရာတော် ဦးရေဝတနှင့် ဦးကောဝိဒ အမှူးပြုသောဆရာတော်များ၊ စက်မှု လက်မှုဌာန ဝန်ကြီး ဦးကျော်ငြိမ်း၏ဇနီး ဒေါ်ခွဲ့ခွဲ့ရီ၊အမြတ်တော်မင်းကြီး ဦးလုကလေး၊ ရိက္ခာတော်ရှိုးဝင်းဝေ၊ ဦးကျော်သာ၊ ဦးဇွဲအံ့ စသော ပုဂ္ဂိုလ် ကြီးများ တက်ရောက်ကြကြောင်း၊

အဆိုပါ အစည်းအဝေးတွင်တတိယ အကြိမ်မြောက် မြန်မာပြည်တွင် ကျင်းပမည်ဖြစ်သော ကမ္ဘာလုံးဆိုင်ရာ ဗုဒ္ဓဘာသာ ညီလာခံကြီးကို မူလကမ္ဘာ့ အဖွဲ့ချုပ်ကြီး၏ စည်းမျဉ်းအရ ကဆုန်လတွင် ကျင်းပရန် ဖြစ်သော်လည်း ရာသီဥတုမကောင်းမှုနှင့် တကွ အခြား အကြောင်းများကြောင့်ကဆုန်လအစား တန်ဆောင်မုန်းလတွင်ကျင်းပရန်နှင့်ညီလာခံကို ဆဋ္ဌသင်္ဂါယနာ ဒုတိယ သန္နိပါတ အတွင်း ကျင်းပရန်၊ တတိယအကြိမ်မြောက်ကမ္ဘာလုံးဆိုင်ရာဗုဒ္ဓဘာသာညီလာခံကိုဗုဒ္ဓသာသနာ့အဖွဲ့ကြီးနှင့် ဆက်သွယ် ပူးပေါင်းဆောင်ရွက်ရန်၊ညီလာခံကြီးသို့ ကမ္ဘာ့နိုင်ငံအသီးသီးမှကိုယ်စားလှယ်တော် ၅-ဦး ကျစီနှင့် အကဲဖြတ်များ သတ်မှတ် ဖိတ်ကြားရန်၊ ညီလာခံသို့တက်ရောက်ကြမည့် ကိုယ်စားလှယ် များအား မြန်မာပြည်တွင် ရာဇဝင်အရထင်ရှားသည့်စေတီပုထိုးများအား၊ ဖူးမျှော်နိုင်ရေး အတွက် ပို့ဆောင်ရန်နှင့် မြန်မာပြည်အရပ်ရပ်ရှိဗုဒ္ဓဘာသာအသင်းအဖွဲ့များ၏အကူအညီကို ရယူ၍ ဧည့်သည်တော်များအား၊ ဝတ္ထုရားကျေပြွန်စွာပြုရန်စသော အဆိုများကိုအများသဘောတူဆုံးဖြတ်အတည်ပြုကြကြောင်း၊

# ခြောက်ကြိမ်မြောက်တိပိဋကဓရ ရွေးချယ်ပွဲကြီးစတင်ကျင်းပမည့်နေ့ရက်

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏ကိုယ်စား ဗုဒ္ဓသာသနာနုဂ္ဂဟ အဖွဲ့မှ နှစ်စဉ်ကျင်းပလျက်ရှိသော၊တိပိဋကဓရရွေးချယ်ပွဲကြီးကို၊ ၁၃၁၅-ခုနှစ် နတ်တော်လဆန်း (၁၄) ရက်၊ ၁၉၅၃-ခုနှစ်ဒီဇင်ဘာလ (၂၀) ရက်တနင်္ဂနွေနေ့တွင် (၆)ကြိမ်မြောက်စတင်ကျင်းပရန်ဆုံးဖြတ်ပြီးဖြစ်ပါ၍၊ ရွေးချယ်ပွဲသို့ဝင်ရောက်လိုသော၊သာသနအာဇာနည် အရှင်မြတ်တို့သည်၊ သီတင်းကျွတ်လပြည့်နေ့ကိုနောက်ဆုံးထား၍ လက်မှတ် ရေးထိုးလွှာများကို၊ တိပိဋကဓရရွေးချယ်ပွဲအကျိုးဆောင်ထံသို့တင်သွင်းနိုင်ပါကြောင်း၊

သီတင်းကျွတ်လကို နောက်ဆုံး ထား၍၊ လက်မှတ်ထိုးလွှာများကိုတင်သွင်းကြသော၊သာသနအာဇာနည်အရှင် မြတ်တို့သည်၊နောက်ထပ် တစုံတရာ အကြောင်းကြားခြင်းမရှိပါက၊ တိပိဋကဓရရွေးချယ်ပွဲသို့မုချ ဝင်ရောက်ပြန်ဆိုတော်မူကြမည့်၊ သာသနအာဇာနည် ပုဂ္ဂိုလ်များဟုအဖွဲ့က ယူဆလိမ့်မည်ဖြစ်ပါသောကြောင့်အကယ်၍ အကြောင်း တစုံတရာ ချို့ငဲ့မှုကြောင့်ပျက်ကွက်ခဲ့သော်တန်ဆောင်မုန်းလပြည့်အတွင်း အကြောင်း ကြားရမည် ဖြစ်ပါကြောင်း၊

(ပုံ) မင်္ဂလာအောင်မြင့်
အကျိုးဆောင်
တိပိဋကဓရရွေးချယ်ရေးအဖွဲ့

---

အဆိုများကို အတည်ပြုဆုံးဖြတ်၍အပြီးတွင် သံဃာတော် များအား ဆွမ်းဆက်ကပ်ပြီး ဧည့်သည်တော်များအားနေ့လယ်စာဖြင့် တည်ခင်း ကျွေးမွေး ပါကြောင်း၊အစည်းအဝေးကိုနေ့လယ်တနာရီအချိန်တွင်ရုပ်သိမ်းလိုက်ကြောင်း၊

# ဧည့်ခံပွဲနှင့်အရက်

မြန်မာနိုင်ငံသည်၊ထေရဝါဒ နိုင်ငံများတွင် ခေါင်းဆောင်နိုင်ငံ ဖြစ်သည် အားလျော်စွာ၊ နိုင်ငံတော်အစိုးရဆိုင်ရာ ဧည့်ခံပွဲများနှင့် မြန်မာသံရုံးများဆိုင်ရာ ဧည့်ခံပွဲများတွင်၊သေရည်-သေရက်များဖြင့် တိုက်ကျွေးဧည့်ခံခြင်းမပြုလုပ်ရန် နိုင်ငံတော် အစိုးရတို့အား ဗုဒ္ဓသာသနာအဖွဲ့မှ တိုက်တွန်းနှိုးဆော်ထားလေသည်၊

## နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့တွင်ရနိုင်သည့် ကျမ်းစာများနှင့် စာစောင်များ

| | ကျမ်းအမည် | အတွဲ | ရိုက်နှိပ်သည့်ဘာသာ | အဘိုး | မှတ်ချက် |
|---|---|---|---|---|---|
| ၁။ | မူလပဏ္ဏာသပါဠိ | ပထမတွဲ | ပါဠိ | ၆-ကျပ် | ရနိုင်သည် |
| ၂။ | မူလပဏ္ဏာသပါဠိ | ဒုတိယတွဲ | ။ | ၅-ကျပ် ၅၀-ပြား | ။ |
| ၃။ | မဇ္ဈိမပဏ္ဏာသနှင့် ဥပရိပဏ္ဏာသပါဠိ | | ။ | ၆-ကျပ် ၅၀-ပြား | ။ |
| ၄။ | ပဋိသမ္ဘိဒါမဂ်ဘာသာပြန်(စံကျော်) | | မြန်မာ | ၆-ကျပ် | ။ |
| ၅။ | အဘိဓမ္မတ္ထသင်္ဂြိုဟ်ပါဠိနိဿယ | | ။ | ၃-ကျပ် | |
| ၆။ | ဗားကရာသင်္ဂြိုဟ်အဓိပ္ပါယ်ကောက် | | ။ | ၂-ကျပ် ၅၀-ပြား | ။ |
| ၇။ | အဘိဓမ္မတ္ထသင်္ဂဟဒီပနီ | | ။ | ၂-ကျပ် ၅၀-ပြား | ကုန်နေ၍ရိုက်ဆဲ |
| ၈။ | အဘိဓမ္မာနေ့အရေးတော်ပုံ | | ။ | ၁-ကျပ် ၅၀-ပြား | ရနိုင်သည် |
| ၉။ | ဆုတောင်းခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၀။ | ပါရမီခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၁။ | နေမိဘုံခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၂။ | သာသနာ့ရောင်ခြည်စာစောင် | | မြန်မာ | ၁-ကျပ် | ။ |
| ၁၃။ | ဓမ္မရောင်ခြည်စာစောင် | | အင်္ဂလိပ် | ၁-ကျပ် ၅၀-ပြား | |
| ၁၄။ | သံဂါယနာစာစောင် | | မြန်မာ | ၂၅-ပြား | |
| ၁၅။ | သံဂါယနာစာစောင် | | အင်္ဂလိပ် | ၂၅-ပြား | ။ |



ပလင်းမြို့ တောင်ဘန်းသာသနာပြု ထောက်ပံ့ရေးအဖွဲ့ကြီးကရှင်သာမဏေ ပြုလုပ်ပေးခဲ့သည့် ချင်း-အမျိုးသားကိုရင် ကလေးနှင့် ရှင်လောင်းများ။



တောင်တန်းသာသနာပြုဆရာတော် ဦးဥတ္တမသာရသည် ချင်း-ရွာများသို့ တရားဟောထွက်တော်မူရာ လူကြီးများအလုပ်သွားနေခိုက် ကလေးများက လျှက်ဆားပိုင်း၍ တောင်းနေကြပုံ။



အရင်ရပ်တောင်တန်းဒေသတို့ဘွင်သာသနာပြုလျက်ရှိသော သံဃာတော်များသည် တခါ-တခါ ဆရာတော်ဦးဥတ္တမသာရ၏ ကျောင်းသို့စုဝေါင်းကြွရောက်တော်မူစဉ်၊



ဆရာတော်ဦးဥတ္တမသာရခေါင်းဆောင်သော ဘောင်တန်း သာသနာပြုအဖွဲ့ဝင် သံဃာတော်များသည် တောကြီးတောင်ကြီးများကိုဖြတ်ကျော်ကာ သာသနာပြုကြွတော်မူကြပုံ။

# တောင်တန်းသာသနာပြုလုပ်ငန်းမှ
# အနာဂတ်တွင် ရမည့် အကျိုး

### အကျိုးနှစ်ပါး

တောင်တန်းနယ် သာသနာပြုရေးနှင့် စပ်လျဉ်း၍ အကျိုး ၂ ပါး ပြီးမြောက်နေသည်ကို သတိပြုကြစေချင်၏။ အကျိုးကား လောကီအကျိုးနှင့် လောကုတ္တရာ အကျိုးဖြစ်သည်။ ဤအကျိုး ၂ မျိုးဖန်တီးပေးရန်မှာ မြန်မာပြည်မက အရေးကြီးစွာလိုအပ်သလောက် တောင်တန်း သားတို့ဘက်မှလည်း ပြုသူရှိမှ နှံရမည် ဖြစ်သောကြောင့် လိုလား ဝမ်းမြောက်စွာ လက်ခံကြရန် အသင့်ရှိနေကြလေသည်။

### လောကအကျိုး

လောကီအကျိုးမှာ ယဉ်ကျေးမှု၊တိုင်းရင်းသားနှင့် တူညီသော ဘာသာဝါဒ အလေ့အလာရှိမှု၊ ရင်းနှီး ချစ်ခင်စွာ ပေါင်းသင်းဆက်ဆံမှု၊တိုင်းရင်း ဘာသာ စကားနှင့် စာပေ တတ်ကျွမ်းမှု စသည်ဖြင့်များစွာရှိလေရာ ထိုအကျိုး အားလုံးကို ပြီးမြောက်နိုင်လေသည်၊

တောင်တန်းသားတို့ အဘို့မှာလည်း လူ့အဆင့်အတန်း ရရှိခံစားနိုင်ကြောင်း ဖြစ်သော ပညာရေး ကျန်းမာရေး စိုက်ပျိုးရေး စသော သက်မွေးဝမ်းကျောင်း ပညာရပ်များကိုတတ်ကျွမ်းနိုင်ကြ၍ ချမ်းသာမှုရကြပေမည်။

### သံသရာအကျိုး

လောကုတ္တရာ အကျိုးမှာ တောင်တန်းသားဘို့သည် ရခဲသော လူ့ဘဝကို ရသော်လည်း ဘုရားမှန်းမသိ တရားမှန်းမသိရဟန်းသံဃာဟူ၍မသိကြရဘဲအများအားဖြင့်ဘာသာမရှိဘဲ၊တောတောင်ပေါ်ဆေါက်ဖွား၍ဘာသာဘာဝနေထိုင်ကြပြီး တဘဝကုန်ဆုံးသွားပါသော် လူဖြစ်လာရကျိုး မရရှိရာကြတော့ချေ။ ဘယ်သို့သော ဒါန၊ဘယ်သို့သော သီလ၊ ဘယ်သို့သော ဘာဝနာမှု၊ မရှိကြဘဲ မှောင်ကြီးမဲမဲ၌သာ လူဖြစ်၍ အချည်းနှီးသော ဘဝကို ကုန်လွန်ရှာကြရပေတော့မည်။

### ဖြစ်နေရပုံများ

ယခု ဘဝတွင်လည်း လူချင်းတူတူ မစားရ၊ ဆားပါလျှင် မြိန်မြတ်သော အာဟာရ ထင်မှတ်လျက် ပိန်းဥ-မြောက်ဥ ပြောင်းဖူး-ဆပ်ဆံ ပဲရိုင်းတို့နှင့်တိရစ္ဆာန်သတ္တဝါတို့ကို သတ်၍ မီးမြှိုက်ခြင်း၊ကင်ခြင်းဖုတ်ခြင်း၊ ပြုတ်ခြင်းဖြင့် ခန္ဓာကို အသက်မွေးကာ နေ့စဉ်ကျွေးနေကြ၏။

ချမ်းသောဒေသဖြစ်လျက် စောင်လုံစွာမရှိ၊ မီးဖိုကို စောင်လုပ်၍ ခွေး-ဝက် ကြက်- ဆိတ်- နွားနောက် စသော တိရစ္ဆာန်တို့နှင့် ရောထွေးယှက်တင်လျက် မသန့်ရှင်းသော အိပ်ရာ၌ အိပ်ကြပြီး ကြမ်းတမ်း ပင်ပန်းသော တောတောင်ခရီးတို့ကို ခြေဖြင့်သာ သွားလာနေကြရ၏။

### သနားစဖွယ်

သို့ရာဘွင် ယခုဘာ လူချင်းမတူသော်လည်းသပြီးသော နောင်ဘာ အဘွက် ကောင်းကျိုးချမ်းသာ မျှော်လင့်ဘွယ် ရှိလေသလော့ ဟူမူ ဘာမျှမရှိချေ၊ သတ္တဝါ များစွာသော်၊ ယာဇ်နတ် ပူဇော်၍ ခေါင်ရေမူးကာပျော်မြူးကြပြီး တိရစ္ဆာန် ခေါင်းများ၊များအိမ်၌ ချိပ်ဆွဲထားရလျှင် များမြတ်သော ဂုဏ်ကြီးရှင် အဖြစ် ထုံးစံကြီးတခု လုပ်နေကြသောကြောင့် ထိုမကောင်းမှုတို့သည် ၎င်းတို့အတွက် အလွန် သနားဖွယ်ကောင်းသော အပါယ် ပဋိ သန္ဓေ ကျိုးတို့သာ တွေ့မြင် ရလေသည်။

### လူဖြစ်ကျိုးနပ်

သို့ကြောင့် ထိုမကောင်းသော ထုံးစံကို ပယ်ဖျောက်၍ တစ,တစဖြင့်မွန်မြတ်သော ဗုဒ္ဓဝါဒီတရား အလေ့ကိုသွင်းပေးရလျှင် ယခုဘဝ၌လည်း မကောင်းမှုဖျောက်ရာ၏၊ အကာယ်၍ လုံးဝမပျောက်စေကာမူ အကုသိုလ်မှ နည်းပါးနိုင်ရာ၏။ မနည်းပါးစေကာ မကောင်းမှုကို မကောင်းမှုဟူ၍သိလျှင် ကောင်းမှုတရား ရှိကြောင်း ဤဘဝ နောင်ဘဝ ဆိုတာရှိကြောင်း မိမိပြုသောအမှုသည် မိမိသာ ခံရကြောင်း ဟောပြ၍ နားထောင်ရလျှင် ၎င်းတို့အဘို့တွင် လူဖြစ်ကျိုးနပ်ကြပေပြီဟု ယူဆရပေသည်။ ဝမ်းမြောက်ရသော အလုပ်ကောင်းဖြစ်၏။

သံသရာသည် နိဗ္ဗာန်မရောက်မခြင်း ကျဉ်လည်ကြရဦးမည်ပင်ဖြစ်ရာ ကိုယ့်ဘဝကိုယ် ဖန်တီးတတ်သူလည်းရှိ၏။မဖန်တီးတတ်သူလည်းရှိ၏။ ထို ၂ မျိုးတွင် သူတပါး ပြုပြင် ဖန်တီးပေးမှ ကောင်းရာရောက်ကြမည့် သတ္တဝါတို့က များပေရာ တောင်တန်းသားတို့သည်အားလုံးဖန်တီးပေးသူရှိမှလူဖြစ်ကျိုး နပ်ကြမည်သူချည်းဖြစ်လေသည်။

ဤကဲ့သို့ မြတ်သောတရားသဘော အိုခြင်း၊နာခြင်း၊ သေခြင်းသဘော၊ကုသိုလ်ကံ၊ အကုသိုလ်ကံ သဘောတို့ကို သိရန် ဓါတ်ခံ ပါသွားလျှင် ၎င်းဘို့၏ ဘဝ ပေါင်း များစွာ ချမ်းသာကြောင်းနှင့် နိဗ္ဗာန် ချမ်းသာ ရကြောင်းအထိ ပါရမီ ဗီဇမျိုးများ ဖြစ်ကြ လေသောကြောင့် လောကုတ္တရာ အကျိုးဟူ၍ ဆိုရလေသည်၊

### ၁၈-နှစ်တို့ ပတ်လုံး

ယခုအခါ ဘောင်တန်းသာသနာပြုအဖွဲ့ကြီး တခု ဖွဲ့စည်း၍ တောင်တန်းများကို သာသနာ ပြုခဲ့ကြရာ အောင်မြင်သလောက်ကား အောင်မြင်ပြီဟုဆိုရပေမည်၊ သို့ရာတွင် ကျယ်ပြန့်သော တောင်တန်းကြီး တို့နှင့် ထောက်စာလျှင် အစပျိုးရုံသာ ရှိသေး၏။ အလုပ်ကား ပြောသလောက် မလွယ်လှ၊ လက်တွေ့မှာ မနည်းစိတ်ရှည်ရသောအလုပ် ဖြစ်၏။ ဤစာရေးသူသည် တောင်တန်း နယ်ကိုစတင်တက်ခဲ့သောနှစ်မှာ ယနေ့ထိ (၁၈) နှစ် တိုင်တိုင်ရှိခဲ့လေပြီ။ပင်ပန်းသည်ဟု သဘော မထားနိုင်ဘဲဘောင်တန်းသားဘို့ကိုမြင်ရဘိုင်းသနားစိတ်က ပိုကဲ၍ နေတော့သည်။

မြန်မာ ပြည်ကား တောင်ကြီးဘို့ဖြင့်

စာမျက်နှာ ၁၈ တတိယကော်လံသို့ ဆက်ကြည့်ပါ။

### ပျံလွန်တော်မူသည့် အနောက်ပိုင်းဝိနည်းဓရ်ရှိ အရှင်ဝါသဝါဘိဝံသ



အရှင်ဝါသဝါဘိဝံသသည် ပြည်စီရင်စုရွှေတောင်မြို့ အနိုင် လေးတောင့် ကန်ရွာကြီး၌ ကျောင်းဒါယကာ ဦးပန်းအေး ဒေါ်နှင်းသာ တို့မှ ၁၂၆၂ ခုနှစ်ပြာသိုလ်ဆန်း ၁၄ ရက်နေ့တွင် ဘွားမြင် တော်မူခဲ့သော ဆရာတော်ဖြစ်လေသည်။

ငယ်မည်မောင်ထွယ်ဖြစ်၍ကျောင်းသားအဖြစ် သာမဏေ အဖြစ်များဖြင့် လေးတောင့်ကန် ကျောင်း၌ နေထိုင် ခဲ့ပြီးလျှင် ၁၃ နှစ်သားအရွယ်၌ ရန်ကုန်မြို့ နော်မံကျောင်းတိုက်ကြီးတွင် ရွှေ့ပြောင်း၍ပညာများသင် ကြားခဲ့လေသည်။

၎င်းနောက် ကြည့်မြင်တိုင် ဝေဠုဝန်ဆရာ တော်ကြီးထံသို့ ကြွရောက်၍ ဝညာများကို သင်ကြားကာ ၁၉ နှစ် အရွယ်သူငွေးဦးအုံ့ ဒေါ်ဖွားတုတ် တို့ကို ဒါယကာပြု၍ ရဟန်းတက်ခဲ့လေသည်။ ၂ ဝါ အရတွင် အမျိုးသား ပရိယတ္တိ စာမေးပွဲ အငယ် အလတ်တို့ကို အောင်မြင် တော်ခဲ့၏။၎င်းနောက် မန္တလေးမြို့ မစိုးရိမ်တိုက်သို့ ကြွရောက်၍ ပညာသင်ကြား တော်မူပြန်လေသည်။

၎င်းနောက် ကြည့်မြင်တိုင် ဝေဠုဝန်ကျောင်းတိုက်သို့ ပြန်ကြွကာ စေတီယင်ဏ ဓမ္မာစရိယ အတန်းကို အောင်မြင်တော်မူခဲ့ လေသည်။ဝေဠုဝန်တိုက် နာယကစာချအဖြစ်နှင့်၎င်း၊ စေတီယင်ဏ သြဝါဒါစရိယအဖြစ်နှင့်၎င်း၊ အနောက်ပိုင်းဝိနည်းဓိုရ် ဆရာတော်ဘပါး အဖြစ်နှင့်၎င်း ဆောင်ရွက်တော်မူနေစဉ် အတွင်း ၁၃၁၅ ခု ဒုတိယ ဝါဆိုလ္ဆန်း ၁၅ ရက် တနင်္လာနေ့ဘွင် ပျံလွန်တော်မူခဲ့လေသည်။

## ဆဋ္ဌသံဂါယနာလိုက်ဘူကြီးအတွက်
# ကုသိုလ်ပါဝင်ကြသူများ

ယခင် တပတ်မှ အဆက်

၃၅။ ရန်ကုန်မြို့ ကုတ်ကိုင်း ပန်းဆိုးဆရာ ဦးလှမောင်-က ၅၀ိ။

၃၆။ တွံတေးမြို့ အုန်းပင်စုရပ်၊ ဦး အောင်ရှိန်-ဒေါ်သန်းတို့က ၁၀ိ။

၃၇။ ရန်ကုန်မြို့ ရွှေဂုံတိုင်ရပ် ကုန်သည် ကိုချို သို့၊မခင်ရွှေနှင့်မြေးများကအိမ်တွင်း ဘိုးတော်ကြီးကို အမှူးထား၍ ၃၀ိ။

၃၈။ ရန်ကုန်မြို့ ၁၁၉-၅၁ လမ်း ဗိုလ်ကြီး ခင်သိန်း၊ စစ်ရုံးအုပ် ဗိုလ်လှခင် နှင့်နှမ မအေမာလေးတို့က (ကွယ်လွန်သူ မိဘများဖြစ်သည့် ဆန်စပါးကုန်သည်ကြီး ဦးကြီးညို-ဒေါ်မြမေတို့အတွက်) ၃၀၀ိ။

၃၉။ ရန်ကုန်မြို့ နယ်ယဲ့စာပုံနှိပ်တိုက်နှင့် စာပေဖြန့်ချိရေးဌာန ပိုင်ရှင် ဦးအုန်းဖေ (တက်တိုး) ဒေါ်နှဲယဉ် (နယဉ်) နှင့် သားသမီးတစုတို့က ၅၀ိ။

၄၀။ ချောက်မြို့ ဓာတ်ဝတီအလုပ်သမား မှူး ကိုသိန်းမောင်က ၁၅ိ။

၄၁။ ဟသ်ာတ ဈေးကြီး အမြင်တန်း အထည် ဆိုင်ရှင် မောင်မှတ်ကြီး-မတင် တို့က ၁ိ။

၄၂။ ဟသ်ာတခရိုင် ဒန္တ စာတိုက် ကွက်သစ်ရပ် ဦးနှင်း- ဒေါ်မှင် သား မောင်သန်းရှိန် သားသမီးတစုတို့က ၃၀ိ။

၄၃။ ဟသ်ာတ ခရိုင် ဒန္တ စာတိုက် ကွက်သစ်ရပ် ၊မောင်ရေဝင်း- မမြင့်မြင့် သားသမီးတစုတို့က ၁၅ိ။

၄၄။ အောင်ပန်းမြို့ စိန်-ရွှေ-ကျောက် ရတနာကုန်သည်ဦးလွန်းတင်-ဒေါ်ဌေးမို့ သားသမီးတစုတို့က ၁၅ိ။

၄၅။ မြောင်းမြမြို့ အမှတ်-(၁) နိုင်ငံ တော်အလယ်တန်းကျောင်းဆရာ ဆရာမ များနှင့် ကျောင်းသား ကျောင်းသူ တို့က ၁၂၅ိ။

၄၆။ ၁၃၀-လမ်း အိမ်နံပါတ် ၃၆-နေ ဒေါ်ဗျိုင်းက ၅ိ။

၄၇။ ရန်ကုန်မြို့ ၂၃ဒုဦးဝိစာရလမ်း အငြိမ်းစား ကျောင်းဆရာကြီး ဦးဘသင် ဒေါ်သိန်းရင်သားသမီးတစုတို့က ၂၀ိ။

၄၈။ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၊ ရုံးနှင့် မြန်မာဘာသာပြန်ဌာန၊ပုံနှိပ်ဌာန ဗုဒ္ဓဝင်ဌာနတို့မှ အမှုထမ်း အရာထမ်းတို့ က ပဌမ အကြိမ် ၄၇၉ိ။

၄၉။ မန္တလေးမြို့ ဒါးတန်းရပ်ဒေါ် သိန်းက ၆၀ိ။

၅၀။ မန္တလေးမြို့ ဒါးတန်းရင်၊ မကျင်းသန်းက ၁၈ိ။

၅၁။ မန္တလေးမြို့ ဒါးတန်းရပ် ညွန့် ညွန့်က ၁၅ိ။

၅၂။ မန္တလေးမြို့ ဒါးတန်းရပ်ဒေါ် သန်းသန်းက ၅ိ။

၅၃။ မန္တလေးမြို့ ဒါးတန်းရပ် ဒေါ် အေးခင်က ၂ိ

၅၄။ မန္တလေးမြို့ ဒါးတန်းရပ်တွေး ထွေးက ၂ိ

၅၅။ မန္တလေးမြို့ ဒါးတန်းရပ် မလှ ကြီးက ၂ိ

၅၆။ ဆင်ဖြူကျွန်းမြို့ ဘိုးတော်တ စည်များက ၅၀၀ိ

၅၇။ ဖျာပုံမြို့ မြင်းခြံလမ်း ကုန်သည် ဦးကျင်မောင် ဒေါ်မြမြတို့က ၆ိ။

၅၈။ ငွေဦလာမြို့ အမှတ် ၂ဆောက် လုပ်ရေး အင်ဂျင်နီယာတပ်ခွဲ စာရေး မောင်ခန့်က ၁ိ။

၅၉။ ကျုံမငေးမြို့ အုန်းပင်ဘက် အောက်ပိုင်းရပ်ကွက် ဦးဘတင်နှင့် ရပ် ကွက်နေသူများက ၁၇၇ိ။

၆၀။ ဟံသာဝတီခရိုင် ကွမ်းခြံကုန်း မြို့နယ် မှတ်ကျွန်း သဲကုန်းတန်းရွာ ဒါ ယကာဒါယိကာမ အပေါင်းတို့က၁၅ိ။

၆၁။ ကောလင်းမြို့ပင်စင်ရတ်ရဲ့ဌာန် အင်စပိတ်တော် ဦးဘကြူ ဒေါ်ညိုတို့က ၁၆ိ။

၆၂။ မန္တလေးမြို့ နန်းတွင်း တင်မ တော် အမှတ် ၂ စစ်ကြောရေးအဖွဲ့က ၂၅ိ။

၆၃။ ပျဉ်းမနားမြို့ ဈေးအရှေ့ဘက် ကုန်သည် ဒေါ်ကျင်လှိုင် သား မောင် အောင်လွင်, မောင်မြင့်အောင်, မောင် အောင်မြင့်လှိုင်, မသန်းသန်း, မမြသွေး, ညြိုညိုလင်းတို့က ၁၅ိ။

၆၄။ ပျဉ်းမနားမြို့ ဈေးအရှေ့ဘက် ကုန်သည် မသန်းသန်းက ၁ိ။

၆၅။ ပျဉ်းမနားမြို့ ဈေးအတွင်း ကုန်သည် ဒေါ်မိသွီး မအေးခင်၏သား မောင်ကြည်စိန်,သန်းသန်းဘို့က ၅ိ။

၆၆။ ပျဉ်းမနားမြို့ ဈေးအရှေ့ဘက် ကိုဘအေး,မစိန်သားမြေးတစုတို့က ၅ိ။

၆၇။ ပျဉ်းမနားမြို့ လက်ပန်ခါ၊ လှရွာ ဦး ဘိုး လွှန်း နှင့် မြေး မောင် မိုး မောင်ဘိုးတို့ က ၁ိ။

၆၈ ပျဉ်းမနားမြို့ ကြီးအင်ရွာ ဦးပွင့် ဒေါ်အေးနွယ် သားရမောင်မှတ်မောင်ချို သို့ မ ဆယ်တင် မ ကျင် ငြိုင် မဂုန်း တို့က ၁ိ။

၆၉ ပျဉ်းမနားမြို့ အားလှပ်စစ် ဓါတ်ပုံ တိုက် မောင် အောင် လွင် မခင် ညွန့် တို့က ၅ိ။

၇၀ ပျဉ်းမနားမြို့ ဈေးအတွင်း ကုန် သည်မောင်စိန် မသိန်းတို့က ၂၅ိ။

၇၁ ပျဉ်းမနားမြို့ ကြားအင်းရွာ ဦးဘိုး တုတ် သား ကို မောင် လေး မကြည် တို့က ၅ိ။

၇၂ ဖျာပုံမြို့မကျည်းတန်းဦးခံရေးလမ်း ကုန်သည်ဦးဘိုးဆင် ဒေါ်စောမေ သား သမီးတစုတို့က ၄၈ိ။

၇၃။ ဖျာပုံမြို့ မကျည်းတုန်း ကုန်သည် ဒေါ်ငွေသားသမီးတစုတို့က ၂၅ိ။

၇၄။ ရန်ကုန်မြို့ကြည့်မြင်တိုင် ငွေမျှင် ရပ်ကွက် သဟာယ ကာရီ အဖွဲ့ဝင် များက ၅၀ိ။

၇၅။ မန္တလေးမြို့ ကွယ်လွန်သူဦးသိမ်း ဘိုးအေး အားရည်စူး၍ ပင်စင်စား သစ် တောဝန် ဦးမောင်မောင်ကျော် ကေ အက်စ် အင် အေတီ အမ် ၏သမီး မင်းက တော်ဒေါ်ခင်ခင်အေးက ၅၀ိ။

ဆက်လက်ဖော်ပြမည်။

## နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ
# ပဋိပတ္တိဌာနများကို ထောက်ပံ့ခဲ့ပုံ

၁၉၅၃-၃၊ ဇန်နဝါရီလ ၂၈ ရက် နေ့မှ ၁၉၅၃-၃ ဇူလိုင်လ ၂၂ ရက်နေ့ အထိ ၆ လ အတောအတွင်း၊ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ မြန်မာနိုင်ငံအရပ် ရပ်ရှိ ပဋိပတ္တိဌာနများသို့ ထောက်ပံ့ပြီး သော ကမ္မဋ္ဌာန်းဌာနများမှာ အောက် ပါအတိုင်း ဖြစ်လေသည်။

### သံတွဲခရိုင်

၁။ (ခ) သတိပဋ္ဌာန်း သာသနာ့ ရိပ်သာ ကင်းမော်ရွာ သံတွဲ။

၂။ (ခ) ပဋိပတ္တိ လုပ်ငန်းဌာန လေးမျက်နှာတောင်ကုန်း ပရိတ် ကျောင်း သံတွဲခရိုင်။

၃။ (ဃ) အောက်နန်းချောင် ပဋိ ပတ္တိ လုပ်ငန်းဌာန အောက်နန်း ချောင်ရွာ သံတွဲခရိုင်။

၄။ (ဂ) မြပြင် ဝိပဿနာအဖွဲ့ မြပြင်ရွာ သံတွဲ။

၅။ (ဂ) မင်္ဂလာသုခ ကမ္မဋ္ဌာန်း ဌာန မင်္ဂလာသုခကျောင်းလင်း သာရွာ သံတွဲ။

### သာယာဝတီ

၁။ (က) သဒ္ဓမ္မပါလ ဆရာတော် ကမ္မဋ္ဌာန်းဌာန လက်ပတန်း။

---

### တောင်တန်း သာသနာပြုလုပ်ငန်းမှ အဆက်။

သာ ရှိုင်းရ နေသောကြောင့် အနာ ဂတ် ချမ်းမြရေးသည် တောင်တန်းသား တို့နှင့် ဘာသာ တူညီရေးပင်ဖြစ်ရာ၍မွန် မြတ်သော တိုင်းရင်းဗုဒ္ဓဘာသာ သာသ နာပြုရေးသည် သတ္တဝါအများတို့၏ ချမ်း သာမှုအတွက် အကောင်းဆုံးသော ဖန် တီးမှုကြီးဖြစ်လေသည်။

### အားပေးကူညီကြပါ

ချင်းတောင် မြောက်ပိုင်း၊ တောင် ပိုင်း၊ ရခိုင်ရိုးမတောင်၊ နာဂတောင်၊ ကချင်တောင်၊ ကယားပြည်တောင်လဝ၊ မလူး၊ အဇီ၊ လီးရှော၊ ချင်းနူ၊ ပအိုဝ်း စ သည်ဖြင့် အလွန်များပြားသော တိုင်းရင်း သားတို့အား ကရုဏာထားကာမြင့်လူရော ရဟန်း သံဃာတော်တို့ကပါ မိမိတို့တတ် နိုင်ရာက ဝင်ရောက်အားပေးကူညီကြရန် လိုပါသေးသည်။၎င်းအလုပ်ကား သေးငယ် သောအလုပ်မဟုတ်ချေ၊ များများစဉ်းစား မှ တကယ်အရေးကြီးကြောင်း နားလည် ပေလိမ့်မည်။ ထိုကြောင့် စိတ်ဝင်စားစွာ နှင့် ကိုယ်ထိလက်ရောက် ကြိုးစားသူက ကြိုးစား၍ တတ်နိုင်ရာက အားပေးကူ ညီကြပါမည့်အကြောင်း မေတ္တာဖြင့်ညွှန် ကြားရပါသတည်း။

သတ္တဝါအားလုံး ကိုယ်စိတ် ၂ ဖြာ ချမ်းသာကြပါစေ။

ဆရာတော် ဦးဥတ္တမသာရ
တောင်တန်းနယ်ခြား
သာသနာပြုခေါင်းဆောင်
ဖလမ်းမြို့ ချင်းတောင်

---

၂။ (က) ပေါက်ဘောစုကမ္မဋ္ဌာန်း ဌာန လက်ပတန်း။

၃။ (ဃ) ပဋိပတ္တိသာသနာ့ ဟိတ အသင်း၊ ရွှေကျောင်းတိုက် ကြို ပင်ကောက်မြို့။

### ရန်ကုန်

၁။ (က) မင်းကွန်းဇေတဝန်ဆရာ တော် ကမ္မဋ္ဌာန်းဌာန လောင်း ဝ(စ်)လမ်း ရန်ကုန်။

၂။ (က) ဇင်ပြွန်းကုန်းဆရာတော် ကမ္မဋ္ဌာန်း ဌာန ဟံသာဝတီ ကွက်သစ် ရန်ကုန်၊

၃။ (က)သာသနာ့ရိပ်သာ ကမ္မဋ္ဌာန်း ဌာန ဟာမစ်တစ်လမ်း ကုတ် ကိုင်း ရန်ကုန်၊

၄။ (က) ဥာဏစာရီ ဆရာတော် ကမ္မဋ္ဌာန်း ဌာနရှစ်မိုင်မရမ်းကုန်း ရန်ကုန်၊

၅။ (က) သာသနာ့ မဟိ အောင် ကမ္မဋ္ဌာန်းဌာန ကမာရွတ်။

၆။ (က) အရှင် အာဒိစ္စ ဝံသ ကျောင်း၊ ကမ္မဋ္ဌာန်းဌာန ပုဇွန် တောင် ရန်ကုန်။

၇။ (က) ကျွန်းတော ကျောင်း ကမ္မဋ္ဌာန်းဌာန ကျွန်းတော်လမ်း ကြည့်မြင်တိုင် ရန်ကုန်။

### အင်းစိန်

၁။ (က) ဦးဇေယျသေန ဆရာ တော်ကမ္မဋ္ဌာန်းဌာန ဥက္ကံမြို့။

### ပြည်

၁။ (က) နိမ္မိန္ဓတေရ ကမ္မဋ္ဌာန်း ဌာန ပြည်။

၂။ (က) အင်ကြင်းမြောင် ကမ္မ ဋ္ဌာန်းဌာန ပြည်မြို့နှင့် အရှေ့ တောင် သုံးမိုင်ခန့်ကွာဝေး

### တောင်ငူ

၁။ (ဂ) တောင်ငူရိပ်သာ ရွှေ ဝန်ဘိုက် တောင်ငူမြို့။

### ပုသိမ်

၁။ (ဃ) ရေဘုမ္မိက မဟာသ တိပဋ္ဌာန်ကျောင်းတိုက် ဘုရား ကြီးကုန်း အရှေ့ပိုင်း ပုသိမ်မြို့။

### ဟသ်ာတ

၁။ (က) ပဋိ ပတ္တိ လုပ်ငန်းဌာန လယ်တီကျောင်း သပြေကုန်းရွာ မြန်အောင်နယ် ဟသ်ာတခရိုင်။

၂။ (ဂ) ပခန်းကျောင်း၊ ဝိပဿနာ သာသနာ့အဖွဲ့ ဟသ်ာတခရိုင်။

၃။ (ဃ) လေးမျက်နှာ သာသနာ့ ရိပ်သာ လေးမျက်နှာ ရပ်ကွက် ဥမ္မာဒန္တီ ဘုရားကြီးအတွင်း မြန် အောင်မြို့။

### ဖျာပုံ

၁။ (ဂ) ကမ္မဋ္ဌာန်းဌာန ယောဂီ အဖွဲ့ အရှောက် ကျောင်းတိုက် ဖျာပုံမြို့။

# ပါကစ္စတန်မှ ဗုဒ္ဓဘာသာများ

## ဗုဒ္ဓဘာသာ ဘုရားကျောင်း ဆောက်ရန် စိုင်းပြင်းနေကြခြင်း

(ပါကစ္စတန် မြန်ကြားရေးဌာနမှ)

ယခုနှစ် မေလ ၂၇ ရက်နေ့က အရှေ့ပါကစ္စတန်ပြည်၏ ဒက္ကားမြို့တော်ရှိ ဗုဒ္ဓဘာသာဝင် အပေါင်းတို့သည် ဗုဒ္ဓနေ့ အထိမ်းအမှတ်ကို သိုက်မြိုက်စည်ကားစွာ ကျင်းပ ကြကြောင်း။ ဗုဒ္ဓဘာသာဝင် ယောက်ျားမိန်းမ ကလေး လူကြီးအများ အပြားတက်ရောက်ကြပြီး မြန်မာကောင်စစ်ဝန်နှင့်၎င်း၏အတွင်းဝန်တို့သည်းဘက် ရောက်ကြကြောင်း။ ပထမဦးစွာ ဗုဒ္ဓရှင်တော်ဘုရားအား ပန်းချားလှူဒါန်းပြီးအစီအစဉ်စတင်၍ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် ဆုမွန်ကောင်းများ တောင်းကြကြောင်း။ ၎င်းနောက် ဂေါတမဗုဒ္ဓရှင်ဘော်ဘုရား၏ တရား ဒေသနာတော်ကို လေးလေးနက်နက် စဉ်းစား ဆွေးနွေးကြကြောင်း။

ထိုပြည်နယ်တွင် ဗုဒ္ဓဘာသာသက်ဝင် ယုံကြည်သူများ ၃ သိန်းခန့်ရှိရာ ချစ်တကောင်းခရိုင် စစ်တကောင်းတောင်တန်းဒေသများ၊ တရိပ္ပုရ၊ နဝါခါလီနှင့် ဘာကရ်ဂန်နယ်များတွင် နေထိုင်ကြကြောင်း ဒက္ကား တက္ကသိုလ်ကြီးတွင် ဗုဒ္ဓဘာသာ ကျောင်းသားပေါင်း ၆၀ ခန့်ရှိ၍အင်ဂျင်နီယာ၊ ဆေးပညာစသည်ဖြင့် အသီးသီးပညာရပ်များကိုဆည်းပူးနေကြကြောင်း။ ၎င်းတို့သည် အသင်းတသင်းဖွဲ့စည်းထားပြီး တက္ကသိုလ်အတွင်း၌ ဗုဒ္ဓဘာသာ ဘုရားရှိခိုးကျောင်းဆောက်လုပ်ရန်စိုင်းပြင်းနေကြကြောင်း၊ အရှေ့ပါကစ္စတန် ဝန်ကြီးချုပ်က ၎င်းအသင်း၏ နာယကချုပ်ဖြစ်၍ အစိုးရကဗုဒ္ဓဘာသာဝင်များအား ငွေ ၁၀၁၀၀ိ လှူဒါန်းခြင်းပြုကြောင်း။

---

### လိုက်ဂူကြီးအတွက်

# လုပ်အားလှူပွဲ

၃၀–၈–၅၃ နေ့နံနက် ၁၁ နာရီအချိန်တွင် လမ်းမတော် တိုက်နယ် ဖ-ဆ-ပ-လ အဖွဲ့မှကြီးမှူး၍ အမျိုးသမီးအမျိုးသား ၆၀၀၀ ကျော်ပါဝင်သော ကုသိုလ်ရှင်များသည် ဆဋ္ဌသင်္ဂါယနာတင် လိုက်ဂူတော် တည်ဆောက်ရာသို့ မော်တော်ကားအင်းပေါင်း ၂၀၀ ကျော်ဖြင့် အိုးစည်ဗုံမောင်းများတီးကာ လာရောက်ကြပြီး လုပ်အားလှူဒါန်းကြကြောင်း။

ကုသိုလ်ရှင်များအား ဝန်ကြီးချုပ်ကတော် ဒေါ်မြရီ၊ ပင်လုံဒေါ်နုရင်နှင့် ဒေါ်ကြည်ကြည်တို့ကြီးမှူးသော အမျိုးသမီးအဖွဲ့မှ အစား အသောက်များဖြင့် ကျွေးမွေးဧည့်ခံကြောင်း။

အဆိုပါ လုပ်အားလှူပွဲသို့ နိုင်ငံတော်ဝန်ကြီးချုပ်ဦးနု၊ အမျိုးသား စီမံကိန်းနှင့် သာသနာရေးဝန်ကြီး ဦးဝင်း၊ ပြည်ထဲရေးဝန်ကြီး ဗိုလ်ခင်မောင်ကလေးနှင့် စက်မှုလက်မှု ဝန်ကြီး ဦးကျော်ငြိမ်းတို့ လာရောက်ကာ သာဓုအနုမောဒနာပြုကြသည်ကိုတွေ့ရှိရကြောင်း။

---

# ဇီဝိတဒါနကုသိုလ်ရှင် ဒေါက်တာမြင့်ဆွေ

ရန်ကုန်မြို့၊ သာသနာ့ရိပ်သာ (ဗုဒ္ဓဘာသာအဖွဲ့ရုံးတည်ရာ) အဆောက်အဦ၌ဆေးခန်းတခုဖွင့်လှစ်ထားရာ ဒေါက်တာ ဦးမြင့်ဆွေ ( အမ်-ဘီ-ဘီ-အက်စ် ) သည် အကျိုးဆောင်ဆရာဝန်အဖြစ်ဖြင့် လက်ထောက် ၂ ဦးတို့နှင့်တကွ တနင်္လာနေ့နှင့်သောကြာနေ့တိုင်း နေ့လည် ၁၂ နာရီမိနစ်၃၀မှ၊ ၂ ရီမိနစ်၃၀အထိလူနာများကို လာရောက် စစ်ဆေးကုသခဲ့လေသည်။

သာသနာ့ရိပ်သာ ဘုန်းတော်ကြီးများ၊ ယောဂီဒါယကာများ၊ ဒါယိကာမများ၊သီလရှင်များနှင့် ဗုဒ္ဓသာသနာအဖွဲ့ ရုံးသူ ရုံးသားများအား ဇီဝိတဒါနကုသိုလ်ထူးကို အရယူရန် စိတ်အားထက်သန်စွာဖြင့် ရောဂါများကို စစ်ဆေးခြင်း၊ ဆေးပေးခြင်း၊ ဆေးထိုးခြင်း၊ စသော တာဝန်များကို ဆောင်ရွက်ခဲ့လေသည်။

၁၉၅၃-ခု၊ မေလမှဇူလိုင်လအထိ ဘုန်းတော်ကြီးပေါင်း ၂၃၄၊ သီလရှင်နှင့်ယောဂီပေါင်း ၅၅၊ ဗုဒ္ဓသာသနာ အဖွဲ့သားပေါင်း ၅၁၅၊ (အဒုဒု-၀၀၄) ဦးတို့အား ကုသခဲ့ပြီး ဖြစ်လေသည်။

—၀.....



ဒေါက်တာ ဦးမြင့်ဆွေသည် အရှင်ဘုရားဘွဲ့တော်အမိန့်ရှိပါ ဘုရား စသည်ဖြင့်လျှောက်ထားကာစစ်ဆေး၍ စာရင်းတင်နေပုံ



ဦးမြင့်ဆွေ၏လက်ထောက်နှစ်ဦးတို့ကလည်းလုပ်ငန်းနှင့်လိုက်လျောစွာ စိတ်ရှည်လက်ရှည် ဤသို့



ကဲ— လက်ကလေး နဲနဲဆုပ်ထားဘုရားနော် စသည်ဖြင့် ချိုသာစွာ လျှောက်ထားကာ ဆေးထိုးနေပုံဖြစ်လေသည်

# ကမ္ဘာ့ဗုဒ္ဓဘာသာလျော့သော်ငြား
## အနှစ်(၄၀၀)အတွင်း လူနည်းစုဖြစ်လာမည်

ကမ္ဘာပေါ်တွင် ဗုဒ္ဓဘာသာကို သက်ဝင်ယုံကြည်ကြသော ဗုဒ္ဓဘာသာဝင် ဦးရေသည် သန်းပေါင်း ၆၅၀ ရှိရာ၊ ၅ ပုံ တပုံ ပို၍များပြားလာသည်ဟု ဒုတိယ အကြိမ် ဂျပန်ပြည် ဗုဒ္ဓဘာသာညီလာခံကြီးသို့ တက်ရောက်ခဲ့သော မြန်မာ နိုင်ငံမှ ကိုယ်စားလှယ် ဦးသာဝင်းက အသံလွှင့်ခဲ့သည်၊

ကမ္ဘာပေါ်တွင် ဗုဒ္ဓဘာသာဝင် ဦးရေသည် တိုးတက်နေသည် ဆိုသော်လည်း မြန်မာနိုင်ငံရှိ ဗုဒ္ဓဘာသာဝင်ဦးရေမှာ တဖြည်းဖြည်း ဆုတ်ယုတ်နေသည်မှာ ဝမ်းနည်းဘွယ် ကောင်းပေတော့သည်။ ဦးသာဝင်း၏ အသံလွှင့်ချက်အရဆိုလျှင် ၁၈၉၁ခုနှစ်၊ မြန်မာပြည်ကို အင်္ဂလိပ် ဘုရင်ခံချုပ် လက်အောက်မှာထားရှိစဉ်က လူဦးရေ၁၂ သန်းကျော်တွင် ဗုဒ္ဓဘာသာဝင် ဦးရေမှာ ရာခိုင်နှုန်း ၉၁ ကျော်ရှိသည်၊ နောက် ၁၉၃၁ ခုနှစ်ကျသောအခါ လူဦးရေ ၁၄ သန်းခွဲကျော်ရှိသည့်အနက် ဗုဒ္ဓဘာသာဝင်ဦးရေမှာ ၈၄ရာခိုင်နှုန်းသာရှိလေတော့သည်။

သို့ဖြစ်၍ အနှစ် ၄၀ အတွင်းဗုဒ္ဓဘာသာဦးရေသည် ၆ ရာခိုင်နှုန်းကျော်လျော့နည်းသွားလျှင် အနှစ် ၄၀၀ကြာသော် ဗုဒ္ဓဘာသာများသည် လူနည်းစုဖြစ်လာရန် အကြောင်းရှိလိမ့်မည်ဟု ဦးသာဝင်းက တွက်ချက်ပြသ အသံလွှင့်သွားသည်ကိုသတိပြုမိပေသည်၊

ဦးသာဝင်း၏စာရင်းများကိုယုံကြည်ရောရှိလျှင် ဗုဒ္ဓဘာသာဦးရေလျော့နည်းဘေးကို လျစ်လျူရှု၍မနေသင့်ပေ။ မြန်မာနိုင်ငံတွင် ဗုဒ္ဓဘာသာဦးရေ လျော့နည်းမည့်ဘေးမှ ကာကွယ်ရန်မှာ မှုမှန်သော ဗုဒ္ဓဘာသာကျောင်းစာများ ထွက်ရှိရေးပင်ဖြစ်သည်။ တကျောင်းတဂါထာ တရွာ တပုဒ်ဆန်းဆိုသော စကားကဲ့သို့ ဂိုဏ်းဂဏများ ပေါများ နေလျှင်လည်း ဗုဒ္ဓဘာသာကို ထိခိုက်စေတတ်သည်။

သို့ဖြစ်၍ ဗုဒ္ဓဘာသာဝင်အပေါင်းတို့သည် တခုတည်းသောကျမ်းကိုအမှီပြုနိုင်ကြဘို့။ တခုတည်းသော ဗုဒ္ဓစကားကိုအကိုးအကားပြုနိုင်ကြဘို့။ တခုတည်းသော ဂိုဏ်းအောက်တွင်နေကြဘို့ရာစီမံရန်သင့်ပေပြီ။ မြန်မာနိုင်ငံတွင် ကျင်းပလတ္တံ့သော ကမ္ဘာ့ဗုဒ္ဓဘာသာညီလာခံကြီးသည် အထက်ပေါ်ပြပါဘေးကိုတွန်းလှန်နိုင်ရန် တရုံတရာထိရောက်စွာ ဆွေးနွေးတိုင်ပင်စီစဉ်ဆုံးဖြတ်နိုင်ကြပါစေရန် ဆုတောင်းလိုက်ရပေသည်။

(မြန်မာ့အလင်းမှရသည်)

....ဝ ...

## ပဋိစ္စသမုပ္ပါဒ် တရားတော်ဆောင်ပုဒ်

အပုန်မသွား အမှားပြင်ကာ အဝိဇ္ဇာကြောင့်၊ ချမ်းသာလိမ့်နိုးရည်မျှော်ကိုးလျက်၊ သုံးမျိုးမှုကံ၊ ပြုစီမံ၍၊ ဝိညာဏ်ထွယ်စပ် နာမ်ရုပ်ကပ်လျက် ခြောက်ရပ်အာယတန၊ ဖဿခြောက်ဖြာဝေဒနာကြောင့် တဏှာခြောက်တန်၊ ဥပါဒါန်နှင့်၊ ဖြစ်ရန်အကြောင်း၊ ကံဆင့်လောင်း၍၊ ဆိုးကောင်းဘဝ၊ ဖြစ်ရပြန်ရာ အိုနာသေရေး၊ ပူအဆွေးနှင့်၊ ငိုကြွေးကိုယ်နွမ်း၊ စိတ်မချမ်းမြဲ၊ ဤပြန်ရသည် လုံးဝဆင်းရဲစုသာတည်း။ (မဟာဝည်ဆရာတော်၊

## သံဂါယနာစာစောင်
## စာတည်းအဖွဲ့

(၁)
ပြန်ကြားရေးဌာနဝန်ကြီး
ဦးထွန်းဝင်း။

(၂)
နိုင်ငံတော်ရှေ့နေချုပ်ကြီး
ဦးချန်ထွန်း။

(၃)
တရားဌာနအတွင်းဝန်ဟောင်း
စည်သူဦး၊ စံညွန့်။

(၄)
ပြန်ကြားရေးဌာနအတွင်းဝန်
သီရိပျံ့ချီဦးသန့်။

(၅)
ပြန်ကြားရေးဌာန ညွှန်ကြားရေးဝန်
ဝဏ္ဏကျော်ထင်ဦးယော(ဖေယျ)
အယ်ဒီတာ ဦးသာတင်။



မန္တလေးမြို့—ပဋ္ဌမသံဂါယနာတင်ကျောက်စာတော်များ

နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့မှထုတ်ဝေသည်။ တယ်လီဖုံး—မြောက်(၃၉၂)၊ သာသနာ့ရိပ်သာ၊ ကံ့တံကိုင်း၊ ရန်ကုန်။

ဗ-တ-လ-စ ပုံနှိပ်တိုက်တွင်ရိုက်နှိပ်သည်။



ဇေယျာလက်ဆောင်
နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့။

# သံဃါယနာ

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှလစဉ်ထုတ်ဝေသည်။အတွဲ-၁၊အမှတ်—၆၊၁၃၁၅-ခု၊တော်သလင်းလ(၂၃-၉-၅၃)

## ဆံမွေတုန်းခေါင်၊ မိတည်းနောင်



### ပထမ နဂဒေးကြီး၏ ပြည်မြို့ ရွှေဆံတော်ဘုရားတိုင် ရတု

၁။ ။ကြာင့်အဟန်၊စိတ်သန်ကြည်ဖြူ၊၊ တင်ရှိဦး၊အုံ၊သောက်ရှူ၊နေလ၊ ဘုရုံပသို၊ခေတ္တသရေ၊မင်း၊နေရပ်စည်၊ ရွှေပြည်ထောင့်ယွန်း၊၊ တောင်ထိပ်စွန်း၀ယ်၊ တသန်း၊ဥာဏ်ရှင်၊ မြတ်သိထင်ဟု၊ကောင်း၊ကင်မိုး မြေ၊ နှံ့မျှဝေသည်၊ ဆံ၊မွေတုန်း၊ခေါင်၊ မိတည်း၊နောင်။ ။ရည်စောင်ပြည့်မည်၊ ထင်သည်အလျောက် ကြိုး၊၍လျှောက်ပိမ့်၊ စံမြောက်နွဲ့နောင်း၊၊ လျှော်ရွှေမောင်း၊သို့၊ ရှင်နှောင်း၊မည်ရင်း၊၊ မြတ်စိုး၊မင်း၊သည်။ ။ချစ်ချင်၊နောင်နှင့် တူစေသော။

၂။ ။မှာတုံ့မပြန်၊ တောင်၊ပန်နှိမ့်ချ၊ ခယမျိုး၊မျှား၊၊ လျှောက်သည်များ၊ကို၊စကား၊ယူင်၊ဆင်ခြင်တတ် ဌာ၊ သျှနှင့်စာသော်၊ မေတ္တာထပ်ဓလောင်း၊၊ ကြင်ပေကောင်း၊၏၊ ရှင်နှောင်း၊ပြာလ့၊ ငယ်လွန်း၊ခဲ့၍၊ ရှုငံ့ရိပ်ခြည်၊ လျှောက်ပါမည်လည်း၊၊ ကြံစည်နှစ်လ၊ ကြာမောလှခဲ့၊ ဝါလသဘင်၊မဆန်း၊ခင်ကို၊ ဥာဏ် ရှင်ရှုကြည့်၊ ဖန်ဆင်း၊ပြည့်လေ့၊ လျှောက်မည့်ခြင်း၊ရာ၊ နှုတ်တွေသာနှင့်၊ မေတ္တာ ညွှန့်သိုင်၊ ကြကာ ဆိုင်၊သည်။ ။လျှောက်တိုင်း၊ရှင်တော်မူစေသော။

၃။ ။ခွါရုံ့တဖန်၊ သစ္စာချန်၍၊ ကျင့်ဟန်မှုနည်၊ ရိပ်ခြည်တွေပြား၊ သူတပါး၊နှင့်၊ ထူး၊ခြား၊မရော၊ နှောင့်သဘောမှု၊ ချစ်သောဟူက၊ ချစ်သူတို့မှာ၊ ချစ်ခြင်း၊ရာကို၊ ကျေး၊ချာကျွန်ရင်း၊၊ သား၊ချင်း၊ကိုဖျ၊နှ ယုံကြောင်း၊၊ ပြန်မပြောင်း၊တည့်၊ နွဲ့နောင်း၊လေ၊ပင်၊ ဆင်း၊နတ်သွင်ကို၊ လည်တွင်အမြဲ ရစ်ဆွဲဂုံတုံ၊ရိပ်မြုံ ရှုကြည့်၊ ပျော်ချင်လှည့်လည်း၊၊ ဖြေပြည့်မသာ၊ လွမ်း၊ခြင်း၊ရာဖြင့်၊ ခန်း၊သာရိပ်ချောင်၊ သုံ၊ရွှေမြာင်၌ရွှေ ရောင်လျှံမောင်း၊။ မကြေ့တောင်၊သည်။ ။ရှင်နှောင်း၊နောင့်ကြင်သူပေသော။ (၂၅—ပြား။)



၁၃၁၅-ခု၊တော်သလင်းလ၊ အတွဲ-၁၊ အမှတ်-၆။

## ဆဋ္ဌသံဂါယနာမှ ကမ္ဘာ့ကောင်းကျိုးသို့

ယခုခေတ်သည် ဆုတ်ကပ်လော တက်ကပ်လောဟူသော ပြဿနာအတွက်၊ ဗုဒ္ဓဘာသာ စာပေချက်စေ့နှင့် ကြည့်လျှင် ဆုတ်ကပ်ပင် ဖြစ်ကြောင်းကို၊ အလွယ်တကူ ဖြေဆိုရပေလိမ့်မည်၊ မြဟ္မာစာပေများ၌လည်း ကတယုဂ်- တြေတာယုဂ် ဒွါပရယုဂ် ကလိယုဂ် ဟူ၍ ယုဂ်လေးပါးတို့ကို ခွဲခြားပြဆိုကြပြီးလျှင် ကလိယုဂ်ခေတ်အခါ၌ ခြေတချောင်းသာ ထောက်၍အခြေသုံးချောင်း မထောက်သော ခုတင်ညောင် စောင်းကဲ့သို့ ကောင်းမှုနည်းပါးလျက် မကောင်းမှု များပြားကြောင်းပြဆိုကြလေသည်။

ခေတ်ပညာတတ် များစွာတို့သည် အဆိုပါဆုတ်ကပ်ဟူသောစကား ကလိယုဂ်ဟူသော စကားများကို နှစ်နှစ်ကာကာ လက်မခံနိုင်ကြကုန်။ လက်မခံခြင်း၏ အကြောင်းအချက်တို့မှာလည်း များစွာပင် ရှိလေသည်။ သက်ရှိကင်းမဲ့သောကမ္ဘာကြီးသို့ အသက်ဓါတ် ဝင်ရောက် လာပုံ တိရစ္ဆာန်ဘဝမှ လူ့ဘဝသို့ ပြောင်းလဲ တိုးတက်လာပုံ၊ လူ့ဘဝ၌ အဝတ် မဝတ်သောဘဝမှအဝတ် ဝတ်သော ဘဝသို့ ဆိုက်ရောက်လာရပုံသာမည့်အဝတ်များမှ အလွန်နူးညံ့ ကောင်းမွန်သော အဝတ်များသို့ တိုးတက်လာရပုံ၊ လှည်းခေတ်လှေခေတ်မှ သင်္ဘောခေတ် မီးရထား ခေတ်လေယာဉ်ပျံ ခေတ်သို့ တိုးတက် လာပုံ၊ (လက်နက်များနှင့်ပတ်သက်၍) ဒါးခေတ်လှံခေတ် လေးမြားခေတ်မှ သေနတ်ခေတ် အမြောက်ခေတ် အနုမြူခေတ်အထိ တိုးတက်လာပုံ စသည်တို့ကို ကြည့်ရခြင်းအားဖြင့် ဆုတ်ကပ်ဆိုသောစကား ကလိယုဂ်ဆိုသောစကားတို့ကိုနှစ်နှစ်ကာကာ လက်မခံနိုင်ကြသူ များအတွက် အဖြစ်မဆိုသာလှဘူးဟု ရုတ်တရက်အားဖြင့်ထင်မှတ်ဖွယ်ရှိလေသည်။

အထက်ပါ စိတ်ထားမျိုးတို့ ကြောင့်၊ ခေတ်အသိ ခေတ်အမြင်တို့ကို သာလျှင် အကောင်း အမှန်ဟုထင်မှတ် ကြလေတော့သည်။ ရှေးအယူ ရှေးအမြင် ရှေးအသိ၊ ဟူသမျှတို့ကို အလကား အဘိုးမကန်ဟုထင်မှတ်ကြလေတော့သည်။ တက်ခေတ်ဘွင် တက်လူတို့သည် တက်လမ်းတို့ဖြင့် တိုးတက်သော အပြုအမူ များကို ပြုလုပ်လျက်ရှိကြသည်ဟု တထင်ချင်သန်းထင်မှတ်ကြ လေတော့သည်၊ မိမိတို့အယူ အဆအပြုအမူများနှင့် မတူသူ ဟူသမျှတို့အား ခေတ်မမီသူ ခေတ်ကို နောက်ပြန်ဆွဲနေသူ ဘိုးတက်သော အဆင့်အပိုင်းသို့ မရောက်သေးသူများဟု စွပ်စွဲရှုံ့ချတတ်ကြလေတော့သည်။

၎င်းတို့ အမြင်အရမှန်ကန်သော ကာလဒေသစသည်တို့ကို မထောက် ထားဘဲ ခေတ်နောက်ကျသူ ခေတ်မမှီသူ ခေတ်ကို နောက်ပြန်ဆွဲနေသကဲ့သို့ ရှုသူများလည်း မနည်းလှကြောင်းကို ဝန်ခံရပေလိမ့်မည်။ ထိုသူတို့ကား၊ ခေတ်ပေါ်အသိ ခေတ်ပေါ်အသုပ် ခေတ်ပေါ်အရာဝတ္ထုဟူသမျှကိုအကောင်း အမှန်ဟု မထင်မှတ် ကြသူများဖြစ်လေသည်။

စင်စစ်အားဖြင့် ယခုခေတ်သည် ရှေးခေတ် ဟောင်းတို့ထက် အံ့သြ လောက်အောင်တိုးတက်သည့် အပိုင်းက တိုးတက်၍နေသည်မှာလည်းအမှန်ပင်ဖြစ်လေသည်။ သို့သော် ဆုတ်ယုတ်သည့်အပိုင်းကိုကား မတွေးမိ တတ်ကြကုန် ထို့ကြောင့် ယခုခေတ်၏ဆုတ်ယုတ်သည့် အပိုင်းကိုလည်း 'အညောင်းမြေ အညာမြေ' ဆိုသကဲ့သို့ တလှည့် လောက် ပြန်လှန်သုံးသပ် တော်မူကြပါဦး ဟုဘိုက်တွန်း လိုပေတော့သည်။

ဤနေရာတွင် ယခုခေတ် တိုးတက်သမျှ အသိအမြင်အရာဝတ္ထုတို့ကို ပြုလုပ်ဖန်တီးသူတို့၏ စိတ်ဓါတ်များနှင့် ရှေးခေတ်က လူတို့၏ စိတ်နေသဘောထားများကိုနှိုင်းယှဉ်ဘို့ လိုပေသည်။ မျက်စေ့ အာရုံအတွက် ခံစားဘွယ်တို့သည် ရှေးက ၁၀၀ ၌သည်ဆိုလျှင် ယခုထောင်၊သောင်းသိန်းသန်းမက တိုးတက်၍ နေသကဲ့သို့ရှိ ပေရာနားအာရုံနှာခေါင်းအာရုံကိုယ်အာရုံစိတ်အာရုံများ၌လည်း အလားတူပင်ဖြစ်လေသည်၊ ထို့ကြောင့်ရှေးကလောဘထွက်စရာအမျိုး၁၀၀ ရှိခဲ့လျှင် ယခုအခါ လောဘထွက်စရာ အမျိုးပေါင်း ထောင် သောင်းသိန်း သန်း မက တိုးတက် လာသည်ဟု ဆိုရပေမည်။ ဒေါသဖြစ်စရာ မောဟဖြစ်စရာများ၌လည်း အလားတူပင် ဖြစ်လေသည်၊ ဤအချက်ကို မည်သူမျှ ငြင်းနိုင်လိမ့်မည်မဟုတ်ချေ

မိမိကိုယ်ကိုမိမိ ဖျက်ဆီးမှုမှ၍၊တကမ္ဘာလုံး ပျက်စီးအောင် ဖျက်ဆီးမှု အထိ အကြောင်းအချက်များကိုရှာရာတွင် အနုမြူဗုံး ဟိုက်ဒရိုဂျင်ဗုံးများထက် ထိုအနုမြူဗုံး ဟိုက်ဒရိုဂျင်ဗုံးများကို အသုံးပြုကြမည့်သူတို့၏သန္တာန်၌ရှိသောလောဘ ဒေါသ မောဟ တို့သာလျှင် အကြောင်းရင်း ဖြစ်ကြောင်း ထင်ရှားလှ ပါသည်။ 'ရှေးအခါက ကမ္ဘာပေါ်ရှိ လူအားလုံးတို့တွင် ဝိသမ လောဘ အားကြီးသူ ဒေါသအားကြီးသူ မောဟအားကြီးသူ လေးပုံတပုံ ရှိသည်ဟု ဆိုပါလျှင် ယခု ခေတ်၌ ထိုတရားဆိုး သုံးပါး အားကြီးသူ တို့က၊ ထိုတရားဆိုး သုံးပါး နည်းပါးသူတို့ထက် သုံးဆမျှ မက ပိုမို များပြား နေသည်ဟူသော တွက်ကိန်းမျိုး ကိုလည်း တွက်သင့်လှပေသည်။

ခေတ်ကာလ အလျောက် တိုးတက်သည့်အပိုင်းက တိုးတက်သည်နှင့် အမျှ ကမ္ဘာကြီးတခုလုံး ဆုတ်ယုတ်ပျက်စီးဘို့ရန်အပိုင်းကလည်း အဆမတန် တိုးတက်၍သာနေလေတော့သည်။

ဤကြည့်နည်းမျိုးသည်အရင်းကျသည် ထက်ကျသောအကြောင်းကို နှိုက်နှိုက် နဲနဲ ကြည့်ရှုသောနည်းမျိုးဖြစ်ပါမည်သည့်ဆုံးဖြတ်ချက်ကိုမဆိုအကြောင်းရင်းကို ကြည့်လေလေ အမှန်ကို ဆုံးဖြတ်နိုင် လေလေ ဖြစ်ရမည်မှာ ဓမ္မတာ ပေတည်း။ မိုက်မဲသေးငွေး သတ္တဝါသည် ခဲနှင့်လှမ်း၍ ပေါက်သူကိုကား လိုက်၍မကိုက်ဘဲ ခဲကိုသာလျှင် အမိအရလိုက်၍ ကိုက်တတ် လေသည်၊ လိမ္မာသော ခြင်္သေ့မင်းကြီးသည်ကား ခဲကိုမကိုက်ဘဲ ပစ်သူကိုသာလျှင် မရအရလိုက်၍ကိုက်တတ်သော သဘောရှိလေသည်၊ ဗုဒ္ဓရှင်တော်ဘုရားသည် ခြင်္သေ့မင်းကြီးကဲ့သို့ အကြောင်း ရင်းကိုသာလျှင် ကြည့်မြင်တော်မူတတ် ကြောင်းနှင့်ဝိသုဒ္ဓိမဂ် မဟာ ဋီကာကြီး၌ ချီးကျူးပြဆိုထားသည်ကို တွေ့ရလေသည်၊ ကမ္ဘာကြီး၏ နောင်ရေးအတွက် ဆုတ်ကပ်သို့တစတစ ဆိုက်ရောက် သွားလိမ့်မည် ဖြစ်ကြောင်းကို အကြောင်းရင်းကိုသာလျှင် ရှုတော်မူလေ့ရှိသော ဗုဒ္ဓရှင်တော် ဘုရားကိုယ်တိုင်ဟောကြား တော်မူခဲ့လေသည်။ ၎င်းပြင် အကြောင်းရင်းကို သာလျှင် ရှုတော်မူလေ့ရှိသော ဗုဒ္ဓရှင်တော် ဘုရားကိုယ်တော်တိုင် ဆုတ်ကပ်၌ဖြစ်စေ တက်ကပ်၌ဖြစ်စေသတ္တဝါဟူသမျှတို့၏ အချမ်းသာဆုံး အဆင့်သို့ ဆိုက်ရောက်ရေးကိုလည်း လေးဆဲ့ငါးနှစ် ပတ်လုံး ဟောကြားတော် မူခဲ့ရာ သည့် အချမ်းသာဆုံးအဆင့်ကား နိဗ္ဗာန်ပင်တည်း။

ထိုအချမ်းသာဆုံးအဆင့်သို့ဆိုက်ရောက်ရေးအတွက်သူတော်ကောင်း ပညာရှိကြီးဖြစ်တော်မူသော ဗုဒ္ဓရှင်တော်ဘုရား၏ပရိယတ္တိ ဟူသော သူတော်ကောင်းတရားပဋိပတ္တိဟူသောသူတော်ကောင်းတရားပဋိဝေဓဟူသောသူတော်ကောင်းတရားသုံးပါးတို့တွင်ပရိယတ္တိဟူသောသူတော်ကောင်းတရားသည် အခြေခံဖြစ်ပေရာ၊ ပရိယတ္တိကွယ် ပျောက်လျှင်းပဋိပတ္တိ ပဋိဝေဓတရားများလည်း ကွယ်ပျောက်ဘို့ရန်မခဲယဉ်းတော့ပေ။ ပရိယတ္တိတရားများ မမှန်ကန်ခဲ့ပါလျှင်လည်း ပဋိပတ္တိ ပဋိဝေဓတရားများ မှန်ကန်လိမ့်မည်မဟုတ်ချေ၊ ထို့ကြောင့်ပရိယတ္တိမှန်ကန်ရေးအတွက် ပိဋကတ်တော်များကို ရှေးပညာရှိကြီးဘို့သည် အကြိမ်ကြိမ်သံဂါယနာတင်ခဲ့ကြပေကုန်၏၊ ယခုကား ဆဋ္ဌ သံဂါယနာတင်မည့် အချိန်ကြီးပေတည်း။ ထို့ကြောင့် တရားဆိုး ၃ပါး လွှမ်းမိုးလှသော ဤဆုတ်ကပ် (ဆုတ်ခေတ်)ကြီး၌ ကမ္ဘာကြီး၏ကောင်းကျိုးချမ်းသာအတွက် အကြီးဆုံးသော အထောက်အပံ့ကြီးတခုဖြစ်စေနိုင်မည့် ဆဋ္ဌသံဂါယနာ ကိစ္စကြီးကိုလည်း ကမ္ဘာ့ကောင်းကျိုး ချမ်းသာကို လိုလား သူတိုင်း အားပေး သင့်လှပေသတည်း။

---

# ဆဋ္ဌသံဂါယနာအတွက်

## အလှူငွေကောက်ခံရေး ဗဟိုကော်မတီ

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကဆဋ္ဌသံဂါယနာတင်အလှူတော်ငွေကောက်ခံရေးကော်မတီအဖွဲ့ဆိုတဲ့ အဖွဲ့ကြီးတခုကိုဖွဲ့စည်းလိုက်ခြင်းဖြစ်ပါတယ်။ နိုင်ငံတော် သမ္မတကြီး၊ နိုင်ငံတော်ဝန်ကြီးချုပ်၊ နိုင်ငံတော်တရားဝန်ကြီးချုပ်၊ ဂျူမျိုးစု လွှတ်တော်နာယကကြီးနှင့် ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌကြီးဆိုတဲ့ တိုင်းပြည်ရဲ့အဆွင့်အထိပ်ပုဂ္ဂိုလ်ကြီး ၅ ဦးက နာယကများ အဖြစ်ပါဝင်ကြပါတယ်၊ ဒီနောက် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ဥက္ကဋ္ဌကြီးသတိုးသီရိဓမ္မဆာ ပြီးသွင်ဇ-ဆ-ဇ-လအဖွဲ့ချုပ်မှဝန်ကြီးဦးဗဆွေ၊ ဝန်ကြီးဦးကျော်ငြိမ်း၊ ဝန်ကြီး သခင်သါခင်၊ ဝန်ကြီးသခင်တင်၊နိုင်ငံတော်အစိုးရအဖွဲ့မှသာသနာရေးဝန်ကြီး ဦးဝင်း၊ ဘဏ္ဍာရေးဝန်ကြီးဦးတင် ပြည်ထဲရေးဝန်ကြီးဗိုလ်ခင်မောင်ကလေး၊ လမ်းပန်း ဆက်သွယ်ရေးဝန်ကြီး ဦးဝင်းမောင်၊ ကယ်ဆယ်ရေးဝန်ကြီးဦးဘစော၊ ပြန်ကြားရေး ဝန်ကြီးဦးထွန်းဝင်း နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မဟာသီရိ သုဓမ္မ ဦးမြ (ဟသ်ာတ) သတိုးမဟာသရေစည်သူ ဦးချန်ထွန်း၊ ဦးဘတင် (ချပ်သင်၊) ဦးခေါင်မောင်ကလေး (မန္တလေး) ဦးစံရီ (မန္တလေး) စည်သူဦးဘခင်၊ ထို့နောက် တရား လွှတ်တော်တရားဝန်ကြီးချုပ်ဦးထွန်းဗြု၊ ဝန်ကြီးချုပ်ကတော် ဒေါ်မြရီ၊ တရားဝန်ကြီးချုပ် ကတော်ဒေါ်စောတင်၊ရန်ကုန်မြို့တော်ဝန်ဦးထွန်း၊၊ ကယား ပြည်နယ် ဝန်ကြီးစဝ်ဏ္ဍ၊ ကချင်ပြည်နယ်ဝန်ကြီးမန်းမြစိန်၊ ရှမ်းပြည်နယ်ကောင်စီ ဥက္ကဋ္ဌ စောစော်ဘွားကြီး၊ ကချင်ပြည်နယ်ဝန်ကြီးဗိုလ်လှကြိုင်၊ ချင်းဝိသေသတိုင်း ဝန်ကြီးဦးရှိန်ထန်၊၊ ပေါင်းပုဂ္ဂိုလ်ကြီး ၂၇-ဦးတို့ကဆဋ္ဌသံဂါယနာတင်အလှူတော်ငွေ ကောက်ခံရေး ဗဟိုအဖွဲ့ဝင်များအဖြစ်ဖြင့်ပါဝင်ကြပါတယ်၊ ဒီအဖွဲ့ကြီးကအလှူတော်ငွေများကို စံနစ်တကျကောက်ယူနိုင်ရန် နိုင်ငံတော် အစိုးရအမျိုးသား၊ ဓိမ်ကိန်းနှင့် သာသနာရေးဝန်ကြီး ဌာနမှ ကြီးမှူးဖွဲ့စည်းပြီး ဖြစ်တဲ့လက်ရှိတိုင်းခရိုင်မြို့နယ်ပြည်တော်သါအဖွဲ့များဘွင် ဆိုင်ရာနိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၊ဒေသကိုယ်စားလှယ်များနှင့်သာသနာရေး အသင်းအဖွဲ့ခေါင်းဆောင်များကိုဘိုးချဲ့ဖွဲ့စည်းပြီးတော့ဤပြည်တော်သာအဖွဲ့များမှတဆင့် ကောက်ယူပါတော့မယ်။ ၎င်းအလှူတော် ကောက်ခံရေး ဗဟိုအဖွဲ့ကြီးက နိုးဆော်ချက်များ၊ဆဋ္ဌသံဂါယနာတင်ရေးလုပ်ငန်းများ၊ အလှူငွေကောက်ခံရေးဆိုင်ရာ နည်းဥပဒေများ ပါဝင်တဲ့စာအုပ်များကို စက်တင် ပုံနှိပ်နေပြီ ဖြစ်ရာ၎င်း စာအုပ်များ မကြာမီ မြန်မာတပြည်လုံးအနှံ့တိုင်း စေ့ရောက်ရှိ လာပါတော့မယ်။ အဲသည့်အခါ ဆဋ္ဌသံဂါယနာ ဆိုတဲ့ သာသနာ့နုဂ္ဂဟ၊ သာသနာ နုဗလပဒါန်ဆိုတဲ့ သာသနာပြု လုပ်ငန်းကြီးရဲ့ ဒါယကာ ဒါယိကာမ များအသီးသီး ဖြစ်ကြရလေအောင် စေတနာ ထက်သန်စွာနဲ့ နည်းများမဆို အလှူတော်ငွေ ထည့်ဝင်လှူဒါန်းကြပါမည့် အကြောင်း နိုဂုံးချုပ်နိုးဆော်လိုက်ပါတယ်။ (အုပ်ချုပ်ရေးအရာရှိချုပ်ဦးစိန်းမောင်အသံလွှင့်ချက်မှ)

# ဗုဒ္ဓဘာသာစာပေလောက၌ နေတဆူလတပါး ထင်ရှားကျော်စောတော်မူလှသော အဋ္ဌကထာဆရာကြီး အရှင်မဟာဗုဒ္ဓဃောသ အဋ္ဌုပ္ပတ္တိ



အနုရာဓပြို့တော် မဟာဒေဝီ၏ဘေးရှ ဘက်တမိုင်ခန့်၌အဘယတိဿမင်းကြီး တည်ထား ခဲ့သော အဘယဂိရိစေတီ၊ သံတောင် (၁၈၀) ရှိ၏။ ဓါတ်တော်များနှင့်တကွ ရွှေသား ပိဋကတ်တော်များ ကို ဌာပနာခဲ့သည်ဟုဆို၏။ နောက်အခါ၌မဟာ ဗုဒ္ဓဃောသတို့၏ မဟာဝိဟာရဝါသီဂိုဏ်းနှင့် ဆန့်ကြင်ဘက် အဘယဂိရိဝါသီဂိုဏ်း၏ မူလတည်ရာ ကျောင်းတိုက်ကြီးသည် ၎င်းစေတီအနီးမှာပင်ရှိ၏ (ယခုအခါ) နေရာမျှသာရှိတော့၏။

## ရေးသူ-မာဃ

အရှင်မဟာ ဗုဒ္ဓဃောသ၊ အရှင်ဗုဒ္ဓဒတ္တ၊ အရှင်ဓမ္မပါလ၊ အရှင်ဥပသေန၊ အရှင်မဟာအဘိဓာန၊ အရှင်အနုရုဒ္ဓ၊ အရှင်ဓမ္မသိရိ စသော ဗုဒ္ဓဘာသာ ပါဠိကျမ်းပြုဆရာ (ဝါ အဋ္ဌကထာဆရာ) အပေါင်းတို့တွင် နေတဆူ-လတပါးထင်ရှားကျော်စောတော်မူသော အဋ္ဌကထာ ဆရာကြီး အရှင်မဟာ ဗုဒ္ဓဃောသ၏ အဋ္ဌုပ္ပတ္တိနှင့် ပတ်သက်၍ ယနေ့တိုင် စမ်း တဝါးဝါးရှိ နေကြရလေသည်။

### ကျမ်းများကိုစစ်ဆေးနည်း

ထို့ကြောင့် အနီးကပ်ဆုံး အဆုံးအဖြတ်မျိုးကို ရနိုင်စေရန် အဋ္ဌကထာ ဆရာကြီး၏အကြောင်းအရာများနှင့် ပတ်သက်၍ရေးသား ပြဆိုအပ်သောကျမ်းဂန်များကိုပဋ္ဌမစစ်ဆေးသင့်ပေသည်။ စစ်ဆေးရာ၌လည်း မည်သည့်ကျမ်းကမည်သည့်ကျမ်းထက် ရှေးကျသည်။ မည်သည့်ကျမ်းက-မည်သည့် ကျမ်းထက် ခိုင်လုံသည်၊ မည်သည့်ကျမ်းကရှေးလည်းကျသည်ခိုင်လည်းခိုင်လုံသည် စသည်ဖြင့် အသေအချာစနစ်တကျစစ်ဆေးဘို့လိုပေသည်။ ထိုစံနစ်များအတိုင်း ကျွန်ုပ်တို့ အကြိမ်ကြိမ် အဖန်ဖန်ကြည့်ရှု စစ်ဆေးခဲ့သည့် ကျမ်းဂန်များကိုပြရမည်ဆိုပါလျှင်-

(၁) အဋ္ဌကထာ ဆရာကြီး၊ကိုယ် တိုင်ပြုစုခဲ့သောအဋ္ဌကထာများမှကျမ်းဦးစကားများနှင့်နိဂုံးစကားများ၊
(၂) မဟာဝံသ သတ္တိံသမ ပရိစ္ဆေဒ၊
(၃) ဂါထာ များဖြင့် တည်ရှိသော ဗုဒ္ဓ ဃောသုပ္ပတ္တိ (၎င်းကျမ်းမှာ မဟာ ဝံသနှင့် အဆို အတူတူပင်ဖြစ်လေသည်)
(၄) သထုံ ရာဇဝင်ဟောင်း၊
(၅) ဗုဒ္ဓ ဃောသုပ္ပတ္တိ (ရှမ်း°ယ) နှင့်ပျို့၊
(၆) ဦးကုလား မဟာရာဇဝင်ကြီး၊
(၇) တွင်းသင်း မင်းကြီး၏ မဟာ ရာဇဝင်သစ်၊
(၈) မှန်နန်း ရာဇဝင်နှင့် သာသနာလင်္ကာရ။

ယခုပြဆိုသည့် ကျမ်းဂန်များမှာ၊ အရှင်မဟာ ဗုဒ္ဓဃောသ၏ အဋ္ဌုပ္ပတ္တိများကိုပြဆိုသည့် ကျမ်းဂန်များအနက် အထင်ရှားဆုံး ကျမ်းဂန်များသာဖြစ်လေသည်။ အခြားအတိ အစ ကျမ်းပေါင်းများစွာပင် ရှိသေးသော်လည်း အရှင်မဟာ ဗုဒ္ဓဃောသ၏ အဋ္ဌုပ္ပတ္တိနှင့် ပတ်သက်၍ ယခုပြဆိုအပ်ပြီးသော ကျမ်းဂန်များကိုပိုမိုလွန်ဆန်၍ရေးနိုင်သည့် ကျမ်းဂန်ဟူ၍မရှိချေ။ ဤပြဆိုအပ်ပြီးသော ကျမ်းဂန်များသည်သာလျှင်အရင်းအမြစ်ဖြစ်ကြလေသည်။ ဤကျမ်းတို့တွင်လည်း (၁) နှင့် (၂) တို့သည်သာလျှင်အရင်းအမြစ် အကျဆုံး ကျမ်းများဖြစ်လေသည်။

### ဃောသ ရွာသား

အဋ္ဌကထာ ဆရာကြီး အရှင်မဟာ ဗုဒ္ဓဃောသ၏ မွေးဖွားရာ ဇာတိကား မဇ္ဈိမဒေသ ဗုဒ္ဓဂယာ မဟာ ဗောဓိပင်၏အနီး ဃောသ အမည်ရှိသော ရွာဖြစ်သည်ဟု မဟာဝင် အဋ္ဌကထာ ၌၎င်း၊ ဗုဒ္ဓဃောသုပ္ပတ္တိ၌၎င်း၊ ပြဆိုတော် မူကြလေသည်။ အင်္ဂလိပ်ဘာသာရေး ရှင်မဟာဗုဒ္ဓဃောသအဋ္ဌုပ္ပတ္တိများ၌လည်း ဤမဟာဝင်နှင့် ဗုဒ္ဓဃောသုပ္ပတ္တိ အဆိုများ ကိုသာလျှင် ယုံကြည်၍ ယူငင်ရေးသား လေ့ရှိသည်များကို တွေ့ရပေ၏။

(OUR HERITAGE) စာအုပ် မျက်နှာ ၇၇ ၌ကြည့်ပါ။ ကျွန်ုပ်တို့ကိုယ်တိုင် ဗုဒ္ဓဂါယာသို့ ဘုရားဖူး ရောက်စဉ် အခါကလည်း ဗုဒ္ဓဂါယာ မဟာဗောဓိမဏ္ဍိုင်ရှိရာကုန်းတော်ပေါ်မှ နေကြည့်လျှင် အနောက်ဘက်၌ မာစ်တီပူရ် ခေါ် ရွာကြီးကို အရှင်မဟာဗုဒ္ဓဃောသ မွေးဖွားရာ ရွာကြီးဖြစ်သည်ဟု ထိုနယ်ရှိ ပုဂ္ဂိုလ်များ ကညွှန်ပြသည်ကို လှမ်းမြော်တွေ့ မြင်ခဲ့ရလေသည်။

သထုံ ရာဇဝင်ဟောင်း သစ်များ၌၎င်း၊ ဗုဒ္ဓဃောသုပ္ပတ္တိ (ရှမ်း°ယ) ၌၎င်း၊ ဦးကုလားနှင့် မှန်နန်းရာဇဝင်စသည်တို့၌၎င်း၊ အဋ္ဌကထာ ဆရာကြီးမှာ မြန်မာနိုင်ငံ သထုံသား ဇာတိကဲ့သို့ ယူဆရေးသားကြသည်များကိုတွေ့မြင် ရလေသည်။

အရှင်ပညာ နန္ဒအစရှိသော သီဟိုဠ်ဆရာတော်အချို့ ကမူ ဇမ္ဗူဒိပ် (ဒ္ဓမိုဠ) မြောက်ပိုင်းသား မဟုတ်နိုင် တောင်ပိုင်းသားဖြစ်ရမည်ဟု ယူဆကြကုန်၏၊ ယိုးဒယား၊ ပညာရှိအချို့ ကမူ အဋ္ဌကထာ ဆရာကြီးမှာ ယိုးဒယားပြည်သား ဖြစ်သည်ဟုယူဆ ပြောဆိုကြပြန် လေသည်။

မြန်မာလူမျိုး အချို့ ကမူ အဋ္ဌကထာ ဆရာကြီးမှာ ပုဂံပြည်သားပင် ဖြစ်သကဲ့သို့ တန်းမှန်းပြောဆိုကြသည်များကို ကြားရဘူးလေသည်။

အထက်ပါအယူအဆအမျိုးမျိုးတို့တွင် ဃောသရွာသား ဖြစ်သည်ဟူသော အယူအဆ သည်သာလျှင် အခိုင်လုံဆုံး ဖြစ်ရပေလိမ့်မည်။ သထုံရာဇဝင် ဗုဒ္ဓဃောသုပ္ပတ္တိ (ရှမ်း°ယ) ဦးကုလား ရာဇဝင်၊ တွင်းသင်းရာဇဝင်၊ မှန်နန်းရာဇဝင်စသည်တို့သည် ဃောသ ရွာသား ဖြစ်သည်ဟုသော မဟာဝင်၏ အဆိုကို တွန်းလှန်နိုင်ကြလိမ့်မည်မဟုတ်ကုန်။

### ပုဏ္ဏားလူမျိုး

လူမျိုးအားဖြင့်လည်းကေသိပုဏ္ဏားကြီးနှင့် ကေသိနီ ပုဏ္ဏားမကြီးတို့၏ သားဖြစ်ကြောင်းကို မဟာဝင်နှင့် ဗုဒ္ဓဃောသုပ္ပတ္တိ (ဂါထာ) စသည်တို့၌ ပြဆိုတော်မူကြကုန်၏မိုင်းခိုင်းမြို့စားပိဋကစ်ဘော်အစ်မင်းကြီးဦးရန်ကလည်း ထိုအဆိုအတိုင်းပင် ပိဋကတ်သမိုင်း စာတမ်း စာမျက်နှာ ၁၉-၌အတည်ပြုရေး သားထားသည်ကို တွေ့ရလေသည်။

သထုံရာဇဝင်ဟောင်းများနှင့် အခြားမွန်ရာဇဝင်မြန်မာရာဇဝင်များ၌ကား အဋ္ဌကထာဆရာကြီးကိုမွန်တလိုင်းလူမျိုးဟူ၍၎င်း၊ ပုဏ္ဏားလူမျိုးဟူ၍၎င်း၊ မြန်မာလူမျိုးဟူ၍၎င်း၊ အသီးသီး ရေးသား ကြသည်များကို တွေ့ရလေသည်။

သီဟိုဠ်သား ပညာရှိ အချို့ကမူ 'ဒမိလ''ခေါ် ''တမေလ်''လူမျိုးပေါင်းများစွာ တို့တွင်၊ တမျိုး အပါအဝင်ဖြစ်သော''တေလဂူ''လူမျိုးများ အတွင်းမှ ''အန္ဓက''ပုဏ္ဏားမျိုးဖြစ်သည်ဟု ဂျဆိုကြကုန်၏။

အထက်ပါ အယူ အဆ အရင်ရင်းတို့တွင်၊ မဟာဝင်နှင့် ဗုဒ္ဓဃောသုပ္ပတ္တိ (ဂါထာ) ကျမ်း တို့၏ အဆို များကိုသာလျှင်၊ အရင်းခံ မြဲ၍ ပုဏ္ဏား လူမျိုးဖြစ်သည်ဟုယူဆဘွယ်ရှိကြောင်းထင်ရှားလှပါးပေသည်။ အရာမက များပြားလှသော ပုဏ္ဏားလူမျိုး အသီးသီး တို့တွင်၊ မည်သည့် ပုဏ္ဏား လူမျိုး ဖြစ်လိမ့်မည်ကိုကား အခိုင်အမာ မယူဆဝံ့သေးချေ။ ပုဏ္ဏားလူမျိုး ဖြစ်ရမည်မှာကား သေချာသလောက် ရှိလေသည်။

### သီတင်းသုံးရာဌာနများ

အဋ္ဌကထာ ဆရာကြီး၏ ဇာတိမှာ မဟာဗောဓိပင်အနီး ဃောသ ရွာသားပင်ဖြစ်သည်ဟု ဆိုသော်လည်း၊ ပညာသင်ရာနှင့် သီတင်းသုံးရာ ဌာနများမှာမူကား ဇမ္ဗူဒိပ်နိုင်ငံတကိုက် အနှံ့ အပြားပင် ဖြစ်ဟန် တူလေ သည်။ အဘယ်ကြောင့်ဆိုသော် ပဉ္စသူဒနီခေါ် မဇ္ဈိမနိကာယ အဋ္ဌကထာကို ကဉ္စိပုရမြို့ စသည် တို့၌ ရှိစဉ်အခါကပင် အတူဘက္ကနေထိုင်ခဲ့ဘူးသော ဇောတိပါလ မထေရ် တောင်းပန်သဖြင့် ရေးသားရခြင်းဖြစ်သည်ဟု အဋ္ဌကထာ ဆရာကြီး၊ကိုယ်တိုင် ခေါ်ပြတော်မူခဲ့၏။ အဋ္ဌကထာဆရာကြီးခေါ်ပြတော်မူအပ်သော ကဉ္စိပုရကို ယခု အခါ Conjeveram ''ကွန်ဂျီဗာရမ်'' ဟူ၍၎င်း၊ ''ကန်ချိ''Can Chi ဟူ၍၎င်း ခေါ်ဝေါ်ရေးသားလျက် ရှိသည်များကို တွေ့ရလေသည်။ မဒရပ်မြို့မှ ၅၇-မိုင်ခန့် ဝေးလေသည်၊ တရုပ် ရဟန်းတော်ခရီးသည်ကြီး ဟီယန်ဆိုင်၏မှတ်တမ်း၌၎င်း ရောက်စဉ် အခါက၊ ကဉ္စိပုရမြို့တော်သည်၊ ၆ါးမိုင်ခန့်ကျယ်ဝန်းကြောင်း တိုင်းပြည်ကြီး တခုလုံး၏ အကျယ်အဝန်းကား မိုင်ပေါင်း ၁၀၀ ခန့် ရှိကြောင်း။ ဗုဒ္ဓဘာသာ ရဟန်းတော်ပေါင်း ၁၀၀၀၀ (တသောင်း) ခန့် တွေ့ခဲ့ရကြောင်းများကို ပြဆိုထားလေသည်။

အထက်ပါ အဋ္ဌကထာ ဆရာကြီး ကိုယ်တိုင် ရေးသားချက်ကို၎င်း၊ တရုပ်ရဟန်းခရီးသည်ကြီး၏မှတ်တမ်းကို၎င်း၊ မှက်မြင်နှင့် ပန်းပွန် စာပေများကို ထောက်ထားခြင်းအားဖြင့်၎င်း၊ ဇမ္ဗူဒိပ် နိုင်ငံအတွင်း အနှံ့ အပြား သီတင်းသုံးတော် မူခဲ့ဘူးကြောင်း ထင်ရှားလှပေသည်။

### သီဟိုဠ်သို့ကူးခြင်း

အဋ္ဌကထာဆရာကြီး အရှင်မဟာဗုဒ္ဓဃောသပေါ်ပေါက်ချိန်တွင် သီဟိုဠ်ကျွန်း၌၊ ဗုဒ္ဓသာသနာတော် လွှမ်းမိုးထွန်းကားလျက် ရှိကြောင်း ထင်ရှား လေသည်။ ဇမ္ဗူဒိပ် ခေါ် ဣန္ဒိယနိုင်ငံတပိုက်မှာမူကား အချို့နေရာများ၌သာ ဗုဒ္ဓသာသနာတော် ထွန်းကားလျက် ရှိသော်လည်း၊ အချို့နေရာ များ၌ကား၊ ဗုဒ္ဓ သာသနာတော် များစွာ မှေးမှိန် နေဟန် တူလေသည်။ ဤအချက်များအတွက်၊ အဋ္ဌကထာဆရာကြီးကိုယ်တိုင်၊ အဋ္ဌကထာ သစ်များကို ပြုစုရန် သီဟိုဠ်ကျွန်းသို့ ကြွရောက်တော်မူရခြင်းကပင် သက်သေပြလျက်ရှိပေသည်၊ သီဟိုဠ်ကျွန်းသို့ ကြွတော်မူရာ၌၊ ဇမ္ဗူဒိပ်

ကျွန်း (ဇမ္ဗူဒီပ) ဘင်္ဂါလ ဒေသ (တောင်ပိုင်း) ဇာတ်ရိုသင်္ဘောဆိပ်မှ ကူးသည်ဟု ဗုဒ္ဓဃောသသုပ္ပတ္တိ (ဇမ္ဗုဒီပ) နှင့်သာသနာဝံသကျမ်းစသည်တို့၌ပြဆိုကြကုန်၏။ တွင်းသင်း ရာဇဝင် ၌လည်း မဇ္ဈိမဒေသကပင် ကူးသည်ဟု ဆိုလေသည်။ သထုံ ရာဇဝင်ဟောင်း စသည်တို့၌ကား သထုံပြည် ဓမ္မပါလမင်းလက်ထက်၊ ၄သိမ် သင်းဘော ဆိပ်မှ ဇမ္ဗူဒီပ ဒေသို့ကူးသည်။ ထိုမဇ္ဈိမဒေသမှတဆင့် သီဟိုဠ် ကျွန်းသို့ ကူးတော် မူသည်ဟု ဆိုကုန်၏။ ဤသထုံရာဇဝင် စသည်တို့၌ ပြဆိုအပ်သောစကားတို့သည်၊ မဟာဝင် ကျမ်း ဗုဒ္ဓဃောသုပ္ပတ္တိ (ဂါထာ) ကျမ်း စသည်တို့နှင့် ဆန့်ကျင်လျက် ရှိသော ကြောင့်ယုတ္တိမရှိသောစကားများသာဖြစ်လေသည်။ သထုံ ရာဇဝင် စသည်တို့၏ ရှေးစကားများ၌၊ သထုံသားဟု ဆိုခဲ့ကြသည့်အတိုင်း၊ ဤကဲ့သို့ နည်းဖြင့်နှစ်ဆင့်ကူးရခြင်းဖြစ်ဟန်တူလေသည်။

## သုပ္ပါရကနှင့်တာမလိတ္တိ

အရှင်မဟာ ဗုဒ္ဓဃောသသည်ပေါ်ထွန်းချိန်အခါလောက် ဆီက၊ မလဝတိုင်း၏ သင်္ဘောဆိပ် မြို့တော် ဟောင်းကြီးမှာ၊ သုပ္ပါရက (သုပ္ပါဒက) ဖြစ်လေသည်။ ယခုခေတ်မြေပုံ၌ ''ဆိုပါရာ'' Sopara ဟူသော အမည်ဖြင့်၊ ထင်ရှား တွေ့မြင်နိုင်လေသည်။ ၎င်းပြင် ထိုအခါက မဂဓ တိုင်းကြီးအတွင်းရှိ သင်္ဘောဆိပ်ကြီးကား 'တာမလိတ္တိ' ဖြစ်လေသည်။ တာမလိတ္တိ ဆိပ်ကမ်း အကြောင်းကို သံယုတ်အဋ္ဌကထာ၊ ပါဠိစာပေ၊ နာဂရီ စာပေများ၌၊ အများ အပြားပြဆိုလျက် ရှိကုန်၏၊ ယခုခေတ် ဇမ္ဗူဒီပမြေပုံ၌ 'တာမလွတ်' ဟူသော အမည်ဖြင့် အထင်အရှား တွေ့မြင်နိုင်လေသည်။အသောကမင်းကြီး လက်ထက် ဒကွိဏ သာခါ မဟာ ဗောဓိ အကိုင်းကိုပါဋလိပုတ်မြို့တော်မှ ဂင်္ဂါမြစ်အတိုင်း တာမလိတ္တိ ဆိပ်ကမ်းသို့ ချနစ်ရက် လာခဲ့ရကြောင်း၊ ထိုသင်္ဘောဆိပ်မှ တဖန်၊ ဒမိဠ ယသို့ ကူးရကြောင်းများကိုင်း၊ ဒန္တကုမာရနှင့် ဟေမမာလာ မင်းသမီး တို့သည်၊ လက်ဝဲအောက်ခါးစွယ်တော်မြတ်ကိုပင့်၍ ထိုတာမလိတ္တိ ဆိပ်ကမ်းမှ တဆင့်သီဟိုဠ်ကျွန်းသို့ကူးရကြောင်းများကိုင်၊ မဟာဝင် အဋ္ဌကထာ၊ ပါရာဇိကဏ် အဋ္ဌကထာ စသော ကျမ်းများ၌ တညီတညွတ်ထည်း ပြဆိုကြကုန်၏။

နာဂရီစာပေများနှင့် ခေတ်ကာလ သုတေသန ပညာရှိများကလည်းအဋ္ဌကထာ ဆရာကြီး အရှင်မဟာ ဗုဒ္ဓဃောသ သည် သီဟိုဠ်ကျွန်း သို့မကူးမီ ထိုတာ မလိတ္တိ သင်္ဘောဆိပ် မြို့နယ်အတွင်း၌ ခေတ္တသီတင်းသုံးတော်မူသေးကြောင်းများကို ရှေးဟောင်းအဆို အလာအမှတ်အသားများနှင့်တကွ အကျဉ်းတင်ငြ ထောက်ထား ပြဆိုကြကုန်၏ ယုတ္တိလည်းရှိလေသည်။ပါဠိဘာသာ ငြာ ယများဖြင့် ရေးသားထားသည့် ဗုဒ္ဓဃောသုပ္ပတ္တိ ကျမ်း၌ကား အရှင်မဟာ ဗုဒ္ဓဃောသ သီဟိုဠ်ကျွန်းသို့ကြွတော်မူရာတွင် ပင်လယ်အတွင်း၌ နတ်တို့၏ဖန်ဆင်းမှုကြောင့် သီဟိုဠ်မှပြန်ကြလာသော အဋ္ဌကထာ ဆရာကြီး အရှင်မဟာ ဗုဒ္ဓဒတ္တ၏ သင်္ဘောနှင့် တွေ့ဆုံမိကြောင်း အရှင်မဟာဗုဒ္ဓဒတ္တက သင်္ကြားမင်း ဆက်သသည့် မနေမယ လေခ ကညစ်ကိုလွှဲအပ်ကြောင်း၊ စသဖြင့် ရေးသား ထားသည်များကိုတွေ့ရလေသည်။ဆိုကျမ်းကါးကံ ကွဲပြားမှုမှန် ဝါကျနေဟန်လည်း မကောင်း၊ တိမ်းစောင်း ချွတ်ယွင်းလှသော အဆို အလာများဖြင့် ပြည့်နှက် နေသည့် ပုံပြည့်ဖြစ် ကျမ်းတစောင် မျှသာ ဖြစ်ကြောင်းမှုချယူဆထိုက်လေသည်။

## မဟာနာမ်မင်း အုပ်စိုးချိန်

ထိုအချိန်တွင် သီဟိုဠ်ကျွန်း၊ အနုရာဓမြို့၌ ယောဂ ရတနာကရဆေးကျမ်းပြုစုခြ ဒါသမင်း၏သားတော် အလတ်ဖြစ်သော မဟာနာမ်မင်း အုပ်စိုး၍နေသော အချိန်ဖြစ်လေသည်။ ခရစ်သက္ကရာဇ် ၄၀၇-နှင့်၊ ၄၃၁အတွင်း ဖြစ်လေသည်။ ထိုမင်းသည် မင်းဖြစ်သောအခါ သင်္ဃပါလ ဟူသော တံဆိပ်ကို ခံယူတော်မူကြောင်းနှင့် မဟာ ဝင်နောက် ဆက်တွဲ၌ အဆိုရှိလေသည်။

## သီဟိုဠ်တွင်

အရှင်မဟာဗုဒ္ဓဃောသသည် သီဟိုဠ် ကျွန်း မဟာဝိဟာရ ကျောင်းတိုက်ကြီး၌ သီတင်းသုံးတော်မူစဉ် အဋ္ဌကထာ သစ်များကို ရေးသား ပြုစုတော် မူသည်ဟု သီဟိုဠ်စာပေများကို ကြည့်ရှု၍ နန်းမတော် ဇန် ဦးရန်၏ ပိဋကတ် သမိုင်း စာတမ်း၌ ပြဆိုထားသည်ကို တွေ့ရသည်။

ယခုအခါ သီဟိုဠ်သား ပညာရှိတို့၏ မှတ်ယူချက်မှာလည်းအာလောက လိုဏ်ဂူဖြစ်သို့တွင် မြေဘက်ဂူ၌ အရှင်မဟာ ဗုဒ္ဓဃောသ သီတင်း သုံးတော်မူသည်ဟု ညွှန်ပြတော် မူကြကုန်၏။ အာလောက လိုဏ်ဂူဆိုသည်ကား ရှေးအခါက မလယဇနပုဒ် ဟူသော အမည်ဖြင့် ထင်ရှားခဲ့သောနေရာအတွင်းရှိ လိုဏ်ဂူပင်ဖြစ်လေသည် ယခုအခါကန္ဒီမြို့မှ အရှေ့မြောက်ဘက်၌ ၁၇ မိုင်ခန့်အကွာအဝေးလောက်တွင်ထိုလိုဏ်ဂူများတည် ရှိလေသည် သီဟိုဠ် ဘာသာအားဖြင့် ထိုမလယ ဇနပုဒ်ကို ယခုအခါ မာတလေ ဟုခေါ်ဆိုလျက် ရှိကြပေသည်။

ထိုမာတလေမြို့၏ အနောက်ဘက်၌ ကျောက်ဆောင်ကြီးပေါင်း၊ ၆ ခုမျှ မနီးမဝေးစီတန်းလျက်ပေါ်ရာစေတီတက်လမ်း အောက်ရှိ ကျောက်ဆောင်ဂူကို အရှင်မဟာဗုဒ္ဓဃောသသီတင်းသုံးတော်မူခဲ့ဘူးသောကျောက်ဆောင်ဂူဟုမှတ်ယူပြောဆိုလျက်ကြကုန်၏ သီဟိုဠ်သား ဆရာတော်ကြီးများသည်၊၎င်းလိုဏ်ဂူအတွင်း၌ ပိဋကတ်တော်များ ထည့်သွင်း၍ သေ့အမျိုးမျိုးဖြင့် အထပ်ထပ်ပိတ်၍ ထားသောကြောင့် အရှင်မဟာ ဗုဒ္ဓဃောသသည်၊ သီဟိုဠ် ဆရာတော်ကြီးများ၊ ထံမှ ခွင့်ပြုတော်မူချက်ကို ရယူပြီးမှ ၎င်းရောက်ကာ အဋ္ဌကထာသင်များကို ရေးကူး ပြုစုတော်မူသည်ဟု ပြောဆိုကြကုန်၏။

## မဟာဝိဟာရဝါသီ

အရှင်ဗုဒ္ဓဃောသသည် အဋ္ဌကထာသစ်များကို ရေးကူး ပြုစုတော်မမူမီ ထိုအခါက သီဟိုဠ်ကျွန်း၌ ထင်ရှားသော ဂိုဏ်းကြီးတို့တွင်၊မဟာဝိဟာရဝါသီ ဂိုဏ်းကြီးအတွင်း၌၊ (ဝါ-မဟာဝိဟာရ ဝါသီကျောင်းတိုက်ကြီး အတွင်း၌) ပိဋကတ်တော်များကို သင်ကြားအား ထုတ်တော်မူခဲ့ကြောင်း၊ထင်ရှားလေသည်၊ ယခင် ပိဋကတ်တော်များကိုစောင့်ရှောက်ထိမ်းသိမ်းတော်မူခဲ့ကြသည့် သီဟိုဠ်ဆရာ တော်ကြီးများမှာလည်းမဟာဝိဟာရဝါသီ ဂိုဏ်းဝင် ဆရာတော်ကြီးများပင် ဖြစ်ကြောင်း၊ ထင်ရှားလှပါပေသည်။

ဗုဒ္ဓသိရီ အရှင်မြတ်၏တိုက်တွန်းတော်မူချက်အရ ရေးသားတော် မူအပ်သော ဝိနည်းအဖွင့်ပါရာဇိကဏ်အဋ္ဌကထာ ဆရာကျမ်းဦး၌ကိုယ်တော်တိုင်–

> မဟာဝိဟာရဿ ဓဇူပမေဟိ၊
> သံဝဏ္ဏိတောယံ ဝိနယော နယေဟိ၊

စသည်ဖြင့် ဖေါ်ပြတော် မူခြင်း ဖြစ်လေသည်၊

နှင့်ဗုဒ္ဓဃောသအရှင်မြတ်၏ လောင်းပန်ချက်အရ ရေးသားတော် မူအပ်သော အဘိဓမ္မာ အဖွင့် အဋ္ဌသာလိနီ အဋ္ဌကထာကျမ်း ဦး၌လည်း ကိုယ်တော်တိုင်–

> မဟာဝိဟာရဝါသီနံ၊
> ဒီပယန္တော ဝိနိစ္ဆယံ၊

စသည်ဖြင့် ပြဆိုတော်မူလေသည်၊ အရှင်မဟာဗုဒ္ဓဃောသ ပြုစုတော်မူသည့်ကျမ်းတို့၏နိဂုံးများ၌လည်း–

> မဟာဝိဟာရဝါသီနံ
> ဝံသာလင်္ကာရ ဘူတေန၊

စသည်ဖြင့်ပြဆိုတော် မူချက်များကို တွေ့ရလေသည်။

## ဇေတဝန နှင့် အဘယဂိရိ

ထိုအခါက သီဟိုဠ်ကျွန်း၌ အဘယဂိရိဝါသီဂိုဏ်း၊ ဇေတဝန ဝါသီဂိုဏ်း စသည်တို့လည်း ထင်ရှားသောဂိုဏ်းကြီးများပင် ဖြစ်ကြောင်းကို ဗုဒ္ဓ ဘာသာ စာပေများအရသိရလေသည်၊ သို့သော်–အရှင်မဟာ ဗုဒ္ဓဃောသသည်၊ ထိုဂိုဏ်းကြီး များ၏ အယူအဆကို လက်မခံကြောင်း ထင် ရှား လှ ပါ ပေ သည်၊ ထိုကြောင့် ကိုယ်တော်တိုင်–

> နိကာယန္တရ လဒ္ဓီဟိ၊
> အသမ္မိဿံ အနာကုလံ၊

စသည်ဖြင့် ပြဆိုတော်မူချက်များကိုတွေ့ရလေသည်။

## ဝိသုဒ္ဓိမဂ်

အဋ္ဌကထာ ဆရာကြီးသည်၊ အဋ္ဌကထာသစ်များကို ရေ ကူးပြုစုတော် မမူ

(စာမျက်နှာ ၁၇ သို့ဆက်ကြည့်ပါ)



# အဘိဓမ္မာ ( ၇ ) ကျမ်း ပါဠိတော်

# ၈၀၀ ပါဠိဝိသောဓကဆရာတော်များ

## ကျမ်းအမှတ်စဉ်(၁၈)အဘိဓမ္မာ-ဓမ္မသင်္ဂဏီပါဠိတော်

### မကွေး-ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးယသ | ၅၀ | မူလစာချ | ညောင်ပင်သာကျောင်း | မကွေးမြို့ | မကွေး |
| ၂ | ဦးနာရဒ | | ။ | မဟာဝိသုတာရာမတိုက် | ။ | ။ |
| ၃ | × ဦးပဒုမ | | ပရိယတ္တိဓမ္မာစရိယ | ။ | ။ | ။ |
| ၄ | × ဦးဝါသေမ | | မူလစာချ | ။ | ။ | ။ |
| ၅ | ဦးဝိသောဘဏ | | ။ | ။ | ။ | ။ |
| ၆ | ဦးကုမာရ | | သာသနဓဇသိရီပဝရ | ။ | ။ | ။ |
| ၇ | ဦးအာစာရ | ၄၁ | မူလဓမ္မာစရိယ | ဗေါဓိပင်ကျောင်း | မြသလွန်ကုန်း | ။ |
| ၈ | ဦးသောဘိတ | ၂၆ | ။ | မဟာဓမ္မိကာရုံကျောင်း | ။ | ။ |
| ၉ | ဦးတိဿ | ၃၄ | ။ | | သဖန်းဆိပ်ရွာ | ။ |
| ၁၀ | ဦးကောသလ | ၃၆ | ။ | | ကျောက်မြောင်းရွာ | ။ |
| ၁၁ | ဦးကောသဝန္တ | ၁၆ | ။ | မြင်ကင်းကျောင်း | မြသလွန်ကုန်း | ။ |

### ဆင်ဖြူကျွန်း ပါဠိဝိသောဓက အဖွဲ့သစ်ဆရာတော်များ

| | | | | | | |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးကုသလ | ၄၇ | ဝိနယပရိယတ္တိစာပြန်ပွဲဥက္ကဋ္ဌ | ဆုတောင်းပြည့်ကျောင်း | ဆင်ဖြူကျွန်း | မင်းဘူး |
| ၂ | ဦးဝိဇယ | ၂၂ | မူလစာချ | မဟာဝိဇယာရာမတိုက် | ။ | ။ |
| ၃ | × ဦးနန္ဒဝံသ | ၃၂ | သကျသီဟဓမ္မာစရိယ | ။ | ။ | ။ |
| ၄ | ဦးသံဝရ | ၁၄ | မူလဓမ္မာစရိယ | ။ | ။ | ။ |
| ၅ | ဦးကဝိဓဇ | ၁၁ | ။ | ။ | ။ | ။ |
| ၆ | ဦးပညာသီဟ | ၂၉ | ။ | ။ | ။ | ။ |
| ၇ | ဦးသုမန | ၁၂ | ။ | ။ | ။ | ။ |
| ၈ | ဦးဩဘာသ | ၂၆ | ။ | ပြည်စိုးကုန်းကျောင်း | ။ | ။ |
| ၉ | ဦးပဏ္ဍိတ | ၃၀ | ။ | ရေကြည်အိုင်ကျောင်း | ။ | ။ |
| ၁၀ | ဦးသာဂရ | ၂၄ | ။ | ရွာတောကျောင်းကြီး | ။ | ။ |

## ကျမ်းအမှတ်စဉ်(၁၉)အဘိဓမ္မာ—ဝိဘင်း ပါဠိတော်

### ပြည်မြို့ ပါဠိဝိသောဓက အဖွဲ့ဝင် ဆရာတော်များ

| | | | | | | |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးနာဂိန္ဒ | ၄၂ | ပရိယတ္တိဓမ္မာစရိယ | တောင်းပေါ်ကျောင်း | ပြည် | ပြည် |
| ၂ | × ဦးတေဇနိယ | ၃၇ | ။ | ဇောတိကာရုံတိုက် | ။ | ။ |
| ၃ | ဦးပဏ္ဍဝံသ | ၂၅ | သာသနဓဇသိရီပဝရ | ငှက်သိုက်ကျောင်း | ။ | ။ |
| ၄ | ဦးဓမ္မိက | ၁၉ | ။ | ဇောတိကာရုံတိုက် | ။ | ။ |
| ၅ | ဦးဥာဏရေ | ၁၂ | ။ | ။ | ။ | ။ |
| ၆ | ဦးဥာဏဗုဒ္ဓိ | ၃၃ | မူလဓမ္မာစရိယ | ပေါင်းတည်ကျောင်း | ပန်းတောင်း | ။ |

## ကျမ်းအမှတ်စဉ် (၂၀)အဘိဓမ္မာ ဓါတုကထာပါဠိတော်

### ရွှေတောင်မြို့ ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| | | | | | | |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးဥာဏိန္ဒ | ၄၀ | မူလဓမ္မာစရိယ | ရွှေဘိုက်သစ် | ရွှေတောင် | ပြည် |
| ၂ | ဦးဥာဏဗုဒ္ဓိ | ၃၄ | ။ | ရေပိုင်းကျောင်းတိုက် | ပန်းတောင်းမြို့ | ။ |
| ၃ | ဦးသုမန | ၃၄ | ။ | ဂန္ဓာရုံကျောင်းတိုက် | ရွှေတောင် | ။ |
| ၄ | ဦးဝိစာရ | | ။ | ဗိုလ်ရုံကျောင်းတိုက် | ။ | ။ |
| ၅ | ဦးစက္ကာဒေဝ | | ။ | ပန်းတောင်းကျောင်းတိုက် | ။ | ။ |
| ၆ | × ဦးကုသလ | ၁၈ | သာသနဓဇသိရီပဝရ | ဘုရားငါးဆူကျောင်း | ။ | ။ |
| ၇ | × ဦးအဂ္ဂိယ | ၁၆ | မူလဓမ္မာစရိယ | မဟာဝိဇိတာရုံတိုက် | ။ | ။ |
| ၈ | ဦးပညာဇောတ | ၂၁ | အစိုးရဓမ္မာစရိယ | ဂန္ဓာရုံတိုက် | ။ | ။ |
| ၉ | ဦးသုရိယ | ၁၅ | မူလဓမ္မာစရိယ | ရန်အောင်မြင် | ။ | ။ |
| ၁၀ | ဦးသုရိန္ဒ | ၃၆ | ။ | ဝါဆိုကျောင်း | ။ | ။ |
| ၁၁ | ဦးပဏ္ဍိတ | ၃၉ | ။ | ဝဇီရာရာမတိုက် | ။ | ။ |
| ၁၂ | ဦးဂန္ဓမာ | ၃၇ | ။ | ငါးဆူကျောင်း | ။ | ။ |
| ၁၃ | ဦးစက္ကိန္ဒ | ၃၀ | ။ | ကျောင်းကြီးကျောင်း | ။ | ။ |
| ၁၄ | ဦးပညာဝံသ | ၂၉ | ။ | ဓမ္မာရုံကျောင်း | ။ | ။ |
| ၁၅ | ဦးဣန္ဒာစက္က | ၁၆ | ပဋ္ဌမကျော် | ဘုရားငါးဆူကျောင်း | ။ | ။ |

## မိုးညို ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဆရာတော်ဦးနာဂိန္ဒသာမိ | ၅၀ | အဂ္ဂမဟာပဏ္ဍိတ | ဝေဇယန္တာမင်းကျောင်း | မိုးညို | သာယာဝတီ |
| ၂ | ဦးပဏ္ဍိစ္စ | ၄၅ | မူလဓမ္မာစရိယ | ကျွန်းကလေးကျောင်း | ʺ | ʺ |
| ၃ | ဦးကုသလ | ၄၄ | ʺ | ဆိုက်ကုန်းကျောင်း | ʺ | ʺ |
| ၄ | ဦးဇာဂရ | ၄၁ | ʺ | စလင်းကျောင်း | ʺ | ʺ |
| ၅ | ဦးဇနိတ | ၃၆ | ʺ | ဘုရားကြီးကျောင်း | ʺ | ʺ |
| ၆ | ဦးဒွန္နာဘာသ | ၃၄ | ʺ | သိမ်ကုန်းကျောင်း | ʺ | ʺ |
| ၇ | ဦးကုဏ္ဍလာဘိဝံသ | ၂၇ | မဟာဓမ္မာစရိယ | ဆင်ကျွန်းကျောင်းကြီး | ʺ | ʺ |
| ၈ | ဦးသုမန | ၂၄ | မူလဓမ္မာစရိယ | စံကျောင်း | ʺ | ʺ |
| ၉ | ဦးဓမ္မသာမိ | ၂၆ | ʺ | ဓမ္မာရုံကျောင်း | ʺ | ʺ |
| ၁၀ | ဦးအရိယ | ၂၃ | ʺ | တောရကျောင်း | ʺ | ʺ |

## မင်းလှ ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးကောသလ္လ | ၄၂ | မူလဓမ္မာစရိယ | မဟာဇေယျကျောင်း | မင်းလှ | သာယာဝတီ |
| ၂ | ဦးဥာဏဝရ | ၂၇ | ʺ | မြို့တွင်းဆုတောင်းပြည့် | ʺ | ʺ |
| ၃ | ဦးသုမင်္ဂလ | ၂၇ | ʺ | ပန်းတောကျောင်း | ʺ | ʺ |
| ၄ | ဦးခေမာ | ၂၇ | စေတီယင်္ဂဏဓမ္မာစရိယ | ပေါ်ဒီကုန်းကျောင်း | ရေကျော်ရွာ | ʺ |
| ၅ | ဦးဒီပါဘိဝံသ | ၂၇ | အစိုးရနှင့်စေတီယင်္ဂဏ | သဒ္ဓမ္မဇောတိကာရုံ | မင်းလှ | ʺ |
| ၆ | ဦးကောဏ္ဍည | ၁၇ | ပဌမကြီး | သရက်ပင်ဆိပ်ကျောင်း | ʺ | ʺ |

## ပြည်မြို့ ပွင့်လှသိမ်ကုန်း ကျောင်းတိုက်၊သိမ်ကုန်း နိကာယ-နာယက ဆရာတော်ဘုရားကြီး ကြီးမှူးတော်မူသော ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးတိက္ခ | ၅၁ | ပြည်မြို့နယ်လုံး ဆိုင်ရာ ဂိုဏ်း ပေါင်းစုံ မဟာသံဃာ အဖွဲ့ ဂိုဏ်းချုပ် | (ပွင့်လှသိမ်ကုန်းတိုက်) | ပြည်မြို့ | ပြည် |
| ၂ | ဦးဇာဂရ | ၅၀ | မူလဓမ္မာစရိယ | ကြားတောရတိုက် | ʺ | ʺ |
| ၃ | ဦးစန္ဒိမာ | ၃၀ | ʺ | ပွင့်လှသိမ်ကုန်းတိုက် | ʺ | ʺ |
| ၄ | ဦးဝိဇယ | ၃၇ | ʺ | ဓမ္မိကတောရတိုက် | ʺ | ʺ |
| ၅ | ဦးကုမာရ | ၃၇ | ʺ | သာသနဒီပါရုံတိုက် | ʺ | ʺ |
| ၆ | ဦးဣန္ဒာစက္က | ၃၆ | ʺ | ပွင့်လှသိမ်ကုန်းတိုက် | ʺ | ʺ |
| ၇ | ဦးဥာဏုတ္တရ | ၃၅ | သာသနဇောတိပါလ ဓမ္မာစရိယ | ပေါ်တော်မူတိုက် | ပန်းတောင်း | ʺ |
| ၈ | × ဦးပညာဓိပတိ | ၃၄ | ʺ | မဟာမေဃဝန်တိုက် | ပြည် | ʺ |
| ၉ | ဦးသုဇာတ | ၃၂ | မူလဓမ္မာစရိယ | စန္ဒာရုံတိုက် | ʺ | ʺ |
| ၁၀ | ဦးဥာဏ | ၂၇ | ʺ | စံနန်းဦးတိုက် | ʺ | ʺ |
| ၁၁ | ဦးပညာဇောတ | ၂၁ | သာသနဇောတိပါလ ဓမ္မာစရိယ | ဂန္ဓာရုံတိုက် | ရွှေတောင် | ʺ |
| ၁၂ | ဦးပညိန္ဒ | ၂၀ | မူလဓမ္မာစရိယ | ပွင့်လှသိမ်ကုန်းတိုက် | ပြည် | ʺ |
| ၁၃ | ဦးဝါသေမာဏ္ဍာဘိဝံသ | ၁၉ | စေတီယင်္ဂဏနှင့်အစိုးရဓမ္မာစရိယ | ဂန္ဓာရုံတိုက် | ကြို့သ | ʺ |
| ၁၄ | ဦးသာသန | ၁၅ | သာသနဇောတိပါလ ဓမ္မာစရိယ | ʺ | ရွှေတောင် | ʺ |
| ၁၅ | ဦးကောသလ္လ | ၆ | ʺ | ပွင့်လှသိမ်ကုန်းတိုက် | ပြည် | ʺ |

## ကျမ်းအမှတ်စဉ်(၂၁)အဘိဓမ္မာ-ပုဂ္ဂလပညတ်ပါဠိတော်

## ပြည်ခရိုင် ပန်းတောင်းမြို့ ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးဝါသဝ | ၆၀ | အဂ္ဂမဟာပဏ္ဍိတ | ဆုတောင်းပြည့်ကျောင်းတိုက် | ပန်းတောင်း | ပြည် |
| ၂ | ဦးသုဘာသိတ | ၄၆ | ʺ | ကန်တွင်းဆုတောင်းပြည့်တိုက် | ပြည် | ʺ |
| ၃ | ဦးအဟောဝတ | | သာသနဇောတိပါလ | ဆုတောင်းပြည့်ကျောင်းတိုက် | ပန်းတောင်း | ʺ |
| ၄ | × ဦးဇဝိန္ဒာ | ၃၀ | မူလဓမ္မာစရိယ | သီရိမင်္ဂလာရုံကျောင်း | ပြည် | ʺ |
| ၅ | × ဦးဓမ္မာဘိဝရ | | သာသနဇောတိပါလ | ဆုတောင်းပြည့်တိုက် | ပန်းတောင်း | ʺ |
| ၆ | ဦးအမ္ဗုဒ္ဓရ | | မူလဓမ္မာစရိယ | ʺ | ʺ | ʺ |
| ၇ | ဦးဉာဏသေဋ္ဌိ | | ʺ | ဆုတောင်းပြည့်တိုက် | တောင်ကုတ် | ʺ |

## ပေါင်းတည်မြို့ ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် × ဦးဝိစိတ္တ | ၄၄ | မူလဓမ္မာစရိယ | လေးလုံကျောင်းတိုက် | ပေါင်းတည် | ပြည် |
| ၂ | ဦးဥာဏသ | ၄၁ | ʺ | ဘုရားငါးဆူကျောင်း | ʺ | ʺ |
| ၃ | ဦးသုမင်္ဂလ | ၂၇ | ပရိယတ္တိဓမ္မာစရိယ | သဒ္ဓမ္မဇောတိကာရုံ | ʺ | ʺ |
| ၄ | ဦးစန္ဒာဘာသ | ၂၅ | မူလဓမ္မာစရိယ | မဟာဝိသုတာရာမတိုက် | ʺ | ʺ |
| ၅ | ဦးအရိယဝံသ | ၂၆ | ʺ | မဟာအောင်မြေကျောင်း | ʺ | ʺ |
| ၆ | ဦးသံဝရ | ၂၉ | ʺ | မကုဋာရုံကျောင်း | ʺ | ʺ |
| ၇ | ဦးသုရိယ | ၂၀ | ʺ | မြတ်စောညီနောင်တိုက် | ʺ | ʺ |
| ၈ | ဦးဇဝနာဘိဝံသ | ၂၄ | သာသနဇောတိပါလ | နန်းဦးကျောင်းတိုက် | ʺ | ʺ |
| ၉ | ဦးဥေယျမ္မ | ၃၅ | မူလဓမ္မာစရိယ | ʺ | ʺ | ʺ |

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁၀ | ဦးဓမ္မသာမိ | ၂၁ | မူလဓမ္မာစရိယ | ကွန်းပင်ကျောင်း | ပေါင်းတည် | ပြည် |
| ၁၁ | ဦးဝေပုလ္လ | ၂၀ | 〃 | ညောင်ပင်ကုန်း | 〃 | 〃 |

## ကျမ်းအမှတ်စဉ်(၂၂)အဘိဓမ္မာ-ကထာဝတ္ထုပ္ပကရဏပါဠိတော်

### မန္တလေးမြို့ အနောက်ပြင်-ဆင်တဲတိုက်၊ ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| | | | | | | |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးဇာနိယာဘိဝံသ | ၅၃ | အဂ္ဂမဟာပဏ္ဍိတ | ဆင်တဲတိုက်သစ် | အနောက်ပြင် | မန္တလေး |
| ၂ | ဦးတိလောက | ၄၇ | မူလဓမ္မာစရိယ | ရတနာပုဂံတိုက် | 〃 | 〃 |
| ၃ | × ဦးစန္ဒာဝရာဘိဝံသ | ၄၀ | ပရိယတ္တိဓမ္မာစရိယ | ရွှေဂေါ်ကျောင်း-အနောက်ထီးလင်း | 〃 | 〃 |
| ၄ | × ဦးသာသန | ၃၉ | မူလဓမ္မာစရိယ | မန်လည်အုဋ္ဌကျောင်း- ၎င်း | 〃 | 〃 |
| ၅ | ဦးဥာဏုတ္တရ | ၁၅ | သာသနဓဇဓမ္မာစရိယ | တိုက်အုပ်ကျောင်း-ရတနာပုဂံတိုက် | 〃 | 〃 |

## ကျမ်းအမှတ်စဉ်(၂၃)အဘိဓမ္မာ-ယမိုက်ပါဠိတော် အောက် ၅ ကျမ်း

### အမရပူရမြို့ ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| | | | | | | |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးနန္ဒိယ | ၃၀ | မူလဓမ္မာစရိယ | တူးမောင်းတိုက် | အမရပူရ | မန္တလေး |
| ၂ | ဦးကောသလ္လ | | 〃 | 〃 | 〃 | 〃 |
| ၃ | × ဦးဝိလာသ | ၃၃ | 〃 | 〃 | 〃 | 〃 |
| ၄ | ဦးရေနက | | 〃 | 〃 | 〃 | 〃 |
| ၅ | × ဦးကလျာဏ | | 〃 | 〃 | 〃 | 〃 |
| ၆ | ဦးပညိန္ဒ | | ပရိယတ္တိဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၇ | ဦးပဏ္ဍိတ | | မူလဓမ္မာစရိယ | 〃 | 〃 | 〃 |

## ကျမ်းအမှတ်စဉ်(၂၃)အဘိဓမ္မာ ယမိုက်ပါဠိတော်အထက်(၅)ကျမ်း

### တောင်ငူ(သုဓမ္မာ)ပါဠိဝိသောဓကအဖွဲ့ဝင် ဆရာတော်များ

| | | | | | | |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးတေဇိန္ဒ | ၅၁ | မူလဓမ္မာစရိယ | အောင်မြေဖေယျုံတိုက် | တောင်ငူမြို့ | တောင်ငူ |
| ၂ | ဦးအာစရ | | 〃 | သရက်တောကျောင်း | 〃 | 〃 |
| ၃ | × ဦးကုသုမ | ၄၅ | 〃 | ကေတုမတီကျောင်း | 〃 | 〃 |
| ၄ | ဦးဝိမလ | ၃၅ | 〃 | ဝတ်ရုံကျောင်း | 〃 | 〃 |
| ၅ | မန္တလာဆရာတော် | ၄၄ | 〃 | ကျွန်းကုန်းကျောင်း | 〃 | 〃 |
| ၆ | ဆရာတော် ဦးသံဝရ | ၁၇ | 〃 | နဂါးရုံ-ဇီးတောကျောင်း | 〃 | 〃 |

## ကျမ်းအမှတ်စဉ်(၂၄)အဘိဓမ္မ ပဋ္ဌာန်း-ပဌာန(ပဌမ)

### မုံရွာမြို့ ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| | | | | | | |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် × ဦးနန္ဒိယ | ၄၄ | မူလဓမ္မာစရိယ | ရွှေနွယ်ရိုး | မုံရွာ | မုံရွာ |
| ၂ | × ဦးအာစိဏ္ဏ | ၃၄ | 〃 | ပေပင်တိုက် | 〃 | 〃 |
| ၃ | ဦးကောဝိဒ | ၂၂ | 〃 | 〃 | 〃 | 〃 |
| ၄ | ဦးသီလာစာရ | ၁၀ | 〃 | 〃 | 〃 | 〃 |
| ၅ | ဦးဝါယမ | ၁၅ | 〃 | 〃 | 〃 | 〃 |
| ၆ | ဦးဇိနိန္ဒ | ၄၁ | 〃 | 〃 | 〃 | 〃 |
| ၇ | ဦးမာလာ | ၃၃ | 〃 | မာလာယာမယွန်း | 〃 | 〃 |
| ၈ | ဦးမာလာ | ၁၄ | အစိုးရပဌမကြီး | သေသာကျောင်း | 〃 | 〃 |
| ၉ | ဦးစန္ဒိမာ | ၂၇ | မူလစာချ | ရွှေစည်းခုံတိုက် | 〃 | 〃 |
| ၁၀ | ဦးစာရိန္ဒ | ၃၅ | 〃 | ကျောင်းသစ် | 〃 | 〃 |
| ၁၁ | ဦးသုမင်္ဂလ | ၂၀ | 〃 | သုမင်္ဂလာရာမ | 〃 | 〃 |
| ၁၂ | ဦးဇောတိက | ၂၁ | 〃 | မဏ္ဍိမာရုံ | 〃 | 〃 |
| ၁၃ | ဦးမာလာ | ၄၂ | 〃 | ရွှေထီးပေါက် | အရာတော် | 〃 |
| ၁၄ | ဦးစန္ဒောဘာသ | ၃၆ | 〃 | မြေရာတော်တောင်ကျောင်း | 〃 | 〃 |
| ၁၅ | ဦးသုဝဏ္ဏ | ၃၂ | 〃 | နှစ်ဆောင်ဖြိုင် | 〃 | 〃 |
| ၁၆ | ဦးဇဝန | ၂၅ | 〃 | တောကျောင်းကလေး | 〃 | 〃 |
| ၁၇ | ဦးကုဏ္ဍလ | ၁၉ | 〃 | ဇေတဝန်ကျောင်း | ခင်ဦးယင်တဲ | 〃 |

## ကျမ်းအမှတ်စဉ်(၂၄)အဘိဓမ္မပဋ္ဌာန်း-ပဌာန(ဒုတိယ)

### မုံရွာမြို့ ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| | | | | | | |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် × ဦးဝါယမ | ၃၀ | အစိုးရပဌမကျော် | အရှေ့လယ်တီ | မုံရွာ | မုံရွာ |
| ၂ | ဦးကေဝလ | ၂၀ | မူလစာချ | သနေ့ပင်တောရ | 〃 | 〃 |
| ၃ | × ဦးကေသရ | ၂၀ | 〃 | မြို့မရွှေဂူ | 〃 | 〃 |
| ၄ | ဦးသိရိန္ဒ | ၂၅ | 〃 | 〃 | 〃 | 〃 |
| ၅ | ဦးဥာဏိန္ဒ | ၃၂ | 〃 | အရှေ့လယ်တီ | 〃 | 〃 |
| ၆ | ဦးမာလာသိရိ | ၁၄ | အစိုးရဓမ္မာစရိယ | 〃 | 〃 | 〃 |
| ၇ | ဦးနန္ဒိယ | ၂၆ | မူလစာချ | မဏိရတနာပုံ | 〃 | 〃 |
| ၈ | ဦးပုညာဘိဝံသ | ၃၄ | 〃 | အနောက်လယ်တီ စိတ္တသုခ | 〃 | 〃 |

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၉ | ဦးဇဝန | ၁၉ | မူလစာချ | မဟာလယ်တီ | မုံရွာ | မုံရွာ |
| ၁၀ | ဦးနိသဘ | ၂၄ | 〃 | ရွှေတမာ | 〃 | 〃 |
| ၁၁ | ဦးသီဟ | ၃၆ | 〃 | ကံဦး | 〃 | 〃 |
| ၁၂ | ဦးတေဇဝန္တ | ၄၃ | 〃 | အရှေ့တိုက် | ဘုတလင် | 〃 |
| ၁၃ | ဦးဇဝန | ၁၉ | 〃 | အနောက်တိုက် | 〃 | 〃 |
| ၁၄ | ဦးပုညဘိ | ၂၃ | 〃 | သိရိမင်္ဂလာအုတ်ကျောင်း | 〃 | 〃 |
| ၁၅ | ဦးနရာဓိပတိ | ၁၆ | အစိုးရဓမ္မာစရိယ | လယ်ပြင်ကျောင်း | 〃 | 〃 |
| ၁၆ | ဦးကောသလ္လမာဘိ | ၉ | 〃 | မဟာလယ်တီ | မုံရွာ | 〃 |

## ကျမ်းအမှတ်စဉ်(၂၄)အဘိဓမ္မာပိဋက-ပဋ္ဌာန်(တတိယ)

### မုံရွာမြို့ ပါဠိပိဿောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် × ဦးသုတ | ၄၁ | မူလစာချ | ရွှေကျင်ဓမ္မာရုံတိုက် | မုံရွာ | မုံရွာ |
| ၂ | ဦးကဝိန္ဒ | ၂၉ | 〃 | ဇေတဝန် | 〃 | 〃 |
| ၃ | × ဦးဣန္ဒာစာရ | ၂၇ | 〃 | ရွှေသိမ်တော် | 〃 | 〃 |
| ၄ | ဦးဣသရိယ | ၂၁ | အစိုးရဓမ္မာစရိယ | သာသနာ့ရက္ခိတ | 〃 | 〃 |
| ၅ | ဦးနန္ဒဝံသ | ၂၁ | မူလစာချ | ပါဠိသိပ္ပံ | 〃 | 〃 |
| ၆ | ဦးစန္ဒောဘာသ | ၃၁ | 〃 | သိင်္ဂါရုံတိုက် | ချောင်းဦး | 〃 |
| ၇ | ဦးကောသလ္လ | ၂၀ | 〃 | ဝေါင်တော်ဦး | မုံရွာ | 〃 |
| ၈ | ဦးဇဝန | ၂၂ | 〃 | ကျောင်းသစ် | 〃 | 〃 |
| ၉ | ဦးကောဏ္ဍည | ၃၂ | 〃 | ရေဝန် | 〃 | 〃 |
| ၁၀ | ဦးဇဝန | ၃၀ | 〃 | တောရကျောင်း | ပုလဲ | 〃 |
| ၁၁ | ဦးဣန္ဒဝံသ | ၃၀ | 〃 | ဆင်ယုဉ်ကျောင်း | 〃 | 〃 |
| ၁၂ | ဦးစန္ဒောဘာသ | ၁၅ | 〃 | ညောင်ဝန်းကျောင်း | ကနီ | 〃 |
| ၁၃ | ဦးပညာသာမိ | ၃၆ | 〃 | ရွှေစည်းခုံတိုက် | 〃 | 〃 |
| ၁၄ | ဦးဝဏ္ဏ | ၄၅ | 〃 | ဆင်ဖြူတော်ကုန်း | 〃 | 〃 |
| ၁၅ | ဦးပညာဇော | ၄၁ | 〃 | စေတီယ | 〃 | 〃 |

## ကျမ်းအမှတ်စဉ်(၂၄)အဘိဓမ္မာပိဋက-ပဋ္ဌာန်(စတုတ္ထ)

### မုံရွာမြို့ ပါဠိပိဿောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် ဦးဥတ္တမသာရ | ၃၁ | မူလစာချ | မဟာဗောဓိကာရာမပါဠိတက္ကသိုလ် | မုံရွာ | မုံရွာ |
| ၂ | × ဦးနန္ဒ | ၃၉ | 〃 | ရွာသစ်ကျောင်း | ချောင်းဦး | 〃 |
| ၃ | × ဦးအာဒိစ္စာရ | ၂၂ | 〃 | 〃 | မုံရွာ | 〃 |
| ၄ | ဦးကောသလ္လ | ၂၂ | 〃 | ကံကြီး | ချောင်းဦး | 〃 |
| ၅ | ဦးကုဏ္ဍလ | ၂၃ | ဓမ္မာစရိယ | ဗောဓိကာရာမ | 〃 | 〃 |
| ၆ | ဦးဝိရိယ | ၁၉ | အစိုးရဓမ္မာစရိယ | 〃 | မုံရွာ | 〃 |
| ၇ | ဦးစန္ဒောဘာသ | ၁၇ | 〃 | 〃 | 〃 | 〃 |
| ၈ | ဦးဝိလာသ | ၃၅ | မူလစာချ | ရွှေတောင်တိုက် | 〃 | 〃 |
| ၉ | ဦးမာဃိတ | ၃၃ | 〃 | ဓမ္မာရုံ | 〃 | 〃 |
| ၁၀ | ဦးဣန္ဒက | ၄၆ | 〃 | ဓမ္မိကာရာမ | 〃 | 〃 |
| ၁၁ | ဦးကောသလ္လ | ၁၈ | 〃 | ရွှေသိမ်တော် | 〃 | 〃 |
| ၁၂ | ဦးဝဏ္ဏ | ၂၄ | 〃 | မဟာဓမ္မာရုံ | 〃 | 〃 |
| ၁၃ | ဦးဘဒ္ဒိယ | ၃၂ | 〃 | သုံးထပ် | 〃 | 〃 |
| ၁၄ | ဦးသုဒဿန | ၂၁ | 〃 | အရှေ့ရွှေကျောင်း | 〃 | 〃 |
| ၁၅ | ဦးအဂ္ဂ | ၁၅ | 〃 | ရွှေတောင်တောရ | 〃 | 〃 |
| ၁၆ | ဦး[illegible] | ၃၂ | 〃 | ယွန်းဆက်ကျောင်း | ဘုတလင် | 〃 |
| ၁၇ | ဦးဝိဇာရ | ၃၁ | 〃 | မဟာစေတီလှ | 〃 | 〃 |

## ကျမ်းအမှတ်စဉ်(၂၄)အဘိဓမ္မာပိဋက ပဋ္ဌာန်{ပဥ္စမ}

### မုံရွေးပါဠိပိဿောဓက အဖွဲ့သစ်ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဆရာတော် × ဦးဥတ္တမဗုဒ္ဓိ | ၃၅ | မူလဓမ္မာစရိယ | မဟာဇေတဝန် | မုံရွေး | မုံရွာ |
| ၂ | × ဦးဣသရာဘိဝံသ | ၂၁ | အစိုးရနှင့်ပရိယတ္တိဓမ္မာစရိယ | သာသနရက္ခိတ | သာဇံတိုက် | 〃 |
| ၃ | ဦးပညာဇော | ၄၀ | မူလဓမ္မာစရိယ | စေတီရာမ | ညောင်ပင်စောက်ရွာ | 〃 |
| ၄ | ဦးသောဘိတ | ၃၇ | 〃 | မဟာဆွေပေါင်းကျောင်းသစ် | ထနောင်းတောရွာ | 〃 |
| ၅ | ဦးမာဃ[illegible] | ၄၇ | 〃 | ကျောင်းသစ် | နွားထိန်း | 〃 |
| ၆ | ဦးဇောတိက | ၂၀ | 〃 | ထန်းလေးပင်ကျောင်း | ထန်းလေးပင်ရွာ | |
| ၇ | ဦးပေသလ | ၄၄ | 〃 | လေးထပ် | ကြေးမုံ | |
| ၈ | ဦးကုသလ | ၄၁ | 〃 | မေဃဝန် | 〃 | 〃 |
| ၉ | ဦးမာလာ | ၄၇ | 〃 | ယာကြီးကျောင်း | 〃 | 〃 |
| ၁၀ | ဦးဧဝေါဘာသ | ၂၉ | 〃 | သင်္ဂါရုံတိုက် | ခင်မွန် | 〃 |

# ဝိနယပိဋကကို နောက်ဆုံးသုတ်သင်တော်မူကြပုံ

## သီဟိုဠ်-ယိုးဒယား ကိုယ်စားလှယ်ဆရာတော်များနှင့် မန္တလေးမြို့ ဝန်ဆောင် ဆရာတော်များ ပဋိဝိသောဓက ဆရာတော်များ ဝိနယ-ပိဋက ကို ထပ်မံတိုက်ဆိုင်ပြင်ဆင်သည့် မှတ်တမ်း။

### ပါရာဇိကကဏ်

ရန်ကုန်မြို့ သာသနာ့ရိပ်သာ၌(၂၀-၇-၅၃) နေ့ကကျင်းပသော ဝန်ဆောင်အဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက် အမှတ်-၄ အရ၊ သီဟိုဠ်၊ ယိုးဒယား ကိုယ်စားလှယ်ဆရာတော်များကို အရာရှိချုပ် ဦးခင်နီးမောင်နှင့် အတူ (၂၅-၇-၅၃) နေ့က မန္တလေးမြို့သို့ ပင့်ဆောင်သွားပါသည်၊ ၂၇ ရက်နေ့မှစ၍ ၃ ရက်၊ မြို့ပေါ်ရှိ ကျောင်းတိုက်များနှင့်တန်ခိုးကြီးဘုရားများကို ဖူးမြော်ကြပါသည်။ ထို-၃ ရက်အတွက် ဝိဇ္ဇာလင်္ကာရတိုက် က ဆွမ်း၊ စသော ဝတ်ကြီး ဝတ်ငယ်များကို ပြုစုပါသည်၊ အိပ်ရာ နေရာ များကိုလည်း ကောင်းမွန်စွာ ပြင်ဆင်၍ ရှင်သာမဏေ များက အာဂန္တုကဝတ် ကြေပွန်အောင် ရွက်ဆောင်ကြပါသည်၊ ၂၉ ရက်နေ့တွင် အောက်ပါ ဆရာတော် များကို ဝိနည်းမိုရ်အဖွဲ့ ကားဖြင့် ပင့်ဆောင်၍ ပါရာဇိက ပါဠိကို ဆွေးနွေး တိုင်ပင်သုတ်သင်ကြပါသည်။

(၁) ညောင်ရမ်းဆရာတော်၊ (၂) ဟံသာဝတီဆရာတော်၊ (၃) ရွှေစေတီဆရာတော်၊ (၄) မဝိုးရိပ်ဆရာတော်၊ (၅) ငွာမြားဆရာတော်၊ (၆) ဆရာတော် ဦးဝိသုဒ္ဓ၊ (၇) ဦးတန္တ°သဥရဉာန၊ (၈) ဦးသီလာနန္ဒ သီဟိုဠ်-ယိုးဒယား ၃ ပါးဖြစ်ကြောင်း၊

### မဟာဝါပါဠိတော်

မဟာဝါပါဠိကို ပြင်ဆင်သည့်အခါ၊ မင်းကွန်းမှ ဆရာတော် ဦးဝိစိတ္တသာရ ကိုလည်း ပင့်ပါသည်။ အထက်ပါ ဆရာတော်များနှင့် သီဟိုဠ် ယိုးဒယား ဆရာတော်များသည် ဝိနည်းငါးကျမ်း ပြီးဆုံးသည့်အထိ၊ ရက်ပေါင်း ၂၀၊ တိတိ အပင်ပန်းခံ၍ ရွက်ဆောင်တော် မူကြပါသည်၊ နိုင်ငံခြား ဆရာတော်များနှင့် မြန်မာဆရာတော် များသည် ရှေးဦးစွာ တွေ့ဆုံ၍ ရင်းနှီးစွာ ဆွေးနွေး တိုင်ပင်ကြ ပြီးလျှင်၊ ချောမောပြေပြစ်စွာနှင့် ပြီးဆုံးအောင်မြင်သည့်အတွက် အထူး ဝမ်းမြောက်ဘွယ် ကောင်းပါသည်။ သီဟိုဠ်-ယိုးဒယားဆရာတော်များ မန္တလေး မြို့၌ သီတင်းသုံးနေစဉ် စစ်ကိုင်းနှင့်မင်းကွန်းသို့ကြွရောက်သည့်အခါ၊ မန္တလေး အရေးပိုင်က မော်တော်ဘုတ် မော်တော်ကား တို့ဖြင့် ပို့ခြင်း၊ စစ်ကိုင်းအရေးပိုင်ဘိုကကြိုဆို၍ ဆွမ်းများကပ်ခြင်း၊ မင်းကွန်းမြို့နာအုပ်နှင့်သူကြီးဘိုကလည်း ကြိုဆိုခြင်း စသည်တို့ကို ပြုကြပါသည်၊

ဝန်ဆောင် ဆရာတော် ပဋိဝိသောဓက ဆရာတော်၊ နိုင်ငံခြား အာဂန္တုဆရာတော်များကို ရန်ကုန် ပြန်ကြသည့်ထိ ညောင်ရမ်း ဆရာတော်၊ မဝိုးရိပ်ဆရာတော်၊ ရွှေစေတီဆရာတော်၊ ဝိဇ္ဇာလင်္ကာရဆရာတော်တို့၏ ဒကာ-ဒကာမများက နေ့ဆွမ်းကို အသီး အသီး၊ ဆက်ကပ်ကြပါသည်၊ ထိုကြောင့် ဗုဒ္ဓ သာသနာ အဖွဲ့မှ နံနက်ဆွမ်း လဘက်ရည်စသည် ကိုသာ စီမံရ ပါသောကြောင့် ငွေသုံးရသာ ကုန်ပါသည်။ ထိုငွေသည် ဘီသင်ရေတွက် ၅၀ နှင့် မော်မီး ပန်ကာတွက် ၂၅° ပါဝင်ပါသည်။

အာဂန္တု ဆရာတော်များ အတွက် အသေးစိတ် ကုန်ကျသည်ကို ဝိဇ္ဇာလင်္ကာရ တိုက်မှ လှူဒါန်းပါသည်၊ ဆရာတော်သည် ဆဋ္ဌသင်္ဂါယနာတင် ပါဠိတော်မူ ကောင်းမွန် သန့်ရှင်း၊ စေရန်လိုး၊ ဗုဒ္ဓ ဘာသာ နိုင်ငံချင်း ရဟန်းတော်များ ပေါင်းသင်းဆက်ဆံရာတွင်ရင်း၊ ရင်းနှီးသည်ထက် ရင်းနှီးစေရန်ရင်း၊ ရည်ရွယ်၍ အထူးအပင်ပန်းခံ၍ ရွက်ဆောင်ပေးပါသည်၊ ဤသို့ အာဂန္တုဝတ် ကြေပွန်အောင် ရွက်ဆောင်ပေးသဖြင့်လည်း ထို ဆရာတော်များသည်၊ ကြေနပ် နှစ်သက်ခြင်း ရှိကြသည်ဟု ယုံကြည်လျက် ရှိပါသည်။ ဤသို့ဝိသောဓက ကိစ္စ ချောမော ပြေပြစ်သဖြင့် သင်္ဂါယနာတင် ပွဲကြီးသည် ထေရဝါဒ နိုင်ငံချင်း အားပေး ကူညီကြမည်မှာ အမှန်ပင် ဖြစ်ပါကြောင်း။

(ပုံ) ဦးဝိသုဒ္ဓ

အကျိုးဆောင်ဆရာတော်၊

---

### အလှူရှင်များ

(၁) ဦးဂေါ်ရာ-ဒေါ်မြင့်၊ အုတ်သူကြီး ရုံသာလှည်းတန်းရပ် မန္တလေး။ (၂) ကိုစက်အေး-မမြခင် စကြာသီဟ ဘုရား တောင်ဘက် မန္တလေး၊ (၃) လှခင် အင်ဆန်း၊ စာပုံနှိပ်စက် ဇာတ်နန်းရပ် မန္တလေး။ (၄) ကိုချစ်မြင့်- ငွေးငွေး ကမ္ဘဝါကုန်သည် တမာကုန်းရပ်။ (၅) ကိုသိမ်းမောင်-မကြည် ရွာဟိုင်းဈေး တမာကုန်းရပ်၊ (၆) ဒေါ်ခင်၊ ဒေါ်ငါးမိုး၊ (၇) ဒေါ်ဖွားမြစ် တရုတ်တန်း၊ (၈) ဦးဘသန်း၊ ဒေါ်ခင်သိန်း ဆိုက်ကားပိုင် ဆိုင်းတန်း၊ (၉) မမိ-မအုန်းကြည် အုတ်သူကြီး ရုံသာ လှည်းတန်း၊ (၁၀) ဦးဘချစ်နှင့် သားများ တူရိယာဆိုင် လက်ဆည်ကုံး။ (၁၁) ဦးဘဖေ ဆန်စက်ပိုင် ရုံတော်ကြီး။ (၁၂) ဘိုကတော် ဒေါ်မှတ်၊ ညွန့်ညွန့် စိန်ယုန်း၊ (၁၃) ဦးညွန့်- ဒေါ်လှလှ ရွာဟိုင်းဈေး၊ (၁၄) ဦးစိန်ရ သစ်ပွဲစား ပွဲကုန်း၊ (၁၅) ဒေါ်မမ ပိုးကုန်သည်။ ဒီဘိုးလမ်း၊ (၁၆) ပွဲစားကြီး ဦးဆောင် စကြာသီဟဘုရားအရှေ့ဘက်။ (၁၇) ပွဲစား ကိုအွန်း-ခင်းခိန်၊ ဝါးတန်းရပ်။ (၁၈) ပြည်သူ့ဘဏ် ဦးဘမောင်ပုလိပ် မင်းကြီးဟောင်း၊ (၁၉) သစ်စက်ပိုင် ဦးငြိမ်၊ ပွဲကုန်း။ (၂၀) သစ်စက်ပိုင် ဦးစံရင် ပွဲကုန်း၊ (၂၁) ဆရာဝန် ချိုထီ မခင်ဆွေ စစ်ကိုင်းတန်း။ (၂၂) နယ်ပိုင်ဝန်ထောက် ဦးသန်းမောင် စစ်ကိုင်း။ (၂၃) အရေးပိုင်ရုံး ဗုဒ္ဓ ဝေယျာဝစ္စ အသင်း။ (၂၄) သာသနာရေး အရာရှိ ဦးတင်အောင်။

.....o.....

### ပဉ္စမသင်္ဂါယနာတင် ရတုဒိုဒ်ခံ

(၁) တည်ဦးကမ္ဘာ၊ လက်မွန်စွာဖြင့်၊ ကြာနှင့်ဘုရား၊ ထင်ရှားရောင်ရွှန်း၊ ဇမ္ဗူကျွန်းဝယ်၊ တည်ထွန်းဗောဓိ၊ သီရိပလ္လင်၊ မာရ်နှင်အောင်ရာ၊ ဗြဟ္မာနှင့်၊ စဉ်လာမပေး၊ ညီတပြေးဘည်၊ မန္တလေးဘုမ္မိ၊ ပြည်သီရိဝယ်၊ ရာဇိန္ဒမျိုး၊ ဆင့်တိုးမပြတ်၊ ဘုန်းမစွတ်မူ၊ ဥက္ကာဘည်၊ ပွားထုမြင့်ဉာဏ်၊ ရည်ဆုသန့်စွာ၊ ကျွန်းဂန်မြင့်မြတ်၊ ပိဋကတ်ကို၊ ကဲထွတ်ချီးမြင့်၊ တုံ၊ ထပ်ဆင့်၏၊ နှင်းပင့်သာသနာ၊ ရှည်ကြာငါးထောင်၊ တိုင်အောင်တင့်ရွှန်း၊ ထွန်းကြီးအွန်းပိမ့်၊ ကျွန်းလုံဇမ္ဗူ၊ ထိန့်ဆူကျော်ညွှာ၊ လင်းအာဏာနှင့်၊ ဘိမ္မာတန်ခိုး၊ တရားမိုးသည်၊ ရိုက်ကြီးရွာတော့သည်ဘုရား။

(၂) မည်ထုးဖြေပွာ၊ ဆင္ဂီကာလည်း၊ ရွှေကြာသက်နီး၊ အမြိုက်ပန်းကို၊ လှူဒါန်းပြီးနောက်၊ ခြောက်နှစ်မြောက်ဝယ်၊ ထွန်းတောက်ဝိဇ္ဇာ၊ ဝေနေယျာကို၊ ခေမာပြည်ကြီး၊ တင်ခဲ့ပြီးလျှင်၊ ထုံမွှီးခပျက်၊ မိန့်တော်မြွက်သာ၊ ရွှေစက်မပြန်၊ သုံးနိဗ္ဗာန်တွင်၊ နှစ်တန်ကူးရောက်၊ လေးလမြောက်ဝယ်၊ ရွှေမှာက်တမွှာ ဇာဘာသတ်လှိုင်၊ ကဲမြတ်ရှေ့ရှား၊ တင်ထားပြီးခါ၊ နှစ်ဘရာဝယ်၊ ကာလာသောက၊ ဒိတိယမိပတိ၊ ထွန်းလှ'ညီသာ၊ သီရိမ္မာ၊ မင်းမြတ်စွာလျှင်၊ ရဟန္တာမြတ်၊ မိန္ဒျာတဘီသ၊ သီဟဋ္ဌဝယ်၊ ဝဋ္ဋဂါမဏီ၊ ဖြန့်ချီမျှ၊ စာတွင်ပုတ်၊ နိဗ္ဗမပျက်၊ ပေထက်သေချာ၊ ထင်ရှားစွာရှင့်၊ ရောင်ဝါကဲမိုး၊ စည်ညီသည်၊ ကိုက်မြိုးမြာတော့သည်ဘုရား။

(၃) ရှည်ကြူးကမ္ဘာ၊ ရင့်မုံမာဖြင့်၊ ပွင့်လျာဗောဓိ၊ မှန်မေဘိဋ္ဌ၊ ဘူမိယက်ကူး ကျွန်းအလုံးကို၊ ပိဘ်ပုံးဥာဏ်ရောင်၊ အလင်းဆောင်လျက်၊ တောင်ဇမ္ဗူဒိပ်၊ မန်းဂီရိဝိဝယ်၊ ကူးဆိပ်နိဗ္ဗာန်၊ ဖြောင့်မှန်သည့်ပြည်၊ ရန်နှည်ကြွင်း သိကြားနန်းထက်၊ ညွှန့်လန်းဒိုလ်မင်၊ ပွားဘက်ထွန်းပ၊ အရိယတံခွန်၊ ထေရ်မြတ်မွန်ကို၊ ကဲလွန်ပရိယတ်၊ မှူကွယ်ကိုု၊ မိန့်ရွှတ်မြွက်ဟ၊ ပဉ္စမသင်္ဂါယနာ၊ မင်္ဂလာသဘင်၊ ပွဲကြီးယင်၍၊ ထိုရှင်ဓာ်ဘုန်း၊ ရိုက်ချီးလှိုက်ဆူ၊ မရှူဘုံပေါင်း၊ သွန်းဆုသောင်းရှင့်၊ လမ်းကြောင်းဖြောင့်ရာ၊ ကျင့်စိမ့်ငြါဘု၊ ဗိုလ်ပါတို့အာ၊ တရားဥဒေ၊ မေတ္တာရေဖြင့်၊ မြန့်ဝေမြိုးမြိုး၊ ဘန်ဆော်နိုးသည်၊ ပြိုက်တိုးသာတော့သည် ဘုရား။

စာဆိုတော်-ဦးဘိုးလင်းရေးသည်။

### ထန်းတပင်ရွာ

### ဗုဒ္ဓဝေယျာဝစ္စ

ရွှေဘိုခရိုင် ကန့်ဘလူနယ် ထန်းတပင်မြို့တွင် ၁၂၅၀-ခု နှစ်မှစ၍ အရပ်သူ အရပ်သားများ စုပေါင်းပြီး ဗုဒ္ဓဝေယျာဝစ္စ အသင်းတခု တည်ထောင် ကြလေသည်။ ဥက္ကဋ္ဌ မှာဦးတင်ဝေဖြစ်၍အဘွင်းရေးမှူး ငွေထိန်း စာရင်းစစ်စသော အမှုဆောင် လူကြီးများ နှင့်တကွ စံနစ်တကျ ဖွဲ့စည်းထားသော အသင်း၊ တခုဖြစ်၏။

အသင်းသားများသည် ဓမ္မာရုံကြီး တခုကို မြို့မချပ်တွင် စုပေါင်း၊ တည်ဆောက်ကြပြီးလျှင် နှစ်စဉ် နှစ်တိုင်း အခါကြီးနေ့ကြီး ရက်ကြီး များတွင် သံဃာတော်များအား သံဃဒါန ဆွမ်းကပ်ခြင်း ဆွမ်းကြီးလောင်းခြင်းများ၊ အစဉ်မပြတ်ပြုခဲ့ကြ၏။ ထိုပြင်လူငယ် လူရွယ်များကိုသ်ကျင့်တရား ကောင်းမွန်ရေးကိုရှေ့ရှု၍ အချိန်အခါအလျောက် မင်္ဂလာစာမေးပွဲ၊ ဓမ္မစကြာစာမေးပွဲ၊ မဟာသမယ စာမေးပွဲများနှင့်အတွင်းအောင်ခြင်း၊အပြင်အောင်ခြင်း၊ရအာနာရှူချိုင့်ပရိတ်ကြီးသော စာပြန်ပွဲများကိုလည်း ဆင်ယင် ကျင်းပပေးခဲ့လေသည်။ ပွဲတွဲ ပုံ ၂၁(စ မျက်နှင့် ၁၃-မှာကြည့်ပါ) ဓမ္မစကြာ အခါတော်နေ့က အသင်းသူ အသင်းသားများ၊စုရုံးရိုက်ကူးထားသောပုံဖြစ်လေသည်။

.....o.....

# မန္တလေးမြို့ (သကျသီဟ) ပရိ

## သာသနာ့ဒါယကာဖြစ်သော သီပေါမင်းတရားကြီးပါတော်မူပြီးနောက်
## စည်ပင်ရေးအတွက် ထိမ်းထိမ်းကြီး စာချစာသင်အရှင်မြတ်များအဆက်မ

### နိုင်ငံတော်အစိုးရ သာသနာရေးဌာနမှ အသင်းတို
### ဝယ်ယူပြီးနောက် ဆရာတော်ကြီးများအား ဂု
### လွှဲအပ်တော်မူချက်အရ ယခုအခါ ခေတ်



**လူ့အိုရုံတည်ထောင်သော ကျောင်းအမကြီး ဒေါ်ဦးဌွန်းက ၁၂၇၈–ခုနှစ်တွင် လှူဒါန်းသော အသင်းပိုင်(၅)ခန်း တိုက်ပုံ**

**မန္တလေးမြို့(သကျသီဟ) ပရိယတ္တိသာသနဟိတ အသင်း ပါတော်မူပြီးနောက်**

မာရ်အောင် ရတနာ စေတီတော်ဒါယကာ သီပေါမင်းတရား နန်းစံ –၇– နှစ် သက္ကရာဇ် –၁၂၄၇–ခု၊ တန်ဆောင်မုန်းလတွင်၊ မြန်မာတို့ဦးခွန်းဖြစ်သော မင်းမိဖုရားနှစ်ပါးသည် ထီးနန်းဆုံးပါးသော သင်္ခါရ သဘောကို မလွန်ဆန်နိုင်သဖြင့်၊ ကုလားနိုင်ငံ ရတနာဂီရိကျွန်းသို့ ကြွယ္ပ်န်းစံမြန်းတော်မူရလေသည်။

ထိုအခါ ဆရာတော်ကြီး များလည်း စိတ်မချမ်းသာကြသဖြင့်အချို့လည်းတောရွာကျေးလက်သို့ ကြွထွက်သွားတော်မူကြ၏၊ ဗိုရာတပည့်သား၊ စာသင်ငယ် ပုဂ္ဂိုလ်များမှာ၊ အားထား မှီခိုရာမရှိသဖြင့်၊ အသီးသီး မိမိတို့နှစ်သက်ရာဌာနသို့ ကြွသွားကြလေသည်။ ရတနာပုံ မြို့တော်ကြီးမှာ တနေ့တခြား ရဟန်းတော် သံဃာတော်နည်းပါးခြင်းဖြစ်ရလေတော့သည်။

ထိုအခိုက်မန္တလေးရွှေမြို့တော်မှာ ဆရာတော် သံဃာတော် အနည်းငယ်ကျန်ရှိ

သေးသဖြင့်ဆရာတော်များက ငါငါတို့ စွမ်းဆောင်နိုင်သမျှ သာသနာအဆက်အနွယ် မပျက်ရစေဘူးဟု ကတိပြု ဩဝါဒပေးတော်မူကြ၏။လှူဒါယကာတို့ကလည်းမင်းကောရာဇ်တို့ လောက် –ပစ္စယာနုဂ္ဂဟဖြင့် မချီးမြှောက်နိုင်စေကာ၊ မိမိတို့၏ ပသန္နစေတနာ အတိုင်း ပစ္စယာနုဂ္ဂဟဖြင့် ချီးမြှောက်လှူ၍ မင်းကောရာဇ် လက်ထက်တော်မှာကဲ့သို့ သာသနာတိုးတက်ရာ တိုးတက်ကြောင်းဖြစ်သောစည်းရုံးကောင်းနည်းလမ်းအမှန်သို့ ကျနစွာသက် ရောက်အောင် ဆောင်ရွက် အားထုတ်ပါမည်ဟု လျှောက်ထား တောင်းပန်ကြလေသည်။

**ဆရာတော်ကြီးများ**

(၁) မိုးထား သာသနာပိုင် ဆရာတော်ဘုရားကြီး။ (၂) ပဏ္ဍိတဓဇသီရိဝံရ မဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ်တော်ရ မိုင်းခိုင် ဆရာတော်ဘုရား။ (၃) နာဂိန္ဒာဘိ ကဝိဓဇ မဟာ ဓမ္မ ရာဓိရာဇ ဂုရုတံဆိပ်တော်ရ မိုးကောင်း တိုက်ဆရာတော်ဘုရား။ (၄) တောင်ပြင် ဒက္ခိဏာရာမ ဘုရားကြီးတိုက် စာချ တိုက်အုပ် ဆရာတော် အရှင် ဦးအာစရ ဆရာတော်ဘုရား။ (၅) တောင်ပြင် ဒက္ခိဏာ မ ဘုရားကြီးတိုက်၊ စာချ အကျော် တော် ဦးရန်ကုန်ခေါ် အရှင် သုဇ ဆရာတော် ဘုရား၊ (၆) ကင်းဝန်



**ပရိယတ္တိသာသနဟိတအ တိုက်ခန်းဆိုင်များ ၁၂ ဝယ်ယူထားရာ ယခုစ် ကျန်**



(၁) ကျောင်းတကာကြီး ဦးထွန်း
၁၂၆၀–ပြည့်နှစ်မှ ၁၂၆၇ ခုနှစ် အထိဥက္ကဋ္ဌအဖြစ်ဆောင်ရွက်သည်



(၂) ရွှေကုန်သည်ကြီး ဦးကျော်
၁၂၆၈–ခုနှစ်မှ ၁၂၇၅–ခုနှစ် အထိဥက္ကဋ္ဌ အဖြစ်ဆောင်ရွက်သည်



(၃) ရွှေကုန်သည်ကြီး ဦးကျောက်နီ၊
၁၂၇၆–ခုနှစ်မှ ၁၂၉၆–ခုနှစ် အထိဥက္ကဋ္ဌအဖြစ်ဆောင်ရွက်သည်



(၄) ကျောက်ကုန်သည်ကြ ဦးကောက်၊
၁၂၉၇–ခုနှစ်မှ ၁၃၀၁–ခု အထိဥက္ကဋ္ဌအဖြစ်ဆောင်ရွက်

# တ္တိ သာသနဟိတ အသင်းကြီး

## ာ်အကြာတွင် စတင်တည်ထောင်ကာ ပရိယတ္တိသာသနာတော်ကြီးမှား
## ါပေါက်စေရန်၊စံနစ်တကျအားထုတ်ဆောင်ရွက်ခဲ့သောအသင်းကြီး။

လေးသောင်းကျော်တန် မလွန်ရင်ဒင်္ဂါးရုံနေရာကို
သရာ ဆရာတော်ကြီးများမှတဆင့် အသင်းသို့
ဘိုက်ကြီး တည်ဆောက်လျက်ရှိနေပေပြီ။



ျးချီရုံဆောင်ကြီးရှိ
ဝတ္တုက ငွေတော်ဖြင့်
ာင့် မြေကွက်မျှသာ

ာ် ဆရာတော် ဦးဓမ္မာဘိဝံသ။
ိသုဒ္ဓါစာရ သီရိပဝရ မဟာဓမ္မ
ာဇဂုရုတံဆိပ်တော်ရ၊မဟာဝိသု
ဆရာတော်ဘုရား။ (၈) ခြုံသာ

ရာဘိ ကဝိဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု တံဆိပ်တော်ရ တုတ်သင်း ဆရာတော်ဘုရားကြီး။ (၉) ဝိသုဒ္ဓာစာရ ကဝိဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ်တော်ရ တောင်ခွင် ဆရာတော်ဘုရားကြီး။ (၁၀) နန္ဒမဉ္ဇူသာဘိ ကဝိဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ်တော်ရ လက်ရာမ ဆရာတော်ဘုရား။ (၁၁) ဂုဏာလင်္ကာရ မဟာဓမ္မရာဇာဓိ ရာဇဂုရုတံဆိပ်တော်ရ ကျောက်ပန်းတောင်း ဆရာတော်ဘုရား။ (၁၂) ဂုဏာဘိလင်္ကာရဓဇ ဝိဘင်္ဂရေ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရ အကောက်ဝန် ဆရာတော်ဘုရား။ (၁၃) ညာဏာဘိဓဇ သီရိပဝရ မဟာဓမ္မ ရာဇာဓိ ရာဇ ဂုရုတံဆိပ် တော်ရ အနောက်တိုက်တော် တိုက်အုပ် ဆရာတော်ဘုရား။ (၁၄) သုမနာဘိဓာဇဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရ အလှကပ္ပတိုက် မြသာဆရာတော်ဘုရား။ (၁၅) ကဝိန္ဒာလင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရ အနောက်တိုက်တော်– မောက်ကျိုး ဆရာတော်ဘုရား။ (၁၆) ပညာလင်္ကာရဉ်ဓိဇမဟာဓမ္မ



၁၃၀၈-ခုနှစ်တွင် မန္တလေးမြို့ ဝါးတန်းရင်ကျောင်းအမကြီး ဒေါ်ကြီးကြီးက အသင်းသို့ရှုဒါန်းသော တထပ်တိုက်ပုံ

ရာဇာဓိ ရာဇ ဂုရု တံဆိပ် တော်ရ အနောက်တိုက်တော် ပေါင်းတောင်ကူး ဆရာတော်ဘုရား။ (၁၇) ရေဝတာ လင်္ကာရ မဟာဓမ္မရာဇာဓိရာဇဂုရုတံဆိပ်တော်ရ ဘေးမဲ့ ဆရာတော် ဘုရား။ (၁၈) ခေမာသိဝံတိုက်ဆရာတော် အနှင် အဂ္ဂဝံသ ဆရာတော်ဘုရား။

### ဒါယကာကြီးများ

ထိုနည်းပါး မေးမြန်းလှသော တံဆိပ် ရ-ရေ စချ ဆရာတော်ဘုရားကြီးများ သည် ရွှေမင်းကျောင်းရှိစဉ်က ကဲ့သို့ပင် စိတ်ထားနှင့်လန်းဆော်မှုကြလှက်၊မိမိတို့ ထံမှောက်သို့လာရောက်နည်းယူသင်ကြား တော် မူကြသော တပည့် ရဟန်းတော် များကို ကြိုးကြိုး စားစား ပရိယတ္တိ တရား ကို သင်ကြား ချပို့တော်မူကြ လေသော် သည်။ ယင်းသို့ပရိယတ္တိစာကို ထိန်းသိမ်း စောင့်ရှောက် မပျောက် မပျက် စေရန် စိတ်အား ထက်သန်စွာ အားပေးကူညီ ကြသော ဒါယကာများမှာ–



ပင်စင်စား စာရေးကြီး
သာ၊ ၁၃၀၂-ခုနှစ်
ည်းဆောင်ရွက်ရသော
ဥက္ကဋ္ဌလူကြီး။



(၆) ပွဲစားကြီး ဦးပေါ
၁၃၀၃-ခုနှစ်တွင် ဆောင်ရွက်ရ
သော ဥက္ကဋ္ဌကြီး။



(၇) ရွှေကျောက်ကုန်သည်ကြီး
ဦးစံထိုက်၊ ၁၃၀၃-ခုနှစ်မှ၊
၁၃၀၈-ခုနှစ်အထိ
ဆောင်ရွက်ခဲ့သောဥက္ကဋ္ဌလူကြီး။



(၈) မြန်မာသင်္ချင်နီယာ
အလုပ်ရုံပိုင်ရှင်ဦးဘိုးလှ၊
၁၁၀၉-ခုနှစ်မှ ယခုတိုင်ဆောင်
ရွက်လျက်ရှိသော ဥက္ကဋ္ဌလူကြီး။

(၁) မန္တလေးမြို့ ဆိုင်းတန်းချုပ်ပွဲစားကြီးဦးထွန်း၊ (၂) ဟောကုန်းရပ်အရေးပိုင်ရုံးစာရေးကြီးဦးခင်။ (၃) သရက်တောဝါးတန်းရပ်ပွဲစားကြီး ဦးသာပေါ။ (၄) အုတ်တန်းပွဲစားကြီးကျော်ဇံ (၅) ဂုန္နီရပ်ဂရန်ရုံးစာရေးကြီးဦးကျော်ခေါ (၆) ရသာတန်း သက်နှန်းကုန်သည်ကြီးဦးဘိုးရင်။ ၇ ရသာတန်းရွှေကျော်ကုန်သည်ဦးသက်။ (၈) ရသာတန်း ရွှေကျောက်ကုန်သည်ကြီး ဦးကျောက်နီ။ (၉)ဆေးရိုးဝင်းရပ် ကုန်သည်ကြီး ဦးမြိုးအောင်။ (၁၀) ဂုန္နီ ဆေးရိုးဝင်း ငုံးကုန်သည်ဦးတုတ်။ (၁၁) ရသာတန်း ပရိက္ခရာကုန်သည်ကြီး ဦးစု။ (၁၂) ရသာတန်းကုန်သည်ကြီး ဦးဖေ။

အဆိုပါ ပုဂ္ဂိုလ်ကြီး ၁၂–ဦး တို့က ဦးစီး ခေါင်းဆောင် ပြုလုပ်လျက် တတ်အားသမျှ ငွေပင် ငွေရင်း ထည့်ဝင်ကြပြီးလျှင် (မန္တလေးမြို့ ပရိယတ္တိ သာသနဟိတအသင်း) ကို၊ ၁၂၆၁–ပြည့် ဝါဆိုလပြည့်နေ့၌ စတင် တည်ထောင်ကြလေသည်၊ ထိုသို့ အသင်း ကြီးကို ဖွဲ့စည်းပြီးသောအချိန်မှ အစပြု၍ အသင်းသားဦးရေ များပြား၊ ရံပုံငွေတိုးပွားရ လေအောင် မိမိတို့ဆိုင်ရာ မိတ်ဆွေများအား အကျိုးအကြောင်း ပြောပြလျက်အသင်းကိစ္စကို ဆောင်ရွက်ခဲ့ကြလေသည်။

## အသင်း ရည်ရွယ်ချက်များ

(က) ကျမ်းဂန် ပို့ချခြင်း၊ ဂန္ထာဓုရဝန် ကို ဆောင် ရွက် နေ ကြသော သံဃာတော် အရှင်မြတ်တို့အား ဆွမ်းဆန်၊ ဆွမ်းဟင်းလျာနှင့်သပ္ပါယဖြစ်သောဆေးများကို လစဉ် လှူဒါန်း ဝတ်ပြုခြင်း။

(ခ) ပရိယတ္တိ သာသနာတော်စောင့် စာချပုဂ္ဂိုလ် အဆက်ဆက် ဖြစ်ထွန်းစေခြင်းငှါ သီးခြား ရွေးချယ် သည့် စာ သင် ပုဂ္ဂိုလ် တို့ကို ရွေးချယ်ခြင်း။

(ဂ) စာသင်ပုဂ္ဂိုလ်အများနှင့်ရဟန်း အဖြစ်သို့ ရောက်ရှိလျက်၊ စာပေသင်ကြား အားထုတ်လျက် ရှိသော သာမဏေတို့အား၊ ဆွမ်းဆန် တတ် ထောက်လှူခြင်း။

(ဃ) စာချကျောင်းဆောင် အဆောက်အဦ မလုံ မခြောက် မကောင်း ရှိသောအခါ ပြင်ဆင်ဆောက်လုပ်လှူဒါန်းခြင်း။

(င) စာသင်သားတို့အသုံးကျသော သင်ရိုး ပိဋကတ် စာပေများ စု ဆောင်း လက် ခံ သဖြင့် ပိဋကတ်တိုက်ကြီးဖွင့်လှစ်ထားခြင်း။

အသင်း၏ ကိုးကွယ်ခြင်းကို ခံယူ ရသော မည်သည့် စာ ချ ပုဂ္ဂိုလ်မ ဆို (သို့မဟုတ်) စာသင်ပုဂ္ဂိုလ် မဆို ရဟန်းတို့၏ လိုရင်း ဖြစ်သော သက်န်းသပိတ် စသည် အသုံး အဆောင်များ ဆွဲ့တဲ့ ရှိလျှင် မည် သည့် အခါမဆို လှူဒါန်း နိုင်ခွင့် ကိုလည်းထား ရှိ လေသည်။

## လုပ်ငန်း ခွဲခြား ပုံ များ

အသင်းသား အဖြစ် ပါဝင် သော ပုဂ္ဂိုလ် များ ကို အောက်ပါ အတိုင်း၊ လုပ်ငန်းအလိုက် ခွဲခြား ထားလေသည်။



တောင်တွင်းကြီးမြို့ ကုန်သည်ကြီး ဦးစက်ပု ဒေါ်စောတို့က၊ ၁၂၇၈—ခုနှစ်တွင် လှူဒါန်းသော ရန်ကုန်မြို့ ၁၃—လမ်းထိပ်ရှိ ပရိယတ္တိ သာသနဟိတအသင်းပိုင်တိုက်ဖြစ်သည်

## သင်းမလူကြီး

သင်းမလူကြီးများသည်။ အသင်းနှင့်စပ်လျဉ်းသော တာဝန်များ၏ အကျိုးအပြစ်ကို ခံယူရသဖြင့် ယခုအခါ ကော်မတီခေါ်ဆိုရသော ပုဂ္ဂိုလ်များ ဖြစ်လေသည်။ ထိုသင်းမလူကြီးတို့ အစည်းအရုံးမှာ၊ ဥက္ကဋ္ဌ ၁။ ဒုတိယဥက္ကဋ္ဌ ၁၊ ငွေမှူးလူကြီး ၁၂ အတွင်း စာရင်းကိုင် ၃။ အလိုရှိလျှင် ဒုတိယအတွင်း စာရင်းကိုင် ၁၊ ထားရှိ နိုင် သည်။ ထို ပုဂ္ဂိုလ်များကို အမှုဆောင် လူကြီးများ ဟု ခေါ်၍ ကျန်ကော်မတီ များကို အရံ လူကြီးများ ဟု ခေါ်ထားသည် ထို သင်းမ လူကြီး နှင့် အရံ လူကြီး တို့ သည်၊ တ လတကြိမ် လ ဆန်း ၈– ရက်နေ့တိုင်း မှန်မှန် စည်းဝေး၍ အသင်း၏ ရည်ရွယ်ချက်အတိုင်းထမြောက် အောင်မြင်နိုင်သော လုပ်ငန်းများကို ဆွေးနွေးတိုင်ပင် ဆုံးဖြတ်ကြသည်။

## ရပ်ဝေးသင်းမလူကြီး

ထိုအသင်းဝင် ပုဂ္ဂိုလ်သည်၊ အသင်းရှိရာအတွက်မိမိဘို့ တတ်အားသမျှလစဉ်သို့မဟုတ်လပိုင်းနှင့်အလှူငွေထည့်ဝင်ခြင်း အသင်း၏ ကြီးပွားတိုးတက် ဆောင်ရွက်အားထုတ်နေပုံစသည်တို့ကို အလျဉ်းသင့်ရာဟောပြောပြပို့နှံ့စေခြင်း၊ ၄ ယတာကြိမ် အသင်းနှင့် စပ်ဆိုင်သော အကျိုးအကြောင်းအကြံပေးချက်များကိုအသင်းသို့ ကမ်းလှမ်းပေးပို့ခြင်းစသော ဝတ္တရားများကိုဆောင်ရွက်ရသည်။

## သင်းခံလူကြီး

အသင်း၏ လုပ်ငန်းဆိုင်ရာ စာရွက်စာတမ်းများကို သင့်လျော်ရာသို့ ဖြန့်ချိဝေငှလျက်အသင်း အကြောင်းကို ဟောပြောပို့နှံ့စေခြင်း၊သဒ္ဓါတရားရှိသော ပုဂ္ဂိုလ်များထံမှအခါအခွင့်အားလျော်စွာအသင်းသို့ထည့်ဝင် လှူဒါန်းသော ဝတ္ထုပစ္စည်းများကိုလက်ခံယူ၍ အသင်းသို့ပေးပို့ခြင်းအစရှိ ရွာဒေသမှ သင်းမလူကြီးသင်းခံလူကြီးအဖြစ် ပါဝင်သင့်သူ ပါဝင်လိုသူတို့ကိုမိမိကထောက်ခံ၍ အသင်းနှင့်ဆက်သွယ်ပေးခြင်း စသော ဝတ္တရားများကို ဆောင်ရွက်ရသည်။

## သင်းထောက်လူကြီး

မိမိတို့သဒ္ဓါတရားအလိုက် လစဉ်ဖြစ်စေ လပိုင်းနှစ်ပိုင်းနှင့် ဖြစ်စေအသင်းသို့ ထောက်ပံ့လှူဒါန်းသော ပုဂ္ဂိုလ်များ ဖြစ်သည်။ မြန်မာပြည်အတွင်းရှိ ဒိစတြိတ်ပေါင်း–၃၀ ကျော်နှင့် ယိုးဒယား ကျောက်းတွင်း ပါဝင်လျက် ၎င်းသင်းထောက်လူကြီးများ၏အဖွဲ့ပေါင်း ၃၀–ကျော်ကို ဖွဲ့စည်းပြီးဖြစ်လေသည်။

## နေ့စဉ်လုပ်ငန်း

လစဉ် လစဉ်–စာချဆရာတော်များသို့ လှူဒါန်းရန် ဆန်–ဆီ–ဆား–ငြုပ်–ကြက်သွန် စသည်တို့ကို၊ လရှုဘုတ်၍ ငါးမံခန့်ခွဲရခြင်း။ မန္တလေးမြို့ လေးပြင် လေးရပ်ရှိသော ကျောင်းတိုက်ကြီးများသို့ တာဝန်ခံ အလှည့်ကျလူကြီးများ သွားရောက်ပြီးလျှင် စာချ ဆရာတော် ဘုရားကြီးများ စာပေပို့ချနေပုံ၊ စာလိုက် သံဃာတော်များညီမျှရှိသည်၊ မည်သည့် စာဝါ စသည်တို့ကို မည်သည့် အချိန်မှာ ချပို့သည်ဟု ကိုယ်တိုင် မှတ်သားနာယူ၍လဆန်း ၈-ရက် အစည်းအဝေး၌ တင်ပြ ဆွေးနွေးကြခြင်း ပြုလုပ်ကြသည်။လစဉ် စာရင်းရှင်းတမ်း စာအုပ်၌ ကျောင်း တိုက်နှင့် ကျောင်းအမည်၊ စာချ ဆရာတော် အမည်၊ ပို့ ချသော စာဝါ အမည် အချိန်များကို ထည့်သွင်း ပုံနှိပ် ဝေသည်။ စာသင်သား ရဟန်းတော်များသည်၊ စာအုပ် ရှင်းတမ်း၌ ပါသော စာဝါများကို ကြည့်ရှု၍ မိမိတို့ အလိုရှိသော စာဝါများ အတွက် အလွယ် တကူ ကြ ရောက် နာယူနိုင်ကြသည်။ လှူဒါန်း ထည့်ဝင်သော ကုသိုလ်ရှင်များကလည်း၊ မိမိတို့ပါဝင်လှူဒါန်းသော စာရင်းကို တွေ့မြင်ကြရသဖြင့်ဝမ်းမြောက် ဝမ်းသာ သဒ္ဓါ တိုးတက်ကြသည်။



မော်လမြိုင်မြို့ ထပ်ကေး ကျောင်း၊ တကာကြီး ဦးသာညွှန်းက၊ ဆောက်လုပ်လှူဒါန်းထားသော မဟာသကျသီဟဘုရားအတွင်းရှိဓမ္မသာလာစရပ်ကြီး ယခုအခါ စစ်ဘေးစစ်ဒဏ်ကြောင့် ချို့ယွင်းပျက်စီးနေသည်

စာမျက်နှာ ၁၈—သို့

# သံဂါယနာအခါတော်နေ့တွင်

## မဟာစည်ဆရာတော်၏မိန့်ခွန်း



**(ယခင်အပတ်မှအဆက်)**

အောက်မြန်မာပြည်ကတောင်မပါဝင်နိုင်ခဲ့ဘူး။ ယခုဆဋ္ဌသံဂါယနာမှာတော့ ပြည်ထောင်စု မြန်မာတနိုင်ငံလုံးကပါဝင်တဲ့အပြင်၊ သီဟိုဠ်-ယိုးဒယား-ကမ္ဘောဒီယား - လာအိုဆိုတဲ့ ထေရဝါဒနိုင်ငံအားလုံးကလဲ သံဃာတော်တွေ ပါဝင်လျက်ရှိနေပါတယ်။ ဒါလဲအားတက်စရာတချက်ဘဲ၊

ပြီးတော့ စတုတ္ထသံဂါယနာပေထက်အက္ခရာတင်တုံးက မှတ္တူပေစာဟာ အနည်းငယ်သောက်သာရနိုင်မယ်။ နောက်မှ အဆင့်ဆင့်ကူးပြီးယူကြရတာဘဲဖြစ်မယ်။ ဒီလို အဆင့်ဆင့်ကူးယူရတယ် ဆိုတော့၊ ပထမမူရင်းနဲ့ တသွေမတိမ်းကိုက်ညီဖို့ဟာ သိပ်မလွယ်လှဘူး၊

ဒါတောင်မှ အဲဒီလို အဆင့်ဆင့် ကူးယူရတဲ့ မူတွေက နိုင်ငံ အနှံ့အပြားကို ပြန့်ပွားသွားဘဲ့အတွက် ဗုဒ္ဓ သာသနာတော်ကြီး ယခုထက်တိုင်ခိုင်မြဲတည်တံ့ပြီ ကျေးဇူးများနေတာကို ထင်ရှား တွေ့နေကြတယ် မဟုတ်လား။ ယခု ဆဋ္ဌသံဂါယနာမှာဆိုရင် သံဂါယနာတင် ပိဋကမူမှန် တွေကို စက်တင် ပုံနှိပ် ပြီးတော့ စာအုပ်တွေကို ဖြန့်ချိဘို့ စီစဉ် ထားတယ်၊ ဒါကြောင့် မူမှန်ဖြစ်တဲ့ ပိဋကစာအုပ်တွေကို တသောင်းဘဲ ဖြစ်ဖြစ်၊ တသိန်းဘဲ ဖြစ်ဖြစ်၊ လိုသလောက်ရနိုင်တယ်၊ အဲဒီမူတူ ပိဋကတွေဟာ တကမ္ဘာလုံး နိုင်ငံအနှံ့အပြားကို ပြန့်နှံ့သွားမယ်၊ ဒီလို ပြန့်နှံ့နေတဲ့အတွက် ကမ္ဘာ့ စစ်ဘေးအစရှိတဲ့ ဘေးရန် အန္တရာယ် တွေနဲ့ ဘယ်လိုဘဲတွေ့တွေ့ ဒီပိဋက စာအုပ်တွေဟာ အကုန်လုံးတော့ ဘယ်နည်းနဲ့မှ ပျောက်ကွယ် မသွားနိုင် တော့ဘူး။ ဒါကြောင့် ဒီဆဋ္ဌသံဂါယနာဟာ အနာဂတ် သာသနာ အတွက် အတိုင်းမသိ ကျေးဇူး များသွားနိုင်တယ်။ သာသနာတော်နှစ် ငါးထောင်အထိ ဒီပိဋကမူမှန် တွေဟာ တည်တံ့လဲ သွားနိုင်တယ်။ ဒါလဲ အားတက်စရာ တချက်ပဲ။

တချို့က သံဂါယနာဆိုတာ သံဃာအားလုံးနဲ့ တိုင်ပင် ရမယ်။ သံဃာအားလုံး ပါဝင်ရမယ်၊ သံဃာအားလုံးက အညီအညွတ် သဘောတူရမယ်လို့ ဒီလို ထင်မှတ်ပြောဆိုနေကြတယ်။ ဒါကတော့ ရှေး-ရှေး-သံဂါယနာ တွေကို သေသေချာချာ စဉ်းစားမကြည့်လို့ပါဘဲ၊ ပထမသံဂါယနာမှာလဲ သံဃာ ၇ သိန်း ရှိတဲ့ အနက်က ငါးရာမျှသာ ပါဝင်ရ ပါတယ်၊ တတိယသံဂါယနာ မှာလဲ၊ သံဃာ ၆-သိန်း ရှိတဲ့ အနက်က တထောင်သာ ပါဝင်ရပါတယ်။ ဒုတိယ သံဂါယနာတင်တုံးကတော့ မဟာသံဃိက ဂိုဏ်းသားတွေက သီးခြား ခွဲပြီး စင်ပြိုင်တောင် သံဂါယနာ တင်လိုက်ကြ သေးတယ်။ စတုတ္ထသံဂါယနာမှာလဲ သံဃာ ငါးရာမျှသာ ပါဝင်ရတယ်၊ ဒီပြင် ကျန်နေတဲ့ သံဃာတွေလဲ အဲဒီတုံးက ရှိပြီးမှာပါဘဲ။ မင်းတုံး မင်းတရားကြီး လက်ထက်က အထက် မြန်မာပြည်မှာ သံဃာတော် ရှစ်သောင်းခန့်ရှိတယ်လို့ ပြောကြတယ်။ အဲဒီတုံးက ပဉ္စမသံဂါယနာ တင်ရာမှာတော့ သံဃာ (၂၄၀၀) သာ ပါဝင်ရပါတယ်။ ဒါတွေကို သေသေ ချာချာ စဉ်းစားကြည့်ရင် သံဂါယနာ တင်တယ်ဆိုတာဟာ သံဃာတွေရှိသမျှ အကုန်လုံးကို တိုင်ပင်ဘို့ အကုန်လုံး ပါဝင်ဘို့ အကုန်လုံး ညီညွတ်ဘို့က လိုရင်း မဟုတ်ဘူး။ သီလဝန္တ လဇ္ဇီပေသလသိက္ခာကာမဖြစ်တဲ့ ပိဋကတ် ကျမ်းဂန်တတ် ထင်ထင် ရှားရှား ပုဂ္ဂိုလ်တွေ အများအပြား ပါဝင်ဆောင်ရွက်သွားဘို့ကသာ လိုရင်းဖြစ်တယ်လို့ ထင်ရှားနေပါတယ်၊ တကယ်ဆိုတော့ ယခုတင်မဲ့ ဆဋ္ဌသံဂါယနာမှာ ထေရဝါဒ နိုင်ငံအားလုံးက ပါဝင်သင့်တဲ့ သံဃာတော်တွေအများဆုံး ပါဝင် နိုင်အောင်စီစဉ်ထားတယ်။

ဒါကြောင့် ယခု တင်မဲ့ဆဋ္ဌသံဂါယနာဟာ နိုင်ငံနယ်ပယ် အားဖြင့်လဲ သံဃာတော်အင်အလင်ဆုံးပါဘဲ၊ အရေအတွက်အားဖြင့်လဲသံဃာတော်အများဆုံးပါဘဲ ဒါလဲ အားတက်စရာ တချက်ပဲ၊

တချို့က မင်းတုံးမင်းတရားကြီးရဲ့ ကျောက်စာတော်တွေထင်ရှားရှိနေတဲ့ အတွက် ပါဠိကိုသုတ်သင်ပြီး သံဂါယနာ တင်စရာမလိုသေးပါဘူးလို့လဲ ဆိုကြပြန် တယ် ဒီစကားကတော့ ပါဠိကျမ်းဂန် တတ်ပုဂ္ဂိုလ်များရဲ့ အရာသာဖြစ်ပါတယ်။ ပါဠိမတတ်တဲ့ ပုဂ္ဂိုလ်တွေနဲ့တော့ ဘာမျှမဆိုင်ပါဘူး၊ ဒါကြောင့်သုတ်သင် စရာလိုတယ်၊ မလိုဘူးလို့ တိတိကျကျဆုံးဖြတ်ဘို့ရာကတော့၊ ပါဠိဝိသောဓက ဆရာတော်တွေရဲ့ ပြင်ဆင်ချက်များအပေါ်မှာ တည် နေပါတယ်၊ ဝိသောဓက ဆရာတော်တွေက မူကွဲ တွေ့တိုင်းတွေ့တိုင်း ကျောက်စာမူကသာမှန်တယ်။ အခြားမူ တွေက မှားတယ်လို့ ဒီလိုချည်းပြင်ဆင် ချက်ပေးကြမယ်ဆိုရင်တော့။ သုတ်သင်စရာမလိုဘူးလို့ဘဲဆိုရပေလိမ့်မယ်။ သို့ပေမဲ့ ယခု ပါဠိပဋိဝိသောဓက ဆရာတော်တွေ ပါဠိမူ အမျိုးမျိုးနဲ့ရော အဋ္ဌကထာ ဋီကာတွေနဲ့ရော၊ ဗျာကရဏ်းကျမ်းအဘိဓာန်ကျမ်း အမျိုးမျိုးနဲ့ရော တိုက်ဆိုင်ပြီး သုတ်သင်နေကြရာမှာ တွေ့ရတာကတော့ အဲဒီလိုမဟုတ်ဘူး၊ ကျမ်းစာတအုပ်တအုပ်မှာကို ပြင်ဆင်ဆုံးဖြတ်ချက်တွေငါးဆယ် ခြောက်ဆယ်ထက်မနည်း ရှိနေတယ်။ အဲဒီအထဲမှာ ကျောက်စာမူကိုချည်း မှန်တယ်လို့ ဒီလိုတဖက်သတ် ဆုံးဖြတ်မထားကြပါဘူး။ အခြားမူတွေကိုလက်ခံရတာလဲ ရှိနေပါတယ်။

ဆရာတော်ကိုယ်တိုင်လဲ ပိဋကမြန်မာပြန်တွေကို ထင်မံပြီး သုတ်သင်ရတဲ့ အဖွဲ့ထဲမှာ ပါဝင်နေလို့ ဒီအကြောင်းကို တာဝန်မဲ့ပုဂ္ဂိုလ်များထက် ပိုပြီး သိနေပါတယ်။ တခါတရံမှာ ကွဲနေလို့ဘဲဖြစ်ဖြစ် အနက်အဓိပ္ပါယ် မပြောင်လို့ဘဲ ဖြစ်ဖြစ် ခက်ခဲနေတဲ့ အခါများမှာ အင်မတန်ကို ဂရုစိုက်ရပါတယ်။ ပါဠိမူအမျိုးမျိုးကို အဋ္ဌကထာဋီကာများနဲ့ တိုက်ဆိုင်ကြည့်ရတယ် ရှေးနည်းက ပြန်ဆိုထားပုံ ဆရာမြဘာသာပြန်နဲ့ အင်္ဂလိပ်ဘာသာပြန်တို့က ဆိုထားပုံများကိုလဲကြည့်ရတယ်၊ ပါဠိအဘိဓာန် သက္ကတအဘိဓာန်ကြီးများနဲ့လဲ တိုက်ဆိုင်ပြီး ကြည့်ရတယ်၊ ဒီလိုကြည့်ရတဲ့ အခါမှာ ကျောက်စာမူကပိုပြီးယုတ္တိရှိတာ ကိုလဲတွေ့ရတယ်။ အခြားမူတွေက ပိုပြီး ယုတ္တိရှိတာကိုလဲတွေ့ရတယ်ဒီတော့ယုတ္တိ အရှိဆုံးကိုဘဲ ယူပြီးတော့၊ မြန်မာပြန်မှာ မူတင်ထားရပါတယ်။

ပြီးတော့၊ ကျောက်စာမူဆိုတာကိုလဲပါဠိ တော်လောက်သာရှိတာဘဲ၊ အဋ္ဌကထာဋီ ကာတွေကတော့သံဂါယနာတင် ကျောက် စာမူရယ်လို့ မရှိသေးဘူး။ ပြီးတော့တ ချို့တချို့နေရာများမှာ ပါဠိတော်နဲ့ အ ဋ္ဌကထာ အဋ္ဌကထာနဲ့ဋီကာ အဆင် မပြေဘဲ ဖြစ်နေတာတွေလဲ ရှိတယ်၊ အဲဒါ တွေဟာ ယခုဆဋ္ဌသံဂါယနာမှာဖြင့် အ ဆင်ပြေသွားလိမ့်မယ်လို့ မြှော်လင့်ရတာ ဘဲ။ ဒါကြောင့် ယခုဆဋ္ဌသံဂါယနာတင် တဲ့အတွက် အထင်အရှား ရမဲ့အကျိုး တွေကို အကြမ်းအားဖြင့်ဖေါ်ပြရလျှင်

(၁) ထေရဝါဒ နိုင်ငံအားလုံးက အကောင်းဆုံး မူမှန်အဖြစ်ဖြင့် လက်ခံနိုင်တဲ့ပါဠိ အဋ္ဌကထာ ဋီကာမူသန့်များကို လဲရမယ်၊

(၂) ပါဠိအဋ္ဌကထာ ဋီကာကျမ်း အားလုံးပင်ပုံနှိပ်ပြီးစာအုပ်များဖြစ်ရမယ် ပုံနှိပ်မှုလဲသန့်ရှင်းရမယ်၊

(၃) မူကလဲသန့် ပုံနှိပ်မှုကလဲသန့်တဲ့အတွက် ကြည့်ရှုဖို့ချသင်ယူရာမှာ အထူးသဖြင့် လွယ်ကူသွားမယ်။

(၄) စာမျက်နှာ အနေ အထားအားဖြင့် တမူတည်းသာ ရှိတဲ့အတွက် ကျမ်းညွှန်းရန်လဲ လွယ်သွားမယ်။

(၅) မူမှန် ပိဋကတော်တွေ နိုင်ငံတကာအရပ်တိုင်းမှာ ပြန့်နှံ့နေတဲ့အတွက် ပိဋကတော်တွေ လုံးဝကွယ်ပျောက် ပျက်စီးသွားတယ်ဆိုတာလဲ မဖြစ်နိုင်တော့ဘူး

(၆) သဒ္ဓါတရားရှိသူတိုင်း၊ ဒီဆဋ္ဌသံဂါယနာကို အကြောင်းပြုပြီး နတ်ရွာနိဗ္ဗာန်ရောက်ကြောင်းဖြစ်တဲ့ ကောင်းမှုအထူးတွေရသွားကြမယ်၊ အယုတ်ဆုံး သာရေခါရုံနဲ့လဲ ရသွားနိုင်တာဘဲ။

(၇) နောင်အနာဂတ် ကာလများမှာ ထေရဝါဒ ဗုဒ္ဓဘာသာဝင် နိုင်ငံအားလုံးဟာ တပေါင်းတည်း စည်းလုံးပြီးတော့သာသနာရေးအတွက် ထူးထူးခြားခြားကြီး ဆောင်ရွက် သွားနိုင်စရာ အကြောင်းလဲ ရှိနေပါတယ်။

ယခု ပြောခဲ့တာ တွေဟာ အကြမ်းလောက်ပဲ ရှိပါသေးတယ်။ အနုစိတ်ပြီး ပြောရမယ် ဆိုရင်တော့ အများ ကြီးဘဲ ကျန်နေပါသေးတယ်။

ဒါကြောင့် ဗုဒ္ဓ ဘာသာဝင် လူရှင် ရဟန်းပုဂ္ဂိုလ်တိုင်း ဒီဆဋ္ဌသံဂါယနာ ပွဲတော်ကြီးဟာ ငါတို့အတွက် ပေါ်လာရတယ်၊ ငါတို့ပါဝင်ပြီးသာသနာပြုရအောင် ပေါ်လာရတယ်၊ ငါတို့မှာ ကုသိုလ်အထူး တွေတိုးပွား ရအောင် ပေါ်လာရတယ်လို့ ဒီလို ယောနိသော မနသိကာရဖြင့် နည်းလမ်းမှန်စွာ နှလုံးသွင်းနိုင်ကြပါစေ။

အဲဒီလို နှလုံးသွင်း ပြီးတော့၊ ဆဋ္ဌသံဂါယနာ နဲ့စပ်ပြီး မိမိတို့ရသင့်ရထိုက်တဲ့ သာသနာပြုမှုအခွင့်အရေးတွေ၊ ကုသိုလ်ထူးတိုးပွားမှု အခွင့်အရေးတွေကိုလက်မလွတ်အောင် သတိဆောင်ပြီး အရယူနိုင်ကြပါစေကုန်သတည်း။

၁၃၁၅-ခု သံဂါယနာအခါတော်ပြီး၏။



ရွှေဘိုခရိုင် ထန်းတပင်မြို့ဗုဒ္ဓဝေယျာဝစ္စအသင်းသားအသင်းသူတို့သံဂါယနာအခါတော်နေ့အတွက်ဓမ္မစကြာဒေသနာကို သံပြိုင်ရွတ်ဆိုကြပြီးနောက် စုပေါင်းရိုက်ကူးထားပုံ။

## ကျေးရွာပညာရေးအတွက် စံပြသဖွယ်ဖြစ်သော

# —ညောင်ရွာ ဘုန်းကြီးကျောင်း—



ညောင်ရွာကျောင်းမှ ဆရာနှင့်တပည့်များ

ကျွန်ုပ်သည်၊ အင်းစိန်ဒီစတြိတ်၊ကြည့်မြင်တိုင် အနောက်ဘက်အနီး၌၊ ညောင်ရွာသို့ရောက်ရှိသွားရာ၊ ၎င်းရွာသူရွာသားများ ကိုးကွယ် ထားသော ဘုန်းတော်ကြီးကျောင်းမှာ၊ အလျားပေ(၉၁)အနံပေ(၇၀)ရှိ ၂-ထပ်၊ မြင်ထောင် သွတ်မိုးသိုး ခန်းနားသော ကျောင်းကြီးဖြစ်သည်ကို တွေ့ရပေသည်။

ကြည့်မြင်တိုင်၊ညောင်ပင်တန်း၊ ဒေါ်အုံးမယ် ဆေးလိပ်ရုံပိုင်ရှင်၊ ဦးစံဖေ၊ဒေါ်အေးကြည်တို့က၊ ညီဖြစ်သူ ကျောင်းအုပ်ဆရာကြီးဟောင်းဦးညီပုနှင့် အရပ်လူကြီးများဖြစ်ကြသည့်၊ ဦးသာခိုင်၊ ဦးသာရင် ဦးဘိုးမိတ် စသည်ဖြင့် အများ ပေါင်းစု ဆောက်လုပ်ထားသော ကောင်းမှုတော်ကျောင်းကြီးဟု သိရှိရ၏။

### ကျောင်းပိုင်ဘုန်းကြီး

၎င်းကျောင်းပိုင် ဆရာတော် ဦးပဒုမသည်၊ ကျောင်းရှိရဟန်းသာမဏေတို့ကို စာပေပို့ချလျက်ရှိသည့်အပြင်၊ တောရွာဒေသအလိုက် တောင်သူလယ်သမားများ၏ သားသမီးများအားလောကုတ္တရာ စာပေအခြေခံပညာကို၊ ကျောင်းရှိ ရဟန်းတော်များနှင့်အတူ သင်ကြားလာခဲ့သည်ဟု သိရလေသည်၊

### မူလတန်းကျောင်းအဖြစ်

ဆရာတော်ဦးပဒုမသည်၊လောကုတ္တရာစာပေပြသမှုအခြေခံကိုလည်း ၊မပျက်ပဲ ကျောင်းဆရာ-ဆရာမ(၄)ယောက်တို့ကို တပြိုင်နက်ရှာဖွေ၍ ကျောင်းကယ် ကျွေးမွေးပေးကာ၊စောင့်ရှောက်ပြီး၊နိုင်ငံတော်အစိုးရအသိအမှတ်ပြု မူလတန်းကျောင်းအဖြစ်သို့ (၁၉၄၇) ခုဇန်နဝါရီလ ၂၅ ရက်နေ့ကစ၍ ပြောင်းလွှဲဆောင်ရွက်လိုက်သည်ဟု သိရလေသည်။

### အုပ်ချုပ်ရေးနှင့် စောင့်ရှောက်ရေး

(၁) ကျောင်းဒါယကာကြီး၊ဦးစံဖေ (ဥက္ကဋ္ဌ) (၂) ဦးမောင် (အတွင်းရေးမှူး) ကျောင်းအုပ်ဆရာကြီး ညောင်ရွာ။ (၃) ဦးသန်းရှိန် (တွဲဘက်အတွင်းရေးမှူး) ညောင်ရွာ။ (၄) ပွဲစားကြီး-ဦးသာခိုင် (စာရင်းစစ်) ညောင်ရွာ။ (၅) ဦးစစ်အောင် (မြန်ကြားရေးမှူး) ညောင်ရွာ၊ (၆) ဦးသာရင် (ဆက်ဆံရေးမှူး) ညောင်ရွာ၊ (၇) ဦးအောင်နိုး (စည်းရုံးရေးမှူး) ညောင်ရွာ (ရွာသူကြီး) (၈) ဦးဘိုးမိတ် (အရပ်လူကြီး) ညောင်ရွာ။ (၉) ဦးဘိုးခွေး ညောင်ရွာ (၁၀) ဦးချစ်ဖေ ညောင်ရွာ။

### နာယကလူကြီးများ

မြို့ပေါ်မှဆန်စက်ပိုင်သူဌေး ဦးကော်တုံ၊ သူဌေးဦးဟုပ်ဖွမ်း၊၊ ရွှေတိဂုံဘုရားလူကြီးမင်း သူဌေး ဦးဘကျော်၊ ဓါတုဗေဒ သင္ဃကုမ္ပဏီပိုင်ရှင် ဦးစံကြူ၊ ကုန်သည်ကြီးဦးဘိုးလှိုင်။မြို့-တော်ဝန်ဟောင်း တော်လုံတော်ရ ဦးဘစိုး။ ဆရာဖြင်သင်ကျောင်းအုပ်ဆရာကြီး ဦးညီပု။သစ်တောမင်းကြီးဦးသိမ်း။သစ်တောမင်းကြီး ဦးစံ။ မီးရထားမင်းကြီး ဦးမောင်။ အတွင်းဝန်းဟောင်း (ဒိုင်-စီ-အက်) ဦးဘငြိမ်း။ အမြဲတော်ကြေး ဝန်ထောက် ဦးသာထွန်း။ ကျောင်းဆရာကြီး ဦးတင်မောင်။ ဦးအွန်းစိန်။ဦးသန်းမောင်။ ဆရာဝန်ကြီး ဦးထွန်းဥာဏ်၊

နာယကအဖွဲ့ဝင် ဦးကော်တုံသည်၊ ဆရာ ဆရာမများနှင့်ကျောင်းသူကျောင်းသားများ ရှင်လန်း ချမ်းသာစွာ ပညာသင်ကြားနိုင်ရန် စာပွဲ-ကုလားထိုင် အစုံပေါင်း (၁၅၀) ကျော်လှူဒါန်းထားသည်ကို တွေ့ရကြောင်း။

### မော်တော်ရေယာဉ်နှင့် ပေးပို့ခြင်း

ဦးအေးခဖေ၊ဦးလှရှိန်တို့သည် စာသင်ကျောင်းသို့ စစ်ဆေးကြည့်ရှုရန်၊ ပညာရေးဌာနက လာကြသည့် အရာရှိများကို လွယ်ကူစွာ သွားလာနိုင်ရန် သူဌေးပိုင်မော်တော်ရေယာဉ်ဖြင့် ပို့ပေး ကြသည်ဟု သိရလေသည်။

### ဦးစံဖေ၏စေတနာ

အုပ်ချုပ်ရေးအဖွဲ့ဝင် ဥက္ကဋ္ဌကြီး ဦးစံဖေသည်၊ ဆင်းရဲသူကျောင်းသူကျောင်းသားများကို ကျောက်သင်ပုန်း၊ ကျောက်တန် လုံချည်၊အင်္ကျီများကို လှူဒါန်းခြင်း-

ခလေးများ၏ ကျန်းမာရေးကိုသက်ဆိုင်ရာ ကျန်းမာရေး ဌာနသို့ ပြောကြားခေါ်ယူ၍ စောင့်ရှောက် ပေးခြင်း။-

ဆရာ–ဆရာမများ နေထိုင်ရန် ကိုယ်ပိုင်အိမ်ကို အခမဲ့နေစေခြင်း၊ ပညာရေးဌာနရုံးသို့ သွားလာသောအခါ ကိုယ်ပိုင်မော်တော် ယာဉ်ဖြင့် ပို့ပေးခြင်း၊ ကိုယ်တိုင်သွားလာ ရွက်ဆောင်ခြင်း၊ စာသင်ကျောင်းမှာ ရေဒီယိုနှင့် နွေရာသီ အတွက် ပန်ကာ တပ်ဆင်ပေးခြင်း၊ အင်္ဂျင်စက်ဓါတ်မီးလှူဒါန်းခြင်း စသည်ဖြင့် လိုလေသေးမရှိ သဒ္ဓါကြည်ဖြူရွက်ဆောင်ပေးခဲ့ရာ ဦးစံဖေကွယ်လွန်ပြီး နောက် သားဖြစ်သူကလည်း ဆက်လက် အားထုတ်လျက်ရှိလေသည်။

### ကျန်းမာရေးအတွက်။

ကျန်းမာရေး အတွက် စောင့်ရှောက်နေသော ဦးကေဘနှင့် ခနောင်တို့ ဆရာဝန်ကြီး ဦးဘကျော်ဇနီးဒေါ်အေးမြဘိ လှူထားသော ဗမာ့ဆေးဘီဒိုကြီး တလုံးကိုလည်းတွေ့ရ၏၊

### အားပေးကူညီချက်

ကောလိပ် ကျောင်းဆရာမများ ဖြစ်သောဆရာမ–မအေမာ (ဘီ–အီး–ဒီ)နှင့် ဆရာမ မဘူတီ (ဘီ–အေ) တို့ကလည်း ခလေးများနှင့် သင့်လျော်သောဘတ်စာ-စာအုပ်များကို ပေးလှူလျက်ရှိကြ၏။

### ပညာအရောင်

အဖက်ဖက်မှ ပြည့်စုံလှသဖြင့် ရပ်ဝေးမှကျောင်းအိပ် ကျောင်းစားများပင် လာရောက် နေထိုင်ကြသည့်ပြင် ဟံသာဝတီပိုင် ဝါးရုံဆိပ်ရွာကြီးမှ နေ့စဉ် ခလေးပေါင်း (၆၀) ကျော်လာရောက်၍ပညာသင်ကြားခဲ့လေသည်၊

### စိန့်မိုင်း ရုပ်ရှင်မှ

ရန်ကုန်စိန့်မိုင်းရုပ်ရှင်ကုမ္ပဏီ စားကြီးဦးလှရှိန်နှင့် ဟိုင်ပင်ပြီး ဘောဓိသာဒေသ၊ ညောင်ရွာ ပညာသင်ကျောင်းကြီး၏ ပညာရေး ဗိမာန် တည်ဆောက်နေပုံ၊ ခလေးများ၏စိတ်ဓါတ်မြင့်မားရှင်ပြူးနေပုံများကို အတုယူစေရန်၊ စံပြကျောင်း အဖြစ်ဖြင့် လာရောက် ရိုက်ကူးပြီး တကဲ့တောသား ဇါတ်ကား ပညာရေး အခန်းမှာ ပြသခဲ့ပြီးကြောင်းသိရသည်၊

### အလယ်တန်းဖြစ်ရေး

တောင်သူ လယ်သမား လယ်ကူလီ ဆင်းရဲသား သားသမီးများ ဖြစ်ကြသဖြင့် ဝေးကွာသော မြို့နယ်ဒေသသို့တက်ရောက်၍ စရိတ် မတတ်နိုင်သည့် အတွက် ပညာ မသင်ကြားနိုင်ဘဲ လက်မှိုင် ချခါ၊ စိတ်ဓါတ်ဆုတ်နစ်၍ပြက်ပြားနေကြသော ခလေးများ၏ပညာရရှိရေး စိတ်ဓါတ်တည်တန့်ရေးကို ရှေ့ရှုလျက် အလယ်တန်းကျောင်းအဖြစ် တိုးမြှင့် ပေးရန် ကြိုးစားအားထုတ် နေရင်း အလယ်တန်းကျောင်း မဖြစ်မီ (၁၁-၈-၅၂) နေ့တွင်ဥက္ကဋ္ဌကြီး ဦးစံဖေ ကွယ်လွန် အနိစ္စရောက်သွားသည် အတွက်၊ကျောင်းသူကျောင်းသားများနှင့် မိဘများ၊အဖွဲ့ဝင်လူကြီးများမှာ ဝမ်းနည်းအားငယ်လျက် နေကြ သည်ကို တွေ့ရလေသည်။

### အထက်တန်းဖြစ်ထိုက်ပုံ

၎င်းညောင်ရွာ ပညာသင် ကျောင်းသည် အဆောက်အဦလည်း၊ ကြည့်ရှုစုံသည့် ကျောင်းသုံးဝရိဘောဂလည်း ပြည့်စုံသည့် အလယ်တန်း နေလိုသူ မိဘများ ကိုယ်တိုင်ထားလိုပါသည်ဟု ကတိပြုထားသော ကျောင်းသူ ကျောင်းသားလည်း(၉၀) ကျော်ရှိသည်၊ လက်ရှိမူလတန်း ကျောင်းအုပ်ဆရာကြီး၊ ဦးထွန်းရင်သည် အလယ်တန်းကျောင်းမှာ (၁၀) နှစ်ခန့် ပြသဘူးသူဖြစ်သည်၊ ယခုအခါ အလယ်တန်းကျောင်းဖြစ်လျှင် (ဘီ–အက်–စီ) ဆရာ (၃) ယောက် အသင့်ရှိ၍ ကြိုက်သည့်ဆရာကို ရွေးချယ်ရန် အသင့်ရှိနေလေသည်၊ ထို့ကြောင့်၊ ပညာဝန်ညွှန်ကြားချက်အရ ပညာအုပ်လာရောက် စစ်ဆေးလျက် အလယ်တန်း ကျောင်း၊ ဖွင့်နိုင်သော အရည်အချင်းနှင့် ပြည့်စုံကြောင်းကို ပညာဝန်ထံအစီရင်ခံပြီးကြောင်းသိရသည်၊ ၎င်းကျောင်းသို့ စစ်ဆေးရန် ရောက်ရှိသည့် ပညာအုပ်တိုင်း ချေသည်မှတ်ချက်စာအုပ်မှာချီးကျူးစာမှတ်တမ်း ရေး၍ လက်မှတ်ရေးထိုးထားတာကိုတွေ့ရသည်။

( သံဂါယနာ-သတင်းထောက် )

# ဆဋ္ဌသံဂါယနာသိမ်ဂူကြီးတွင် ကုသိုလ်ပါဝင်သူများ

ယခင် တပတ်မှ အဆက်

## အလှူခံဖြတ်ပိုင်းစာအုပ် အမှတ်-(၂)

၁။ ရန်ကုန်မြို့ ကန်တော်ကလေး ထိန်ကန်မှောရုံလမ်းဆရာမှီ-ဒေါ်ခ တို့က ၅ဝိ၊

၂။ ရန်ကုန်မြို့ ကန်တော်ကလေး ကာလဘတ်လမ်း ဦးတင်ဖေ-ဒေါ် စန်းရင်တို့က ၅ိ။

၃။ အ ရပ်ရပ်သော ကုသိုလ်ရှင်များ ကောင်းမှ အလှူခံသေတ္တာမှ ၄၃ဝိ။

၄။ ရန်ကုန်မြို့ ဝင်ဒါမီယာလမ်း ဦးညွန့် ဒေါ်စိန်းယဉ်သို့ မြင့်မြင့်တို့က ၅ဝိ။

၅။ ကန့်ဗလူမြို့ ပင်းသာရွာ ကုန်သည် ကိုသောင်းက ၅ိ။

၆။ ရန်ကုန်မြို့ အလုံမြို့လမ်း အောင်တို ကားကုမ္ပဏီက ၁၅ဝိ။

၇။ ကြည့်မြင်တိုင် ကြိတ်ဘန်း စာရေး ဦးဖေသန်းက ၅ိ၊

၈။ ရန်ကုန်မြို့ကမ္ဘာ့အေးဘုရားမှော်ရုံ ဦးငွေးက အောင်ပါလေ သိန်းထိ လက်မှတ် ခ-၅၆၅၃၁ တစောင်။

၉။ ကြို့ပင်ကောက်မြို့ ၄က်ပေါက်ကုန်း ကျောင်း ဦးညာဏဇောတက ၅ိ။

၁၀။ ရန်ကုန်မြို့ ဝန်ကြီးချုပ် ဦးနု-ဒေါ်မြရီ သားသမီးတစုတို့က ၁ဝိ။

၁၁။ ရန်ကုန်မြို့ဦးကျော်မြင့်-ဒေါ်စောရီ တို့က ၁ဝိ။

၁၂။ ရန်ကုန်မြို့ ဦးထွန်းအုံ-ဒေါ်မကြီး တို့က ၁ဝိ။

၁၃။ ရန်ကုန်မြို့ ရွှေဂုံဘိုင်လမ်း ကုန်သည် ဦးညွန့်မောင်က ၅ိ၊

၁၄။ ရန်ကုန်မြို့ မင်းမနိုင် ကွက်သစ် ပွဲစားကြီး ဦးသိန်းက ၅ိ။

၁၅။ ရန်ကုန်မြို့ ၄၃ လမ်း ကုန်သည် မခင်တီက၅ိ။

၁၆။ ရန်ကုန်မြို့ လမ်း ၅၀ အမြတ်ခတော် ခွန် ဝန်ထောက် ဦးဘောင်-ဒေါ်ခင် ကြည်သားသမီးတစုတို့က ၁ဝိ။

၁၇။ ရန်ကုန်မြို့ ရေကျော်ရပ် ဗိုဇဝါ လမ်း အငြိမ်းစားပညာဝန်ထောက် ဦးဖိုးစိုးက၁ဝိ။

၁၈။ မော်လမြိုင်ကျွန်းမြို့သာသနာ့မဣ္ဍ ကျောင်းဓမ္မာစရိယဦးအာစရက၂ိ။

၁၉။ ဝါးခယ်မမြို့ ခေ လိပ်ကျောင်း ဘုန်းတော်ကြီး ဦးနန္ဒိယက ၅ိ။

၂၀။ ဝါးခယ်မမြို့ ဦး ကျွန်း ကျောင်း ဘုန်းတော်ကြီး ဦးဇာဂရက ၅ိ။

၂၁။ ရန်ကုန်မြို့ ဒူးဝါးဆင်ဝါးနောင်အ ဖွဲ့က၂၂ိ။

၂၂။ ရန်ကုန်မြို့ ဝန်ကြီးချုပ်နှင့်အဖွဲ့သား များက၂ဝိ။

၂၃။ ပေါင်းတည်မြို့ အထည်ကုန်သည် မောင်ဖေ-မခင်ခင် သားသမီးတစု တို့က ၂ဝိ၊

၂၄။ ရန်ကုန်မြို့ အလှူရှင် ၉ ဦး တို့က ၁ဝဝိ။

၂၅။ မန္တလေးမြို့ကန်ထရိုက်ဘာဦးမောင် လေးက ၅ိ၊

၂၆။ မန္တလေးမြို့သစ်ကုန်သည် ဦးဘရင် က၅ိ။

၂၇။ ငဲခူးမြို့ မကျင်သိုက်-မကြည် တို့က ၂ဝိ။

၂၈။ ရန်ကုန်မြို့ ကျောက်မြောင်း ရွှေဘို လမ်း မီးသတ်အရာရှိဦးစောမောင် က ၅ိ။

၂၉။ ရန်ကုန်မြို့ လမ်းမတော် တီအိုစီ ကိုယ်စားလှယ် ကိုဝင်းနား မစိန်စိန် က ၄ဝိ။

၃၀။ ရန်ကုန်မြို့လမ်း၂၀ကုန်ထုတ်စာရေး မောင်ဒါဘီသားသမီးတစုတို့က၃ဝိ။

၃၁။ ဦးကျော်ညွှန့်၏ သမီး- ဒေါ်လှိုင်၊ မေရီညွှန့်၊လီလီညွှန့်၊အိုင်လင်ညွှန့်၊မေရီ သောင်း တို့က ၁၆ိ။

၃၂။ ကိုသောင်း၊ ကိုအောင်၊ ဒေါ်မြရီ သားသမီးတစုတို့က ၁ဝိ၊

၃၃။ ရန်ကုန်မြို့ ဝင်ဒါမီယာ လမ်း ပိဋကတ် မြန်မာပြန် စာပြုဆရာ ကို စိုးငင်း ၂ိ။

၃၄။ နှစ်ချလေးဆယ့်ငါးကျပ် အလှူခံ သေတ္တာဖွင့် ၂၄၅ိ။

၃၅။ တောင်ငူဒေါ်စိန်နှင့် သားသမီး တစု တို့က ၂ဝိ။

၃၆။ ရန်ကုန်မြို့ မဂျစ်လမ်း ကုန်သည် ဦးအောင်ဇေ ၆ိ၊

၃၇။ သံလျှင်မြို့ရွှေဆိုင်ဈေးအတွင်းဦးဘ မောင် မစိန်ညွှန့်၊မအုံးသိန်း၊မသန်း အေးမောင်၊ ဝင်းဘင်တို့က ၅ဝိ။

၃၈။ သံလျှင်မြို့ဦးထွန်းမောင်၊ဒေါ်အေး ကြည်၊ မသန်းရင်၊ မမြသန်း၊ မ ညွန့်ရင်တို့က ၅ဝိ။

၃၉။ ပေါင်းတည်မြို့သန်းတင်ဆေးလိပ် ရုံပိုင်ရှင် ဦးဘိုးကံ၊ဒေါ်ဒေါ်သိန်း၊ သားသမီးတစုနှင့် အလုပ်သမားများ က ၁၅ဝဝိ၊

၄၀။ ရန်ကုန် ငွေကိုင် စာရေးကြီး ဦး အေးဖေ ၁ဝိ။

၄၁။ မဆယ်ဆိပ်မှ မောင်ကျော်မြင့်က ၁ဝိ။

၄၂။ မဆယ်ဆိပ်မှ ဦးရိုင်း ၁ဝိ။

၄၃။ တောင်ကြီးမြို့ ရှမ်းပြည် တောင်ပိုင်း ပွဲစားကြီး ဦးထွန်းဝ၊ ဒေါ်ပေတို့က ၂ဝိ။

၄၄။ ရန်ကုန်မြို့ အရှေ့ပိုင်း သံးရကြို့ရုံ အလုပ်ရုံ အေ-ဂေါ်ရီ ၆ိ။

၄၅။ သရက်ခရိုင်မြင်းပါးဦးမောင်ခင် ဂိ။

၄၆။ ပျဉ်းမနားမြို့ ကန် ထ ရိုက် တာ မောင်လှရွှေ ၁ဝိ၊

၄၇။ မိတ္ထီလာမြို့ ရွှေကုန်သည် ဦးခွေး- ဒေါ်ခွေးမ တို့က ၂၅ိ။

၄၈။ မိတ္ထီလာမြို့ ဆန်ကုန်သည် ဦး ထွန်းမြတ်-ဒေါ်စောတို့က ၅ိ။

၄၉။ မိတ္ထီလာမြို့ အမိန့်တော်ရ ဦး ဘိုးလွန်နှင့် သားသမီးများက ၅ိ။

၅၀။ ညောင် လေး ပင် သစ် တော ဝန်ထောက် ဦးဘချစ် ဒေါ်မြကြည် သားသမီး တစုတို့က ၁ဝိ။

၅၁။ ရန်ကုန်မြို့ ဇီဝက္ကသုခလမ်း ကားပိုင် ရှင် မောင်ကြင်စိန်၊ မညိန်းဘင်နှင့် သား-သမီး တစုတို့က ၂ဝိ၊

၅၂။ ကြည့်မြင်တိုင်အိုးဘိုလမ်း ကုန်သည် ဒေါ်စိန်ကျေနှင့်သားသမီးများက၂ဝိ။

၅၃။ သုံးခွမြို့ ဦးဘိုးခိုင်-ဒေါ်လှိုင် သား သမီးတစုတို့က ၁ဝိ။

၅၄။ ရန်ကုန်မြို့ ဦးဗိစာရလမ်း ကုန်သည် ဒေါ်စော သားသမီးတစုတို့က ၁ငိ။

၅၅။ ဝါးခယ်မမြို့ ကုန်သည်အမိဒေါ်ဖွါး အမျိုးထားရှိမိသားတစုတို့က ၁ဝိ။

၅၆။ ရန်ကုန်မြို့ သိမ် ကြီး ဈေး ဒီရုံ ဒေါ်ဖင်နှင့်သား မောင်ထွန်းစိန်တူ များက ၂ဝိ၊

၅၇။ ရန်ကုန်မြို့ဗဟန်း ၁-လမ်းမှ မောင် ဘိုးစိန်-ဒေါ်လှိုင် သား-သမီးတစု တို့က ၅ိ။

၅၈။ ဦးရှင် ၁ဝိ၊

၅၉။ ရန်ကုန်မြို့ လမ်း ၃၀ မှ ကုန်သည် ဒေါ်အုံးနှင့်သားများက ၂ဝိ။

၆၀။ ရန်ကုန်မြို့ကြည့်မြင်တိုင်ပွဲစားတန်း ဦးထွန်းညို၊ ဒေါ်ခင်ဆင့် တို့က ၁၁ဝိ။

၆၁။ ရန်ကုန်မြို့ကျောက်မြောင်း နေကုန် သည် ဦးချစ်ရောက်၊ ဒေါ်ထား ၁ဝိ၊

၆၂။ စမ်းချောင်းဆိဆုံလမ်း မိဘ ၂ ပါး အတွက်ဒေါ်မြမေနှင့်မောင်နှစ်မ၃- ယောက် တို့က ၅ိ။

၆၃။ မြောင်းမြမြို့ ဦးအရင် ဒေါ်မြမေတို့က ၁ဝိ၊

၆၄။ မြောင်းမြမြို့ မောင် ကြင် မြောင်း မသန်းမြင့် သို့ ၃ ယောက်တို့က၁ဝိ၊

၆၅။ ရန်ကုန်မြို့ဦးဗိစာရလမ်း မကြင်သုံ ၁ဝိ။

၆၆။ မော်လမြိုင်မြို့ကုန်သည် ဦးထွန်းရင် ၅ိ။

၆၇။ မိတ္ထီလာမြို့ ရွှေရေး ကျောင်းမှ ဦးဇာဂရ ၅ိ။

၆၈။ ရန်ကုန်မြို့ ၅ လမ်း ကုန်သည်ဒေါ် သိန်းသား မောင်သိန်းကျော်တို့က ၃ဝဝိ၊

၆၉။ ဝါးခယ်မမြို့ စစ်ဗိုလ်ဦးစံရန် ဒေါ် အုံးရှင်သား မောင်အုံးမောင်တို့က၁ဝဝိ။

၇၀။ ရန်ကုန်မြို့ဆူးလေ ဘုရားလမ်းဆန် စက်ပိုင်ရှင် ဦးယုံစိန် ဖနီးဒေါ်စိန် ကြည်တို့က။ ၅ိ။

၇၁။ ပုသိမ်မြို့ အုန်းကျောင်းရွာကုန်သည် မောင်မြသန်း ၂ဝိ။

၇၂။ လပွတ္တာပွဲစားမောင်လှကြည် ၁ဝိ။

၇၃။ ပုသိမ်မြို့ အုန်းကျောင်း ကုန်သည် မောင်တင်စိန် ၅ိ။

၇၄။ လပွတ္တာကုန်သည် မောင်ထွန်းဆိုင် မသန်းညွန့်တို့က ၂ိ။

၇၅။ ဇွန်လ ၃၀ ရက် အလှူခံ သေတ္တာ ဖွင့် ၃၆ဝိ၊

၇၆။ တောင်ငူ ကုန်သည် ဒေါ်စိန်းနု ၅ိ။

၇၇။ ညောင်တုံးမြို့ကုန်သည်ဦးမောင်နိုင် ၅ိ။

၇၈။ သုံးခွမြို့ ကုန်သည် ဦးဖုန်သားသမီး တစုတို့က ၂ဝိ။

၇၉။ မင်းဘူးမြို့ လယ်ကိုင်း သမဝါယမ ဆန်စက်မန်နေဂျာ ဦးမြို့ ၅ိ။

၈၀။ ကျိုင်းတုံမြို့ ဂန်သည်ဦးဆိုင်ကျော် ၁ဝိ။

၈၁။ ကြည့် မြင် တိုင် စာရေး ဆ ရာ ဆရာကျော် ၅ိ။

၈၂။ ပျဉ်းမနားမြို့ ဒေါ်နှင်းကြိုင် ၃ိ။

၈၃။ ရန်ကုန်မြို့ ရွှေဘိုလမ်း ကျောက် မြောင်းဒေါ်သန်း၏ အစီခံအလုပ် သမားများက ၂၃ိ၊

၈၄။ မင်းဘူးမြို့ ရွှေ ပန်း တိမ် ဆံ ရာ ဦးဘချွ ၁ဝိ၊

၈၅။ ကြည့်မြင်တိုင် အုန်းပင်လမ်း ဦးချစ် သာ-ဒေါ်ငွေသာတို့က၅ိ။

၈၆။ ကြည့်မြင်တိုင် ပတောက်ပင်လမ်း ကုန်သည် ဦးထွန်းရှိန် ၅ိ။

၈၇။ ကြည့်မြင်တိုင် အုန်းပင်လမ်း ကုန် သည် ဒေါ်အမာ ၂ဝိ၊

၈၈။ ရန်ကုန်မြို့ရွှေမောင်းကုမ္ပဏီ ဦးငွေ ဒေါ်သန်းမြ သားသမီး တစု တို့က ၃ဝဝိ၊

၈၉။ ရန်ကုန်မြို့ မမြသင် ၄ိ။

၉၀။ မန္တလေးမြို့ ဒေါ်သိန်းရင်၊ ဒေါ် သိန်းတင် တို့က ၅ိ။

၉၁။ ရန်ကုန်မြို့ မြေနီကုန်း ဒေါ်အိမ်နှင့် သားသမီးတစုတို့က ၅ိ။

၉၂။ ရန်ကုန်မြို့ ကုန်သည် အုဆိနိဂိုမား ကိုဒူးဝါး ၆ဝိ။

၉၃။ ဒုက်ဦးမြို့ မတောင်မေ မနွဲ့ရီ တို့က ၂ိ။

၉၄။ ဒုက်ဦးမြို့ ဒေါ်တုတ် ၂ိ။

၉၅။ ရန်ကုန်မြို့ ဝိဘိုရိယားလမ်း ဦး ဘမောင် ဒေါ်မင်းသိတို့က ၂ိ။

၉၆။ ရန်ကုန်မြို့ ၁၃၉ ဇရေဇာလမ်း ထွန်းသန်းကုမ္ပဏီ အမိဒေါ်ကျော့ ၁၅ဝိ။

၉၇။ ရန်ကုန်မြို့ ၁၃၉ဇရေဇာလမ်းထွန်း သန်းအင်ကုမ္ပဏီ ဦးထွန်းစိန် ဒေါ် နွဲ့ သားသမီးတစုတို့က ၃ဝဝိ၊

၉၈။ ရန်ကုန်မြို့ ကိုင်းလမ်း ကုန်သည် ဦးဘခင်၊ဒေါ်မြင့်တို့က ၂ဝိ၊

၉၉။ ရန်ကုန်မြို့ ကိုင်းလမ်း ကုန်သည် ဦးဘခင်ဒေါ်မြင့် သားသမီးတစုတို့က ဂိ။

၁၀၀။ ရန်ကုန်မြို့ ၃၃လမ်း ဦးကျင်ရှိန် ဒေါ်အုံးနိုင်သားသမီးတစုတို့က ၁ဝိ၊

## အလှူခံ ဖြတ်ပိုင်းစာအုပ် နံပါတ် (၃)

၁။ ရန်ကုန်မြို့ ၂၉ လမ်း ရွှေပန်တိမ် ဆရာဦးဘချစ်၊ဒေါ်အုံးရှင်တို့က ၁၅ဝိ။

၂။ ရန်ကုန်မြို့ အင်ဂျင်နီယာ ရေကူး ရေစက်တာဝန်ခံ ဦးစံတင်၊ဒေါ်သန်းသန်း တို့က ၄၅ိ။

၃။ ရန်ကုန်မြို့ရေကူး ရေခဲစက် အင်ဂျင် နီယာဦးစံတင်၊ဒေါ်သန်းသန်းတို့က ၁ဝိ။

၄။ ပျဉ်းမနားမြို့ ကိုဆိပ် ဂိ။

၅။ ပျဉ်းမနားမြို့ ဦးအောင်လှ ဂိ။

၆။ ပျဉ်းမနားမြို့ ဦးတူ ဂိ။

၇။ ပျဉ်းမနားမြို့ ကိုအေးမောင် ဂိ။

၈။ ဇီးကုန်းကြီး မစောတင် သားသမီး တစု ကောင်းမှု ၅ိ။

၉။ ရှင်းသာ ဦးပု- ဒေါ်အုန်းညွန့် တို့က ၅ိ။

၁၀။ တာဗွန် မသိန်းမြ ဒိ။

၁၁။ ရန်ကုန်မြို့ ဥတ္တံလစ် မအေးကျင် ၂ိ။

၁၂။ ရန်ကုန်မြို့ ဥဒ်တလစ်မဟာမြင့်မိုရ် လမ်း ကိုသန်း ၂ိ။

၁၃။ မိတ္ထီလာမြို့ ကုန်သည် ဦးဝင်း- ဒေါ်လှတို့က ၅ိ။

၁၄။ မြင်းခြံခရိုင် ကုန်သည် ဒေါ်စက်ရီ နှင့်သားသမီးတစုတို့က ၅ဝိ။

၁၅။ မိတ္ထီလာမြို့ ပန်းအိုင် ကုန်သည် မောင်တင်ဇ ၁ဝိ။

၁၆။ မိတ္ထီလာ ပန်းအိုင် ကုန်သည် ဦးဘို၊ ၁ငိ။

၉၇။ ရန်ကုန်မြို့ ဦးဝိစာရကွက်သစ် ဦးဘတုး ၂၀။

၁၈။ ရန်ကုန်မြို့ စာစီဆရာ ဦးမောင်တင်နှင့် အိမ်သားတစုတို့က ၅၀။

၁၉။ ရန်ကုန်မြို့ ပုဇွန်တောင် ကားနိုင်ရှင် ဦးလှ၊ မကြော့ တို့က ၂၀။

၂၀။ ကျောင်းအမကြီး ဒေါ်ဘောင်အမ ဒေါ်တင်မိ အမှူး၊ ပြန်ရှ ရွှေကျီး မမကြီး ဆေးလိပ်ရုံပိုင်ရှင်ဦး သောင်း၊ ဒေါ်မမကြီး သား-မောင်ချစ်ဆွေ၊ ရွှေကျီး အမျိုးသမီး မနှစကြာအဖွဲ့တို့က ၅၄၅၀။

၂၁။ ရန်ကုန်မြို့ ကြည့်မြင်တိုင် ကိုစံဝင်း မတော်တို့က ၂၀။

၂၂။ ရန်ကုန်မြို့ အထက် ပုဇွန်တောင် ကုလီဂေါင်း ကိုလှသောင်၊ မကြင်လှ တို့က ၅၀။

၂၃။ ရန်ကုန်မြို့ ပုဇွန်ဘောင် ကုန်သည် ဦးဘိုးရုံး ဒေါ်စီ တို့က ၃၀။

၂၄။ ကဝမြို့ ဦးစံဒေါ်ငွေးရင်သားသမီး တစုတို့က ၁၅၀။

၂၅။ ရန်ကုန်မြို့ ရေကျော်ရပ် ဒေါ်မြ မရွှေ တို့က ၅၀။

၃၆။ ရန်ကုန်မြို့ ရေကျော်ရပ် ဒေါ်ကြီးသားသမီးတစုတို့က ၅၀။

၂၇။ ကဝမြို့ ဒေါ်သင် ညီအမတစုတို့နှင့် ဦးဘရှင် သားသမီးတစု၊ ဒေါ်သိန်း တို့က ၁၅၀။

၂၀။ ရန်ကုန်မြို့ ရေကျော်ရပ် ဦးမြင့် ဒေါ်ကြင်တို့က ၅၀။

၂၉။ ရန်ကုန်မြို့ ကိုင်းဘန်း ဒေါ်ရွှေယု သား မောင်ဟုတ်စိန် သမီးမစောမေ တို့က ၁၇၀။

၃၀။ ရန်ကုန်မြို့ ၁၂ လမ်း ကြည် ဆန့်ပွဲရုံ က ၈၅၀။

၃၁။ ဒိုက်ဦးမြို့ ဒေါ်ခလေးမ ဘ ၁၀။

၃၂။ ရန်ကုန်မြို့ ကျောက်မြောင်း ဒေါ်သဲခင် ၂၀။

၃၃။ အုပ်ချုပ်ရေး အရာရှိနှင့် အင်ဂျင်နီယာကြီး ဦးသန်းဖေ ၈၀။

၃၄။ လက်ထောက် အင်ဂျင်နီယာ ဦးဝင်းဆွေ ၆၀။

၃၅။ လက်ထောက် အင်ဂျင်နီယာ ဦးသင် ၆၀။

၃၆။ လှိုင်ဂူတည်ဆောက်ရေးအဖွဲ့ အတွင်းရေးမှူးဦးဖိုးကြည် ၁၀။

၃၇။ ရန်ကုန်မြို့ လှိုင်ဂူ တည်ဆောက်ရေးအဖွဲ့ လခစားများထံမှ ၁၁၄၀။

၃၈။ ဘိလပ်မြေ ၇၀ ဒေါ်ငါအလုပ်သမားများ လှိုင်ဂူတည်ဆောက်ရေးအဖွဲ့ ထံမှ ၇၁။

၃၉။ ရန်ကုန်မြို့ လှိုင်ဂူတည်ဆောက်ရေး နေ့စား အလုပ်သမားငွေစုမှူးမှတဆင့် ၃၇၁။

၄၀။ ရန်ကုန်မြို့ ခင်ခင်ဆွေ ခင်ခင်ညွန့် ခင်ခင်ချစ် ခင်ခင်ဥတို့က ၁၀။

၄၁။ ရန်ကုန်မြို့ ၄၆ လမ်း ဦးဖိုးမြ ဒေါ်ဖွားဘိုကြ ၁၀။

၄၂။ ရန်ကုန်မြို့ ဒါလ်ဟိုစီလမ်း ဦးမောင်ထွန်း ဒေါ်တေင်တို့က ၁၁။

၄၃။ ရန်ကုန်မြို့ မအူကုန်း အင်ဂျင်နီယာ ကိုအောင်ကျော် မယုကြင်တို့က ၁၃၀။

၄၄။ လက်ပန်းတန်းမြို့ ကုန်သည် ကိုမောင်ကြင် မကြင်ရွှေ သားသမီးတစုတို့က ၁၀၀။

၄၅။ အင်းစိန်ငုံ ရေကူး ဦးကုလား ဒေါ်အုံးခင်တို့က ၁၀၀။

၄၆။ တွံတေးပိုင် ဘုရားငုတ်တိုရွာ ဒေါ်သန်းစိန် မနှင်းလှတို့က ၂၀။

၄၇။ ဟင်္သာတမြို့ ကုန်သည်ဦးဘ ဒေါ်တွေ့သား၊ ကိုမောင်မောင် သမီး မမြင့် မောင်စိန်လင်းတို့က ၃၀၀။

၄၈။ မှော်ဘီမြို့ ၉လမ်းမှ အဘဦးဘိုးသောင်း အမိဒေါ်ညို သားသမီးတစုတို့က ၄၀။

၄၉။ မအူပင် မောင်လှ မသန်းတင် တို့က ၂၀။

၅၀။ ရန်ကုန်မြို့ ရှမ်းလမ်း သမတကွက်သစ် ၂ လမ်း ဦးသာဥန်းညို ဒေါ်ရင်တို့က ၂၀။

၅၁။ ရန်ကုန်မြို့ရှမ်းလမ်း ၂ လမ်းသမတ ရပ်ကွက် ဦးသာဥန်းညို၊ ဒေါ်ရင် တို့က ၅၀။

၅၂။ ရန်ကုန်မြို့ မအေးငြိမ်း တို့က ၅၀။

၅၃။ ကြည့် မြင် တိုင် ဟံ သာ ဝ တီ ကမ္မဋ္ဌာန်းကျောင်းဒေါ်ဝိမလစာရီ ၁၀။

၅၄။ ရန်ကုန်မြို့ ဗိုလ်တထောင် ဓနိတော သဘော်ကြီး တာဝန်ခံ မလှတင် တို့က ၁၀။

၅၅။ သံလျင်မြို့ ကျောင်း ဆ ရာကြီး ဦးထွန်းလှ ဒေါ်စောအ္ဆဲ ၊ ဒေါ်လှနှင့် သားသမီးတစုတို့က ၁၅၀။

၅၆။ သံလျင်မြို့ ကိုထွန်းအောင် ၄၀။

၅၇။ သံလျင်မြို့ ရီရီဝင်း ၆၀။

၅၈။ တော်လတဲ့ မြခင်ချို ၂၀။

၅၉။ ရန်ကုန် ကျောက် မြောင်း ရပ် မောင်ချစ် ၂၀။

၆၀။ ကြည့် မြင် တိုင် စမ်း ချောင်း ရပ် ဦးရွှောင်ကြူ၊ ဒေါ်မြကြည်တို့က ၁၀၅၀။

၆၁။ ရန်ကုန်မြို့ ပုဇွန်တောင် ဓါတ်ပုံဆရာ မောင်ခင်စိန် မအုန်းကြည် တို့က ၅၀။

၆၂။ ရေကူး ကြို့စက် ကိုယ်စားလှယ် ဦးသာလှ၊ မအုန်းငွေ တို့က ၁၀၀။

၆၃။ ဗဟန်း ရေတာရှေ့ လမ်းသစ် ဒေါ်စိန်ပေါ၊ ဒေါ်နှင်းမြင့်၊ အမိ-ဒေါ်ကျော့ ဒေါ်သိန်းမြ၊ ဒေါ်ကြီးမော်တို့က ၂၀။

၆၄။ ရန်ကုန်မြို့ စမ်းချောင်းရပ် ဦးလှမောင်၊ ဒေါ်နှင်းရင် သားသမီးတစုတို့က ဂ၀။

၆၅။ မော်လမြိုင်မြို့ မငွေးညွှာ၊ မကြင်၊ မရှေသင်၊ မသန်းရီ တို့က ၁၂၀။

၆၆။ ပုသိမ်မြို့ မ ရမ်း ချီ လမ်း ပင်စင် အင်ဒ်မ်းစာကြီး ဦးဘသော်၊ ဒေါ်ရွှေသင် သားသမီး တစုတို့က ၁၀၀။

၆၇။ နဘ္ဘသင်းမြို့စာတိုက်လမဲ၊ကုန်သည် မောင်အင်ဂီတ်က ၁၀၀။

၆၈။ ရန်ကုန်မြို့ လမ်း ၄၀-နေ မောင်ဘဘူ ဗိုလ်ကြီးချစ်ထွန်းတို့က ၆၀။

၆၉။ မော်လမြိုင်မြို့ ဈေးကြီးနေ ဒေါ်ငွေကြိုင် ၁၀၀။

၇၀။ ဓနုဖြူမြို့ နှံကြီးမောင်ဝိန်၊ မတင် ၅၀။

၇၁။ အင်းဒ်နကုန်သည် မတော် ၅၀။

၇၂။ လက်ပန်တန်း ဘီးလင်းတန်း ဒေါ်ရင်ညို၊ မအုန်းကြည်၊ သား- မောင်တင် လှိုင်တို့က ၃၀။

နှင့် ငွေဖလား အကြီး ၁-လုံး။ အငယ် ၄-လုံး။

၇၃။ သံလျင်မြို့ ကျောင်းဆရာကြီး ဦးထွန်းလှက ၅၀။

၇၄။ ရန်ကုန် ဦးဝိစာရလမ်း မော်တော်ကားပိုင်ရှင် ကိုမောင်လှ-မညွန့်ခင် တို့က ၁၀၀။

၇၅။ ရန်ကုန်မြို့ ဦးဝိစာရလမ်း ကုန်သည် ဦးလှသွင်-မင်နှဲတို့က ၁၀၀။

၇၆။ ရန်ကုန်မြို့သိမ်ကြီးဈေး ဦးအုန်းစိန် ဒေါ်ကြေ သားသမီးတစုတို့က ၁၅၀။

၇၇။ ရန်ကုန်မြို့ ၃၁ လမ်းဦးအုန်း ဒေါ်သန်းတင် ဒေါ်ငွေ သားသမီး တစုတို့က ၁၅၀၀။

၇၀။ ထန်းတပင် အထက်လမုတန်း ဦးမောင်စံ ၁၀၀။

၇၉။ သုံးခွဈေးအနီးကုန်သည် ဒေါ်ကြင်မြိုင် ဒေါ်ကြင်အုန်း သားသမီး တစုတို့က ၁၅၀၀။

၈၀။ မိတ္ထီလာမြို့ ဦးစီ ၁၀၀

၈၁။ မိတ္ထီလာမြို့ ကုန်သည်ကြီး ဒေါ်ဖွားသွယ်က ၁၀၀။

၈၂။ မိတ္ထီလာမြို့ ကုန်သည် ဦးစိန် ဒေါ်ဖွားသွယ် သားသမီးတစုတို့က ၁၀၀။

၈၃။ သုံးခွမြို့ကုန်သည်မောင်တင်မောင် မသန်းကြည် သားသမီး တစုတို့က ၁၅၀။

၈၄။ ရန်ကုန်မြို့ ၄၂ လမ်း ဒေါ်လှဘူး ၁၅၀၀။

၈၅။ ရန်ကုန်မြို့ ၄၂ လမ်း ဒေါ်လှဘူး ၁၀၀။

၈၆။ ရန်ကုန်၄၂လမ်းဒေါ်လှဘူး၄၀၀။

၈၇။ ရန်ကုန်မြို့ ၄၂ လမ်း ဒေါ်လှဘူး ၁၀၀။

၈၈။ မော်လမြိုင် စက်ဆရာ မောင်အုန်းခင် မခင်ညွန့်တို့က ၅၀။

၈၉။ ကြည့်မြင်တိုင် လှည်းတန်းဒေါ်ငွေးနိုင်ငွေသား ၅၀။

၉၀။ ကြည့်မြင်တိုင် လှည်းတန်း ဒေါ်ငွေနိုင် ၅၀။

၉၁။ ပျဉ်းမနားမြို့ ရှောလမ်း သီဟပွဲရုံ ဦးရာညွှန် ၁၀၀။

၉၂။ ရန်ကုန်မြို့ ပြန်ကြားရေး ဝန်ကြီးဌာနက ၁၁၈ ၇၅ ပြား။

၉၃။ ရန်ကုန်မြို့ ပြန်ကြားရေး ဌာန ၁၇၅။

၉၄။ ရန်ကုန်မြို့ အသံလွှင့်ဌာန ၁၃၁ ၂၅ ပြား

၉၅။ ရန်ကုန်မြို့ ရုပ်ရှင်နှင့် ပြဇာတ်ဌာန ၁၆၇။

၉၆။ ရန်ကုန်မြို့ရုပ်ပြ ဗဟုသုတ ပြန့်ပွားရေးအဖွဲ့ ၉၀။

၉၇။ ရန်ကုန်မြို့ အမှတ် ၄၂-ပွဲစားတန်း ကြည့်မြင်တိုင် ဦးထွန်းညို၊ ဒေါ်ခင်ဆင့်တို့က ၂၆၀၀။

၉၈။ ဓနုဖြူမြို့ ကုန်သည် ဦးဘိုးမြစ် ဦးလှမောင်တို့က ၆၀။

၉၉။ ရန်ကုန်မြို့ ဗဟန်းရပ် ဆေးဆရာ-ထရာပု မညိုတို့က ၅၀။

ရန်ကုန်မြို့ ဒိဒ္ဒိကရေစီ ဒေသန္တရ အုပ်ချုပ်ရေးဝန်ကြီး ၃၅၈၀။

## အရှေ့ခံ ဖြတ်ပိုင်းစာအုပ် အမှတ်-(၄)

၁။ တောင်ငူမြို့ပန်းဘဲတန်းရပ်ပရိက္ခရာကုန်သည် ဒေါ်ဖြူနှင့် သမီးမြေ တစုတို့က ၇၀-၅၀ ပြား။

၂။ ရန်ကုန်မြို့ ဝန်ကြီးချုပ် ကတော်နှင့် အဖွဲ့ဝင်များက ၅၀၀။

၃။ ရန်ကုန်မြို့ ၁၂ လမ်း ပွဲစားကြီး ဦးမောင်လှ၊ ဒေါ်သန်းညွှန့်တို့က ၁၀၀။

၄။ ပန်းတနော်မြို့မောင်ကျော်မြင့် ၂၀။

၅။ ပန်းတနော်မြို့ ကိုရွှေ ၂၀။

၆။ သုံးခွပိုင်အောင်ပန်းစိန် ဦးဥက္ကာသ ဇွေဒေါ်၊ ၈၅၀။

၇။ သုံးခွမြို့ အောင် ပန်း စိန်ဦးဥက္ကာသ ၁၁၀။

၈။ ရန်ကုန်မြို့ လမ်းမတော် ဒေါ်ထွေး ၆၀၀။

၉။ ကြည့်မြင်တိုင် မကြီးကြီးလမ်း ဦးမြို့ ဒေါ်ဘုတ်ဆုံ ၂၀။

၁၀။ ကြည့် မြင် တိုင် မ ကြီး ကြီး လမ်း မောင်ချစ်ထွန်း၊ မသန်းဧ၊ သမီးမတင်သိန်း၊ တို့က ၂၀။

၁၁။ ကြည့်မြင်တိုင် မကြီးကြီးလမ်းမောင်ချစ်ထွန်း၊ မသန်းဧ၊ သမီး-မတင်သိန်း တို့က ၁၀၀။

၁၂။ ကြည့် မြင် တိုင် မ ကြီး ကြီး လမ်း မောင်ချစ်ထွန်း၊ မသန်းဧ သမီးမတင်သိန်း တို့က ၁၀၀။

၁၃။ မန္တလေးမြို့ ရတနာမဥ္ဇူ ရိပ်သာ အဓိဋ္ဌာရီ ဦးမြင့်၊ ဒေါ်ရစ်တို့က ဂ၀။

၁၄။ ကြည့်မြင်တိုင် မကြီးကြီးလမ်း ဦးမြို့ ၂၀။

၁၅။ ရန်ကုန်မြို့ ဆူးလေ ဘု ရား လမ်း မကြင်၊ မပု၊ ငွေဒေါ်၊ ၄၀။

၁၆။ ဝန်ကြီး ဦးတင်ဖေ နီးဒေါ်ခင်စော သားသမီးတစုတို့က ၅၀၀။

၁၇။ ရန်ကုန်မြို့ ရေကျော် ၅၁ မြောင်းကြီး၊အနီး တိုင်းချစ်ဘလောက် တိုက် ဦးဘဆက် ဒေါ်လှရွှေတို့က ၁၅၀။

၁၈ မန္တလေးမြို့ မောင်ကိုလေး ၅၀။

၁၉ မန္တလေး၊ ကိုကိုလေး ၅၀။

၂၀ ဝန်ကြီး မန်းဘခိုင်ကိုရည်မှန်း၍ ဝန်ကြီးကတော် ဒေါ်ခင်နီ သမီးမြင့်မြင့်ခိုင် သား မောင်စိန်ခိုင်တို့၏ ၁၉၅၃-ဇူလိုင်လ ၁၉ ရက် (၆) နှစ် ပြည့်မြောက် အလှူတော်ငွေ ၄၀၀။

၂၁။ ကွယ်လွန်သူ (I.C.S) ဦးအုံးမောင်အား ရည်စူး၍ ဇနီး ဒေါ်သိန်းကြယ် သား ကိုတင် မောင်သိန်း၊ကိုကိုလှ ကိုအေးမြင့်တို့က ၅၀၀။

၂၂ ရန်ကုန်မြို့ မောင်တင် ဒေါ်ချစ် သားသမီးတစုတို့က ၅၀။

၂၃။ ရန်ကုန်မြို့ ကိုကျော်ငင်း မခင် စိန်တို့က ၁၀၀။

၂၄။ ရန်ကုန်မြို့ မောင်ခင် အမိဒေါ် ခိန်ငန်တို့က ၅၀။

၂၅။ ရန်ကုန်မြို့ဘောက်ထော် ကိုထွန်း ညိမ်း မလှိုင်မိ သားသမီးတစုတို့က ၁၅၀။

၂၆ မြောင်းမြ ဦးမောင်ကြီး ဒေါ်ရွှေမှင်တို့က ၅၀။

၂၇။ မြောင်းမြ ရုံးဂမ်း ဦးရုံးလွင် ဒေါ်ညံအိမ် သားသမီးတစုတို့က ၁၅၀။

၂၈။ မြောင်းမြ မောင်ဟန် မအုံးတင်တို့က ၅၀။

၂၉။ ရန်ကုန်မြို့ ဒေါ်ဥ ံစိန် ကိုမောင်ညွန့်တို့က ၁၀၀။

၃၀။ ဦး မောင် လေး သား သမီး တစုတို့က ၁၅၀၀။

၃၁။ ကွယ်လွန်သူ ဝန်ကြီး သခင်မြ ကိုရည်စူး၍ ဝန်ကြီးကတော် ဒေါ်ခင်ညွှန့်က ၁၉၅၃-ခု ဇူလိုင်လ ၁၉-ရက်နေ့ ခြောက်နှစ်မြောက် အထိမ်းအမှတ် အဖြစ် အလှူတော်ငွေ ၅၀၀။

ဆက်လက်ဖော်ပြမည်။

(စာမျက်နှာ ၄-မှအဆက်)

ဒီ၊ ဝိသုဒ္ဓိမဂ် အဋ္ဌကထာကို ပဋ္ဌမဆုံး ရေးသား မြိုစုတော် မူသည်ဟု သမိုင်း စာတမ်း များနှာ တို့၌ ပြဆိုကြ ကုန်၏၊ အဋ္ဌကထာ ဆရာကြီး ကိုယ်တိုင် လည်း အဋ္ဌသာလိနီအဋ္ဌကထာနိဒါန်းကျမ်းဦး၌

ကမ္မဋ္ဌာနာနိ သဗ္ဗာနိ
စရိယာ ဘိညာ ဝိပဿနာ၊
ဝိသုဒ္ဓိမဂ္ဂေ ပနိဒံ
ယသ္မာ သဗ္ဗံ ပကာသိတံ၊
တသ္မာ တံ အဂဟေတွာန၊
သကလာယပိ တန္တိယာ၊

စသည်ဖြင့် ပြဆိုတော် မူချက် များကို တွေ့ရလေသည်၊ ၎င်းပြင် များစွာသော အရာဌာနတို့၌ အကျယ်ကို ဝိသုဒ္ဓိမဂ်တွင် ကြည့်ရှု နိုင်ကြောင်း အဋ္ဌကထာ ဆရာကြီးကိုယ်တိုင် မှာထားတော် မူချက် များ တွေ့ရသေးသည်။

အဋ္ဌကထာ ပေါင်း ၈ ကျမ်း

အရှင် မဟာ ဗုဒ္ဓဃော သ မပေါ်မီက ပေါ်ထွန်းနှင့် နေသော အဋ္ဌကထာပေါင်း ၈ ကျမ်းမျှ ရှိလေသည်၊ ထို အဋ္ဌကထာတို့မှာ–

(၁) မဟာ အဋ္ဌကထာ၊
(၂) ဋ္ဌအဋ္ဌကထာ၊
(၃) မဟာပစ္စရီ အဋ္ဌကထာ၊
(၄) ဋ္ဌ ပစ္စရီ အဋ္ဌကထာ၊
(၅) ကုရုန္ဒီ အဋ္ဌကထာ၊
(၆) အန္ဓအဋ္ဌကထာ၊
(၇) သင်္ခေပ အဋ္ဌကထာ၊
(၈) အရိယ အဋ္ဌကထာ၊

များ ဖြစ်လေသည်။ ထိုရှိနှင့် ပြီးသော အဋ္ဌကထာတို့ သည်လည်း ; တကျမ်းနှင့် တကျမ်း၊ အယူအဆ မတူသည့် အချက် များ ရှိနေကြောင်း ထင်ရှား လေသည် အရှင်မဟာ ဗုဒ္ဓဃောသသည်၊ ထိုအဋ္ဌကထာဟောင်းတို့တွင် မဟာအဋ္ဌကထာကို အများဆုံး အမှီပြု၍ ရေးသား မြိုစုတော် မူကြောင်း၊ ထင်ရှား လေသည်၊ ထို့ကြောင့်–

မဟာ အဋ္ဌကထံ သရီရံ ကတွာ၊ စသည်ဖြင့် ကိုယ်တော်တိုင် ပေါ်ပြတော်မူချက်များကိုတွေ့ရလေသည်။အရှင်မဟာ ဗုဒ္ဓဃောသသည်၊ မဟာ အဋ္ဌကထာကို ဖြစ်စေ၊မဟာပစ္စရီအဋ္ဌကထာကိုဖြစ်စေ၊ ကုရုန္ဒီအဋ္ဌကထာကို ဖြစ်စေ၊ အရာဌာန အားလျော်စွာ ယူသင့်မှယူသည်ကိုင်း၊ ပယ်သင့်လျှင်ပယ်သည်ကိုင်း။ တွေ့ရလေသည်၊ အဋ္ဌကထာသစ်များကိုရေးကူးမြိုစု တော်မူသည်ဟုဆိုရာ၌အကျဉ်းချုံး၍သာ ရေးကူး၊ မြိုစုတော် မူသောကြောင့် အရှင်မဟာ ဗုဒ္ဓဃောသအား၊ သင်္ဂဟကာရဟု ခေါ်ဆိုလေ့ ရှိကြကုန်၏ ပဋိဋ္ဌသမ္ဘိဒါ အဖွင့် စသော အချို့နေရာများ၌ အ ထောက်အထား ပြဘွယ်မရှိသဖြင့်ညည်း ညွှန်တော် မူချက်များကို တွေ့ရလေသည် အချို့နေရာများတွင် အဋ္ဌကထာ များ၌ မပါသဖြင့် စဉ်းစား၍ ယူသင့်သည်ဟု မြဆိုတော်မူချက်များကိုပင်တွေ့ရ လေသည် (အဋ္ဌသာလိနီ ဋီကာပုဒ်ဝါကျ ဥါဒ ကထာ စာမျက်နှာ ၁၃၅ကြည့်ပါ)

သီဟိုဠ်ဘာသာမှ

အရှင်မဟာ ဗုဒ္ဓဃောသသည် ထိုအဋ္ဌကထာများကို မာဂဓဘာသာသို့ ရေးကူး မြိုစုတော်မမူမီ မူလက သီဟိုဠ်ဘာသာ နှင့် သည်။ ဆိုရာ၌ သီဟိုဠ် အကွာအဝေး နှင့်သာ ရှိနှင့် နေသည်မဟုတ်ဘဲ သီဟိုဠ် ဘာသာ စကားအနေနှင့် လည်းရှိနေ ကြောင်း ထင်ရှားလေသည် ထို့ကြောင့် အဋ္ဌကထာ ကြီးဆရာကိုယ်တိုင်–

သံဝဏ္ဏနာ သီဟဠဒီပကေန ဝါကျေန သော ပန သဒ္ဓတ္တ၊

စသည်ဖြင့်ရေးသားတော်မူသည် များကို လည်းတွေ့ရပေသည်၊၎င်းပြင် မြန်မာဘာသာ တလိုင်းဘာသာတို့ဖြင့် ပြန်ဆိုတော် မမူပဲ သီဟိုဠ်ဘာသာမှ မဂဓ ဘာသာသို့ ပြန်ဆိုတော် မူခြင်းကို ထောက်ထား ခြင်း အားဖြင့် မြန်မာသမိုင်း စာတမ်းများတွင် ဆိုသကဲ့သို့ သီဟိုဠ်မှသထုံသို့ ပြန်ကြွတော် မူခြင်းမဟုတ်ကြောင်းကိုင်း, အဋ္ဌကထာ များသည် မြန်မာနိုင်ငံ အောက်ပိုင်းသို့ ရှင်မဟာဗုဒ္ဓဃောသ ပေါ်ပြီးနောက် အ ဝေးကြာမှရောက်လာကြောင်းကိုင်း အ ရှင် (ဓမ္မပါလ၏ အထုပ္ပတ်ကိုရေးသားရာ တွင်မှ) ဆက်လက်ဖေါ်ပြပါမည်။

အချုပ်စကား

အချုပ်အားဖြင့်အရှင်မဟာဗုဒ္ဓဃောသ သည်၊ (၁) မဟာဝင်၊ ဝံသတ္ထပ္ပကာသိနီ၊ ပဋိဋ္ဌေဒအရ၊ဗုဒ္ဓဂယာ၊ မဟာဗောဓိပင် အနီး သေးသရွာသား ဖြစ်ကြောင်းကို င်း (၂) ပုဏ္ဏားမျိုးများစတို့တွင်၊အ မျိုးအပါအငေဖြစ်ကြောင်းကိုင်း။ (၃) ပါရဂူကျော် အဋ္ဌကထာ၊ ပေတ ဗျေ ပါဠိ တော် သကန္တပုဂ္ဂိုလ်ကျမ်း၊ မဟာ သုဒဿန ကျမ်းများအရ၊ မူလ သုဝဏ္ဏ ဘူမိသည်၊ ရာမည နိုင်ငံဘုံ သဇီရှင်စု၌ ရှိကြောင်းကိုင်း။(တနည်း) မဗ္ဗနာ ပုရိအနီး၌သာ ရှိ ကြောင်းကိုင်း။ (၄)၊ မဇ္ဈိမဒေသ၊ တာမလိတ္ထိ ဆိပ်မှ၊ သီ ဟိုဠ် သို့ ကူး ကြောင်းကိုင်း၊ မှတ်သား သင့်လှပေသည်။

....,o.....

မဟာသေနမင်းကြီးသည် ခါးပန်းတော် ဆံတော် ဓါတ်တော်တို့ကို ဌာပနာခဲ့သော ဇေတဝန်စေတီတော်၌ ရေးသား ခဲ့သည့် သသဓာတက (ယုန်မင်းဇာတ်တော်,ပုံ ဖြစ်သည်။ အဘယဂီရိစေတီ၏အနောက်မြောက် ၃ မိုင် လောက်၌ရှိသည်။ နောက်ဘခါ၊ မဟာဝိဟာရဝါသီဂိုဏ်းနှင့်ဆန့်ကြင်ဘက်ဖြစ်လာသော အဘယဂိရိ ဝါသီဂိုဏ်း၏ မူလတည် ရာကား၊ ယိုစေတီအနီး၌ ပျက်စီးလျက်ရှိလေပြီ။

## နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့တွင်ရနိုင်သည့် ကျမ်းစာများနှင့် စာစောင်များ

| | ကျမ်းအမည် | အတွဲ | ရိုက်နှိပ်သည့်ဘာသာ | အဘိုး | မှတ်ချက် |
|---|---|---|---|---|---|
| ၁။ | မူလပဏ္ဏာသဋီကာ | ပထမတွဲ | ပါဠိ | ၆-ကျပ် | ရနိုင်သည် |
| ၂။ | မူလပဏ္ဏာသဋီကာ | ဒုတိယတွဲ | ။ | ၅-ကျပ် ၅၀-ပြား | ။ |
| ၃။ | မဇ္ဈိမနှင့် ဥပရိပဏ္ဏာသဋီကာ | | ။ | ၆-ကျပ် ၅၀-ပြား | ။ |
| ၄။ | ပဋိသမ္ဘိဒါမဂ်ဘာသာပြန်(စံကျောင်း) | | မြန်မာ | ၆-ကျပ် | ။ |
| ၅။ | အဘိဓမ္မတ္ထသင်္ဂြိုဟ်ပါဠိနိဿယ | | ။ | ၃-ကျပ် | ကုန်နေသည် |
| ၆။ | ဗားကရာသင်္ဂြိုဟ်အဓိပ္ပါယ်ကောက် | | ။ | ၂-ကျပ် ၅၀-ပြား | ရနိုင်သည်။ |
| ၇။ | အဘိဓမ္မတ္ထသရူပဒီပနီ | | ။ | ၂-ကျပ် ၅၀-ပြား | ။ |
| ၈။ | အဘိဓမ္မာနေ့အရေးတော်ပုံ | | ။ | ၁-ကျပ် ၅၀-ပြား | ။ |
| ၉။ | ဆုတောင်းခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၀။ | ပါရမီခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၁။ | နေမိရာခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၂။ | သာသနာ့ရောင်ခြည်စာစောင် | | မြန်မာ | ၁-ကျပ် | ။ |
| ၁၃။ | ဓမ္မရောင်ခြည်စာစောင် | | အင်္ဂလိပ် | ၁-ကျပ် ၅၀-ပြား | ။ |
| ၁၄။ | သံဃါယနာစာစောင် | | မြန်မာ | ၂၅-ပြား | ။ |
| ၁၅။ | သံဃါယနာစာစောင် | | အင်္ဂလိပ် | ၂၅-ပြား။ | ။ |

စာမျက်နှာ ၁၂–မှအဆက်

## သကျသီဟစာမေးပွဲ

အသင်းကို ၁၂၆၀–ပြည့်၊ ဝါဆိုလကစတင် တည်ထောင်ထားသော်သည်း၊ မူလစာချ ဆရာတော်ကြီးများကိုသာလျှင် လစဉ်–လစဉ်၊ ဆန်- ဆီ- ဆား- ငြုပ်- ကြက်သွန်တို့ကို ငါးနှစ်ကြာမျှ လှူဒါန်းထောက်ပန့် ထားလေသည်၊ ထိုဆရာတော်များ၏ တပည့်ရဟန်းများအထည်းမှ ထက်မြက်သောဉာဏ်၊ လျှင်မြန်သောဉာဏ်၊ စူးရှသက်ဝင်သောဉာဏ်ရှိသော ပုဂ္ဂိုလ် ငယ်များကို အတိအကျ သိရှိထောက်ပန့်နိုင်ရန်၊ ရှေးမင်းကောင်းမင်းမြတ်တို့ပြုလုပ်သော ထုံးနည်းကို အစဉ်မှီးသဖြင့်၊ ပရိယတ္တိသာသနဟိတအသင်း (သကျသီဟစာမေးပွဲ) သဘင်ကြီးကို၊ ၁၂၆၅–ခုနှစ်၊ နယုန်လမှ အစပြုရလေသည်။

ထိုစာမေးပွဲကို၊ သကျသီဟဘုရားရှင်၏ မဟာ ရံတံဘိုင်းတွင်း၌ နှစ်စဉ်နှစ်တိုင်း ကျင်းပသည်ကို အစွဲပြု၍ အသင်းနာမည်မပေါ်လွင်ဘဲ (သကျသီဟစာမေးပွဲ)ဟု ရဟန်း လူရှင်တို့ ခေါ်တွင်သဖြင့် ထင်ရှားလေသည်။ စာမေးပွဲမှာ အောက်ပါအတိုင်း ခွဲခြားထားလေသည်၊

(က) သီးခြားစာသင်တန်း။

(ခ) သီးခြားစာချတန်း။

သီးခြားစာသင်တန်းမှာ (၁) ဝိနည်းအတွက် ဒွေမာတိကာ (၂) သဒ္ဒါကြီးပုဒ်စစ်၊ သဒ္ဒါစစ်၊ သံဝဏ္ဏနာ နည်းလေးဆယ်။ (၃) သဒ္ဒါငယ်၊ သဒ္ဒတ္ထဘေဒစိန္တာ ကစ္စာယနသာရ မာဂဓ အဘိဓါန်၊ ဝုတ္တောဒယဆန်း။ (၄) သင်္ဂြိုဟ်။ (၅) ညဝါမာတိကာ၊ ဓါတုကထာ၊ ယမိုက်အောက်၅–ကျမ်း စာသင်သား ရဟန်းတော်တို့သည် ယခုခေါ်ပြသော ပိဋကအခြေပြုစာတို့၏ ပါဠိအနက်တို့ကို သေချာကျနစွာရရှိပြီးလျှင် ခက်ရာခက်ဆစ် ဋ္ဌာနများ၌ဝိနစ္ဆယနှင့်တကွ အမိပ္ပါယ်များကို သင်ကြားနာယူထားကြရသည်၊

### နှုတ်ထောက်အာဂုံ

အသင်းမှ လက်ခံစာရင်းကို သတ်မှတ်သောနေ့အတိုင်းစာရင်းဒိတ်၍ မန္တလေးမြို့ကျောက်သွေးဘန်းရှိအသင်းဘုံကဲသို့ မိမိဘို့ သင်ကြားပြီး ကျမ်းစာများကျနစွာ ရ–မရ နှုတ်ထောက် အာဂုံပြန်အစမ်းခံယူရန်ပင့်လျှောက်သည်၊ စမ်းသပ်မေးမြန်းသော ပုဂ္ဂိုလ်တို့မှာ ပရိယတ္တိအတော်အတန် ကျွမ်းကျင်သော လူပုဂ္ဂိုလ်များဖြစ်၍ စာသင်တန်းအတွက် ပြဋ္ဌာန်းသောကျမ်းစာများကို ရ–မရ သိရှိကြနစ်သောက်အောင် စမ်းသပ်မေးမြန်းကြသည်၊ ထိုသို့စမ်းသပ်မေးမြန်းမှု အောင်မြင်ပါမှ လက်းရေးနှင့် ရေးဖြေရသောစာမေးပွဲသို့ ဝင်ခွင့်ပြုသည်၊ နှုတ်မေးခွန်းအောင်မြင်သော ပုဂ္ဂိုလ်များကို ဓါတ်ပုံရိုက်ကူးပြီးလျှင် မှတ်ပုံတင်ာရင်းစာအုပ်၌ ထည့်သွင်းကပ်ထားရသည်၊ စာမေးပွဲဝင်သောနေ့၌ ရုံးအုပ် လူကြီးများကပုဂ္ဂိုလ်မှန် မမှန် ဓါတ်ပုံကြည့်စစ်ဆေးရသည်၊

### အသက်အပိုင်းအခြား

ဤသီးခြား၊ စာသင်တန်းဝင်နရာက်ဖြေဆိုသော ပုဂ္ဂိုလ်၏အသက်ကို အသင်းဥပဒေအရ ၂၇–နှစ်ရှိရမည်ဟု သတ်မှတ်ထားလေသည်၊

ရှေးရှေး ဆရာတော် ဘုရားကြီးများသည်၊ အသင်းဥပဒေ သတ်မှတ်စဉ်က၊ ဩဝါဒပေးခဲ့သည်မှာ (စာသင်သုံးနှစ်အခြေဖြစ်) ဆိုသည့်အတိုင်း၊ အခြေခံစာများကို ဆရာသမားကောင်းကောင်းနှင့် ရဟန်းပြုစက ဖြေးနှေးကျနစွာသင်ကြားပါလျှင်၊ အတော် အတန် ဉာဏ်ရှိသော စာသင်သားမှာ သုံးဝါ ရလောက်တွင် စာအခြေဖြစ်၍အဋ္ဌကထာကျမ်းကြီးများကိုပါ၊ ဆက်လက်သင်ကြားရင်းနှင့်၊ အခြေပြု ကျမ်းစာများကို ကြေပွန်အောင် အားထုတ်ခွင့်ရတော့သည်။ ၆–ဝါ၊ ၇–ဝါမှာ စာသင်တန်းခြေရလျှင်၊ မုချအောင်မြင်ခွင့်ရှိသည့်အပြင် အထက် စာချတန်း စာမေးပွဲ၌လည်း ခက်ခဲဘွယ် မရှိဘဲ၊ လှုပ်ခါလှုက်ခါ သက်သက် သာသာနှင့် စာချဆရာ ဖြစ်တော့မည်ဟု မိန့်ကြားခဲ့ပါသည်၊ ၇–နှစ် ကန့်သတ်မှုကိုလည်း တားမြစ်တော်မမူခဲ့ကြပေ။

### စာမေးပွဲကျင်းပခြင်း

စာမေးပွဲကြီးအတွက်၊ဆရာတော်များ၊ မေးသော မေးခွန်းပုစ္ဆာများကိုလက်ရေးနှင့် ဖရောင်းဆိုသွင် ရေးသားလျက်၊ပုံနှိပ်ကူးယူပြီးလျှင် စာမေးပွဲဝင်ပုဂ္ဂိုလ်များသို့ ပြဋ္ဌာန်းသတ်မှတ်ထားသောအချိန်၌ ဝေငှသည်၊ သီးခြားစာသင်တန်းနှင့် စာချတန်းစာမေးပွဲကို၊အချိန်တူ–နေ့တူပြုလုပ်သော်လည်း၊ သီးခြားစာသင်တန်း၊ပဌမ ဒွေမာတိကာကိုဖြေရသောနေ့တွင်၊ သီးခြားစာချတန်းဝင်ပုဂ္ဂိုလ်များ၊ပါရာဇိကဏ် အဋ္ဌကာကို ဖြေဆိုရသော နေ့ဖြစ်သည်၊ ဒုတိယ နေ့တွင် စာသင်တန်း ပုဂ္ဂိုလ်များ သဒ္ဒါကြီး၊ပုဒ်စစ်စသည်တို့ ဖြေဆိုရ၍၊ စာချတန်းပုဂ္ဂိုလ်များ အနားယူသော နေ့ဖြစ်သည်။ တတိယနေ့၌၊ စာသင်တန်းပုဂ္ဂိုလ်များသည်၊ သဒ္ဒါငယ်၊ဆန်း၊အဘိဓါန်တို့ကို ဖြေကြားရ၍ စာချတန်း ပုဂ္ဂိုလ် များမှာ သုတ်သီလက္ခန် အဋ္ဌကထာကို ဖြေဆိုရလေသည်။

ဤသို့ငွေ့စာသင်တန်းပုဂ္ဂိုလ်များ၊ သင်္ဂြိုဟ်ဖြေကြား၍ စာချတန်း ပုဂ္ဂိုလ်များအနားယူရသည်။ ပဉ္စမနေ့၌ စာသင်ပုဂ္ဂိုလ်များသည်၊ ညဝါဖြစ်သော မာတိကာ၊ဓါတုကထာအောက်ယမိုက် ငါးကျမ်း ပုစ္ဆာများ၊ ကိုဖြေဆိုကြ၍ စာချတန်း၊ ပုဂ္ဂိုလ်များက၊ အဋ္ဌသာလိနီ အဋ္ဌကထာကိုဖြေဆိုကြသည်။ သို့အတွက် စာမေးပွဲကြီး ငါးရက်မှာ စာချတန်း၊ ပုဂ္ဂိုလ်များ တောက်လျှောက်ရက်စဉ်ဖြေရ၍ စာချတန်း၊ ပုဂ္ဂိုလ်များမှာ တရက်ခြား ဖြေဆိုရသည်။

### မူလစာချများ

(၁) ဘဒ္ဒန္တဇာဂရာဘိဝံသ စစ်ကိုင်းတောင်ရိုး မင်္ဂလာ စေတီ ဆရာတော်။ (၂) ကောသလ္လာဘိဝံသ ဝိသုဒ္ဓါရုံတိုက်တိုက်အုပ်ဆရာတော်။ (၃) ဥဒေယျာဘိဝံသ ဘုရားကြီးဘိုက်သစ်ဆရာတော်။ (၄) ရေဝတာဘိဝံသ ညောင်ရမ်းဆရာတော်။ (၅)အာဒိစ္စာဘိဝံသဝေဠုဝန်ဆရာတော်။ (၆) ဝိလာသာဘိဝံသ ခေမာသီဝံဆရာတော် (၇) နန္ဒိယာဘိဝံသအတုမရှိဆရာတော်၊ (၈) စန္ဒာဘိဝံသ ဝိသုဒ္ဓါရုံတိုက် စံကင်းဆရာတော်၊ (၉) သောဘိတာဘိဝံသ စကုဘိုက် ဇေတဝန်ဆရာတော်၊ (၁၀) မေဓာဘိဝံသအရှေ့တိုက်တော်ဆရာတော် (၁၁)အာသဘာဘိဝံသ မိုးကောင်း တိုက်အုပ် ဆရာတော်၊ (၁၂) ဝိစာရာဘိဝံသ မြတောင်တိုက်ဆရာတော်။ (၁၃) ဇမ္ဗုသဘာဘိဝံသ ဟံသာဝတီ ဆရာတော်။ (၁၄) နာရဒါဘိဝံသ ဇောတိကာရုံ ဆရာတော်၊ (၁၅) ခန္တိမေဓာဘိဝံသဦးပုကျောင်းဆရာတော်၊ (၁၆) ဉာဏဝံသာဘိဝံသ ခေမာသီဝံဆရာတော်၊ (၁၇) သုမနာဘိဝံသ ရွှေပြည်တိုက် ဆရာတော်။ (၁၈) ကောသလ္လာဘိဝံသ မစိုးရိမ်တိုက် ဆရာတော်၊ (၁၉) သောဘဏာ ဘိဝံသ တောင်ထီးသင်းတိုက်ဆရာတော်။ (၂၀) စန္ဒာဝရာဘိဝံသ အနောက်ထီးသင်းတိုက်ဆရာတော်၊ (၂၁) အရိယာ ဘိဝံသ တမ္ပဝတီအုဋ်ကျောင်းဆရာတော်၊ (၂၂) သာသနာဘိဝံသ အနောက် ထီးသင်းတိုက်ဆရာတော်။ (၂၃) သုဇာတာဘိဝံသ ချမ်းသာကြီးတိုက်ဆရာတော်၊ (၂၄) ဝိသုဒ္ဓါဘိဝံသ မစိုးရိမ်တိုက် စာချဆရာတော်၊ (၂၅) သီလဝံသာဘိဝံသ ပေတေဘဲကျောင်း စာချဆရာတော်။ (၂၆) ဘဒ္ဒန္တနန္ဒိသေနာဘိဝံသ နန္ဒိသေနာရာမဆရာတော်။ (၂၇) လက္ခဏာဘိဝံသ မိုးကောင်းဘိုက် စာချဆရာတော်၊ (၂၈) ရေဝတာဘိဝံသ တောင်သမန်တိုက်စာချဆရာတော်။ (၂၉) နန္ဒမဠသာဘိဝံသ ချမ်းသာကြီးတိုက် စာချ ဆရာတော်။ (၃၀) ကလျာဏာဘိဝံသ ဝေယံဘုံသာတိုက် စာချဆရာတော်၊ (၃၁) နန္ဒာစရိယာဘိဝံသ စကုဘိုက် စာချဆရာတော်။ (၃၂) ဥက္ကံသာဘိဝံသ မြင်းဝန်တိုက် စာချ ဆရာတော်။ (၃၃) ပညိန္ဒာဘိဝံသ ဆီးဘနီဘိုက် စာချဆရာတော်၊ (၃၄) ဇာနေယျာ ဗုဒ္ဓိဘိဝံသ ဝိသုဒ္ဓါရုံတိုက် စာချဆရာတော်။ (၃၅) တိလောကာဘိဝံသ ပုဂံတိုက် စာချဆရာတော်၊

### သီးခြားစာချများ

(၁) ဘဒ္ဒန္တဇဗ္ဗိယာဘိဝံသ ဆင်တဲတိုက်ဆရာတော်၊ (၂) သုဝိယာဘိဝံသ မစိုးရိမ်ဆရာတော်၊ (၃) သုန္ဒရာဘိဝံသ ဝိဇ္ဇာလက်ာရဆရာတော်။ (၄) ကောသလ္လာဘိဝံသ စဉ့်ရှင် ဆရာတော်၊ (၅) ဉာဏဝံသာဘိဝံသ မြောင်းမြဆရာတော်။ (၆) နန္ဒိမာ ဘိဝံသ စံကျောင်းဆရာတော်။ (၇) အဂ္ဂဝံသာဘိဝံသ၊ (၈) သောဝဏ္ဏာဘိဝံသ ရေနံချောင်းဆရာတော်။ (၉) တေဇာဘိဝံသ။ (၁၀) ပဏ္ဍိစ္စာဘိဝံသ ငါးသိုင်းချောင်းဆရာတော်၊ (၁၁) သိရိန္ဒာဘာသာဘိဝံသ ဟသ်ာတ ဇမ္ဗုဆရာတော် (၁၂) ဥက္ကံသာဘိဝံသ ဘုရားကြီးဘိုက်ဆရာတော် ဦးကြည်၊ (၁၃) ဝိသုဒ္ဓါစာရာဘိဝံသ မြစ်ခြေဆရာတော်။ (၁၄) ဓမ္မိမာဘိဝံသ ကျောက်တန်းဆရာတော်။ (၁၅) ဉာဏာဝံသာဝံဘိသ၊ (၁၆) နာဂသေနာဘိဝံသ ကဘိုးဆရာတော်။ (၁၇) သံဝရာဘိဝံသ ဗျာပုံဆရာတော်။ (၁၈) ဝိသုဒ္ဓါစာရာဘိဝံသ။ (၁၉) တေဇာဘိဝံသ၊ (၂၀) ဘဒ္ဒန္တဉာဏိန္ဒာဘိဝံသ စစ်ကိုင်း။ (၂၁) နာယကာဘိဝံသ ရေနံချောင်း၊ (၂၂) နာဂသေနာဘိဝံသ မော်လမြိုင် ဆရာတော်။ (၂၃) ဇနကာဘိဝံသအမရပူရ ဂန္ဓာရုံဆရာတော်၊ (၂၄) ပညိန္ဒာဘိဝံသ။ (၂၅) နာရဒါဘိဝံသ မြစ်ငယ်ဆရာတော်။ (၂၆) နာဂဝံသာ ဘိဝံသ ရန်ကုန်ဘားကရာဘိုက်ဆရာတော်၊ (၂၇) သူရိယာဘိဝံသပျော်ဘွယ်။ (၂၈) ကုဏ္ဍလာဘိဝံသ မော်လမြိုင်၊ (၂၉) ဉာဏဝရာဘိဝံသ ငွေးဇ°းပျော်ဘွယ်။ (၃၀) စိန္တာမယာဘိဝံသ ဝါးခယ်မ။ (၃၁) ပဒုမာဘိဝံသ မကွေး၊ (၃၂) သာသနဓဇာဘိဝံသ မဒိုးရိမ်၊ (၃၃) နန္ဒာဘိဝံသ မကွေး ဆရာတော်၊ (၃၄) ဉာဏိန္ဒာဘိဝံသ ရန်ကုန် မင်းမနိုင်ဆရာတော် (၃၅) ကေသဝါဘိဝံသ မဃဝတီတိုက်၊ (၃၆) ဝိသုဒ္ဓါဘိဝံသ ဝိဇ္ဇာလင်္ကာရတိုက်၊ (၃၇) နေမိန္ဒာဘိဝံသ ညောင်ရွှေ၊ (၃၈) ဝိနယာစာရာဘိဝံသ ရန်ကုန်၊ (၃၉) သုဇ္ဈောဇောတိဘိဝံသ ဝိသုဒ္ဓါရုံတိုက်၊ (၄၀) စန္ဒာဘာသာဘိဝံသ မြင်းခြံ၊ (၄၁) မေဓသေနာဘိဝံသ ရန်ကုန်၊ (၄၂) တိလောကာဘိဝံသ ရန်ကုန် သရက်တောတိုက်။ (၄၃) ပဒုမာဘိဝံသ မလှိုင်မြို့ ဘောလှိုင်ကျောင်း (၄၄) ပညိန္ဒာဘိဝံသ စစ်ကိုင်းတောင်ရိုး၊ (၄၅) သုမိန္ဒာဘိဝံသ၊ (၄၆) ဝိစိတ္တာဘိဝံသ မစိုးရိမ်တိုက်။ (၄၇) စာရိတ္တာ ဘိဝံသ ဇလွန် ကောကစ်ကြီးကျောင်း။ (၄၈) ရေဝတာဘိဝံသ။ (၄၉) စာရိန္ဒာဘိဝံသ ရေဦး၊ (၅၀) ဝညာဇောတာဘိဝံသ၊ (၅၁) သုဇာတာလင်္ကာရာဘိဝံသ ညောင်တုံး။ (၅၂) မေဓိယာဘိဝံသ ရမည်းသင်း။ (၅၃) ဇနနာဘိဝံသပေါင်းတည်။ (၅၄) ဝါသဝါဘိဝံသ မလှိုင်။ (၅၅) မဟောသဓပဏ္ဍိတာဘိဝံသ ဝိသုဒ္ဓါရုံတိုက်၊ (၅၆) ရေဝတာစရိယာဘိဝံသ နတ်တလင်း။ (၅၇) ဝါသေဋ္ဌာဘိဝံသ သပြေကန်။ (၅၈) နာဂသေနာဘိဝံသ။ (၅၉) တိလောကာဘိဝံသ ဒီပဲယင်း၊ (၆၀) ဉာဏောဘာသာဘိဝံသ မစိုးရိမ်တိုက်၊ (၆၁) ဝိမလာ ဘိဝံသ ဝိသုဒ္ဓါရုံ၊ (၆၂) စန္ဒာဘာသာဘိဝံသ၊ (၆၃) ပရမာ ဘိဝံသ။ (၆၄) နာရဒါ ဘိဝံသ မစိုးရိမ်၊ (၆၅) အဂ္ဂဝံသာ ဘိဝံသ၊ (၆၆) မေဓနန္ဒာဘိဝံသ စိန်ပင်၊ (၆၇) ဇနိတာဘိဝံသ၊ (၆၈) ပဏ္ဍိတမေဓာဘိဝံသ (၆၉) ကုဏ္ဍလာဘိဝံသ (၇၀) လက္ခဏာဘိဝံသဝဍ္ဍံသက၊ (၇၁) ဣသရာဘိဝံသ။ (၇၂) ဝိမလာဝုဒ္ဓိဘိဝံသစစ်ကိုင်း၊ (၇၃) အာနန္ဒာဂုဏ္ဏတာဘိဝံသမမြွှး၊ (၇၄) သောသိတာဘိဝံသ၊ (၇၅) ဥတ္တမာဘိဝံသ။ (၇၆) သူရိယာဘိဝံသ၊ (၇၇) ဝိစိတ္တသာရာ ဘိဝံသ ဝဍ္ဍံသက မြနာဒ ဆရာတော်၊ (၇၈) ဥက္ကံသာဘိဝံသ မင်းကွန်းမြနာဒတိုက်။ (၇၉) သောဘိတာဘိဝံသ။

---

## နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ

# သာသနာပြု ဗုဒ္ဓဝင်ကျမ်းကြီး

### ဗုဒ္ဓဝင်စာပြုအဖွဲ့

ဤဗုဒ္ဓဝင်ကျမ်းကြီးကို၊ ယခုအခါ(ဒို့ဗကာ်မြန်မာပြန်ဌာန အယ်ဒီတာချုပ်) အဂ္ဂမဟာပဏ္ဍိတ အမ်-အေ-မဟာဝိဇ္ဇာ ဆရာကြီးဆရာလင်းက၊ တာဝန်ခံအဖြစ် ကြီးမှူးပြီးလျှင်၊ ထိုဆရာကြီး—ဆရာလင်း ကိုယ်တိုင် ရှေ့ဆောင် ရေးသားလျက်ရှိနေလေသည်။

ဤဗုဒ္ဓဝင်ကျမ်းကြီး ပေါ်ထွက်စေရန်အတွက်၊ နိုင်ငံတော် ဝန်ကြီးချုပ်နှင့်တကွ၊ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ရှေ့ဆောင်ပုဂ္ဂိုလ်ကြီးများက၊ အကြိမ်ကြိမ်စည်းဝေးစိုင်းပြင်းကြပြီးလျှင်၊ ဗုဒ္ဓဝင် ဌာနဘွဲ့ခွဲ၍ ဌာနစိတ်တခုကို ဖွင့်လှစ် ပေးခဲ့ကြလေသည်။

တာဝန်ခံ ဆရာကြီး ဆရာလင်း၏ လက်အောက်၌၊ လိုအပ်သော ကျမ်းဂန်အရပ်ရပ်တို့မှ ဆရာကြီး၏ ညွှန်ကြားချက်အရ၊ ထုတ်နှုတ်ရှာဖွေ ကူညီ ရေးသားစေရန်အတွက် ဌာနအယ်ဒီတာနှစ်ဦးတို့ကိုလည်း ခန့်ထား ပေးခဲ့လေသည်။

(၁) တဦးမှာ ဒဂုန်မဂ္ဂဇင်းအယ်ဒီတာဟောင်း ရေနံချောင်း ဦးဘသန်း ဖြစ်၍။

(၂) တဦးမှာ မော်လမြိုင် ရှင်ဗုဒ္ဓဃောသကျောင်း အထက်တန်း ပါဠိမြန်မာဘာသာပြ ဆရာဟောင်း ဦးဘသန်း ဖြစ်လေသည်။

### ရည်ရွယ်ချက်

ဤဗုဒ္ဓဝင်ကျမ်းကြီးကို၊ ရေးသား စေကြသော ဗုဒ္ဓသာသနာအဖွဲ့ ရှေ့ဆောင်ပုဂ္ဂိုလ်ကြီးတို့၏ ရည်ရွယ်ချက်မှာ၊ ဗုဒ္ဓဘာသာဝင်သူ၊ မဝင်သူ၊အကြားအမြင်များသူ၊နည်းသူ၊ လူအမျိုးအစားမရွေး ဘတ်နာ ကြည့်ရှုဘိုင်း၊ သိသင့်-သိထိုက်သောအရာတို့ကို အလုံးစုံပါဝင်စေသော ဤဗုဒ္ဓဝင်ကျမ်းကြီးဖြင့်၊ မြတ်စွာဘုရား၏ အတ္ထုပ္ပတ္တိတော်၊မြတ်စွာဘုရား၏ကျင့်စဉ်ပါရမီတော်များကို၊ ကောင်းစွာ သိရှိစေကြခြင်းအားဖြင့်၊ သာသနာပြုလိုကြပေသည်။

အချုပ်အားဖြင့်ကား—

(၁) ဗုဒ္ဓမြတ်စွာနှင့်၊ထိုဗုဒ္ဓမြတ်စွာ၏ကျင့်စဉ်တော်တရားတို့ကို၊ လုံးဝမသိသေးသူတို့လွယ်ကူစွာသိရှိလာကြစေရန်။

(၂) သာမန်မျှ သိရှိပြီးသောသူတို့လည်း၊ အစဉ်လိုက်အတိုင်း အပြည့်အစုံ သန့်ရှင်းနိုင်မာစွာ၊ သိရှိလာကြစေရန် ရည်ရွယ်ကြလေသည်။

### ဗုဒ္ဓဝင်ကျမ်း၏ တန်ခိုးသတ္တိ

ဗုဒ္ဓဝင်ကျမ်းသည်၊ မြတ်စွာဘုရားကိုင်း၊ မြတ်စွာဘုရား၏ ကျင့်စဉ် ပါရမီ တရားတို့ကိုင်း။ လွယ်ကူ လျင်မြန်စွာ ကြည်ညိုလေးစားလာစေနိုင်သော ကျမ်းဂန်ထူးတရပ်ပင်ဖြစ်ပေသည်။ မူလဗုဒ္ဓဝင်ကျမ်းရင်းသည်ကား၊ မြတ်စွာဘုရားတို့၏ အကြောင်းအတ္ထုပ္ပတ္တိများကို ကျင့်စဉ်ပါရမီနှင့်တကွ၊ မြတ်စွာဘုရား ကိုယ်တော်တိုင် ဟောကြားခဲ့သော ကျမ်းဖြစ်လေသည်။ လက်ျာရံ အဂ္ဂသာဝက၊ အရှင်သာရိပုတ္တရာထေရ်ကတောင်းပန်သဖြင့်၊ ၎င်းကိုအဦးပြု၍၊ ကပ္ပိလဝတ်နေပြည်တော် ဆွေတော် မျိုးတော် တို့ပရိသတ်၌၊ (ဂါထာဗန္ဓသက်သက်တို့ဖြင့်) ဟောကြားတော်မူခဲ့သည်။ ထိုကျမ်းရင်းကို ဗုဒ္ဓဝင် ပါဠိတော်ဟု ခေါ်ဆိုကြရသည်။ ထိုပါဠိတော်၏ အနက်အဓိပ္ပါယ်တို့ကို၊ အရှင်ဗုဒ္ဓဒတ်စသော ဆရာစဉ်ဆက်တို့ဖွင့်ဆိုရေးသားကြသည့် ဗုဒ္ဓဝင်အဋ္ဌကထာ၊ဋီကာစသော ပါဠိဗုဒ္ဓဝင်ကျမ်းများ၊ သီဟဠ ဘာသာဖြင့်ရေးကြသော သီဟိုဠ်ဗုဒ္ဓဝင်ကျမ်းများ၊ ပါဠိမြန်မာနှစ်ဘာသာ ရောစပ်ရေးသားကြသော ဗုဒ္ဓဝင်ကျမ်းများ။ မြန်မာ ဘာသာ သက်သက်ဖြင့်ရေးသားကြသော ဗုဒ္ဓဝင်ကျမ်းများသည်လည်း၊ အများ အပြားပင်ရှိခဲ့လေသည်။

ထိုသို့ရှိခဲ့ကြသော်လည်း၊ ထိုပေါ်ပြခဲ့ပြီးသော ဗုဒ္ဓဝင် ကျမ်းတို့မှာ ဗုဒ္ဓသာသနာအဖွဲ့က၊ ကြည်ညိုလေးမြတ်သော ကျမ်းတို့ချည်းပင်ဖြစ်လင့်ကစား၊ ဗုဒ္ဓသာသနာအဖွဲ့ကြီး၏၊ လိုအပ်သောဆန္ဒ၊လိုအပ်သော အစီအစဉ်၊ လိုအပ်သော ရာထားချက်များအရ၊ အဖွဲ့ ရှေ့ဆောင်ပုဂ္ဂိုလ်ကြီးများက၊ထိုဗုဒ္ဓဝင်ကျမ်းဟောင်းတို့ဖြင့်တင်းတိမ် ရောင့်ရဲခြင်း မရှိကြချေ။ ကာလ ဒေသ စသော အခြေအနေအရအားဖြင့်ဆိုရပါမူ၊ထိုပြီးသော ဗုဒ္ဓဝင်တို့သည်၊ ဗုဒ္ဓဘာသာ စာပေဗဟုသုတအခြေ အတော်အတန် ရှိပြီးသောသူတို့အတွက်လောက်သာလျှင် အကျိုးကျေးဇူးများနိုင်ကျပေမည်။ ဗုဒ္ဓဘာသာစာပေအခြေခံ နည်းပါး မိမ်းကားကွာဝေးနေသူ၊ အစရှိကုန်သော လူများနှင့် လူမျိုးများစွာတို့အတွက်မူကား။ အကျိုး ကျေးဇူးများနိုင်ကြမည် မဟုတ်ပေ။ အချုပ်အားဖြင့်ဆိုရသော်၊ ထိုပေါ်ပြခဲ့ပြီးသော ဗုဒ္ဓဝင်တို့သည်။—

(က) နက်နဲခက်ခဲသောဗုဒ္ဓဝင်၊
(ခ) အစီအစဉ် ပြတ်ခြား ကွာလှမ်းနေသော ဗုဒ္ဓဝင်။
(ဂ) လိုအပ် သလောက် မပြည့်စုံသော ဗုဒ္ဓဝင်ဘို့သာလျှင်ဖြစ်၍နေကြလေသည်။

ထိုသို့ဖြစ်သောကြောင့်၊ ထိုပေါ်ပြခဲ့ပြီးသော ဗုဒ္ဓဝင် ကျမ်းတို့ဖြင့်၊ မြတ်စွာဘုရားနှင့်၊မြတ်စွာဘုရား၏ကျင့်စဉ်ပါရမီတော်တရားတို့ကို လူအစားစား၊ လူအရေးအတွက်များစွာတို့အား၊ လွယ်ကူစွာမ


ဦးဘသန်း(၁)
ရေနံချောင်းမြို့။


ဦးဘသန်း(၂)
မော်လမြိုင်မြို့။

သိစေနိုင်သောကြောင့်၊လူအစားစား လူအရေအတွက်များစွာတို့အား၊အထူးနားလည်သက်ဝင်စေနိုင်မည့် ဗုဒ္ဓဝင်ကျမ်းကို အထူးပင်အလိုရှိအပ်လှလေသည်။

### သာသနာပြုရာ၌ ရှေ့ပြေး

သာသနာပြုရခြင်း၊ ပြန့်ပွား စေခြင်းကိုစွမ်းများ၌၊ ထိုသာသနာ၏ အရှင်ဖြစ်သောပုဂ္ဂိုလ်နှင့်၊ ထိုပုဂ္ဂိုလ်၏ ကျင့်စဉ်အခြင်းအရာသဘောတရားများကို၊ နားလည်ထားရန်နှင့်၊ နားလည်ထားစေရန်မှာ အလွန့် အလွန်ပင် အရေးကြီး လှပေသည်။

ပုဂ္ဂိုလ်နှင့် တရားက၊ အဘယ်မျှပင် ကောင်းမြတ် မှန်ကန်နေစေကာမူ၊ ပြည့်စုံစွာ နားလည်သက်ဝင်ခြင်း၊ နားလည်သက်ဝင်အောင် ပြုလုပ်နိုင်ခြင်းမရှိပါက၊ ထိုသာသနာ၏အရှင်ပုဂ္ဂိုလ်နှင့် တရားတို့မှာကျေးဇူးဘရားထင်ရှားထွန်းကားသင့်သလောက်၊ ထင်ရှားထွန်းကားနိုင်မည်မဟုတ်ချေ၊ ပေါ်ပြပြီးသော ယခင်ဗုဒ္ဓဝင်ကျမ်းတို့ဖြင့်လည်း ဗုဒ္ဓဘာသာနှင့်၊ မိမ်းသူကျက်သူ ဗဟုဟုတ နှံ့သူ-မရှံ့သူ၊ လူအစားစားတို့အား နားလည် သက်ဝင်လွယ်စေရန် နားလည် သက်ဝင်စေခြင်းဖြင့် သာသနာပြုစုရန်မှာ ခဲယဉ်းလျက်ရှိနေကြလေသည်၊

သာသနာ ထွန်းကားမှု ဆိုသည်မှာလည်း၊ ထိုသာသနာကို လက်ခံကြသော လူသူပုဂ္ဂိုလ်၊ထိုထိုမြို့ရွာ ဇိက ယုံကြည်ကြည်ညိုရှိသေ ကိုးကွယ်ကြခြင်းသဘောပင်ဖြစ်ပေသည်။ ဤသို့ ယုံကြည် ကိုးကွယ်ကြစေရန်မှာလည်း (ယုံလောက်မှ သဒ္ဓါဝင်သည့်ခံ့မြေခံမှုဆရာတင်မည် ဟူသကဲ့သို့ သက်ဝင်ယုံကြည်သေခံအောင် (သဘောပေါက်ပေါက်နားလည်သောက်အောင်) ပြသပြုလုပ်နိုင်မှသာ ဖြစ်နိုင်ချိမ့်မည်၊

မှန်မြတ်သော ဘုရားစစ်၊ ဘုရားမှန်ဖြစ်ပုံ၊ ထိုဘုရား၏ အစစ်အကန် ကောင်းမြတ်သော တရားဖြင့်ပုံဘို့ကို လွယ်ကူမှုင့်လင်းစွာ သိ၍ ယုံကြည် လာအောင် ယင်းသို့ယုံကြည်သဖြင့် ကြည်ညိုမြတ်နိုးစွာ ကိုးကွယ် ကျင့်ဆောင်လာအောင် ပြသသူကြိုးနိုင်သော စာပေမှုသည်၊အရေးအကြီးဆုံးအချက်ပင်ဖြစ်ပေသည်၊ ထိုသို့ဖြစ်သောကြောင့် ယခုကဲ့သို့ဌာနစိတ်တခုကိုဖွင့်လှစ်စေပြီးလျှင် အထူး အပြည့်အစုံဆုံး ပြည့်စုံသောဗုဒ္ဓဝင်ကျမ်းကြီးဖြစ်ပေါ

လာအောင် ရွက်ဆောင်ကြသော နိုင်ငံတော်ဝန်ကြီးချုပ်နှင့် သာသနာရေး ဝန်ကြီးစသော ဗုဒ္ဓသာသနာအဖွဲ့ ရှေ့ဆောင်ပုဂ္ဂိုလ်ကြီးများအား အထူး ကျေးဇူးတင်စွာပင် ချီးကျူးထိုက်ကြပေသည်။

### အသုံးအနှုန်းနှင့်စာသွားများ

ဤဗုဒ္ဓဝင် ကျမ်းကြီး၌ ရေးသားပါရှိသော အသုံးအနှုန်းနှင့် စာသွားများမှာ ဆရာကြီးဆရာလင်း ကိုယ်တိုင်ရှေ့ဆောင်ပြီးလျှင် အထူး ဂရုစိုက်လျက် ရေးသားသည်ဖြစ်၍ အထူးသိသွယ်အောင် ပေါ်လွင် ထင်ရှားသဖြင့် လေးစားကြည်ညိုဖွယ်ရှိသော အသုံးအနှုန်း စာသွားများသာ ဖြစ်လေသည်။

အယူဘာသာဝါဒ အကြောင်းအရာနှင့်ပါတ်သက် ဆက်စပ်နေသော အရာဌာနများ၌ပင်လျှင် ပုဂ္ဂလမိဌာန်၊ ကုလမိဌာန်အားဖြင့် ပုဂ္ဂိုလ်နှင့်လူမျိုးတို့ကိုထိပါးရှုပ်ချသော စကားမျိုးမပါမဝင်စေဘဲ၊ ပုဂ္ဂိုလ်တိုင်း လူမျိုးတိုင်း ဘတ်နာလက်ခံ၍ ထက်သန်စွာပင်စားနိုင်လောက်အောင်၊ဓမ္မမိဌာန် သဘာဝမိဌာန်၊တရားသဘောသက်သက်တို့ကိုသာ သုံးသပ်ခြင်းမျိုးနှင့် ရိုးရိုးသာ သားခန့်ငြားငြိမ့်လေးသောစကားဘို့ဖြင့်သာ ရေးသားထားလေသည်၊ ထို့ပြင်ဘတ်ရှု ကြားနာသူတို့အား အသိဉာဏ် နေ့ကန်ကြာမြင့် နေစေမည့် ကဗျာသံလင်္ကာသံများ ဖြင့် မရေးသားဘဲ ဘတ်ကြားနာယူတိုင်း လွယ်ကူထင်ရှားစွာသိမြင်လာနိုင်လောက်အောင် မြင့်မြတ်လှသော ဤဗုဒ္ဓဝင်၏ ဂုဏ်သရေကို ရိုသေလေးစားလျက် စာသွားလည်း ငြိမ့်သက်၍ အနက်လွယ်လွယ် အဓိပ္ပါယ်ရှင်းရှင်း လိုရင်း ကျကျလောက်ကိုချည်း ရေးထားပေသည်။

အထူးအားဖြင့် ဆရာကြီး ဆရာလင်း ကိုယ်တိုင် ပင်လျှင် သုဓေမ မြဟ္မဏခန်း၊ တောထွက်ခန်း၊ မျာဒိတ်ခံခန်း၊စသည်ဖြင့် အစဉ်အတိုင်း ဖြစ်သော အခန်း ကြီး ငယ်တို့ကို ရေးသားလာရာ အခန်းတိုင်း၊ အခန်းတိုင်းမှာပင် ရှင်းလင်းဘွယ် ရှိသမျှတို့ကို ပါဠိတော် အဋ္ဌကထာ ဋီကာစသော သာသနာ တော်ကျမ်းဂန်အရပ်ရပ်တို့မှ ဆိုင်ရာ ဆိုင်ရာ ထုတ်ယူ ဖော်ပြလျက် ရှင်းလင်း ချက်များကိုပါ သွင်း၍သွင်း၍ထားလေသည်။

ပါရမီတော် ဆင်ခြင်ခန်း၊ ဒါနခန်း၊ သီလခန်း၊ စသော အခန်း တို့မှာလည်း [(မည်မျှပင် ကြံ့ကြံ့စေကာမူ နောင်လာ နောက်သားတို့အတွက် တချက်တည်း တနေရာတည်းနှင့်ပင် အားကိုး အားထား အားရပါးရ တင်းတိမ် မှုဖြစ်လာလောက်အောင် စေ့စေ့ နှံ့နှံ့ကြီး ရေးသားစေလိုသည်) ဟုနိုင်ငံတော် ဝန်ကြီးချုပ် ၏အထူးထင်မံ တိုက်တွန်းချက်အရ လိုအပ်သမျှ အချက် အလက် အရေ ရစ်တို့ကို ပိဋကသုံးသွယ် နိကာယ်ငါးရပ် လုံးတို့မှ ကြီးရိုး နှောက်မွှေ ရှာဖွေဗီစစ် ကြိတ်ညှစ်ထုတ်ယူ၍ စေ့စေ့ငေငြည်ပြည် စုံစုံကြီး ပင် ရေးသားထားပေသည်၊

တဘန် ဗျာဒိတ် ကြားတော် မူကြသောမြတ်စွာဘုရားတို့၏ ဝတ္ထုကြောင်း ဗုဒ္ဓဝင်တို့ကို ရေးသား ရာ၌လည်း ပါဠိတော် စကားရင်းတို့ကို အမိကပဓာန ထားပြီးလျှင် အဋ္ဌကထာ၏ စကား ထူး များအတွက် မှာထားချက်များကိုပါ ပြည့်စုံစွာထည့်သွင်းထားလေသည်၊

ဤသို့ပြည့်စုံခမ်းနားစွာ ရေးသား သဖြင့် ရှည်လျား ကျယ်ဝန်း သော်လည်း ဘတ်နာသူတို့ ငြီးငွေ့ခြင်းပင် မဖြစ်နိုင်၊

ဆိုင်ရာဆိုင်ရာနေရာများ၌ဘက်ို မှတ်ချက် သားချက် ရှင်းလင်း ချက်များဖြင့် တန်ဆာဆင်ထားရကား၊ ဘတ်ကြားနာ ယူသူတိုင်းတို့အား (တခါဘတ်-တမှတ်ဘိုး) ဟူသကဲ့သို့ ထူးမြတ် ကောင်းမွန်သော ဗဟုသုတကလေးများကိုပါ ပေးနိုင်၍ သွားခြင်းဖြင့် ထိုပုဏ်းရှိ ငြီးငွေ့ခြင်းများ ပပျောက်ပြီးလျှင် ဝမ်းမြောက် ရွှင်လန်းခြင်း ပီတိပါမောဇ္ဇများ တဖွားဖွားတက်၍ပွားလာဘွယ်ရာဖြစ်ပေသည်၊

နောက်ဆုံး နိဂုံးချုပ်၍ခေါ်ပြရသော် ဤဗုဒ္ဓဝင်ဌာနမှဆရာကြီးဆရာလင်းကိုယ်တိုင် အထူးရွေ့ဆောင် ရေးသားအပ်သော ဤဗုဒ္ဓဝင် ကျမ်းကြီးမှာ၊ ဗုဒ္ဓမြတ်

## အဘိဓမ္မာစာမေးပွဲဝင်ခွင့်လွှာ

## ပိတ်ရက်ရွှေ့ခြင်း

၁၃၁၅-ခု တန်ဆောင်မုန်း လဆုတ် ၇-၈-၉ ရက်နေ့ များတွင် ကျင်းပမည့် အဘိဓမ္မာ စာမေးပွဲအတွက် ဝင်ခွင့်လွှာများကို တော်သလင်း လ(ယခုလ) အကုန်အထိ တင်သွင်းနိုင်ကြောင်း၊

ဌာနှင့်ရင်း၊ ဗုဒ္ဓမြတ်စွာ၏ ကျင့်စဉ် ပါရမီတော်တရားများနှင့်ရင်း၊ ပါဝင်သက်လေသမှုတို့နှင့် နီးနီးကပ်ကပ် ဆက်စပ်လေသမှုတို့ကို လွယ်လွယ် ကူကူ ထင်ထင်ရှားရှား ပြည့်ပြည့်စုံစုံကြီးနှင့် သိဘွယ်မှတ်ဘွယ် ယုံကြည် ကြည်ညိုဘွယ် များနှင့် တကွအားကိုးအားထားပြုလောက်သော အဆုံးအဖြတ်၊ အမှာအထား၊ ညွှန်ကြားချက်၊ မှတ်ချက်၊ ဗဟုသုတ အမျိုးမျိုးတို့ဖြင့် များပြားပြည့်နှက်စွာ တန်းဆာဆင်ထားသောကြောင့် ဗုဒ္ဓဝင်မဟာပဒေသာကျမ်းကြီးပင်ဖြစ်ကြောင်း၊ ထိုဗုဒ္ဓဝင်မဟာပဒေသာကျမ်းကြီးသည် သာသနာတော် ပြန့်ပွားထွန်းကားလေအောင်ရွက်ဆောင် ဖြန့်ဖြူးရေးအတွက် ထက်မျက် လျှင်မြန်သော လက်နက်ကောင်းကြီးသဘွယ် ရည်ရွယ် သလောက် ခရီးရောက်၍ ပြီးမြောက်စေနိုင်မည့် ကျမ်းကြီးဖြစ်ကြောင်း၊ ဤဗုဒ္ဓဝင် ကျမ်းမကြီး၏ နောက်အဘို့၌လည်း၊ ဤဗုဒ္ဓဝင်ဌာနမှပင်ဓမ္မအကြောင်း၊ သံဃအကြောင်း၊ သာသနာဝင်အကြောင်းတို့ကိုပါ ဆက်လက် ရေးသားရန် ရည်သန် မှန်းထားကြကြောင်းတို့ကို သတင်းကောင်းဖြန့်လိုက်ပါသတည်း။

(သင်္ဂါယနာစာစောင်ဌာန မှတောင်းဆိုသဖြင့် ဆရာလင်း၏ ခွင့်ပြုချက်အရ ဦးဘသန်း(၁)က ပေးပို့သည်၊ အယ်ဒီတာ)

.....o.....

# သုတ်သီလက္ခန် မြန်မာပြန်

## တခါတရံ မြန်မာဝေါဟာရတလုံးကို သုံးလေးရက် အပြန် အလှန် ဆွေးနွေးပြီးမှ အတည်ပြုရပါတယ်

ပိဋကတော်မြန်မာပြန် ဌာနက မြန်မာပြန်ဆိုပြီးစီးတဲ့ ပိဋက မြန်မာပြန်များ အနက်၊ပဌမဆုံး ဒီဃနိကာယ် သုတ်သီလက္ခန် ပါဠိတော်မြန်မာပြန်ကို သာသနာ့ရိပ်သာ မဟာညေ ဆရာတော် ကိုယ်တိုင်ကြီးမှူးပြီး၊ လှည်းကူး ဆရာတော် ဦးလာဘ၊ ဆရာတော်ဦးဥာဏုတ္တရ၊ ၂၀- ဆူ ကျောင်းမှ ဆရာတော် ဦးပြည်ာဘသတို့က ၁၃၁၅-ခု၊ နယုန်လဆန်း(၁)ရက်နေ့ကစပြီး မြန်မာ ပဋိဗိသောဓက အဖြစ်ဖြင့် စစ်ဆေးတည်းဖြတ်တော်မူလျက်ရှိရာ၊ မြဟ္မ ဇာလသုတ်မှ ပေါဋ္ဌပါဒသုတ်အထိ သုတ် (၉)သုတ်ပြီးစီးသွားပါပြီ၊ တောင်တွင်းကြီးဆရာတော် ဦးဥက္ကဋ္ဌလဲ အဖွဲ့၏ ပင့်ဆောင်ချက်အရ၊ ရန်ကုန်မြို့သို့ ကြွရောက်ဝါကပ်ပြီးလျှင် ၎င်းသုတ်သီလက္ခန် ပါဠိတော် မြန်မာပြန် ပဋိဗိသောဓက အဖြစ်နဲ့ပါဝင် ဆောင်ရွက်လျက် ရှိပါတယ်၊ ယဉ်ကျေးမှုဌာန အတွင်းဝန် ဦးဘိုးလတ် ကလဲမြန်မာ ဝေါဟာရနဲ့ ပတ်သက်ပြီး ဆရာတော်များအား အကြံဉာဏ် ပေးနိုင်ရန်ပညာရှင်ကူ အကူအညီ ပုဂ္ဂိုလ် အဖြစ်နဲ့ဆောင်ရွက် လျက်ရှိပါတယ်၊ ပိဋကတော်မြန်မာပြန်များကို အနက်အဓိပ္ပါယ် အားဖြင့် ပါဠိတော်နှင့် တထပ်တည်းရှိစေရန် စကားလုံးဝေါဟာရ အနေအားဖြင့်လဲမြန်မာ့ဂါကျအနေအထားကိုပါဠိတော် ဝါကျအနေအထား အတိုင်း ဖြစ်နိုင်သမျှ ဖြစ်စေပြီး လူပုဂ္ဂိုလ်များ နားလည်နိုင်မဲ့ မြန်မာ ဝေါဟာရများ ဖြစ်စေရန် ဆိုတဲ့ အင်္ဂါရပ်တွေနဲ့ ညီအောင် တကယ်တန်းစီစစ်တည်းဖြတ်တဲ့ အခါမှာ လုပ်ငန်းသဘောအားဖြင့် အတော်ကလေးဘဲ ကြန့်ကြာမှုရှိပါတယ်၊ ပဋိဗိသောဓက ဆရာတော်များနဲ့ ဥပဏ္ဍိတ္တကပုဂ္ဂိုလ်တွေကလဲ ဒီအင်္ဂါတွေနဲ့ညီအောင် ကြိုးစားပြီး ဌာ ကောင်းကောင်းနဲ့ ဆောင်ရွက်လျက်ရှိကြပါတယ်၊ တခါတရံ ပါဠိပုဒ် တခုတည်းရဲ့အနက် မြန်မာဝေါဟာရ တလုံးကိုတရက်ခန့်မျှ အပြန်အလှန် ဆွေးနွေးပြီးမှဆုံးဖြတ် အတည်ပြုရပါတယ်၊ သို့ရာတွင်ဆင္ဂသင်္ဂါယနာ အစီအစဉ်အရ အချိန်မှီပြီးစီးမယ်လို့ မျှော်လင့်ရပါတယ်၊

### ပါဠိတက္ကသိုလ်

ရန်ကုန်မြို့ပုဇွန်တောင်ဆုတောင်းပြည့် ပါဠိ တက္ကသိုလ် ကျောင်းတိုက်ကို မီးလောင်ကျွမ်းရာတွင် ကျောင်းတိုက်ရှိ စာသင်သားရှင်ရဟန်းသာမဏေများ၏စာအုပ် စာတမ်းများ အများ အပြားဆုံးရှုံးပျက်စီးသွားသဖြင့် စာပို့ချခြင်းကိုပင်ရပ်ဆိုင်းထားရသည့်အခြေ အနေသို့ရောက်လျက် ရှိပါသည်၊ သို့ဖြစ်ပါ၍ ပရိယတ္တိသာသနာတော်ကို အားပေးချီးမြှင့်သော အားဖြင့် မွေ့ဒါန ဒါယကာအဖြစ် ခံယူလိုသော အလှူရှင်အပေါင်းတို့သည် စေတနာ ထက်သန်စွာဖြင့် အဆိုပါ စာသင်သားရဟန်းသာမဏေများအား စာအုပ်စာတမ်းများ လှူဒါန်းကြပါမည့် အကြောင်း နှိုးဆော်တိုက်တွန်းအပ်ပါသည်၊

### သံဃာယနာစာစောင် စာတည်းအဖွဲ့

(၁)
ပြန်ကြားရေးဌာနဝန်ကြီး
ဦးထွန်းဝင်း။
(၂)
နိုင်ငံတော်ရှေ့နေချုပ်ကြီး
ဦးချန်ထွန်း။
(၃)
တရားဌာနအတွင်းဝန်ဟောင်း,
စည်သူ ဦးစံညွန့်။
(၄)
ပြန်ကြားရေးဌာနအတွင်းဝန်
သီရိပျံချီ ဦးသန့်။
(၅)
ပြန်ကြားရေးဌာန ညွှန်ကြားရေးဝန်
ဝဏ္ဏကျော်ထင် ဦးယော(ဇေယျ)
အယ်ဒီတာ ဦးသာတင်။



အင်ဒိုနီးရှားရှိ–ဘိုရိုဘုဒိုခေါ် စေတီတော်

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှထုတ်ဝေသည်။ တယ်လီဖုံး-မြောက်(၃၉၂)၊ သာသနာ့ရိပ်သာ၊ ကုက္ကိုင်း၊ ရန်ကုန်။

# သံဃါယနာ

## လိုက်ဂူတော်ကြီး လုပ်အားလှူပွဲများ



### လုပ်အားလှူပွဲများစာရင်းချုပ်

(၁) ပဌမ ဝါဆိုလဆန်း ၁၀-ရက်(၂၁-၆-၅၃) ကျွန်းတူးကျောင်း ဆရာတော်နှင့် ဆရာ ဆရာမ ကျောင်းသားပေါင်း ၁၈၀-ကျော်၊

(၂) ပဌမဝါဆိုလပြည့်ကျော် ၂-ရက်(၂၈-၆-၅၃) မဗိန်သွန်ဆေးလိပ်ရုံ လူဦးရေ ၂၀၀-ကျော်။

(၃) ပဌမဝါဆိုလပြည့်ကျော် ၄-ရက်(၃၀-၆-၅၃) ရွှေကျင်ဆေးလိပ်ရုံ လူ ၂၀၀-ခန့်၊

(၄) ပဌမဝါဆိုလပြည့်ကျော် ၁၁-ရက်(၇-၇-၅၃) ကြည့်မြင်တိုင် ထီးတန်းရင်ကွက်(ဦးမောင်ကြီး)ကြီးမှူး၍ ငယ်သား ၁၀၀-ကျော်၊

(၅) ဒုတိယ ဝါဆိုလဆန်း ၈-ရက် (၁၉-၇-၅၃) မြန်မာမီးသတ်နှင့်တရုပ်မီးသတ်(လမ်းမတော်)

(၆) ဒုတိယ ဝါဆိုလဆန်း ၁၄-ရက်(၂၅-၇-၅၃) မြန်မာမီးသတ်နှင့် တရုပ်မီးသတ်။

(၇) ဒုတိယ ဝါဆိုလဆုတ် ၇-ရက် (၂-၈-၅၃)မြန်မာမီးသတ်နှင့် တရုပ်မီးသတ်။

(၈) ဒုတိယ ဝါဆိုလဆုတ် ၁၄-ရက် (၉-၈-၅၃)ဗါဟိုရတိုက်နယ် ဖ-ဆ-ပ-လနှင့်၊မြန်မာမီးသတ်နှင့်တရုပ်မီးသတ်(လမ်းပုဇွန်တောင်)လူဦးရေ ၁၅၀၀ကျော်၊

(၉) ဝါခေါင်လဆန်း ၆-ရက် (၁၆-၈-၅၃) ကြည့်မြင်တိုင်တိုက်နယ် ဖ-ဆ-ပ-လ၊ လူပေါင်း ၁၅၀၀-ကျော်။

(၁၀) ဝါခေါင်လဆန်း ၁၃-ရက် (၂၃-၈-၅၃)အလုံတိုက်နယ် ဖ-ဆ-ပ-လ၊ လူပေါင်း ၂၀၀၀-ကျော်၊

(၁၁) ဝါခေါင်လပြည့်ကျော် ၅-ရက် (၃၀-၈-၅၃)လမ်းမတော် ဖ-ဆ-ပ-လ၊လူပေါင်း ၂၀၀၀-ကျော်၊

(၁၂) ဝါခေါင်လပြည့်ကျော် ၁၂ရက် (၆-၉-၅၃)လမ်းမတော်အလယ်ပိုင်း၊တိုက်နယ် ဖ-ဆ-ပ-လ၊ လူပေါင်း ၂၀၀၀-ကျော်၊

(၁၃) တော်သလင်း၊လဆန်း ၅-ရက် (၁၃-၉-၅၃)ဗိုလ်တထောင်တိုက်နယ် ဖ-ဆ-ပ-လ၊ လူပေါင်း ၁၀၀၀-ကျော်၊

(၁၄) တော်သလင်း၊လဆန်း ၁၂-ရက်(၂၀-၉-၅၃)ပုဇွန်တောင်တိုက်နယ် ဖ-ဆ-ပ-လ၊ လူပေါင်း ၂၀၀၀-ကျော်(လာသူ ၄၀၁၀-ကျော်)

(၁၅) တော်သလင်း၊လဆုတ် ၄-ရက်(၂၇-၉-၅၃)သိမ်ဖြူတိုက်နယ် ဖ-ဆ-ပ-လ အဖွဲ့ပေါင်းစုံ၊ လူဦးရေ ၁၀၀၀-ကျော်၊

(၁၆) တော်သလင်း၊လဆုတ်၁၁-ရက်(၄-၁၀-၅၃)တာမွေတိုက်နယ် ဖ-ဆ-ပ-လ၊အဖွဲ့ပေါင်းစုံမှ လူပေါင်း၊ ၁၀၀၀၀-ကျော်၊

(၁၇) တော်သလင်း၊လကွယ်နေ့ (၈-၁၀-၅၃) ဗျို့သက်လယ်ဇာဘော်လီအလုပ်သမားများ ၂၆-ဦး၊

(၁၈) သီတင်းကျွတ်လဆန်း ၃-ရက်(၁၁-၁၀-၅၃) ပြန်လည်ထူထောင်ရေးနှင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊ ၅၀၀၀ ကျော်တို့နှင့် သင်္ဃန်းကျွန်းတိုက်နယ် ဖ-ဆ-ပ-လ အဖွဲ့ပေါင်းစုံ လူပေါင်း၊ ၅၀၀၀-ကျော်။

(၁၉) သီတင်းကျွတ်လဆန်း၊ ၁၀-ရက်(၁၈-၁၀-၅၃) ဗဟန်းတိုက်နယ် ဖ-ဆ-ပ-လ အဖွဲ့ပေါင်းစုံ လူပေါင်း၊ ၈၀၀၀-ကျော်၊

(၂၀) သီတင်းကျွတ်လဆုတ် ၂-ရက် (၂၅-၁၀-၅၃) မိုးရိပ်ချောင်း ဆည်ဖုံရွာမှ လူပေါင်း၊ ၅၀-ကျော်။

# မင်္ဂလာရတုပိုဒ်စုံ

(၄-၂-၅၃)

## ဆဋ္ဌသင်္ဂီတိ မဟာပါသာဏဂုဟာ ဆဋ္ဌသင်္ဂါယနာ ဂူလိုဏ်ကြီး

### အုဋ္ဌမြစ်ချ အခမ်းအနားဥ္ဍ ဘတ်ကြွား အပ်သော ရတုပိုဒ်စုံ

(ရေးဖွဲ့သူ-ဆရာဦးဘသန်း (၁)ဗုဒ္ဓဝင်ထာနအယ်ဒီတာ)

(၁) **အောင်ဆုံးမြေပြင်** ဗောဓိပင်နှင့်၊ ပလ္လင်ပေါက်ရာ၊ တိုက်မဏ္ဍာမှ၊ လက်ာဒီပ၊ မြန်တိုင်းကျအောင်၊ ဗုဒ္ဓမြတ်စွာ၊ သာသနာကို၊ **အဇာတသတ်၊ ကာလာနတ်မှ၊ မင်းမြတ်ဓမ္မာ၊ ဝဋ္ဋဂါနှင့်၊ ရာဇာမင်းတုန်း၊** မိုးမြေချုန်းမျ၊ ရွှေဘုန်းသရဖူ၊ မင်းငါးဆူတို့၊ နှုတ်မှုသုံးခါ.... ပေမှာတချက်၊ ကျောက်ထက်တအင်.....ငါးကြိမ်စင်အောင်၊ သင်္ဂါယနာ၊ တင်ခဲ့လာသို....၊ ပမာထို့တူ၊ တင်အံ့ဟူ၍၊ ဇမ္ဗူမြန်ထု၊ ပြည်ထောင်စုမှ၊ ပြည်သူ့ထိပ်ပန်၊ ပြည့်ချက်မှန်တို့၊ ဘန်ဘန်စည်းဝေ၊ ဥာဏ်ဆွေးနွေးလျက်၊ လက်ရွေးစင်ကောက်၊ တင်ခဲ့မြောက်သည်။ ။**ကြွရောက်ဖြိုင်တူသာဘုရား။** ။

(၂) **တောင်လုံးရွှေစင်။** မြင်းမိုရ်ရှင်နှင့်၊ ဘုန်းအင်ဂုဏ်မျ၊ နန်းပြိုင်ကြသား၊ စံသ-စင်ကြည်၊ မဥ္စတ်နွယ်မှ၊ ဆက်သွယ်ရိုးရာ၊ မျိုးမြန်မာလျင်၊ မြတ်စွာဓမ္မ၊ ပိဋကကို၊ ဆဋ္ဌသင်္ဂါယနာ၊ တင်အံ့ငှါဟု.... သုံးရွှာကြေးမုံ၊ **ရွှေတိဂုံ၏၊ မြောတဲခုံမျက်နှာ၊ နတ်သန်သာသာ၊ ယူဇနာတဝက် သေဥ္ဇမြေထက်၌၊** သတ္တရာဇ်ကောဇာ၊ ထောင့်သုံးရာအ၊ ခွန်းလာဆဲ့လေး၊ မြောက်လေသွေးလျက်၊ ယုန်ရေး လ-နား၊ ကြယ်သိကြား တို့၊ ယှဉ်ငြားပြည့်ကျော်၊ ခြောက်ရက်ပေါ်တွင်၊ **လိုဏ်တော်ရတနာ၊** ဤဂုဟာကို၊ တည်ရာတွင်းဝ၊ အုဋ္ဌမြစ်ချ၍၊ မူလ-**ဏ်**ရောက်၊ ပွဲဦးဆောက်သည်။ ။**ဝ-မြောက်တိုင်ထူကာဘုရား။** ။

(၃) **ချောင်ထုံးကျေရှင်။** ဆံပေါ်တင်၍၊ သုံးခွင်ပန်သ၊ ပိဋကကို၊ ဗုဒ္ဓသာသနာ၊ ဖွဲ့ချုပ်မှလျင်။ ဆဋ္ဌသင်္ဂီ၊ တင်ထာနီဟု၊ ဤသည့်ဂုဟာ၊ တည်ဦးရာ၌၊ ဩဝါဒါစရိယ၊ ထေရိန္ဒနှင့်၊ ဥက္ကဋ္ဌ-တသွန်၊ နန်းရင်းဝန်က၊ လမ်းညွှန်ရှေ့သွား၊ ဝန်ကြီးများမှ၊ ထင်ရှားသင်းပင်း၊ မှူးဆောင်မင်းတို့၊ တည်ခင်းသဖြင့်၊ အုတ်မြစ်မြှင့်လျက်၊ ဆင့်ဆင့်ချစိုက်၊ ဤခါဥ္ဍဝယ်၊ တုန်ရိုက်ကောင်းကင်၊ တော်ပဲ့တင်မျ၊ သံရှင်ကောင်းကြီး၊ နတ်ပေါင်းချီး၍၊ ပြီးစီးထင်စွာ၊ မင်္ဂလာရင့်.....ဂန္ဓမာဂျူ၊ နန္ဒူထက်၊ ဂုဏ်ပြုအံ့သောက်၊ နိမိတ်ရောက်သည်။ ။**မြဲ့ ကျောက်သိုဏ်ဂူဟာဘုရား။**

---

### သာသနဒူရောင်ခြည်

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ ၃ လတကြိမ် ထုတ်ဝေလျက်ရှိသော သာသနာ့ရောင်ခြည် စာစောင်တွင် တန်ဆောင်မုန်း လပြည့်နေ့ထုတ် စာစောင်၌ ဆောင်းပါးပေါင်း ၂၀ ကျော်မျှပါသည်၊ ရန္တိယပြည် မြန်မာသံအမတ်ကြီး ဦးကြင်၏ စိတ်ဝင်စားဘွယ် ကောင်းလှသော လုမ္ဗိနီသွား မှတ်တမ်း တခုထည်းနှင့် (ဒိ) မကတန်ပါသည်၊ ပဲခူးရွှေမော်ဓော ကြေးပုရပိုက်မှ ရသည့် စိန္တာမုနိဂါထာများနှင့် ဥက်ဗိုလ်ဆရာတော်ဘုရားကြီး ပြန်ဆိုသည့်အနက်၊ ထူးခြားသောတောင်တန်း သာသပြုသမိုင်းမှစ၍ ဘတ်ဖွယ်မှတ်ဖွယ်အများပါသည်၊ ရိုက်နေပြီ နိဝင်ဘာလ မကုန်မီထွက်မည်။

---

## အဘိဓမ္မာ ပြန့်ပွါးရေး အသင်းမှ အဘိဓမ္မာအခါတော်နေ့သဘင်



သီတင်းကျွတ်လပြည့်နေ့က ရွှေတိဂုံယင်ပြင်၌ ဆီမီးထောင်ပြည့်ထွန်းပုံ



အာယု ဝဏ္ဏ သုခ ဗလ တို့ကိုရစေနိုင်မည့် မြို့တော်ခမ်းမ သက်ကြီးပူဇော်ပွဲ





၁၃၁၅-သီတင်းကျွတ်လ၊ အတွဲ ၁၊ အမှတ်-၇

## မရိုးနိုင်သည့်တရားတော်

ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီကလေးတွင် ထုန်ခန့်မြို့၊ဘီ-ဘီ-စီ အသံလွှင့်ရုံမှနေ၍ ဗုဒ္ဓဘာသာ တရားတော်အရ လောဘဒေါသမောဟတို့ကြောင့် ကမ္ဘာကြီး ပျက်စီးတတ်ကြောင်း ထို့ကြောင့် လောဘ - ဒေါသ–မောဟတို့ကို ထိမ်းသိမ်းသင့်ကြောင်း စသဖြင့် အသံလွှင့်ခဲ့လေသည်၊ ဗုဒ္ဓဘာသာအသင်းအဖွဲ့များမှလည်း ထိုသဘောအတိုင်း လှည့်လည်၍ ဟောပြောခဲ့လေသည် (ထိုအခါက ဘီဘီစီ အသံလွှင့်ရုံမှ အသံလွှင့် ဟောပြောခဲ့သော ပုဂ္ဂိုလ်မှာ ယခုရန်ကုန်တက္ကသိုလ်သို့ ပြန်လည်ကြွရောက်ခါ၊အဘိဓမ္မာကထိက အဖြစ် ဆောင်ရွက် တော်မူနေသော အရှင် ဦးသေဋ္ဌိလ ဖြစ်သည်ဟု သိရသည်၊)

ထိုစကားနှင့်ပတ်သက်၍ ထိုစဉ်အခါက အာဏာရှင်ကြီး၊ဟစ်တလာက အင်မတန်ရိုးသော စကားဖြစ်သည်ဟု ကောက်ချက်ချကြောင်းနှင့် မှတ်သားမိခဲ့ဘူးပေသည်၊အင်မတန် ရိုးသော စကား၊ဟုဆိုသည်မှာ လူတိုင်းသိသောစကား၊ထူးခြားဆန်းကြယ်မှုမရှိသောစကား၊သုသုငါငါ နားလည်ပြီးဖြစ်သောစကားမျိုးဖြစ်သည်ဟု ဆိုလိုဟန်တူးပသည်၊ မြန်မာနိုင်ငံတော်၌လည်း၊လောဘမရှိရ၊ဒေါသမရှိရ မောဟမရှိရ၊ဟူသော စကားများနှင့်ပတ်သက်၍ ဟစ်တလာကဲ့သို့ ဝေဖန်ယူဆလိုသူများ၊ ယခုတလောတွင် အထူးသဖြင့် ပေါ်များ၍လာသည်ကို တွေ့ရလေသည်၊

ဤလောကကြီးသည် ကုသိုလ်တရား သက်သက်သာ ထွန်းကားသောလောကကြီး၊မဟုတ်ကြောင်း၊ကိုင်း၊အကုသိုလ်တရားသက်သက်သာထွန်းကားသော လောကကြီး၊မဟုတ်ကြောင်း၊ကိုင်း၊ မသိကြသောကြောင့် လောဘမရှိသင့်၊ ဒေါသမရှိသင့်၊မောဟမရှိသင့်ဟု ဟောပြောသူတို့က ဟောပြော၍နေကြခြင်း၊မဟုတ်ကြချေ၊စင်စစ်ကား၊ လောကကြီး ပျက်စီးရခြင်း၊သည်၊လောဘ–ဒေါသ– မောဟ ဟု ဆိုအပ်သောအရင်းခံတရား၊ ရိုးကြီးသုံးပါး (တရားဆိုးကြီးသုံးပါး) တို့ကြောင့်သာ ပျက်စီးရခြင်းဖြစ်ကြောင်းကိုနား၊လည်ကြသောကြောင့် အထက်ပါအတိုင်း ဟောပြောကြခြင်း၊ဖြစ်လေသည်၊ထိုးကားသည် မှန်၏၊လောဘ၏ဆန့်ကျင်ဘက်ဖြစ်သော အလောဘကြောင့် လောကကြီး ပျက်စီးသည်ဟုဆိုနိုင်ပါမည်လော၊ဒေါသ၏ဆန့်ကျင်ဘက်ဖြစ်သော အဒေါသကြောင့် လောကကြီး၊ပျက်စီး၊သည်ဟု ဆိုနိုင်ပါမည်လော၊မောဟ၏ဆန့်ကျင်ဘက်ဖြစ်သော အမောဟကြောင့် လောကကြီး၊ ပျက်စီးသည်ဟု ဆိုနိုင်ပါမည်လော၊

နောက်,တဆင့်လျှော့၍ စဉ်၊စားဘွယ် ရှိပေသေး၏ လောကမှမထွက်နိုင်သေး၊သူ (မလွန်မြောက် နိုင်သေးသူ) မှန်သမျှ လောဘ - ဒေါသ - မောဟဟု ဆိုအပ်သော အရင်းခံတရားဆိုး သုံးပါးတို့နှင့်လုံးဝကင်းဝေးသွား၊ပြီဟု မရှိနိုင်သဖြင့် နည်း၊များ၊ဆိုကိန်းအောင်းလျက် ရှိကြပေမည်မှာ သေချာလှပါပေသည်၊ ဟစ်တလာစသော ပုဂ္ဂိုလ်တို့သည် လောကသား၊မှန်က မကင်းနိုင်သော တရားများ၊ဖြစ်သည်ဟုသော ဤအချက်အလက်မျိုး၊လောက်ကိုသာ၊စွဲမြဲယူဆကြပြီးလျှင်အဆိုပါ ဟောပြောချက်များ၊ကို‘‘မိုးသည်ပူ၏ ရေသည်အေး၏’’ဟူသော စကား၊မျိုးလောက်မျှ မဆန်းကြယ်ဘူးဟု ထင်မှတ်မိကြဟန်တူလေသည်၊

လောက၌တရားရှိသည်၊ တရားမရှိဘူး၊တရားပျက်သည် တရားမပျက်ဘူး၊စသဖြင့် အကောင်းအဆိုးတွဲကာ ပြောလေ့ရှိကြပေသည်၊တရားပျက်သည်ဟု ဆိုရာ၌၊ အနည်းငယ်ပျက်မှု များများပျက်မှု အများ၊ဆုံးပျက်မှုဟု ခွဲခြားနိုင်လေသည်၊ တရားမပျက်ဟု ဆိုရာ၌လည်း လုံးဝမပျက်မှု များများမပျက်မှု နည်းနည်းမပျက်မှုဟု ခွဲခြားနိုင်လေသည်၊ လောဘမရှိရ၊ ဒေါသမရှိရ၊ မောဟမရှိရဟု ဆိုရာ၌လည်း၊လောကမှ မလွန်မြောက်နိုင်သေးသဖြင့် လုံးဝ မပယ်နိုင်သေးစေကာမူ ဒွားလောက်တင်မှ ရင်လောက်ကူးဆိုသကဲ့သို့ လုံးဝကင်းဝေးအောင် အားထုတ်ရင်း လောဘခေါင်းပါးမှု– ဒေါသခေါင်းပါးမှု မောဟခေါင်းပါးမှုတို့ကို ဖြစ်စေနိုင်သည်မှာ သေချာလှပါပေ၏၊ရှိသမျှသတ္တဝါတို့သည် ထိုတရားဆိုးများမကင်းနိုင်ကြသည့်အလျောက် ကုပ်ပြည့်ဒင်ပြည့် ရှိနိုင်လေလေ ကောင်းလေလေဟု သဘောထား၊ကြမည်ဆိုပါလျှင် တရား၊ပျက်သောလင် တရား၊ပျက်သောမယား တရားပျက်သော မိဘ-တရားပျက်သောသား၊သမီး တရားပျက်သောဆရာ–တရားပျက်သော တပည့် တရားပျက်သောအစိုးရ–တရားပျက်သောတိုင်းသူပြည်သား တရား၊ပျက်သောကမ္ဘာကြီး၊ဖြစ်ရသည်အထိ ဖြစ်ချင်ရာဖြစ်ကုန်ဘိုရာသာလျှင် အကြောင်း၊ရှိလေသည်၊

လောက၌ မမြင်ဘူးသောအရာ မကြား,ဘူးသော စကားမှုလောက်ကိုကြား၊ရ-မြင်ရခြင်းအား၊ဖြင့် ထူးခြားသည်ဆန်း၊ကြယ်သည်ဟု ဆိုသည်ထက် ကြား၊ဘူး သော‌စကား–မြင်ဘူးသော အရာမှဖြစ်ဖြစ်စေကာမူ ထက်ဝန်းကျင်မှန်ကန်မှု– ထက်ဝန်းကျင် အကျိုးရှိမှုစသည်တို့ဖြင့် ပြည့်စုံသောအမြင်–အကြား၊တို့ကိုသာလျှင် ထူးခြား၊အည် ဆန်း၊ကြယ်သည်ဟု ဆိုခဲ့

## ပခုက္ကူမြို့ ကုသလသံဃါယနာအသင်း



### အကြောင်းရင်းမူလ

၁၂၆၆ ခုနှစ်တွင်၊ ပခုက္ကူ မြို့ ကျေး၊ဖူးရှင်ရေစကြို ဆရာတော်ဘုရားကြီး ပါလျှင် ဝိုမို၍မှန်ကန်ရာ ရောက်ပေလိမ့်မည် လေးကဲ့‘‘ဟောင်းလွန်း၊လို့ သစ်၊ပြောင်းလွန်း၊လို့–ပစ်၊ ကောင်းလွန်း၊လို့ ချစ်’’ဟူသော သဘောမျိုး၊လည်း ရှိကြောင်းကို မမေ့သင့်ပေ၊ဟောင်းလည်း၊ ဟောင်း ကောင်း၊လည်း ကောင်းဆိုပါလျှင်မည်သည့်အခါမျှ မရိုးနိုင်၊အမြဲတမ်း ဆန်းသစ်၍နေဘို့ရာသာလျှင်အကြောင်း၊ရှိလေသည်၊

ဗုဒ္ဓရှင်တော်မြတ် ဘုရားပွင့်တော်မမူမီအခါက၊ အဆိုပါတရားဆိုးကြီးသုံးပါး ခေါင်းပါး‌ရေး၊ကို ပညာရှိတို့သည် အမျိုးမျိုး၊အဖုံဖုံ ကြံစည်ဟောပြောခဲ့ကြကုန်၏၊ နောက်ဆုံး ထိုတရား၊မျိုး၊ အား၊လုံး၊တို့မှ ကင်းကာ သံသရာလောကမှ လွတ်မြောက်ကြောင်းကိုပင် ဟောပြောညွှန်ကြား၊ခဲ့ကြလေသည်၊ ဥပမာ-ဗြာဟ္မဏဘာသာ၌ စတုဝဂ္ဂခေါ်–

(၁) ဓမ္မ
(၂) အဋ္ဌ
(၃) ကာမ
(၄) မောက္ခ

ဟူသော တရား၊တို့တွင် မောက္ခဆိုသည်မှာ သံသရာဝဋ်မှ လွတ်မြောက်ရေး သဘောများ၊ကိုပြဆိုရာ အပိုင်းကြီး၊ပင်ဖြစ်ပေသည်၊သို့သော် သံသရာဝဋ်မှ လွတ်မြောက်ရေးကို ရည်ရွယ်၍ ဟောပြောညွှန်ပြကြသော်လည်း၊ တကယ့်လွတ်မြောက်ရေးကို ဆိုက်ရောက်စေနိုင်မည့် နည်း၊လမ်းများ၊ မဟုတ်ခဲ့ကြပေ၊

ဗုဒ္ဓရှင်တော်ဘုရား ပွင့်ထွန်းတော်မူလာသည့်အခါကျမှသာလျှင်ထိုတရားဆိုး များ၊ခေါင်း၊ပါး၊ရေးအစစ်အမှန်နည်း၊လမ်း တို့ကိုင်း၊ သံသရာဝတ်မှ လွတ်မြောက်ရေးဖြစ်သောနည်း၊လမ်းအစစ်အမှန်တို့ကို ရှင်း၊ ဟောကြား၊ညွှန်ပြတော်မူနိုင်ခဲ့လေသည်၊ထို့ကြောင့်ထိုတရားဆိုးများ၊ခေါင်း ပါး၊ ရန် နည်း၊ လမ်း နှင့် သံ သ ရာ ဝဋ် အတွင်း၊မှလွတ်ကင်း၊ရန် နည်း၊လမ်း၊အမှန်တို့သည် ဗုဒ္ဓဘာသာစာပေဟု ဆိုအပ်သော နိကာယ်ငါး၊ရပ် ပိဋကတော်များ၊

သည် စာသင်တိုက်တည်ထောင်၍ ဆရာတော် ဘုရား ကြီး၏ ပညာရှင် နို့ကို သောက်စို့ရန် နိုင်ငံတော် တဝှမ်းလုံး၊မှ ကြွလာတော် မူကြသော စာသင်သား ရဟန်းသာမဏေများ၊ တနေ့တခြား တိုး၊တက် များ၊ပြား၊လာကြရာ၊ ၁၂၈၀၊ ပြည့်နှစ် လောက်တွင် သံဃာတော် ဦး၊ရေ နှစ်ထောင်ခန့် ရှိလာ၍ အချို့ ဆွမ်း၊ကွမ်း၊ မပြည့်စုံသဖြင့် ပြန်ကြွကြ ရသော အခြေအနေ ဖြစ်ပေါ်လေသည်၊

### ပဏာမ ဆွမ်း၊လောင်း၊အသင်း

ပခုက္ကူမြို့ရေး‌ဟောင်းရပ်ယခုအသင်း၊ကြီး၏ ဥက္ကဋ္ဌ ဖြစ်သူ ဦး၊ခင်မောင်ကြီး၊ကြီး၊မှူးသော ကုသလ သမဝါယမအသင်း၊ဝင်လူငယ်တစုတို့သည် မိမိတို့မြို့သို့ ပညာသင် ကြွား၊ရန် လာရောက်တော် မူကြသော စာသင်သား ရဟန်း သာမဏေတို့အား ဆွမ်း၊ကိစ္စ အတွက် ကြောင့်ကြမှုမဲ့ရဘဲ စာပေပရိယတ်ကို မငြိုမငြင်အား၊ထုတ်နိုင်ရန်အလို့ငှါ ၁၂၀၀ ပြည့်နှစ်မှအစပြု၍ကုသလ သမဝါယမဆွမ်း၊လောင်း၊ အသင်း၊ကို ပဏာမ တည်ထောင် ကြလေသည်၊

လူငယ်တစု၏ မှန်မြတ်သော လုပ်ငန်းကိုတွေ့မြင်ရသော ရေး၊ဟောင်း ရပ်နို့လူ

စာမျက်နှာ ၁၃ သို့ ဆက်ကြည့်ပါ၊

အတွင်း၌သာလျှင် တည်ရှိကြပေကုန်၏၊ မည်သည့်ဘာသာ-မည်သည့်ကျမ်း၊ဂန်မှာမှ ဗုဒ္ဓဘာသာ ပိဋကတော်များ၊မှာကဲ့သို့ထူး ခြား၊လေး၊နက်စွာ မပြဆိုနိုင်ကြကုန် အာဏာရှင်ဟစ်တလာစသော ပုဂ္ဂိုလ်ကြီး၊တို့သည် ထိုဗုဒ္ဓဘာသာ ပိဋကစာပေများ၊ကို လေ့လာလိုက်စား၊မိမည်ဆိုပါက အဆိုပါထင်မြင်ချက်မျိုး၊ကိုပင် ပေး၊မိလိမ့်မည်မဟုတ်တန်ရာ၊ ထို့ကြောင့် ကမ္ဘာကြီး ကောင်း၊စားရေးကိုင်း၊သံသရာဝဋ်မှလွတ်မြောက်ရေးကိုင်း၊အလိုရှိသူတို့သည် ဗုဒ္ဓရှင်တော်ဘုရား၏ တရား၊ရင်း– တရား၊စစ်တို့ကို ငြင်ကြယ်တည်တံ့အောင် ပြုလုပ်မှုဖြစ်သော သံဃါယနာ ကိစ္စကြီး၌တတ်နိုင်ရာက ဝင်ရောက် အား၊ပေး၊သင့်လှပေကြောင်းကို ရေး၊သား၊လိုက်ရပါသတည်း၊

# ဗုဒ္ဓဝင်အဋ္ဌကထာဆရာကြီး

# အရှင်မဟာဗုဒ္ဓဒတ္တအကြောင်းအကျဉ်း

ရေးသူ—မာဃ

ရှေးဟောင်းဗုဒ္ဓဘာသာစာပေအမှတ်အသား များ၌ အဋ္ဌကထာ ဆရာကြီး အရှင် မဟာ ဗုဒ္ဓဒတ္တမှာ၊ အဋ္ဌကထာ ဆရာကြီးအရှင် မဟာ ဗုဒ္ဓဃောသနှင့် တခေတ်တည်းဖြစ်ကြောင်းကိုရင်း၊အရှင် မဟာဗုဒ္ဓဒတ္တသည် သီဟိုဠ် အဋ္ဌကထာ များကို မာဂဓ ဘာသာဖြင့် ရေးကူးခွင့် မရကြောင်းကိုရင်း၊ အရှင် မဟာဗုဒ္ဓ ဃောသ သာလျှင် ရေးကူးခွင့်ရကြောင်း များကိုရင်း၊ပြဆိုဘော်မူကြကုန်၏။ ယခင် တပတ်က ယခုထက်ဘိုင် ထင်ရှားကျော် ဇော တော်မူလှသော၊ အရှင် မဟာဗုဒ္ဓ ဃောသ အကြောင်းကိုအလျှင် သိးစလုံ သဖြင့်သာ ရေးသား၊ ဖေါ်ပြခဲ့ရခြင်းဖြစ် ပေသည်၊ ဖြစ်စဉ်အတိုင်း ရေးရမည် ဆို ပါက၊ အရှင်မဟာဗုဒ္ဓဒတ္တ၏အကြောင်း ကိုသာလျှင် ရှေးဦး စွာ ရေးသားရမည် ဖြစ်ပေသည်၊ ထို့ကြောင့် အရှင်မဟာ ဗုဒ္ဓဒတ္တ၏ အကြောင်းကို အတန်ငယ် ဖေါ်ပြပါအံ့၊

## စောလ၊စောဠ၊(ချိုလာ)

အရှင်မဟာ ဗုဒ္ဓဒတ္တ၏ မွေးဖွားရာ ဌာနမှာ၊ ထိုအရှင်၏ စာပေ များနှင့် ထာသနာဝင် မှတ်တမ်းများအရ ဋ္ဌဂိုသ ပြည် တောင်ပိုင်း ''စောဠ'' တိုင်းဖွား ဖြစ်ကြောင်း၊မျှသာသိရပေသည်၊သို့သော် စောဠတိုင်း၌ မည်သည့်နေရာ-မည်သည့် အရပ်တွင် ဖွားမြင်ကြောင်းကိုကား မသိ ရပေ၊ စောဠတိုင်း ဆိုသည်မှာ၊ ချိုလာ လူမျိုးများ၊ နေထိုင်သည့် တိုင်းပင်ဖြစ် ကြောင်း၊ သိသာ လေသည်၊ အဆိုပါ 'ချိုလာ' ကိုအသောကမင်းတရားကြီး၏ ကျောက်စာများ၌ ''စောဠ'' ဟူသော အမည်ဖြင့် ဖေါ်ပြ ထားသည်ကို တွေ့ရ လေသည်၊ တချပ်ခရီးသည်ကြီး- ''ဟီ ယန်ဆိုင်''၏ မှတ်တမ်း၌ စောဠတိုင်း သည်၊ လီပေါင်း - ၂၄၀၀ - ၂၅၀၀- လောက်ကျယ်ဝန်းကြောင်း၊ စောဠတိုင်း ၏ မြို့တော်မှာ ဆယ်လီခန့် ရှိကြောင်း ပြဆို ထားလေသည်၊ ထို့တတ်တမ်း အရ ကျောက်စာ မင်းကြီး ''ကင်နင်ဂဟ်'' က မိုင်ပေါင်း-၄၀၀ - ခန့်ရှိကြောင်း၊ ယခုအခါ အထင် အရှား ရှိနေသော ''ကရ်နုလ်'' (Karnul) သည်ပင် ရှေးအခါကစောဠတိုင်း၏မြို့တော်ဖြစ်ဘူး ကြောင်း အကျယ်တဝင့်ပြဆိုလေသည်၊ အသောကမင်းကြီး လက်ထက်၌ စောဠ တိုင်း၏ မြို့တော်မှာယခုအခါ၌ ထင်ရှား သော ''တြိချိနာပလီ'' အနီးရှိ ''ဥရိုက် ယူးရ်''မြို့ဖြစ်သည်ဟု ရာဇဝင်ဆရာများ ကအယူရှိကြလေသည်၊ နန်းမဟော်ဘနိ ဦးရန်၏ ဒွင်က သမိုင်းစာတမ်းစာမျက်နှာ ၂၅ - ၌ အရှင်ဗုဒ္ဓဒတ္တမှာ သီဟိုဠ်ကျွန်း၊ အနုရာဓမြို့၏ အ ၄၂ - စောဠတိုင်း၌ ဖွားသည်ဟု ဆိုထားသည်ကို တွေ့ရသည်။ အမှန်မှာ စောဠတိုင်းသည် သီဟိုဠ်ကျွန်း၌ မရှိ၊ ဇမ္ဗူဒီပ ယပြည်၌သာ ရှိကြောင်းကိုရှေး ဟောင်းစာပေ မှတ်တမ်းများနှင့် ပစ္စုပ္ပန် စာပေများ အရ အလွန်ပင် သိသာလှ ပေသည်၊

## မဟာဝိဟာရဝါသီ

ထိုအရှင်သည် ဇမ္ဗူဒီပသွဲသာ မကာ၊ သီဟိုဠ် ကျွန်း၌လည်း ပညာ သင်ကြား သီတင်းသုံးတော် မူခဲ့ဘူးကြောင်းများကို ထိုဆရာတော် ကိုယ်တိုင်ရေး သားတော် မူသည့် ကျမ်းဂန်များ၏ နိဂုံးများအရ သိရ ပေသည်၊ အဘိ ဓမ္မာ ဝတာရ အဋ္ဌကထာ နိဂုံး၌-

မဟာဝိဟာရ ဝါသိနံ၊

ဝါစနာမဂ္ဂနိဿိတံ။

ဟုပြဆိုထားသည်ကို တွေ့ရ လေသည်၊ ထိုစာအရ အရှင်မဟာ ဗုဒ္ဓဒတ္တသည်၊ အရှင်မဟာ ဗုဒ္ဓဃောသ ကဲ့သို့ပင် မဟာ ဝိဟာရဝါသီ ဂိုဏ်းဝင် ဖြစ်ကြောင်းကို ၎င်း၊ အဘယဂီရိဝါသီ ဂိုဏ်းများနှင့် ဆန့်ကျင်ဘက်ဖြစ်ကြောင်း ကို၎င်း၊ မှချအားဖြင့် သိရလေသည်၊ ထို့ကြောင့် အဘိဓမ္မာဝတာရ အဋ္ဌ ကထာ နိဂုံးမှာပင်-

နိကာယန္တရ လဒ္ဓီဟိ၊

အသမ္ဘိဿံ အနာကုလော

ဟု ကိုယ်တော်တိုင် ပြဆို ထားသည်ကို တွေ့ရလေသည်၊

## ပြုစုသည့်ကျမ်းများ

အရှင်မဟာ ဗုဒ္ဓဒတ္တ ကိုယ်တော်တိုင် ရေးသား ပြုစုတော်မူခဲ့သည့် ကျမ်းဂန် များမှာ (၁) ဗုဒ္ဓဝင်ပါဠိတော်၏ အဖွင့် မဓုရတ္ထဝိလာသိနီ အဋ္ဌကထာ၊ (၂) အဘိ ဓမ္မာဝတာရခေါ် လက်သန်းအဋ္ဌကထာ၊ (၃)ဝိနယဝိနိစ္ဆယလက်သန်း အဋ္ဌကထာ၊ (၄)ဥတ္တရဝိနိစ္ဆယခေါ် လက်သန်းအဋ္ဌ ကထာ၊ (၅) ရူပါ ရူပ ဝိဘာဂခေါ်- လက်သန်းအဋ္ဌကထာများဖြစ်လေသည်၊

အဆိုပါကျမ်းဂန်များကို အရှင်မဟာ ဗုဒ္ဓဒတ္တသည်၊သီဟိုဠ်ကျွန်း၌ သီတင်းသုံး နေတော်မူစဉ်ရေးသားတော်မူခြင်းမဟုတ် ကြောင်းကိုရင်း၊ ဇမ္ဗူဒိပ်ကျွန်း (ဇမ္ဗူဒီပ ပြည်) စောဠတိုင်း ''ကဏှဒါသ'' ဥပါသကာ ဆောက်လုပ် လှူဒါန်းသည့် (ကာဝီရပဋ္ဋန) ခေါ် သဘော်ဆိပ် ကျောင်း၌ သီတင်းသုံး စံနေတော်မူစဉ် ရေးသား ပြုစုတော် မူကြောင်းကို ၎င်း၊ မှချအားဖြင့် သိရလေသည်၊ ထို့ကြောင့် ကိုယ်တော်တိုင် ဗုဒ္ဓဝင် အဋ္ဌကထာနိဂုံး၌

ကာဝီရပဋ္ဋနေ ရမ္မေ၊

နာနာ နာရီနရာကုလေ။

ဟူ၍၎င်း။

ကာရိတေ ကဏှဒါသေန

သဏှဝါသေန သာဓုနာ၊

ဝိဟာရေ ဝိဝိဓါကာရ၊

. စာရုပါကာရ ဝေါပုရေ။

(ဟူ၍၎င်း) အဘိဓမ္မာဝတာရ အဋ္ဌ ကထာ နိဂုံး၌လည်း-

ကာဝေရ ပဋ္ဋနေရမ္မေ၊

နာနာရာမေပသောဘိတေ၊

(ဟူ၍၎င်း) ပြဆိုတော် မူထားသည်ကို တွေ့ရလေသည်။ ကာဝီရ, ကာဝေရ ဟု နှစ်မျိုးပင် တွေ့ရ၏။ ကာဝီရ ဆိပ်ကမ်း ဆိုသည်မှာ စောဠတိုင်းအတွင်းရှိကာဝေ ရီ မြစ်ဝ ရှိရာ ဆိပ်ကမ်း၊ ဖြစ်ကြောင်း သိသာလှပေသည်။ (မြေပုံကြည့်ပါ၊);

## ဇိနာလင်္ကာရကျမ်းဆရာ

ဝံသကထာသုပ္ပတ္တိကျမ်း၌ကား အရှင် မဟာ ဗုဒ္ဓဒတ္တသည်၊ ဇိနာလင်္ကာရကျမ်း ကို ရေးသား ပြုစုတော်မူကြောင်း၊ အရှင် ဗုဒ္ဓဒတ္တအား သီဟိုဠ်ဆရာတော်ကြီးများ က အဋ္ဌကထာဟောင်းများကို ရေးကူး ခွင့်မပြုကြောင်း၊ အရှင်မဟာဗုဒ္ဓဃောသ ရောက်လာသော အခါမှသာ ထိုအရှင် ၏ ဝိသုဒ္ဓိမဂ်ကို နှစ်သက်တော်မူကြသော ကြောင့် ရေးကူးခွင့် ပြုတော်မူကြောင်း စသည်ဖြင့် ပြဆိုထားသည်များကို တွေ့ရ လေသည်၊ ထိုစကားများမှာ အလွန် အလွန် လွဲမှားသော စကား များသာ ဖြစ်ကြောင်းကို ဇိနာလင်္ကာရကျမ်း၏နိဂုံး

စာမျက်နှာ ၁၈ သို့ဆက်ကြည့်ပါ။



# အာသံ သာသနာပြု လုပ်ငန်းအခြေ

## ယခုအခါ လူဦးရေ ၁၁ သန်းခွဲခန့်ရှိသော အာသံပြည်တွင် ဗုဒ္ဓဘာသာဝင်ဦးရေ ငါးသန်းခန့်ရှိရာမှ အာသံတပြည်လုံးသာမက အိန္ဒိယ တပြည်လုံးကိုပါ ဗုဒ္ဓဘာသာယဉ်ကျေးမှုများလွှမ်းခြုံသွားရန် အသေးစိပ်ကြိုးပမ်းလျက်ရှိပုံများ။

(အာသံ သာသနာပြု ခေါင်းဆောင်ဆရာတော် ဦးပညာဝံသ၏ အာသံ သာသနာပြု အစီရင်ခံစာမှ ကောက်နှုတ်ချက်ဖြစ်သည်။)

### ရှေးဟောင်း ဗုဒ္ဓဘာသာ

အာသံ ပြည်သည် အနောက် ရိုးမ တောင်တန်း ကြီး၏ အနောက်မြောက် ဘက် တောင်ကုန်းမြေပြန့်တွင် တည်ရှိ၍ နေသောဟိန္ဒူစတန်နီပိုင် ပြည်နယ်ဖြစ်ရာ လူဦးရေ (၁၁) သန်းခွဲမျှရှိလေသည်။

ယခု အချိန်တွင်၊ တွေ့မြင် ရသော လူမျိုးများမှာ ဟိန္ဒူ၊မဟာမေဒင်၊အဟုံရှမ်း၊ အက်ဥန်းရှမ်း၊ ခန္တီးရှမ်းနှင့် ဂျင်းဖေါ၊ ဥန်နီယား၊ ချင်း၊ နာဂတို့ဖြစ်ကြလေသည်။

ရှေးယခင် အဟုံရှမ်းဘုရင် အဆက်ဆက်တို့မှာ ဗုဒ္ဓ ဘာသာဝင် များသာ ဖြစ်ခဲ့ကြ လေသည်။ ရှေးမင်း အဆက်ဆက်တို့ စိုးစံခဲ့ ကြသော နန်းတော်ကြီးမှာ၊ ဆစ်ဆာဂေါ မြို့နယ်တွင် ကြီးကျယ် ခမ်းနားစွာဖြင့်၊ အထပ် ၇ ထပ်ရှိရာ၊ ယခုတိုင် ၅ ထပ်အထိ တက်ရောက်နိုင်သေးသဖြင့် ပြဘိုက်ပမာ သွားရောက်ကြည့်ရှုကာနေကြရသေးသည်။

အဆိုပါ နန်းတော် အနီးဘင်၊ စတုရန်း ၄ မိုင်ပတ်သည် ကျယ်ပြန့်၍၊ လေးဒေါင့်စပ်စပ် တူးဖေါ်ထားသော မင်္ဂလာရေကန်ကြီးနှင့် ကန်ဘောင်တွင် တည်ဆောက် ထားသည့် စေတီတော်၊ ပုထိုးတော်ကြီးများမှာ ဗုဒ္ဓဘာသာဝင် အဟုံရှမ်းဘုရားကြီးတို့ ကောင်းမှုတော်များပင် ဖြစ်လေသည်၊ ဗုဒ္ဓဘာသာ ထွန်းကားခဲ့သည်ဟု ဆိုရသော်လည်း၊ ရာဇဝင်အရ၊ ဟိန္ဒူတလှည့်၊ မဂိုတလှည့် အုပ်စိုးခဲ့ကြသော အိန္ဒိယပြည်တွင် ခေတ်ကာလအမျိုးမျိုး တို့ကြောင့်၊ အယူ ဝါဒများလည်း အကြား-အကြား၌ ပြောင်းလွှဲခဲ့ကြလေသည်။

အာသံပြည်နယ်ငယ်သည်လည်း ထိုပင်မအိန္ဒိယ နိုင်ငံကြီး၏ အခြေ အနေကို မလွန်ဆန်နိုင်ခဲ့သဖြင့်၊ဟိန္ဒူလက်အောက်သို့ လုံးဝ ရောက်ခဲ့ရလော အချိန်မှစ၍၊ အာသံ မြေပြန့် နယ်တွင် အများအပြားနေထိုင်ကြသော ဗုဒ္ဓဘာသာဝင် အဟုံရှမ်းတို့မှာ၊ ဟိန္ဒူ ဘာသာဝင်များအဖြစ်သို့လည်း ဆိုက်ရောက်ခဲ့ကြတော့သည်။

အာသံပြည် တောင်ကုန်း များတွင်၊ နေထိုင်သည့် အက်ဥန်းရှမ်း၊ ခန္တီးရှမ်းတို့မှာကား၊ ဗုဒ္ဓဘာသာ အယူဝါဒများကို မပျောက်ပျက်ရုံမျှလောက်သာ ထိမ်းသိမ်းနိုင်ခဲ့ကြ သော်လည်း၊ ဘာသာရေးနှင့် လူမျိုးရေးနှစ်ရပ်လုံးမှာပင် မထင်ရှားကြတော့ပေ။

### မဟာ ဗန္ဓုလ အဆက် အနွယ်များ

မြန်မာပြည်နှင့် သာသနာရေးအားဖြင့် ပြန်လည် အဆက်အသွယ်ရခဲ့သော အချိန်အခါကား၊ ၁၈၁၈–ခု၊ နှစ်ဆီက၊မဟာဗန္ဓုလစစ်သူကြီးသည်၊မဏိပူရနှင့်အာသံပြည်သို့ ချီတက် ခဲ့စဉ် ပါသွား ကြသည့်ဗိုလ်ပါတော်များ အာသံ ပြည်နယ် အနှံ့အပြားတွင် အိုးအိမ်ထူထောင်ခါကျန်ရစ်ခဲ့ကြသောအချိန်ပင်ဖြစ်တော့သည်။

အာသံပြည် ဂါဒ္ဒတီနယ်တွင်၊ မဟာဗန္ဓုလ၏ စစ်သည် အနွယ်တော် တို့သည်၊ ယခုထက်တိုင် ရွာအည်၍ မြန်မာ အမည်ဖြင့် သီးသန့်နေထိုင်လျက် ရှိကြပေသေးသည်။

လွန်ခဲ့သော နှစ်ပေါင်း -၅၀- ကျော်ဆီက အဆိုပါ ဗန္ဓုလ စစ်သည်တော်အဆက် အနွယ်တို့ ရှိရာသို့၊ မြစ်ကြီးနားနယ်မှ ပရင်းတွင်း ဆရာတော် ဘုရားကြီးသည်၊ ဟူကောင်း တောင်ကြားလမ်း ဖြင့်ကြွရောက်ကာ၊ ဗုဒ္ဓဘာသာ ယဉ်ကျေးမှုတရားမြတ်ကြီး တိမ်ကော၍ မသွားနိုင်ရန် အားထုတ် တော်မူခဲ့ လေရာ၊ ယခင် က ဗုဒ္ဓ ဘာသာ ဖြစ်ခဲ့ကြသော အက်ဥန်းရှမ်း– ခန္တီးရှမ်းတို့နှင့် ပေါင်းဆုံ မိကြကာ၊ ဗုဒ္ဓဘာသာ ရဟန်းတော်ပေါင်း ၆၀–ကျော် အထိ တိုးတက်၍ လာခဲ့ပေသည်။

သို့သော် မြန်မာပြည်မှ နောက်ခံအင်အား ဖြည့်ဘင်းမှုများကို မရရှိခဲ့ခြင်းကြောင့် တိုးတက်သင့် သလောက် တိုးတက်ခွင့် မရခဲ့ပေ။

### သာသနာပြုစုရေးအတွက်

ဗုဒ္ဓဘာသာ ရဟန်းတော် များမှာ၊ တောတောင် ချောက်ကမ်းများ တွင် ပျောက်ကြား သီတင်းသုံးကာ၊ ဗုဒ္ဓသာသနာ တော်ကြီးကို ငွမ်းအား၍သျှ ပြုစုပျိုးထောင်၍ နေကြ ရသည့် အတွင်း၊ ဒုတိယ ကမ္ဘာစစ်ကြီး အတွင်း၌ စစ်ပြေးအိုးရတို့၏ ဖမ်းဆီး ချုပ်နှောင် စစ်ဆေးခြင်း များကို ခံလိုက် ကြရသဖြင့်၊ စိတ်ဓါတ် ပျက်ပြားကာ၊ သာသနာပြု စိတ်ဓါတ် အင်အား လျော့ပါး ဆုတ်ယုတ်ရလေတော့သည်၊ ဤကဲ့သို့ သာသနာကြီး အခြေပျက်စ ပြုသည်ကို တွေ့မြင်ရသောကြောင့် စိုးရိမ်တော် မူရှာသော မူလ သာသနာပြု ပရင်းတွင်း ဆရာတော်ဘုရား၏ အဆက်အနွယ်ဖြစ်သော အာသံ ပြည်သား၊ ဦးသီလဝံသ ဆရာတော်သည်၊ တမူးလမ်းမှ မြန်မာပြည်သို့ ကြွရောက်လာပြီးလျှင် ပြည်ထောင်စု မြန်မာနိုင်ငံတော်၊ ဂိုဏ်းပေါင်းစုံ မဟာသံဃအဖွဲ့ချုပ်ကြီးနှင့် ဗုဒ္ဓဘာသာ အဖွဲ့ချုပ်ကြီးတို့ပူးပေါင်း တည်ထောင် အပ်သော တောင်တန်း သာသနာပြု အဖွဲ့ကြီးသို့ကြွရောက်ကာ၊ ဥက္ကဋ္ဌကြီး သတိုး သီရိသုဓမ္မ ဆာဦး သွင်အား ဗုဒ္ဓ သာသနာ တော်လွန်စွာထွန်းကား ခဲ့ပြီးမှ ဆုတ်ယုတ်ခဲ့ရပုံ၊ တဖန် ပြန်လည်ထွန်းကားရန် အားထုတ်ဆဲတွင် ဒုတိယကမ္ဘာစစ်ကြီးကြောင့် ပြန်လည် ဆုတ်ယုတ်ရပုံများကို မိန့်ကြားကာ အာသံပြည်သို့ သာသနာပြုစေလွှတ်သော အားဖြင့် အကူအညီ ပေးပါရန် မေတ္တာရပ်ခံခဲ့လေသည်။

### ဆမားဂူးဝါး ဆင်ဝါး နေ့ဥင်

ဥက္ကဋ္ဌကြီး ဆာဦးသွင်ကလည်း သာသနာတော် အတွက် ငိုးရိမ်တော် မမူပါနှင့် အားပေးဘို့ရန် တပည့်တော် များ တာဝန်ရှိပါစေ––စသည်ဖြင့် အားပေး စကား လျှောက် ကြားကာ ထိုက်စွ အ



အာသံပြည်ဗန္ဓုလစစ်သည်တော်ရွာရှိ မြန်မာအမျိုးသမီး အမျိုးသားများသည် ဗုဒ္ဓသာသနာတော်ကို ဤသို့ကြိုဆိုကြလေသည်။



မြန်မာပြည်မှ ရှာခါန်းလိုက်သော ရုပ်ပွားတော်များနှင့် အရှုဝတ္တုများကို ဗြဟ္မပုတ္တရမြစ်အတွင်း၌ ကရဝိတ် ပေါင်တော်ဖြင့် တင်ဆောင်ခဲ့စဉ်။

တွက် ဝန်ခံလိုက် လေသည်၊ ဦးသီလဝံသ ဆရာ တော်လည်း ငါ၏ကြိုးပမ်း ချက်များ အောင်မြင် မည့်လမ်းသို့ ရောက်ရှိလေပြီဟု ဝမ်းမြောက် အားတက်ကာ အာသံပြည်နှင့် ဆက်စပ် လျက်ရှိသည့် (ထိုစဉ်အခါ ကပြည်နယ် ဝန်ကြီးဟုဦး ဖြစ်သော) ဆမားဒူး ဝါးဆင် ဝ ႏ နောင်နှင့် တိုင်ပင်ဆွေးနွေးကာ လုံ့အပ်သည့် အရာများကို ပါတော်ပြု၍ ဆင်ဝါ နောင်၏ထောက်ခံချက်များ နှင့်တကွ အာသံ သာသနာ ပြုလုပ်ငန်းအတွက် တောင်တန်း သာသနာပြုအဖွဲ့ကြီးသို့ ဒုတိယ အကြိမ် မေတ္တာရပ်ခံလွှာ ပေးပို့ တော်မူပြန် လေသည်။

**မင်္ဂလာအကြိမ်**

ဦးသီလဝံသ ဆရာတော်၏ အသေးစိတ်တောင်းခံသောစာမှုတွင်—

(၁) အာသံပြည်သို့ ဗုဒ္ဓရုပ်ပွားတော်များနှင့် ပိဋကတ်တော်များပါဝင်သည့် သင်္ကန်း ပရိက္ခရာများလှူဒါန်းရန်။

(၂) သာသနာပြုဆရာတော်များကို ပို့ဆောင်၍ ဗုဒ္ဓဘာသာ စာပေကို သင်ကြားစေကာ ဗုဒ္ဓသာသနာကိုကျနစွာတည်ထောင်ပေးပါရန်။

(၃) ဗဟိုရုံဌာနတွင် ဗုဒ္ဓသာသနာ အဆောက်အဦကြီး တခုနှင့် စေတီ တဆူကို တည်ဆောက်ပေးပါရန်။

အစရှိသည်တို့ဖြစ်ပါသည်။

အဆိုပါမေတ္တာရပ်ခံချက်တို့ကို ဥက္ကဋ္ဌကြီး ဆာဦးသွင်နှင့်၊ ဒုတိယ ဥက္ကဋ္ဌ တရားလွှတ်တော် တရားဝန်ကြီးချုပ် (ယခု တရား လွှတ်တော်ချုပ်– တရား ဝန်ကြီးချုပ်) ဦးသိန်းမောင်အစရှိသည့် သာသနာပြုလုပ်ငန်းရပ်ကြီးတွင် ရှေ့တန်းကပါဝင်အားပေးလျက်ရှိကြသည့်အဖွဲ့ချုပ် အမှုဆောင် လူကြီးများက အာသံပြည်နှင့်တကွ အနောက်မဇ္ဈိမတိုင်း တခုလုံးသို့ ဗုဒ္ဓယဉ်ကျေးမှု တရားတော်မြတ်ကြီး ပြန်လည်ထွန်းကားစိမ့်မည် ဟူသော ရည်သန်ရင်းများဖြင့် အားပေးဆောင်ရွက် ရန်ကို သဘောတူညီကြလေသည်။

အာသံပြည်၏သာသနာရေး အခြေခံကို လေ့လာစုံစမ်းရန် အာသံဦးပညာဝံသ၊ ဦးသီလဝံသ ဆရာတော်များနှင့် ရွှေပြည်တော် ဦးဘတင်တို့အားရဟန်းတော်ဘက်ဆိုင်ရာ ဥက္ကဋ္ဌ လာသာနာလင်္ကာရ ဆရာတော်ဘုရားကြီးနှင့် ဒါယကာဘက်ဆိုင်ရာဥက္ကဋ္ဌကြီးဆာဦးသွင်၊ရဟန်းတော်ဘက် ဆိုင်ရာ အကျိုးဆောင် ဦးဇာဂရ လူ့ဘက် ဆိုင်ရာ အကျိုးတော်ဆောင် ဦးလှသိန်း ''ဘီအေ-ဘီအယ်'' တို့က ပဌမအကြိမ်စေလွှတ်ခဲ့ပေသည်။

**မြန်မာ့အနုပညာ**

အာသံပြည်တွင် မြို့နယ်ဘိုင်းမှ ကိုယ်စားလည်များပါဝင်သည့် ဗုဒ္ဓဘာသာအဖွဲ့ကြီးဖွဲ့စည်းကာ၊ အဖွဲ့ကြီးဝင် ၃၄-ဦးတို့အား အလှူပစ္စည်း စာရင်းအင်းများနှင့်တကွ အပ်နှင်း၍ ၎င်းတို့သဘောအတိုင်း နှစ်ချိုက်ရာမြို့နယ်ဒေသအချိန်ရက်လပိုင်းကို ရွေးချယ်ကာ လှူဒါန်းစေပါသည်၊အဆိုပါစည်းဝေးပွဲသို့ မြစ်ကြီးနားအရေးပိုင် ဦးသန်းနှင့်ရာဇဝတ်ဝန် ဦးလှဘူးတို့ကိုလည်း အာသံ နယ်ခြားမင်းကြီး



**မြန်မာပြည်မှလှူဒါန်းလိုက်သည့်ရုပ်ပွါးတော်နှင့်ပစ္စည်းများကို မဏ္ဍပ်မျက်နှာစာတိုင်းတွင် ဤသို့ ဆင်ယင် ခင်းကျင်းထား၏။**

မှတဆင့် ဘိတ်ကြားလိုက်သည့် အတိုင်း ရောက် လါကြသည့်အားလျော်စွာ အထက်ပါအတိုင်းမချော်လင့်သော အောင်မြင်မှုမျိုးကိုမျက်မြင်ကြုံတွေ့၍သွားကြရပါသည် ၎င်းတို့ထံမှလည်း အစီရင်ခံစာရေးသည်ဟု သိရပါသည်။

အထက်အောက် အာသံပြည်နယ်အနှံ့အပြားတို့မှ မီးရထား၊မော်တော်ကား လှေ၊သင်္ဘောတို့ဖြင့်အလွယ်တကူရောက်လာနိုင်သည့် မာကရေတာမြို့တွင်အလှူဌာနရွေး၍ ၁၃၁၅-ခု၊ ကဆုန်လပြည့်ကျော် ၆-ရက် နေ့ကို သတ်မှတ်ကြပါသည်။အလှူပွဲဥက္ကဋ္ဌအဖြစ်အာသံပြည်နယ်အစိုးရ၏ ဝန်ကြီးချုပ် ကိုယ်တိုင်ဆောင်ရွက်ရန်စီစဉ်ပြီးဖြစ်သော်လည်း မကျန်းမာသဖြင့်တောင်တန်းမင်းကြီးကဆောင်ရွက်ပါသည်။ အလှူမဏ္ဍပ်ဖြင့်လည်း မြန်မာ့ ပံသုကါအနုလက်ရာကိုဘော်ပြခဲ့ပါသည်။

**ပဉ္စင်းခံပွဲတော်**

သင်္ကန်း ထီးဘိနပ် ပဒေသာများနှင့် ဗုဒ္ဓရုပ်ပွားတော် ကျောက်သားဆင်းတုများမှာ ရွှေထီးများ အုပ်ဆောင်းကာ စင်မြင့်တွင် ပလ္လင်ဆင်၍အပူဇော်ကိုခံယူ

စေရာ အရပ်လေးမျက်နှာတို့မှရောက်လာဖူးမျှော်ရသူတိုင်းတို့၌ အတိုင်းမသိကြည်ညိုဘွယ်ကိုဆောင်လျက်ရှိပါတော့သည်။ အလှူ ပဒေသာ လှည့်ရာတွင်လည်း လူပေါင်းတသောင်းကျော်ခန့် ပါဝင်ရာ မိုးရွာရွာတွင် ပြောမှဘ် ဖြစ်လောက်သည့် ဇွဲမျိုးဖြင့် ထီးများကိုင်ဆောင်ရင်း လိုက်ပါကြသည်။ထိုအခမ်းအနားကိုအမေရိကံစသော သတင်းဖြန့်ဖြူးရေး အဖွဲ့များမှလည်း ဓါတ်ပုံများ ရိုက်ကူးကြသည်ကို တွေ့ရပါသည်။စတုဒ္ဒသီ ဖွဲ့ကမ္မဝါစာဖြင့် ကံဆောင်ရာမင်္ဂလာ သိမ်တော်မှာမာကရေတာမြို့တွင်းသို့ ဖြတ်သန်းစီးဆင်းလျက်ရှိသည့်ဗြဟ္မပုတ္တရ မြစ်လယ်တွင် ပူးတွဲပါ ဓါတ်ပုံပါအတိုင်း ကရင်တိုက်ခဲ့သော ဖေါင်ယဉ်ပုံတွင် ပြဿဒ်တင်၍လည်းကောင်း၊ ရွှေထီးများအုပ်ဆောင်း၍၎င်း၊ ဥပသမ္ပဒပဗ္ဗဇ္ဇမင်္ဂလာကြီးကိုတခမ်း တနားဆောင်ရွက်နိုင်ခဲ့ပါသည်။ ၄၀ ကျော်မျှသော သံဃာတော်များ၏ ကမ္မဝါဘတ်ရွတ်သံတို့ကို ရေသိမ်ပေါ်မှနေ၍ အသံချဲ့စက်လွှင့်ထားရာ လှူပေါင်း မြောက်မြားစွာတို့မှာ ကမ်းညွတ်အောင် ဝမ်းပန်း တသာ



**အာသံပြည် ကောင်တန်းသာသနာပြုအဖွဲ့မှ ကြီးမှူး ကျင်းပသော ရှင်ပြုပွဲမှ ရှင်လောင်းများကို ဤသို့တွေ့မြင်ရလေသည်။**

ကြငနာကြပါသည်။ သိမ်ဆင်းသိမ်တက် အခမ်းအနား များကိုလည်း မြန်မာပြည်မှာကဲ့သို့ ပန်းဇရောင်းတိုင်များ လေဘေး လှူသည့်ထုံးနည်းကိုညွှန်ပြခဲ့ပါသည်။

အထူးအားဖြင့် သာသနာရေးဌာနမှ ဒုတိယ ညွှန်ကြားရေးဝန် ရွှေပြည်တော် ဦးဘတင်၏ ဆောင်ရွက်ပေးချက် အရ၊ အာသံပြည် အလှူပွဲကြီးတွင် သင်းကြန်ရေသဘင်၊ ကဆုန် ညောင်ရေသွန်းပွဲတော်၊ ကမ္ဘာအေးစေတီတော် ထီးတင် ရုပ်ရှင်ကားများကို တင်ပြနိုင်ခဲ့သဖြင့် ဗုဒ္ဓဘာသာဝင်ဘိုင်းကအားတက်ဝမ်းမြောက်ကြသည် သာမက ဘာသာ ပေါင်းစုံ လူမျိုးပေါင်းစုံတို့ကလည်း မြန်မာ လူမျိုးတို့၏ ဝတ်စား သွားလာနေပုံမှ စ၍ ယဉ်ကျေးမှုရာများကိုတွေ့မြင်ရသဖြင့် ချီးကျူးကြပါသည်။

**ခေတနာတိုးတက်လာပုံ**

မြန်မာပြည်တွင် ကုန်သည် လယ်လုပ်နှင့် သူဌေး သူကြွယ် ဝန်ထမ်း ဝန်ကြီးအသီးသီးတို့မှစ၍ နိုင်ငံတော်သမတအထိ အချိန်ရှိသမျှ ဗုဒ္ဓ ဓမ္မ-သံဃ ကိစ္စရပ်များအတွက် ဆောင်ရွက်သွား လာ အားထုတ်နေကြောင်းများကို လက်တွေ့ မြင်ရသည့်အချိန်တွင်ဒါကြောင့်မြန်မာပြည်ကိုပထမတန်း ဗုဒ္ဓဘာသာ နိုင်ငံတခုလို့ ခေါ်ဆိုခြင်းဖြစ်ကြတာဘဲဟု အရိုး အဆစ်မှ စ၍ သဘောပေါက်သွားကြပါသည်။

အထူးအားဖြင့်နိုင်ငံတော်သမတကြီးနှင့်ဝန်ကြီးချုပ်တို့ကိုအစပြု၍ဗုဒ္ဓသာသနာအဖွဲ့၊ ဗုဒ္ဓ ဘာသာအဖွဲ့၊ တောင်တန်းသာသနာပြုအဖွဲ့ချုပ်ကြီးတို့၏ ဥက္ကဋ္ဌကြီးများ အမှုဆောင် လူကြီးများနှင့် အကျိုးဆောင် လူကြီးများ ကိုလည်း ကမ္ဘာအေးစေတီ ထီးတော်တင် ရုပ်ရှင် ဖလင်ကားတွင်–တွေ့မြင်သွား ကြသဖြင့်–အလွန်ဝမ်းသာစွာ ဆုတောင်း မင်္ဂလာပြုလိုက်ကြပါသည်။ အာသံပြည် ဗုဒ္ဓဘာသာ အလှူကြီးတွင် သာမဏေ (၇) ပါးပြု၍–ရဟန်း (၉) ပါးတက်ရောက် နိုင်ခဲ့သဖြင့်–တပြိုင်နက်–ရဟန်း သံဃာဦးရေ (၁၀) ပါးမျှ တိုးမြင့်၍ သွားပါသည်။

**ဆဋ္ဌသံဂါယနာ တင်ပွဲသို့**

အာသံပြည်တွင် သာသနာရေး ဘာသာရေး စိတ်ဓါတ် များတက်ကြွ၍ လာစေရန် ဆောင်ရွက်ရမည့် ဗဟိုဌာနတွင် အဆောက် အဦတခု ထူးထောင် ပေးရန် ဘောင်း ပန်ချက် အပိုဒ်–၃–ကို နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီး ကလည်း စာအမှတ်၊ န-ဗု–သ–က–၁ ၁၉၅၂ ခု စက်တင်ဘာလ-၁၆– ရက်နေ့စွဲ ပါမြန်ကြား စာဖြင့် ကတိထားခဲ့ဘူး ပါသည်၊ အထူး အားဖြင့် မြန်မာပြည်တွင် ၁၃၁၅ ခုနှစ်မှစ၍–၀–ခုနှစ်အထိ ဗုဒ္ဓသာသနာအဖွဲ့ကြီး မှ ဦးစီးစတင် ဆောင်ရွက်မည့် ဆဋ္ဌသံဂါယနာ တင်ပွဲကြီးသို့ တက်ရောက်နာယူလိုကြ၍ တက်ရောက်နိုင်ခွင့်ကိုလည်း သက်ဆိုင်ရာသို့ ဆောင်ရွက်ပေးရန် တောင်းပန် လိုက်ကြပါသည်။ ထိုကဲ့သို့စိတ်ထား ရှိလာကြခြင်း များသည် ဤအဖွဲ့ကြီးမှ စေတနာ သဒ္ဓါတရား–အင်အားထုဖြင့် အာသံပြည်သို့ တကြိမ်–နှစ်

စာမျက်နှာ ၁၆ သို့ဆက်ကြည့်ပါ။


သုတ်မဟာဝါ ပါဠိပဋိဝိသောဓကအဖွဲ့

## မဇ္ဈိမ၊သံယုတ္တ၊အင်္ဂုတ္တရနိကာယ်
# ပါဠိပဋိဝိသောဓက ဆရာတော်များ

အက္ခရာပျက်
ယွင်းသွေကွက်
အနက်ချွတ်တိမ်းရာ
အနက်မမှန်
ကျင့်ပေါက်ပြန်
နိဗ္ဗာန်မရောက်ရာ
(ရှေးဆရာကြီးများ)

## ကျမ်းအမှတ်စဉ်(၉)မူလပဏ္ဏာသ

### မန္တလေးမြို့ အနောက်ပြင် မစိုးရိမ် ပါဠိဝိသောဓက အဖွဲ့ (၁)

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးကောသလ္လ | ၄၀ | ပရိယတ္တိဓမ္မာစရိယ | ဂန္ဓရုံကျောင်း | မန္တလေး |
| ၂ | ဦးစာရိန္ဒ | ၂၀ | 〃 | ပိဋက နယပဒေသ | 〃 |
| ၃ | ဦးဝိစိတ္တ | ၂၉ | 〃 | အာဂမ နယပဒေသ | 〃 |
| ၄ | ဦးကုသလ | ၂၀ | 〃 | သဒ္ဓမ္မ နယပဒေသ | 〃 |
| ၅ | ဦးကောသလ္လ | ၁၅ | သာသနဓဇဓမ္မာစရိယ | ဂန္ဓရုံ နယပဒေသ | 〃 |
| ၆ | ဦးဉာဏောဘာသ | ၁၄ | 〃 | သာသန နယပဒေသ | 〃 |
| ၇ | ဦးအင်္ဂုရ | ၁၁ | စေတီယင်္ဂဏဓမ္မာစရိယ | ဂန္ဓရုံ နယပဒေသ | 〃 |

### မန္တလေးမြို့ အနောက်ပြင် မစိုးရိမ် ပါဠိဝိသောဓက အဖွဲ့ (၂)

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးဝိသုဒ္ဓ | ၃၀ | ပရိယတ္တိဓမ္မာစရိယ | ပါဠိ နယပဒေသ | မန္တမကြီး |
| ၂ | ဦးစန္ဒောဘာသ | ၃၀ | 〃 | ပရိယတ္တိ နယပဒေသ | 〃 |
| ၃ | ဦးဉာဏဝံသ | ၃၆ | မူလဓမ္မာစရိယ | ဝိနယ နယပဒေသ | 〃 |
| ၄ | ဦးဉာဏောဘာသ | ၂၄ | ပရိယတ္တိဓမ္မာစရိယ | အဘိဓမ္မ နယပဒေသ | 〃 |
| ၅ | ဦးနာရဒ | | 〃 | မဂ္ဂဇ နယပဒေသ | 〃 |
| ၆ | ဦးသိရိန္ဒ | ၁၀ | စေတီယင်္ဂဏဓမ္မာစရိယ | ပဋ္ဌာန နယပဒေသ | 〃 |
| ၇ | ဦးဇဝနတိက္ခ | ၁၀ | 〃 | ပရိယတ္တိ နယပဒေသ | 〃 |

## ကျမ်းအမှတ်စဉ်(၁၀)မဇ္ဈိမ ပဏ္ဏာသ

### မန္တလေးမြို့ အနောက်ပြင် ဝေယံဘုံသာ ပါဠိဝိသောဓက အဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးတေဇ | ၃၃ | ပရိယတ္တိဓမ္မာစရိယ | ဖေါင်တော်ဦး | မန္တလေး |
| ၂ | ဦးကလျာဏ | ၂၉ | 〃 | 〃 | 〃 |
| ၃ | ဦးဝေပုလ္လ | ၁၅ | သာသနဓဇသိရီပဝရ | 〃 | 〃 |
| ၄ | ဦးသုမန | ၇ | 〃 | 〃 | 〃 |
| ၅ | ဦးကေသရမော့ဠိ | ၁၁ | 〃 | ငွေတောင်တိုက် | 〃 |


သုတ်ပါထေယျပါဠိပဋိဝိသောဓကအဖွဲ့


မြန်မာပဋိဝိသောဓကအဖွဲ့

## ကျမ်းအမှတ်စဉ်(၁၁)ဥပရိပဏ္ဏာသ

### မန္တလေးမြို့ အရှေ့ပြင် ပါဠိဝိသောဓက အဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးကေသရ | ၂၉ | မူလမွှာစရိယ | ခင်မကန် | မန္တလေး |
| ၂ | ဦးဇူမြယ | ၂၈ | ။ | ဇုဗ္ဗိယာရာမ | ။ |
| ၃ | ဦးပဏ္ဍဝံသ | ၁၆ | သာသနဓဇမွှာစရိယ | ။ | ။ |
| ၄ | ဦးကေသရရာဇာ | ၁၆ | ။ | ။ | ။ |
| ၅ | ဦးဝိသုတဝရ | ၁၅ | ။ | ။ | ။ |
| ၆ | ဦးမေဂီယဓဇ | ၁၁ | ။ | မဟာဝိဇယမင်္ဂလာရာမ | ။ |
| ၇ | ဦးပညာဇောတ | ၂၃ | ။ | လယ်ပြင်တိုက် | ။ |

## ကျမ်းအမှတ်စဉ်(၁၂)သဂါထာဝဂ္ဂနှင့် နိဒါနဝဂ္ဂ

### မန္တလေးမြို့ အနောက်ပြင် ဝိသုဒ္ဓါရုံ ပါဠိဝိသောဓကအဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးဥာဏဝံသ | ၄၁ | ပရိယတ္တိမွှာစရိယ | ဝိသုဒ္ဓါရုံ | မန္တလေး |
| ၂ | ဦးဇာနေယျဖုဒ္ဓိ | ၃၁ | သာသနဓဇမွှာစရိယ | ။ | ။ |
| ၃ | ဦးသုဝဏ္ဏဇောတိ | ၃၁ | ပရိယတ္တိမွှာစရိယ | ။ | ။ |
| ၄ | ဦးအာနန္ဒပဏ္ဍိတ | ၂၉ | ။ | ။ | ။ |
| ၅ | ဦးဆါသဝါဘိဝံသ | ၂၅ | ။ | ။ | ။ |
| ၆ | ဦးဝဏ္ဏိတ | ၁၉ | စေတီယင်္ဂဏမွှာစရိယ | ။ | ။ |
| ၇ | ဦးကေသရိန္ဒ | ၁၇ | ပရိယတ္တိမွှာစရိယ | ။ | ။ |
| ၈ | ဦးသုစိတ္တ | ၁၄ | ။ | ။ | ။ |
| ၉ | ဦးပရမ | ၁၁ | ။ | ။ | ။ |
| ၁၀ | ဦးကေသဝပဏ္ဍိတ | | ။ | ။ | ။ |

## ကျမ်းအမှတ်စဉ်(၁၃)ခန္ဓဝဂ္ဂနှင့် သဠာယတနဝဂ္ဂ

### မန္တလေးမြို့ အနောက်ပြင် ဝိဋ္ဌာလက်ာရ ပါဠိဝိသောဓကအဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးသုန္ဒရ | ၃၅ | မူလမွှာစရိယ | ရတနာပုံသာသနာ့ရိပ်သာ | မန္တလေး |
| ၂ | ဦးပဒုမ | ၃၃ | ။ | အဘယာရာမ | ။ |
| ၃ | ဦးပုည | ၃၃ | ။ | မဟာကာရုံတိုက် | ။ |
| ၄ | ဦးဝိသုဒ္ဓ | ၂၉ | ပရိယတ္တိမွှာစရိယ | ။ | ။ |
| ၅ | ဦးနရပတိ | ၂၁ | သာသနဓဇမွှာစရိယ | ။ | ။ |
| ၆ | ဦးတန္တိသုရဥာဏ | ၁၁ | ။ | ။ | ။ |
| ၇ | ဦးဝဏ္ဏ | | ။ | ဆင်တိုက်ကျောင်း | ။ |
| ၈ | ဦးအဇ္ဈရိယ | | ။ | ရွှေဘုန်းဝင်တိုက် | ။ |
| ၉ | ဦးဝဏ္ဏိတ | | ။ | တောင်ခရားပင်တိုက် | ။ |

## ကျမ်းအမှတ်စဉ်(၁၄)မဟာဝဂ္ဂသံယုတ်

### မန္တလေးမြို့ အနောက်ပြင် ပတ္တမြား အရှေ့ဝိသုဒ္ဓါရုံ ပါဠိဝိသောဓကအဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးဇာဂရ | ၅၁ | အဂ္ဂမဟာပဏ္ဍိတ | ပတ္တမြားတိုက် | မန္တလေး |
| ၂ | ဦးဝါသန | ၃၃ | မူလမွှာစရိယ | ဝိဇိတာရုံတိုက် | ။ |
| ၃ | ဦးဥာဏဝံသ | ၃၁ | ။ | အရှေ့ဝိသုဒ္ဓါရုံ | ။ |
| ၄ | ဦးဝေပုလ္လ | ၁၆ | သာသနဓဇမွှာစရိယ | ပတ္တမြားတိုက် | ။ |
| ၅ | ဦးအဂ္ဂမွှာဘိဝံသ | ၁၀ | ။ | အရှေ့ဝိသုဒ္ဓါရုံ | ။ |

## ကျမ်းအမှတ်စဉ်(၁၅)အင်္ဂုတ္တိုရ်(ပထမတွဲ)

### မန္တလေးမြို့ ခင်မကန် ပါဠိဝိသောဓက အဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးနန္ဒိမာ | ၄၉ | အဂ္ဂမဟာပဏ္ဍိတ | ခင်မကန် | မန္တလေး |
| ၂ | ဦးနန္ဒမေဓ | ၃၁ | မူလမွှာစရိယ | ချမ်းသာကြီး | ။ |
| ၃ | ဦးပညာ | ၂၈ | ။ | ခင်မကန် | ။ |
| ၄ | ဦးပဏ္ဍဝ | ၂၄ | ။ | ။ | ။ |
| ၅ | ဦးအာသဘ | ၁၄ | ။ | ။ | ။ |
| ၆ | ဦးတေဇ | ၂၄ | သာသနဓဇမွှာစရိယ | ။ | ။ |
| ၇ | ဦးတေဇောဘာသ | ၁၈ | ။ | မိုးတား | ။ |
| ၈ | ဦးဝါသဝ | ၁၅ | ။ | ကျောက်ဆောင် | ။ |
| ၉ | ဦးသောဘိတ | ၁၀ | ပရိယတ္တိမွှာစရိယ | ချမ်းသာကြီး | ။ |
| ၁၀ | ဦးကေလာသ | ၁၃ | ။ | ဈေးချို | ။ |
| ၁၁ | ဦးမွှာလင်္ကာရ | ၁၃ | ။ | ။ | ။ |
| ၁၂ | ဦးနာရဒါဘိဝံသ | ၃၁ | မူလမွှာစရိယ | ခင်မကန် | ။ |
| ၁၃ | ဦးပရမ | ၂၆ | ။ | ချမ်းသာကြီး | ။ |
| ၁၄ | ဦးတေဇိန္ဒ | ၂၅ | ။ | ။ | ။ |
| ၁၅ | ဦးသုဇာတ | | ။ | ခင်မကန် | ။ |
| ၁၆ | ဦးကဝိန္ဒာဘိဝံသ | ၃၂ | ။ | ချမ်းသာကြီး | ။ |

# မြင်းခြံမြို့ သာသနာ့ဟိတအသင်း

## နေ့အလိုက်ဆွမ်းလောင်းသင်း ၇ သင်း

### မူလ-ဘူတ

မြင်းခြံမြို့သာသန ဟိတ အသင်းကို လွန်ခဲ့သော နှစ်ပေါင်း ၃၀ကျော်လောက်က ဘုရား တကာကြီး ဘကြီးမြင်၊ ဘကြီးသန့်၊ ဘကြီးဆင်တို့ ကြီးမှူး ပြုလုပ်ခဲ့၏၊ ၁၉၃၈ ခုနှစ် တွင်၊ မန္တလေးတိုင်း မင်းကြီး ဦးချစ်ဆွေ ကိုယ်တိုင် မြင်းခြံမြို့သို့ ကြွရောက်၍ အဆိုပါ ပုဂ္ဂိုလ်ကြီးတို့မှာ အသက်အရွယ် ကြီးရင့်ကြသဖြင့် လူလတ်လူရွယ်တို့အား ၎င်းတို့၏ ကိုယ်စား ဆောင်ရွက်ပါရန် လွှဲအပ်ပေးခဲ့ပါသည်၊

ဤအသင်းကြီး၏ စည်းမျဉ်း ဥပဒေများမှာ အချုပ်အားဖြင့် ဖေါ်ပြရသော် (၁)ပရိယတ္တိ သာသနာ (၂) ပဋိပတ္တိ သာသနာ (၃) ပဋိဝေဓ သာသနာ-ပေါင်း(၃) ရပ်သော သာသနာကို အစွမ်းကုန် အားပေးရန်ဖြစ်သည်၊

ထို့ပြင်၊ လူငယ်များအား အကျင့်စာရိတ္တ ကောင်းမွန်ရန်နှင့် ဘာသာ တရားခိုင်မြဲစေရန် မင်္ဂလာ စာမေး ပွဲများ ပြုလုပ်ပြီး နှစ်စဉ်ဆုနှင်း သဘင်ကြီးကိုခမ်းနားသိုက်မြိုက်စွာ ကျင်းပခဲ့လေသည်၊ ရှေ့သို့လည်းကျင်းပမည်ဖြစ်၏။

### စာမေးပွဲများ

(၁) မြင်းခြံမြို့သာသနာ့ဟိတ အသင်းကြီးက ကြီးမှူး ဆောင်ရွက်သော မင်္ဂလာ စာမေးပွဲမှာ– စာမရေးတတ် စာမဘတ်တတ်သေးသော ကလေးသူငယ်များအားနှုတ်မေး နှုတ်ဖြေ စာမေးပွဲ ပြုလုပ်ပေးသည်။

(၂) မင်္ဂလာ စာမေးပွဲ ဆိုသော်လည်း မင်္ဂလာ မေးခွန်းတဝက် ဗုဒ္ဓဘာသာ သင်္ချိုဟ်စာ တဝက် မေး၍ အမှတ် ထက်ဝက်စီရမှ အအောင်ပေးသည်၊

(၃) အမှတ် ၁၀၀ လျှင် ၇၅ မှတ်ရသူကို ပဌမပိုင်း၊ အမှတ် ၆၀ နှင့် ၇၅ ရသူကို ဒုတိယပိုင်း၊ ၄၀ နှင့် ၅၀ ကြားကို တတိယ ပိုင်းက အောင်သည်ဟူ၍ အောင်စာရင်းတွင် သီးခြားဖေါ်ပြပါသည်။

### ဒိုင်းဆု၏ အရှု ဒါယကာ

(၁) ရေးဖြေ စာမေးပွဲ အောင်ချက် အကောင်းဆုံး ကျောင်း ဒိုင်းဆုမှာ ၁၂၅ိ တန်သည့် မြတ်စွာဘုရားအား နတ်သားက–မင်္ဂလာတရားဟောကြားပါရန် တောင်းပန် လျှောက်ထားသည့် ပုံဖြစ်၏။ ၎င်းဆုကို မြင်းခြံမြို့ 'သာသနာ့ဟိတ အသင်း ငွေထိမ်း လူကြီး ဦးဘကျော် ဇနီး ဒေါ်ဖွား နှင့် သား သမီးများက ချီးမြှင့်သည်၊

(၂) နှုတ်ဖြေ စာမေးပွဲ အောင် ချက် အကောင်း ဆုံး ကျောင်းဒိုင်းဆုမှာ ၇၅ိတန် ငွေထည်။ မြတ်စွာဘုရားအား နတ်သားက မင်္ဂလာ တရား ဟောကြားရန် တောင်းပန်နေပုံ ဖြစ်၏။ ၎င်းဆုကိုသာသနာ့ဟိတ အသင်း တွဲဘက် စာရင်းစစ် လူကြီး ပင်းငံစား ဦးဘမောင် ဇနီး ဒေါ်အုံးနှင့် သားများက ချီးမြှင့်သည်။

ပြီးခဲ့သောနှစ်က နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီးက ကြီးမှူးကျင်းပသော အဘိဓမ္မာ စာမေးပွဲကြီးကိုလည်း မြင်းခြံမြို့သာသနာ့ ဟိတအသင်းကပင် ကြီးကြပ်အုပ်ချုပ်၍ မြန်မာပြည် တနိုင်ငံလုံး တွင် ပဌမဆင့်၊ ဒုတိယဆင့်၊ တတိယဆင့်တွင် အမှတ် အများဆုံး၌ ပဌမ ဆွတ်ခူးနိုင်သူမှာ လည်း မြင်းခြံ ခရိုင်မှကိုအုံးဆင့်ဆိုသူပင်ဖြစ်လေသည်။

ပဌမပြန်စာမေးများတွင်ဆွမ်းကျွေးတာဝန်ကို ထမ်းဆောင်ခဲ့သည့်နည်းတူ ယခုအသင်းကြီးက ဆက်လက်ထမ်းဆောင်ခဲ့သည်သာမက ဆုနှင်းသဘင်များ ကျင်းပရေးအတွက်ပါ တာဝန်ယူခဲ့ကြသည်။

ဤအသင်းကြီးက ကြီးမှူး၍ ဝါတွင်း ဝါသမခြားကိုးဆောင် တန်ဆောင်းကြီးအတွင်းတွင်သီတင်းနေ့များ၌ ဝိပဿနာဘာ ရားများကို အသင်းနာယက လူကြီးဖြစ်သော မုံရွာကထိကကြီးဘကြီးသန်းကအမြဲတန်းတာဝန်ယူ၍ ဟောပြောခဲ့သည်၊

အကျဉ်းထောင်၌လည်း အမှုဆောင် လူကြီးများသည် တနင်္ဂနွေနေ့တိုင်း အလှည့်ကျ ဘာသာရေးတရားနှင့် အကျင့်စာရိတ္တများပြုပြင်ရန် ဟောပြောခဲ့သည်။

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က 'ညွှန်ကြားလိုက်သော အခါတော် နေ့များကိုလည်းတသွေမသိမ်း လိုက်နာဆောင်ရွက်ခဲ့သည်။

အသင်း၌ ရာထူးအသျှောက်ဆောင်ရွက်ရသောပုဂ္ဂိုလ်များသည် နိုင်ငံရေးပါတီလုပ်ငန်းများကို မလိုက်စားရဟု စည်းကမ်းကြပ်တည်းစွာထားသည်။ အသင်းသားများသည် နိုင်ငံရေးလိုက်စားသော်လည်း အသင်း၏အမည်နှင့် အသင်းတွင်ဆောင်ရွက်ရသော ဂုဏ်ထူးများကို ရွေးကောက်ပွဲ၌ မဖေါ်ပြရ။

မြို့သို့ရောက်ရှိလာသောခရိုင်ဝန် စက်ရှင်မင်းကြီး ခရိုင်ရဲဝန်ဘို့သည် အသင်း၏ အစဉ် အဆက် နာယက လူကြီးအဖြစ်ဆောင်ရွက်ကြသည်။

အသင်း၌ ယခုအခါ အသင်းသားပေါင်း ၆၀၀ ကျော်ခန့်ရှိ၍ (၁)ရာသက်ပန်အသင်းသား၊ (၂)ရိုးရိုးအသင်းသားများဟူ၍ ၂မျိုးခွဲခြားထား၏။ ရာသက်ပန်အသင်းသားမှာ ငွေ ၃ဝိ-ထည့်ဝင် လှူဒါန်းရသည်။ ရိုးရိုးအသင်းသားမှာ ဝင်ကြေး ငွေ ၒိ-နှင့် လစဉ်ကြေး ၈–ပဲပေးရသည်။

သင်္ဂါယနာဘင်တဲ့ကိုစွ၊ ဝိနည်းမိုရ်ဆရာတော်များ၊ ကိုစွဟူသန္တေ့ကို သံဃာတော်များအလိုကျကူညီအားပေးဆောင်ရွက်လျက်ရှိသည်၊

အသင်းကြီး၏ အကျိုးဆောင် စာချီ ဦးကျွန်းကျော်၊ T P S အားနိုင်ငံတော်ဗုဒ္ဓသာသန အဖွဲ့တွင် အရွေးအကောက်ခံနိုင်ရန် ကိုယ်စားလှယ်အဖြစ်ရွေးချယ်ခဲ့ရာ ခရိုင်တခုလုံးရှိ သာသနာ့ရေးအသင်းများကလည်း ထောက်ခံကြသဖြင့် မြင်းခြံခရိုင်အတွက်ဒေသ ကိုယ်စားလှယ် အဖြစ် အရွေးခံရ၍သာသနာ့ရေးကိုဆောင်ရွက်စေသည်။

.....၀ ...







## စာသင်ဆုရ မင်္ဂလာမောင်မယ်များ အသင်း



ရန်ကုန်မြို့ ဗုဒ္ဓဘာသာကလျာဏယုဝအသင်း (ဝိုင်အမ် ဘီအေ) ကြီးမှ ကြီးမှူး ကျင်းပသော မင်္ဂလာ တရားတော်မြတ် စာမေးပွဲ များတွင် စာသင်ဆုရရှိကြသော မင်္ဂလာမောင်မယ်များကို စုရုံးဖွဲ့စည်း တည်ထောင်ထားသော အသင်းဝင်ပေါင်း (၁၁၃)ယောက်ရှိသည့်အနက်မှ အမှုဆောင်အချို့-

# ကျောက်တောင်ကြီးများကို ထွင်းထု

## အဇန္တာ

လိုဏ်ဂူပေါင်း ၂၈ လုံးရှိရာ မြို့တော်ခမ်းမထက် သေးသောဂူဟုမရှိ။ နှစ်ပေါင်း ၂၀၀၀ ကျော်က ရေးဆွဲခဲ့သည့် တကြောင်းဆွဲပန်းချီများကြောင့် ထင်ရှားကျော်စောလှသည်။ ဗုဒ္ဓဘာသာသက်သက်နှင့်ပတ်သက်သည်ကိုသာ တွေ့ရသည်။

ဝန်ကြီး ဦးဗဆွေ၊ ဝန်ကြီးဦးကျော်ငြိမ်းနှင့် ဝန်ကြီးသခင် ကျော်ထွန်းတို့ ခေါင်းဆောင်သော လေ့လာရေးမစ်ရှင်အဖွဲ့သည်၊ အိန္ဒိယပြည်သို့ ဩဂုတ်လ ၁၃ ရက်နေ့က ထွက်ခွါသွားခဲ့ကြရာတွင် ၎င်းအဖွဲ့နှင့်အတူ လိုက်ပါ သွားသောအဖွဲ့ဝင်ပုဂ္ဂိုလ်တဦးက ပေးပို့သော ဆောင်းပါးဖြစ်သည်။

### မူလကမရည်ရွယ်

ကျွန်ုပ်တို့အိန္ဒိယပြည်သို့သွားကြခြင်းမှာ စက်မှု လက်မှု လယ်ယာစိုက်ပျိုးရေး၊ သင်တောရေးနှင့်သတ္တုတွင်းများကိုလေ့လာရန်နှင့် ခေါင်းဆောင်ကြီးများက တချက်ခုတ် ၂ ချက်ပြတ်ဆိုသကဲ့သို့အာရှဆိုရှယ်လစ် ဦးစီး ညီလာခံတက်ရောက်ရန်ဖြစ်ပါသည်။ ရှေးဟောင်း ဗုဒ္ဓဘာသာရုပ်ပွားတော်၊ ဆင်းတုတော်များကို ဖူးမျှော်ရန်အစီအစဉ်မရှိခဲ့ပါ။

### ၂၀၀၀ ကျော်က

သို့ရာတွင် ဟိုက်ဒရာဘက် အာရှဆိုရှယ်လစ်ဦးစီးညီလာခံပြီးဆုံး ပြီးနောက် ၁၃၁၃-ခု၊ ဩဂုတ်လ ၁၃ ရက်နေ့၌ အိန္ဒိယပြည် ဆိုရှယ်လစ်ပါတီဌာနခံကော်မီတီမှဟိုက်ဒရာဘတ်ပြည်နယ်တွင်ရှိသော ကြည့်သင့် ကြည့်ထိုက်သည့်လုပ်ငန်းများနှင့်အဆောက်အဦများကိုညီလာခံအပြီးတွင် လှည့်လည် ကြည့်ရှုခန့် အာရှဆိုရှယ်လစ် ခေါင်းဆောင် ကြီးများအား ဖိတ်ခေါ်ကြသဖြင့်(ရှေးနှစ်ပေါင်း၂၀၀၀ ကျော်)က တည်ဆောက်ခဲ့သော ဗုဒ္ဓဘာသာဝင်များ၏ အမွေအနှစ်ဖြစ်သည့် အီလိုရာနှင့် အဇန္တာလိုဏ်ဂူများသို့ သွားရောက်ခန့် အခွင့်ကြုံရပါတော့သည်၊

ဦးကျော်ငြိမ်းက ၎င်းတို့၏ဖိတ်ခေါ်ချက်ကို လက်ခံလိုက်ပါသည်၊ ဝန်ကြီး ဦးဗဆွေမှာ ဗမာပြည်၌ အရေးကြီးသည့်ကိစ္စများဆောင်ရွက်ရန် ရန်ကုန်သို့ပြန်ခဲ့ပြီး ဝန်ကြီး သခင်ကျော်ထွန်းမှာမူကား၊ မူလအစီအစဉ်ပျက်ပြားစေရန်လေ့လာရေးမစ်ရှင် အဖွဲ့ကို ဗိုင်ဆိုနယ်သို့ ဦးစီး၍ ခေါ်ဆောင်သွားရပါသည်။ ကျွန်ုပ်တို့အဘို့မှာကား ဝန်ကြီးဦးကျော်ငြိမ်းနှင့်အတူ လိုက်ပါသွားရန်ဖြစ်ပါ၍ ဤဆောင်းပါးကိုရေးရန် အခွင့်ကြုံပါတော့သည်၊

### သုံးဘာသာဆိုင်ရာ

အီလိုရာ လိုဏ်ဂူသည်ကျောက်တောင်ကို ထွင်းဖေါက်ပြီး ထုလုပ် ထားသော ကျောက်ရုပ်များ ရှိခြင်းကြောင့် ကျော်ကြားခြင်းအဇန္တာလိုဏ်ဂူသည်ဆေးရောင်စုံပန်းချီကားနှင့် ကျောက်ရုပ်များရှိခြင်းကြောင့် ကျော်ကြားလေသည်။ ထို ၂ ခုထက်ခြားနားချက်မှာ အီလိုရာလိုဏ်ဂူတွင်(၁) ဗုဒ္ဓဘာသာ၊ (၂)ဟိန္ဒူဘာသာ၊ (၃)ဂျိန်းဘာသာတို့နှင့်သက်ဆိုင်သည့် ရှေးဟောင်း ပစ္စည်းများတွေ့နိုင်၍ အဇန္တာမှာကား၊ ဗုဒ္ဓဘာသာအမွေအနှစ်သက်သက် ပစ္စည်းများကိုသာ တွေ့ရခြင်းဖြစ်ပါသည်၊

### ကြည်နူးဘွယ်ရာခရီး

၁၉၅၃-ခုဩဂုတ်လ ၁၄ ရက်နေ့ နံနက် ၉ နာရီအချိန်တွင် ဂျပန်၊ အင်ဒိုနီးရှား၊အရှေ့ပါကစ္စတန်၊အိန္ဒိယဆိုရှယ်လစ်များနှင့်အတူ ကျွန်ုပ်တို့သည် ဟိုက်ဒရာဘတ်မြို့တော်မှ ထွက်ခွါ လာခဲ့ကြရာ ၁၅ ရက်နေ့ နံနက် ၆ နာရီအချိန် အာရမ်းကဘတ်မြို့သို့ ဆိုက်ရောက်ပြီး မီးရထားဟော်တယ်တွင် တည်းခိုကြပါသည်။ လမ်းခရီး တွင်လည်း အချိန် ရသရွေ့ စက်မှု လက်မှု လုပ်ငန်းနှင့် သက်ဆိုင်သော သကြားစက် စသည် တို့ကိုဝင်ရောက်ကြ ပါသေးသည်။ မီးရထားဟော်တယ်မှ ဟိုက်ဒရာဘတ် အစိုးရဘတ်စ်ကားကိုငှါး၍ နံက် ၉ နာရီအချိန်ခန့်၌ အီလိုရာသို့ ထွက်ခွါခဲ့ရာ လမ်းခရီးမှာ တောလမ်း ဖြစ်သည် အားလျော်စွာ ကြည်နူးဘွယ်ရာ ရှုမျှော်ခင်းများ၊ ခေါင်းအိုးခေါ မြည်တွန်သံများနှင့် မျောက်များလမ်းနဘေး သစ်ပင်ရင်းများ၌ အသိုက်အအုံဖြင့် ပျော်ပါးစွာ ကျက်စားနေသည်ကို တွေ့ရပါသည်။

### ရှေးဟောင်းခံတပ်ကြီး

လမ်းခုလတ်တွင် အလွန် မြင့်မားခန့်ညားသောဒူလာတာဘတ်ခေါ် ရှေးခံတပ်ဟောင်းကြီးတခု တွေ့မြင်ရပါသည်။ ၎င်းခံတပ်၌ ခရစ်သက္ကရာဇ် ၁၁၈၇ နှစ် ဟိန္ဒူမင်းများ ထီးနန်းစတင် စိုက်ပျိုးမိုးခဲ့ရာ၊ ၁၃၃၈ ခုနှစ် လောက်တွင် ဒေလီမြို့မှ မဟာ မက်ကလပ်ဘုရင်က လာရောက်တိုက်ခိုက်ပြီး မြို့တော်ကို ဤနေရာသို့ ပြောင်းရွှေ့ရန်ကြိုးစားခဲ့ဘူးသည်ဟု သိရပါသည်။ ၎င်းခံတပ်ကြီးသည် ပင်လယ်မှ ပေပေါင်း- ၂၅၀ မြင့်သော ကျောက်တောင်တခုပေါ်တွင် တည်ဆောက်ထားသဖြင့် မြို့ရိုး (၇) ထပ် ဝိုင်းရံထားသည့်ပြင် ၎င်းအောက်တွင်လည်း တောင် ၃-၄ လုံး ဝိုင်းရံထားသောကြောင့် တဘက်ကရန်သူများ အံတုရန် မလွယ်ကူ လှပေ။ ခံတပ်ထိပ်ပေါ်သို့ တက်ရန် တောင်နံရံမှ ရစ်ပတ်တက်ရသောလှေကားများ၊ ဥမင်လိုဏ်ခေါင်းအတွင်းမှ တက်ရသော လှေကားများနှင့် ပြည့်နှက် နေသည့် အပြင် ရန်သူများ အတွင်းသို့ ရောက်လျှင်လည်း ကျဆုံးရန် ထောင်ချောက်များ ထားရှိလေသည်။



အဇန္တာလိုဏ်ဂူတော်ကြီးကို အဝေးမှ ခြုံ၍ လှမ်းမြော်ကြည့်ရှုလျှင် ဤပုံအတိုင်း-ရေစမဲ(ရေတံခွန်)များ စီးဆင်းနေပုံနှင့် တကွ သာယာလှပစွာ တည်နေသည်ကို တွေ့ရ၏။
(Buddhist Shrines in India စာအုပ်မှ)



အဇန္တာလိုဏ်ဂူတော်ကြီးတွင် မျက်နှာစာကို အထက်ပါပုံအင
( Buddhist Shri

# ဘုရားသည့် အံ့ဘွယ် လိုဏ်ဂူကြီးများ

## လာသဂူကျောင်းတော်

ဆိုပါ ခံတပ်မှ မိနစ် ၂၀ ခန့် သွား
အခါ တောင်ကြားလမ်းကွေ့များမှ
လိုဏ်ဂူများကို တွေ့မြင်ရပါ၏ တော
ငင်းလိုဏ်ဂူများကို တွေ့မြင်ရသော
မာပြည်တွင် ဆဋ္ဌသင်္ဂါယနာ တင်
ည်ဆောက်နေသော လိုဏ်ဂူတော်
ရုံညွတ်နူး စိတ်ကူးမိပါသည်။ ဤ
အရုံပြုနေစဉ်ပင် ကျွန်ုပ်တို့ စီးလာ
မော်တော် ကား(စ်) ကားသည်
တခု အဝသို့ ဆိုက် ရောက် ကြ
ည်။ လိုဏ်ဂူပေါင်း ၃၄ ခု ရှိသည့်
ရာတွင် ဤလိုဏ်ဂူသည် ကေလာသ
ရှိဟိန္ဒူဂူတခု ဖြစ်ပါသည်၊ ခရီး
ခင် ကျွန်ုပ်တို့သည် ဤကေလာသ
င်းတော်အတွင်းသို့ ဝင်ရောက်ကြရာ
က်တုံးတခုတည်းကို ထုထားသော
ဖြင့်ပေအနံ ၁၀၉ အမြင့် ၉၆ ပေရှိ
ါဒ်များနှင့်ခန်းနားလှသည့် ၂ ထပ်
င်းဆောင်ကြီးသည် ၄ ဘက် ၄ တန်
က်နံရံ ကာဆီးထားသည့် အလယ်၌



(၁၉) လိုဏ်ဂူကြီး၏အရှေ့
ဆန်းကြယ်စွာ တွေ့ရသည်
ndia စာအုပ်မှ)

ငါးငါး ငွင်ငွင် တည်ရှိ၍ အတွင်း အပြင်
နံရံများမှာလည်း ဟိန္ဒူဘာသာနှင့် သက်
ဆိုင်သည့် ကျောက်ရုပ်၊ အမြောက်အမြား
ထုလုပ် တန်ဆာဆင်ထားပါသည်။ လေး
ဘက် လေးတန်ရှိ ကျောက်နံရံ များကို
လည်း အခန်းများ ထွင်းဖေါက် ထားပါ
သည်။ ဟိန္ဒူကျောက် ဆင်းထုများမှာ နံရံ
တွင်ကပ်လျက်ကျောက်တိုင် ၂ ခု အကြား
တိုင်း၌ ထုလုပ် ထားရာ သက်ဆိုင်ရာ
ဘာသာဝင်များ အဘို့ အလွန် ကြည်ညို
ဘွယ်ရာပင် ဖြစ်ပါသည်။

အဓိလိုရာ၌ အထက်တွင် ဖေါ်ပြခဲ့
သည့်အတိုင်း အလားတူ လိုဏ်ဂူပေါင်း
၃၄ လုံး ရှိသည့်အနက် ဂူနံပါတ်– ၁ မှ
၁၂ သည် ရှေးအကျဆုံး ဖြစ်၍ ဗုဒ္ဓ ဘာ
သာနှင့် သက်ဆိုင်သော ဂူများ ဖြစ်ပြီး
ခရစ်သက္ကရာဇ် ၄၅၀ မှ ၇၀၀ အကြား
တည်ဆောက်သည်ဟု သိရပါသည်။ ဂူ
နံပါတ် ၁၃ မှ ၂၉ သည် ဗြဟ္မဏဘာသာ
နှင့်သက်ဆိုင်ပြီး ခရစ် သက္ကရာဇ် ၇၀၀
မှ ၁၀၀၀ အကြား ဆောက်လုပ် ခဲ့၍
နံပါတ် ၃၀ မှ ၃၄ သည် ဂျိန်းဘာသာ
အတွက်ဖြစ်ပြီး ခရစ် သက္ကရာဇ် ၁၀၀၀
ကျော်မှ တည်ဆောက် ခဲ့သည်ဟု ဆို
ပါသည်၊

## ဆွမ်းစားကျောင်းကြီး

ဂူ တလုံး တလုံးတွင် ကြည့်ရှုစရာ
အလွန်များပြားနေရကား ကျွန်ုပ် တို့သည်
တနေ့အတွင်း၌ ၃၄ လုံးသော ဂူများကို
စေ့စေ့ငုငုအောင် ကြည့်ရှု နိုင်ရန် မစွမ်းသော
ကြောင့် ဟိန္ဒူ ၁ ဂူ၊ ဂျိန်း ၁ ဂူနှင့်
ဗုဒ္ဓဘာသာ ၄ ဂူလောက်ကိုသာ ကြည့်
ရှုနိုင်ခဲ့ကြပါသည်။ ဂူနံပါတ် ၅ မှာ ဗုဒ္ဓ
ဘာသာ ရဟန်း တော်များ **ဆွမ်းစား
ကျောင်းဖြစ်၍ တကြိမ်လျှင် သံဃာ ၅၀၀
ခန့် ဆွမ်းဘုန်းပေးနိုင်သည်**ထိကျယ်ဝန်းပြီး
သဘာဝအလင်းရောင်ရရှိစေရန်အပေါက်
များကို သင့်လျော်အောင် ဖေါက်ထား
ခြင်းကြောင့်ဂူအတွင်း၌လင်းနေပါသည်၊

## ပန်းချီနှင့် ရုပ်လုံးများ။

ဂူအတွင်း ဘက်နံရံ များ၌ မူကား
ကျွန်ုပ်တို့ ဗမာနိုင်ငံဘုရား တန်ဆောင်း
များ၌ တွေ့မြင်နေကြဖြစ်သော သစ်သား
ဖြင့် ထုလုပ်ထားသည့် ရုပ်လုံးပေါ် နိ
ပါတ်တော်။ ဇာတ် တော်များ ကဲ့သို့ပင်
ကျောက်သားများကို ထုလုပ်ထားသော
ဇာတ်တော် များကို တွေ့မြင် ရသည်။
အချို့နံရံနှင့် မျက်နှာကျက် များမှာကား
ဆေးရောင်စုံ ပန်းချီအလှ ကားများကို
ဆွဲထားပါသည်။ ဥက္ကာ်တော် ၁၅ ပေ
ခန့်ရှိ မြတ်စွာဘုရား ကျောက် ဆင်းတု
များကို ဂူအတွင်း အဝင်ဝနှင့် ဆန့်ကျင်
ဘက် နံရံများ၌ သီးသန့် ဘုရားကျောင်း

ဓမ္မိရှု

**လိုဏ်ဂူပေါင်း ၃၄ ဂူအနက် သံဃာ ၅၀၀ တကြိမ်တည်း ဆွမ်းဘုန်းပေးနိုင်သည့် လိုဏ်ဂူကြီးလည်းပါသည်။ ဗုဒ္ဓဘာသာ ဟိန္ဒူဘာသာ ဂျိန်းဘာသာ ၃ မျိုးလုံးနှင့် သက်ဆိုင်ရာများကို တွေ့ရသည်။**

ဆောင် တွင်းဝယ် စမ္ပါယ်ဧပြီး လူအ
များ ဝတ်ပြုနိုင်ရန် နေရာလွတ် ရှိသည်ကို
လည်း တွေ့ခဲ့ရပါသည်၊ မြတ်စွာဘုရား၏
ဆင်းတုတော်မှာ သက်တော် ထင်ရှားရှိ
သကဲ့သို့ အရှေ့ဘက်မှ ဖြစ်စေ၊ ဝဲဘက်
မှဖြစ်စေ ဖူးမြော်လျှင် မျက်လုံး တော်
များမှာ ဖူးမြော်သူဘက်သို့ ကြည့်နေ သ
ကဲ့သို့ ထင်ရသည့်ပြင် မျက်နှာတော် အနေ
အထားနှင့် ပါးစပ်ဟန် အမူအရာမှာရွှင်
လန်း နှစ်သက်သော အသွင်ကို ဆောင်
နေပါသည်။

## ရှေးခေတ်ယဉ်ကျေးမှု။

ဤအဆောက် အဦ တခုလုံးသည်
၎င်းအတွင်းရှိ တိုင်များနှင့် ကျောက်ရုပ
များသည်၎င်း အပိုင်းအစများကို ဆက်
စပ်၍ တည်ဆောက် ထားခြင်း မဟုတ်
မူ၍ ငင်လယ်မှ ပေ ၂၁၀၀ မြင့်သော
ကျောက်တောင် တခုထည်းကို တောင်
ထိပ်နားကပ်၍ အပါအထေး အဆက်
အစပ်မရှိဘဲ ထွင်းဖေါက် ဆောက်လုပ်
ထားသည်မှာ နှစ်ပေါင်း ၁၀၀၀ ကျော်
ခဲ့လေပြီ။ အိလိုရာတွင် လိုဏ်ဂူ ၃၄ ခု
တို့မှာ တဂူ တဂူလျှင် ၂ ထပ် ၃ ထပ်
စသည်ဖြင့် ဆောက်လုပ် ထား ပါသည်။
၎င်းဂူများတွင် ကိုးကွယ်သည့် ဘာသာ
အလျောက် ကျောက် များဖြင့် ထုလုပ်
ထားသော ပုံတော်အမြောက် အမြားရှိ
၏။ ရှေးခေတ် ယဉ်ကျေးမှုအနေအထိုင်
ဝတ်ပုံ စားပုံတို့ကို အကဲခတ်နိုင်ရာ အ
ကြောင်း၊ ရှိသောကြောင့် သုတေသီများ
အတွက် အဘိုးတန် နေရာကြီး တခုဖြစ်
ပါတော့သည်။

ကျွန်ုပ်တို့မှာ နောက်ဆုံး ဂျိန်း ဘာ
သာနှင့် သက်ဆိုင်သော ဂူ ၁ လုံးကို
စေ့စေ့ငုငုအောင်ပင် မကြည့်ရှုနိုင်မီ မိုးချုပ်
စပြုလာ၍ ရှုမပြီး၊ ဖူးမဝ သည့်အိလိုရာအား
ထိုမျှနှင့်သာ တင်းတိမ်ခဲ့ပြီး တည်းခိုရာ
သို့ ပြန်ခဲ့ရပါသည်။

## အာဂျန်တာသို့။

ပြာဂုတ်လ ၁၁ ရက်နေ့ နံနက် (၇)
နာရီအချိန်တွင် တည်းခိုရာ ဟော်တယ်မှ



လေိုရာလိုဏ်ဂူတော်ကြီးတွင် နာမည်ကျော် ကိုက်လာသ (ကေလာသ)ခေါ် လိုဏ်ဂူကို ဤပုံအတိုင်းလှပဆန်းကြယ်စွာ တွေ့ရသည်။

(Buddhist Shrines in India မှရသည်)

၆၅ မိုင် ကွာဝေး သော ရောင်စုံ ပန်းချီကားများ ရှိရာ အဂျန်တာ လိုဏ်ဂူသို့ ကျွန်ုပ်တို့သည် ဘတ်(စ်) ကားဖြင့် ထွက်ခွာလာကြပါ တော့သည်။ မိုင် ၄၀ သို့သွားမိ သောအခါ ''ဖါလုံ'' အမည်ရှိသည့် ဘောရွာကလေးတရွာသို့ ဆိုက်ရောက်ကြပါသည်။

ထိုမှတဖန် ဆက်လက်၍ ခရီးထွက်ခဲ့ရာ အဂျန်တာ မရောက်မီ ၂ မိုင်သောက်တွင် အစိမ်းရ မိုလ်တဲသို့ ရောက်ပြီးလေးလံသော အထုပ်အပိုး အစားအသောက်များ ထားခဲ့ပြီး နောက် အဂျန်တာသို့ ရှေ့ရှုထွက်ခွါ လာကြပါသည်။ တောင်စဉ် ၇ ထပ်ကိုရစ် ပတ်မောင်းနှင်ပြီးသည့်နောက်မကြာမီပင် အဂျန်တာတောင်ခြေသို့ မော်တော်ကား ဆိုက်ရောက် ပါ တော့ သည်။ ကျွန်ုပ်တို့နှင့်အတူပါလာသော အိန္ဒိယဗုဒ္ဓဘာသာအစိုးရကစေလွှတ်ထားသည့် လိုဏ်ဂူအုပ်ချုပ်ရေးမှူးမစ္စတာအမျှဒူဝါဟာစ် လိုက်ပါ လာသဖြင့် ကျွန်ုပ်တို့ မတွေ့မြင်သေးဘူးသော အကြောင်းအရာများကိုအလွယ်တကူမေးမြန်းနိုင်ပါသည်။

## ကျောက်မှန်ဆေးဖြင့်

အိုလိုရာတွင် ကားပေါ်မှ ဆင်းလျှင် ဂူဝသို့ရောက်သော်လည်း အဂျန်တာ၌ ကားမှဆင်းပြီး ပေ ၂၅၀ ခန့်တောင်ထိပ်နားသို့ တက်ရပါသည်။ တောင်ထိပ်သို့ တက်ရာလမ်းသည် အုတ်၊ ကျောက်စသည် လှေကားများတပ်ဆင်ထားသောကြောင့် ခရီးသည်များအဖို့ အလွန် အဆင်ပြေပါသည်။ လှေကား ၂ ဆင့်တက်မိသောအခါ မစ္စတာဝါဟာစ်ကတွေ့ရပြီးတောင်ကမ္ဘားမှ သဘာဝအလျောက် ထွက်ပေါ်နေသော အစိမ်းရောင်၊ လိမ္မော်ရောင်၊ စသောကျောက်ခဲကလေးများကိုကောက်ယူပြပါသည်။ အဂျန်တာ လိုဏ်ဂူအတွင်း၌ ရေးဆွဲထားသော ပန်းချီကားများမှာ ဤကျောက်ခဲများကို အမှုန့်သုတေစ်ထားသော ဆေးဖြင့် ရေးခြယ်ခဲ့ကြောင်း၊ နှစ်ပေါင်း ၂၀၀၀ ကျော်က ရေးဆွဲခဲ့သောလက်ရာသည် ယခုတိုင်အကောင်း ပကတိရှိနေကြောင်းပြောကြားလေရာ ကျွန်ုပ်တို့မှာ မြင်ဘူးသည်အထူးအဆန်းကို တွေ့ကြုံရသဖြင့် အထူးစိတ်အားတက်ကြွလာပါသည်။

## ဂူတလုံး၏ပမာဏ

သို့နှင့်ပင် ကျွန်ုပ်တို့သည် ပတ်ဝန်းကျင်ရှိ တောတောင် လျှိုမြောင်များ၏ သာယာသောရှုမျှော်ခင်း အရသာကို ခံစားရင်းတက်လာကြရာ ၁၅ မိနစ်ခန့် ကြာသောအခါအဂျန်တာ လိုဏ်ဂူများကို တွေ့ရပါတော့သည်။ ဂူများ တည်ဆောက်ထားသော နေရာသည် (ပ) စောက်ကဲ့သို့စောက်မတ်၍ မြင်းခွါကဲ့သို့ ကွေးနေသော ''ဝါဟိုရား'' မြစ်ရှားကမ္ဘား၊ ကျောက်နံရံ အထက်ပိုင်းဖြစ်၍ ရေတံခွန် တခုမှာလည်း ဤချောင်းသို့ ဝါးလုံးထိုးစီးဆင်းနေသောကြောင့်ရှုမျှော်ခင်းမှာ ပိုမိုသာယာလာသည်ဟု ထင်မိပါသည်။ လိုဏ်ဂူဟုဆိုရာ၌ မီးရထား ခုတ်မောင်းရန် ထွင်းဖေါက်ထားသော ဥမင်လိုဏ်ခေါင်းကဲ့သို့မဟုတ်ပါ။ ၁ ထပ်၊ ၂ ထပ်၊ ၃ ထပ်စသည်ဖြင့်ကျောက်ကမ္ဘား အဆင့်ဆင့်ကို ထွင်းဖေါက်ထားပြီး ယခုခေတ်တိုက်များသဏ္ဌာန် ထွင်းဖေါက်ထားရာအခေါ်မှကြည့်လျှင်တိုက်တန်းလျားများကဲ့သို့ စီတန်း နေပါသည်၊ အဓိမှာကား သဘာဝအတိုင်း တည်ရှိနေသော တောင်ထိပ်များသာဖြစ်ပါသည်၊ ဂူ ၁ လုံး၏ ပမာဏမှာ မြို့တော်ခန်းမကြီးထက်သေးငယ်မည် မဟုတ်ပါ။

## ဗုဒ္ဓဘာသာအတွက် သက်သေ

ဤဒေသတွင်လိုဏ်ဂူပေါင်း ၂၈ လုံးရှိရာလိုဏ်ဂူနံပါတ် ၅ မှ ၁၃ သည်ခရစ်သက္ကရာဇ်မတိုင်မီ နှစ်ပေါင်း ၂၀၀ ကျော်က တည်ဆောက်ခဲ့ပြီး၊ ဗုဒ္ဓဘာသာ ဟိနယာနဂိုဏ်းနှင့် သက်ဆိုင်၍ ကျန်ဂူများမှာ ခရစ်သက္ကရာဇ် ၅၀၀ လောက်တွင် တည်ဆောက်ခဲ့ပြီး မဟာယာန ဂိုဏ်းနှင့် သက်ဆိုင်ပါသည်၊ အဲလိုရာ ကဲ့သို့ ဟိန္ဒူနှင့် ဂျိန်းဘာသာများအတွက်လိုဏ်ဂူများမရှိပါ၊ဗုဒ္ဓဘာသာအတွက် သက်သေဖြစ်ပါသည်။ ၎င်းဂူများ အနက် ဂူ ၄ လုံးမှာ ဘုရားကျောင်းမှော်ရုံဖြစ်၍ကျန် ဂူများမှာ ရ ဟန်းတော်များ သီတင်း သုံး ရာ ဝိဟာ ရများဖြစ် ပါသည်၊ ဤဒေသ၌ ဂူများ ၁ း တည်ဆောက် ချိန်တွင် အိန္ဒိ ယပြည် မြောက်ပိုင်းနှင့်တောင်ပိုင်းမှ ကုန်များ တွေ့ ဆုံစခန်း ချရာလည်း ဖြစ်သည် ဟု သိရပါသည်၊ဤဂူမှ ၁း၏ တန်ဘိုး ကိုဖြတ်ရန်မှာ ကား လွယ်ကူသော အလုပ်မဟုတ်ပေ။

## တကြောင်းဆွဲ ပန်းချီ

မြတ် စွာ ဘုရား ကျော်ရုပ်ပွားတော်များသည်အဲလိုရာမှာကဲ့သို့ ဘည်ရှိ သော်လည်း နိပါတ်တော် များမှာ ကား နံရံများနှင့် တိုင် များတွင် ကျောက်ရုပ် များ ထုထားခြင်း မပြုဘဲဆေးရောင်စုံ ပန်းချီကား များဖြင့်သရုပ်ဖေါ်ထားလေသည်၊ ပန်းချီကားများ ရေးဆွဲရာ၌ ယခုခေတ်ကဲ့သို့ ဇာတ်ကွက်၊သို့မဟုတ် ရှုမျှော်ခင်းတခုနှင့် တခု မရောယှက်စေရန် သီးသန့်ဘောင်ခတ် ရေးဆွဲခြင်း မပြုပါ။ သာ လွန်ကျယ်ဝန်းလှသော နံရံခေါ်တွင် နေရာလွတ်ရှိ၍ ရေးဆွဲထားသောကြောင့် ပန်းချီကားတခုကိုကြည့်လိုလျှင် မိမိကြည့်လိုသော ကားနှင့် အခြားကားမရောယှက်ရန် သတိထားကြည့်ရှုရသည်၊ အဆိုပါပန်းချီကားများကို ရေးဆွဲနိုင်ရန်ရှေးဦးစွာ ကျောက်နံရံကို ကျောက်မှုန့်၊သစ်စေး၊ကွဲကော် စသည်တို့ဖြင့် ၃ မူးခန့် ထုသည့်တိုင်အောင် သုတ်လိမ်း အခြောက်ခံပြီးနောက်အောက်ခံဆေးသုတ်လိမ်းပါသည် ထိုနောက် တကြောင်းဆွဲ အရုပ်ရေးပြီး ဆေးရောင်စုံ သွတ်သွင်းသည်ဟု ဆိုပါသည်၊ ၎င်းပုံများကို အချို့ပန်းချီပညာသည်များက(ပါဖယ်တစ်)မှန်ဟု ဝေဘန်ကြသော်လည်း အချို့က သူ့ခေတ်အလျောက် အပြစ်မရှိဟုဆိုကြပါသည်၊ အလင်းအမှောင်နှင့်ဟန်အမူအရာများကို မဝေဘန်ကြသည့်ပြင် ပန်းပွင့်၊ ပန်းခက်နှင့် ဒီဇိုင်းများ မှာ ကား ယခုထက်ပင်ရိုးရိုးနှင့် ဆန်းနေပါသည်။

## ခေတ်ဆန်သူ များ ကဲ့သို့

ထိုပန်းချီ ကား များသည် ကုမ္မာရီတို့သည် ယခုခေတ်၊ ခေတ်ဆန်သည် ဆိုသော အမျိုးသမီး များ ကဲ့သို့ သေးသွယ်သေါ်ချက်ခုန်းမွေး နှင့်၊ ပါးလွှာ သော အင်္ကျီများကို ဝတ်ဆင်ထားကြပြီး ဘိနပ်နှင့် ခေါင်းစည်း တို့ မှာ အရောင်ဆင်တူ ဖြစ် သည်လည်းသတိပြုမိပါသည်၊ဝန်ကြီး ဦးကျော်ငြိမ်းက ဤနေရာသို့ဗမာပြည်မှ ပညာသည်များ စေလွှတ်လျှင် ကောင်းမည် ဖြစ် ကြောင်းပြောပါသည်။



Buddhist Shrines in India
ခေါ်စာအုပ်၌ မိခင်နှင့်ကလေးပုံဟုသာ ရေးထားသော်လည်း အချို့အင်္ဂလိပ်ဘာသာရေးစာအုပ်များ၌ ရာဟုလာ့အား အမွေတောင်းနိုင်းခံ၏ ဖြစ်မည်ဟု ယူဆရေးသားကြသည်ကိုတွေ့ရ၏။(အဂျန္တာ–ဂူနံပါတ်၁၇၌ရှိသည်)

## မာရ်အောင်ခန်းသရုပ်

မြတ်စွာဘုရား၏ဆေးရောင်စုံပန်းချီကားတွင် ဥသျှောင်မှအပ သက်နှင်တော်ပုံ သဗိတ်အရောင်အရွယ်အစားမှာဗမာပြည်ရှိ ပုံတော်များတွင် ဖူးတွေ့ရသောသဏ္ဌာန်နှင့် အနည်းငယ်ခြားနားပါသည်၊ နားရွက်တော်မှာကား ပခုံးတော်နှင့်ထိသည်တိုင်အောင်မရှည်လျားပါ။ကျောက်ဆင်းတုပုံတော်အမျိုးမျိုး ဖူးမျှော်ရာတွင် မြတ်စွာဘုရားအား မာရ်နတ်ရက်ခံကိုသရုပ် ဖေါ်ထားသည်မှာ မာရ်နတ်သားသည် နောက်လိုက်နောက်ပါများနှင့် ခြိမ်းခြောက်နေစဉ် မြတ်စွာဘုရားသည် ဗောဓိပင်အောက်၌ တည်ငြိမ်သော ရုပ်ဖြင့် ထက်ဝယ်ဖွဲ့ခွေထိုင်နေတော်မူပြီး လက်ဝဲဘက်လက်ကို ပက်လက်လှန်ခါ ဒိုက်တော်ရှေ့ ပေါင်ပေါ်၌ တင်ထားလျက် လက်ျာလက်ကို လက်ျာဒူးပေါ်မှ မြတ်ကျော်၍ပက်လက်လှန်ကာ ပထဝီမြေကြီးဘက်သို့ တိုင်တည်သောအားဖြင့် မြန်လျက် ထိုးစိုက်ချထားပါသည်။ ဤပုံတော်မျိုးကိုဗမာပြည်၌ သာမန် အားဖြင့် လက်ပက်လက်ဘုရားဟုအရပ်သားများကခေါ်ကြပါသည်။

## မေမ္မစကြာဟောနေပုံ

အခြားပုံတော်တခုမှာ ဓမ္မစကြာဒေသနာဓော်ကို ဟောကြား နေစဉ် မြတ်စွာဘုရားသည်လက်ညှိုးနှင့်လက်မတေ့ဆိုင်လျက် (ကျန် ၃ ချောင်းကိုဖြန့်ထားသည်) ဝ လုံးသဏ္ဌာန် ပြုလုပ် ထားသော လက်ကွင်း ၂ ခုကို ရင်ပတ်တော်အရှေ့ နား၌ မထိ တထိ တေ့ဆိုင် ထားပြီး လက်ဝဲလက်ဖဝါးကို မိမိဘက်သို့၎င်း၊ လက်ျာဘက် လက်ဖဝါးကို မျက်နှာမူရာဘက်သို့၎င်း လှည့်၍ ထိုင်နေသော ပုံဖြင့် သရုပ်ဖေါ်ထားပါသည်။ ကျွန်ုပ်တို့သည် မြတ်စွာ ဘုရား၏ ရုပ်ထု တော်များကို ၎င်း၊ ဆေးရောင်စုံပုံတော်များကို၎င်းစိတ်အားထက်သန်စွာ ဖူးမျှော် ကြည့်ရှု နေကြစဉ် မိုးသည်းထန်စွာ ရွာသွန်းလိုက် သဖြင့် ကျွန်ုပ်တို့ ရောက်ရှိ နေသော ဂူမှာ အခြားဂူ၊ တခုသို့ ဖြတ်သန်းရန် လမ်းမှာ ရေတံခွန် ပေါ်ပေါက် လာပါ သောကြောင့် နေ့ဆက်လက်ကြည့်ရှုရန်မဟုတ်နိုင်တော့ဘဲ မချိတင်ကဲနှင့် ရခဲလှသော အခွင့် အရေး ကောင်းတခုကို ကြေကွဲစွာလက်လွှတ်လိုက်ရပါတော့သည်။

## ဗဟုသုတအလို့ငှါ

အထက်ပါ ဗုဒ္ဓဘာသာ အမွေ အနှစ်ရှိရာ အဲလိုရာနှင့် အဂျန်တာ လိုဏ်ဂူများကို ပြည်ထောင်စု သမတ နိုင်ငံတော်မှ ဗုဒ္ဓဘာသာဝင်များ အသိနည်းလှသော်လည်း၊ အနောက် နိုင်ငံ သုတေသန မှီးသူမျာ ချောဘတ်ဂီ (လ်)လေဒီဟာရင်တန်၊ မစ္စတာ ဂရက် (ဖ)ဖစ်(သ) စသော ပုဂ္ဂိုလ် ကျော်များ မှာကား ဗုဒ္ဓဘာသာဝင် များမဟုတ် ကြသော်လည်း ၁၈၂၉ ခုနှစ် လောက်မှစ၍ နေ့အိပ် ညနေပင် ထိုနေရာ၌ တည်းခိုပြီး ဗဟုသုတ အစုစုကို သုတေသနရှာ မှီးကြပါသည်၊ သို့ပါ၍ မြန်မာနိုင်ငံ ဗုဒ္ဓဘာသာ ဝင်တို့ သည်လည်း မိမိတို့ ဗုဒ္ဓဘာသာ အမွေအနှစ်များ၊ ကိန်းအောင်းရာ ထိုနေရာဒေသသို့ အလျဉ်းသင့် က

သွားရောက် ဖူးမျှော် ကြရန် သင့်လှပါ သတည်း။ (မဏ္ဍိုင်မှရသည်။)

## ဖါဟီယန်မှတ်တမ်း

**(ယခုခေတ် အချိန္ဒိယနှင့် လိုရာ အခြေအနေ ဗဟုသုတ များကို သိရပြီးနောက် လွန်ခဲ့သော နှစ်ပေါင်း ၁၄၀၀-ကျော်က တရုပ် ရဟန်းတော် ခရီးသည်ကြီး ဖါဟီယန်၏ အချိန္ဒိယနှင့် လိုရာ မှတ်တမ်း' ကို ဆက်လက် ဖေါ်ပြ လိုက်ပါသည်။ ။အယ်ဒီတာ)**

### ကဿပ ဘုရား လက်ထက်က

၎င်း(ကောသမ္ဗီပြည်အနောက်ဝကဘီလူး၏)နေရာမှ၊ တောင်ဘက်''ယူဇနာနှစ်ရာ''ကွာဝေးသောနေရာ၌''ဒက်ကန်'' ခေါ်သောတိုင်းပြည်-တပြည် ရှိလေသည်၊ ၎င်း ပြည်တွင် ''ကဿပ'' ဘုရားပွင့်တော်မူစဉ် အခါက ကြီးမား မြင့်ခေါင်ကျောက်တောင် ကြီးကို ထွင်းဖေါက်ဆစ်ပုံအုံဖြဲဘွဲ့ပြ၍ ဆောက်လုပ် လှူဒါန်းထားသော ကျောက်သား ပကတိ၊အတုမရှိအောင် ထူးဆန်း တင့်တယ် အံ့မခန်းဖွယ်ရာ ကြီးကျယ်ခမ်းနား လှစွာသော၊ ဥမင်ကျောင်းတော်ကြီး တခုရှိလေသည်။

### ဆင်၊ခြင်္သေ့၊ မြင်း၊ နွား၊ ချိုး

၎င်းဥမင် ကျောင်း တော်ကြီး သည် ငါး ထပ် ငါးဆင့် ရှိ၍၊ အောက်ဆုံး အထပ်မှာ ကျောက်သား စင်စစ်ကို ထွင်းဆစ် ပြုလုပ် ထားသော အခန်း ပေါင်း ငါးရာ တို့ဖြင့် ဖန်ဆင်းပြုပြင် ကောင်းစွာ စီရင်လျက် ဆင်၏ပုံသဏ္ဌာန် ရှိလေသည်။ ဒုတိယ အထပ်မှာ ဆန်းကြယ် လှစွာ ကျောက် ခန်းပေါင်း လေးရာရှိ၍ ခြင်္သေ့၏ ပုံသဏ္ဌာန် အသွင်မြင်ရ လေသည်၊ တတိယ အထပ်မှာ အခန်းပေါင်း သုံးရာတို့ဖြင့်ချယ်လှယ်ဆန်းပြားမြင်း၏အလားကဲ့သို့ မခြားပုံ ယူတူလေသည်၊ စတုတ္ထအထပ်မှာ အခန်းပေါင်း နှစ်ရာတို့ဖြင့် ရှုမြင်သူတို့၏ စိတ်အာရုံမှာ နွားပုံ သဏ္ဌာန်ကဲ့သို့ မြင်ရလေသည်၊ ပဉ္စမအထပ်မှာအခန်းပေါင်း တရာတို့ဖြင့် ချယ်လှယ် မြင့်မား၍ ချိုးငှက် အလားကဲ့သို့ မခြား နမူအမြင်တူလေသည်။

### အခန်းပေါင်း ၁၅၀၀

၎င်း ဥမင်ကျောင်းတော် ကြီး၏ထိပ် ဖျား၌ ရှိသော ရေစမ်း(ရေတွင်း)သည် ကျောင်း တော်ကြီးကို လှည့်ပတ်၍ ဥမင်ကျောင်းတော် ကြီး၏ အောက် ထပ်သို့ ရောက်သည်တိုင်အောင် ငါးထပ်လုံး၌ရှိသောအခန်းပေါင်း''တထောင့် ငါးရာ'' တို့၌ အထပ်တိုင်၊ အခန်း တိုင်၊ တို့သို့ မလပ်ရအောင် စီးသွား ထွက်ဝင်ပြီးလျှင် အောက်ခြေအဆုံးသို့ ရောက်သော အခါ ရေပြွန်အလား အခေါင်း ပေါက်များဖြင့် မြေကြီးထဲသို့ စီးဝင် သွား လေတော့ သည်ဟူလို။

### ကောင်းကင် ပြူတင်းများ

ရဟန်းတော်များ၊ သီတင်းသုံး တော်မူသော အခန်း အားလုံးတို့၌ အလင်းရောင် ရရှိနိုင်ရန် ကျောက်များကို ခွဲဖြတ်ထွင်း ဖေါက်လျှက် ပြူတင်း ပေါက်များကိုပြုလုပ်ထားသောကြောင့် ဥမင်ကျောင်းတော်ကြီး တခုလုံး၌ မှောင်သော နေရာဟူ၍မရှိဘဲ ကြည်လင်ထွန်း ပြောင်သော အလင်း ရောင်များကို ရရှိကြလေသည်၊ ၎င်း ဥမင် ကျောင်းတော်ကြီး၏ ဒေါင့်လေး ဘက်၌ ကျောက်သား ပကတိကို ထွင်းထုဆစ်ဖု၍အပေါ်သို့ တက်ရောက်ရန် လှေခါးထစ်များကို ပြုလုပ်ထားလေသည်၊ (ယခု ခေတ် သမယာလူများသည် အရပ်အမောင်း သေးငယ် ကြသော ကြောင့် လှေကား ထစ်ပေါင်း များစွာတို့ဖြင့် အပေါ်သို့ တက်ရောက်ကြရသော်လည်း ရှေးခေတ်ကာလ သမယက လူများသည် လှေခါးထစ်-တထစ်ဖြင့် သာလျှင် အပေါ်သို့ ရောက်နိုင် ကြလေသည်၊ သို့ဖြစ် သောကြောင့် ၎င်းဥမင် ကျောင်း တော်ကြီး ကို အိန္ဒိယဘာသာစကား အားဖြင့်''ကောလန္တာရိယံ'' ဟူ၍ အမည်ပါယ် ရှိသော 'ပါရဝါ'ဟူသောအမည်ဖြစ်လာလေ၏) ၎င်းကျောင်းတော်ကြီး၌ အမြဲမပြတ် သီတင်း သုံးတော် မူသော အာသဝေါ ကုန်ခမ်း(ရဟန္တာ၊အရှင်မြတ်များ) ရှိတော်မူကြလေသည်။

### အနီး၌ရှိ နလပိန်းတုံးများ

ကုန်းမြေပြင်သည် သစ်သီးဝလံအသီးအနှံများကို စိုက်ပျိုး လုပ်ကိုင်ခြင်း မရှိသည့်အပြင် လူနေအိမ်ခြေလည်းမရှိချေ၊ တောင်ကြီးမှ ဝေးကွာသော အရပ် ဌာနများ၌သာလျှင် တောရွာများ၊ရှိ၍ ၎င်းရွာသူရွာသားတို့သည် အသိအလိမ္မာဉာဏ်ပညာ ကင်းမဲ့ ကြလျက် (ဗုဒ္ဓရှင်တော်ဘုရား)ဟောကြား ဆုံးမတော် မူသော (အယူဝါဒ) မှန်မြတ်သော တရား မွေ့တို့ကို သော်၎င်း၊ နေ့ညမ်ဆို ကြည်ညို ဆည်းကပ် လေးမြတ်ရှိသေ အပ်သော ရဟန်း ပုဏ္ဏားတို့ကို သော်၎င်း မသိချေ၊ သာသနာပြင်ပ တိတ္ထိယတို့၏ အယူဝါဒ ကိုလည်း မသိကြချေလကုန်။

### ကောင်းကင် ခရီး သွားများ

ထိုအယူဝါဒ ကင်းမဲ့ကြကုန်သောသူတို့သည် ဥမင်ကျောင်း တော်ကြီးသို့ အထက် ကောင်းကင်မှ ပျံသန်း၍ လာကြသော ပုဂ္ဂိုလ်တို့ကို၊ မကြာ မကြာ တွေ့မြင်ကြရလေသည်၊ တရံရောအခါ ပတ်ဝန်းကျင် တိုင်းပြည်များမှဥမင်ကျောင်းသို့ဆုတောင်း၊ မေတ္တာပို့သခြင်း ရှိခိုး ပူဇော်ခြင်း အကျိုးငှါရောက်လာကြသော (မုဒ္ဓဘာသာ) အယူဝါဒ ရှိကြသူ များ ဗိုလ်လူတို့ကို ရွာသား တယောက် က (သင်တို့သည် ၎င်းနေရာဌာနသို့ အဘယ့်

စာမျက်နှာ ၃ မှအဆက်

များသည် ဆွမ်းလောင်း အသင်းသို့ ကိုယ်တိုင်ပါဝင်၍ လူကြီး လူငယ်စိတ်တူကိုယ်မျှ ညီညာဖြိုဖြိုဆောင်ရွက်ကြသဖြင့် ပခုက္ကူမြို့ ကျွဲတဲ ရွာသစ် စက်ဒိုင် ဦးမောင်းက ငါးထောင်တန် အသင်းရုံအဆောက် အဦ တဆောင် ကို လှူဒါန်းရာ ၁၂၈၂ ခုနှစ်တွင် စည်းမျဉ်း ဥပဒေများပြုလုပ်၍ အမြဲတမ်း ကုသလဝါယါမ ဆွမ်းလောင်း အသင်း ဖြစ်ခဲ့လေသည်၊

### ဆွမ်းဆန်ရှာဖွေကြပုံ

ပဌာမအသင်း တည်ထောင် သော လူငယ်တစုတို့သည် မြို့ကို (၇)ပိုင်း၊ ပိုင်း၍တရက် တပိုင်းအလှည့် ကျထားပြီးလျှင် ကြေးစည်ရိုက်၍ ဆွမ်းဆန်တောင်း၊ ထမ်းပြီးသကာလ (၇) ရက်တကြိမ်ကျဆွမ်းဆန်များကို အလှူခံကြရ လေသည်။ အမြဲတမ်း အသင်းဖြစ် လာသောအခါ နှီးဆော်စာ များ ကမ်းလှမ်း၍ တစိတ်ဝင် ဆန်အိပ် ကလေးများ ချုပ်လုပ် စီမံပြီး တနှစ်တကြိမ်ကျ အိမ်တိုင်၊ စေ့ အလှူခံခြင်း၊ပခုက္ကူ ခရိုင် အတွင်းရှိ မြို့နယ်များ

---

ကြောင့် ကောင်းကင်မှ ပျံ၍မလာကြပါသလဲ-၎င်းနေရာသို့ လာရောက်ကြကုန်သောလူ အားလုံး တို့သည် ကောင်း ကင်မှ ပျံသာကြသည်ကို သာလျှင် အကြွန်ုပ်တို့ တွေ့မြင်ရ ပါသည်။)ဟု မေးမြန်းပြောဆိုသောအခါ၊ သူရားဖူးများက နှောင့်နှေး ကြန့်ကြာခြင်းမရှိဘဲ ကျွန်ုပ်တို့မှာ(ဈာန်တရားတည်းဟူသော)အတောင်မပေါက်သေးသောကြောင့် ဖြစ်သည်ဟု ပြန်ကြား ပြောဆိုကြလေသည်။

### လမ်းပြကျေးဇူး

''ဒက်ကန်'' တိုင်း ပြည် သည် တောင်ထူထပ်ပေါများ၍ ခရီးသွားသော လူအပေါင်းတို့သည် လမ်းခရီး များတွင် အခက် အခဲနှင့် ကြုံတွေ့ကြရလေသည်။ လမ်းသိသော သူများပင် ဖြစ်စေကာမူ၊ ခရီးသွားရန်အလိုရှိခဲ့ပါလျှင်ပြည်ပိုင်အရှင်ဘုရင်မင်းအား လက်ဆောင်ပဏ္ဏာငွေအသပြာကိုဆက်သောအခါ ရှင်ဘုရင်သည် ထိုခရီးသည်တို့အားလမ်းပြရန်ရှေ့ဆောင် လမ်းပြလူများကို စေထည့်၍ စခန်းတခုမှ တခုသို့ ဖြတ်လမ်းများကိုပြစေခြင်း၊ ထိုခက်ခဲသောလမ်းခရီးများကို လွန်မြောက်စေလေသည်။

(ရဟန်းတော် ဖါဟီယန်သည်၊ ထို ''ဒက်ကန်''တိုင်းပြည်ကိုရောက်အောင် သွားရန်မစွမ်းနိုင်ချေ၊ အထက်ပါ''ဒက်ကန်''ပြည်၏ အကြောင်းအရာများမှာ၊ တိုင်းရင်းသားများထံမှ တဆင့် ကြားသိရသော အတိုင်းသာလျှင် ဖေါ်ပြခြင်းဖြစ်လေသည်)

.....o.....

သို့၎င်း မြင်းခြံ၊ညောင်ဦး၊ ချောက် အစရှိသော မြို့များသို့ ကိုယ်တိုင်သွား ရောက်အလှူခံ ကြခြင်း၊ ပုသိမ် ဟင်္သာတ မြန်အောင် ပြည် အထက်ချင်းတွင်း အစရှိသော မြို့များသို့ အသင်း၊ တံဆိပ်ပါသော စိတ်ဝင် ဆွမ်း ဆန်အိပ် လေးများ ပေးပို့အလှူ ခံခြင်းဖြင့် ဆွမ်းဆန် ရှာကြလေသည်။

### ပစ္စယာနုဂ္ဂဟ

လူငယ်များ လက်ထက်က တပါတ်လျှင်တကြိမ်မှ စ၍ နှစ်ကြိမ် သုံးကြိမ်တိုင် တစတစတိုး၍ တကြိမ်လျှင် ဆွမ်းဆန် တတင်းကျ ချက်ပြုတ် လောင်းလှူကြသည်၊ လူကြီးများ ပါဝင်လာသောအခါ၊ နေ့စဉ်နေ့တိုင်း၊ ဆွမ်းဆန်တတင်းမှ၊ နှစ်တင်း၊ သုံးတင်း၊ လေးတင်းခွဲတိုင်၊ သံဃာဦးရေလိုက်၍၊ လုံလောက်အောင် ချက်ပြုတ်၍ လောင်းလှူခြင်း၊ ဝါတွင်း အဘိတ်နေ့များတွင် ဆွမ်း၊ဟင်းလျာများထည့်၍လောင်းလှူခြင်း နှစ်စဉ် တကြိမ်ကျ မြို့လုံးကျွတ် သံဃာတော်တို့အား၊ ဆွမ်း၊ ဆွမ်းဟင်းလျာ လေးမျိုးတို့ဖြင့် လောင်း လှူခြင်း၊ ၁၃၀၀ပြည့်နှစ်လောက်မှစ၍ အဓိလိပ်များဆုပ်ခွာသွားသည့်အထိ၊မြို့လုံးကျွတ် သံဃာဦးရေ၊၃၀၀၀ကျော်၊၄၀၀၀ခန့်တို့အား၊ ဆွမ်းဆန်(၁၀)အိပ် ဆွမ်းဟင်းလျာ ဝက်သား၊ပိုသာချိန်၊ ၃၀၀၊ကျော်တို့ဖြင့် ဒီမံ၍လောင်းလှူနဲ့ခြင်း၊၊ဈန်းမှုခြင်းအားဖြင့် တလနှစ်ကြိမ်သုံးကြိမ် သီးခြားဒါယကာပေါ်တိုင်း၊၊ ပေါ်တိုင်း၊ ဆွမ်း၊ ဆွမ်းဟင်း၊တို့ကို၊ အသင်းကြီးက၊ ထင်းရေ၊လူ၊ စိုက်ခါချက်ပြုတ် ပေး၍ လှူဒါန်းခဲ့ခြင်းအားဖြင့် သာသနာတော်ကြီးအား ယခုတိုင် မပြတ်မလပ် ထောက်ပံ့ခဲ့လေသည်၊

ကုသလ ဝါယာမ ဆွမ်းလောင်း အသင်းကြီးကို ပဌာမအနေအားဖြင့်စတင်တည်ထောင်၍ ယနေ့တိုင် ဦးစီးဆောင်ရွက်သူမှာ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ဝင်ဒေသကိုယ်စားလှယ်၊ဦးခင်မောင်ကြီး ဖြစ်၍အသင်းသား ဦးရေမှာ ဖူးတွဲပါစာရင်းအရ အမှုဆောင်ပေါင်း (၆၅-ဦး) ဖြစ်ပါသည်၊

### အနုမောဒနာပြုစရာ

ဂျပန်ခေတ်(၃) နှစ်ကိုပယ်၍ ကျန်(၃၁) နှစ် အတွင်း တနေ့လျှင် ရှန်းမှုခြင်းအားဖြင့်၊ သံဃာတော် ဦးရေ၊ ၅၀၀၊ တနှစ်လျှင်၊ ၁၈၀၀၀ (၃၂) နှစ်အတွက် သံဃာတော် ဦးရေပေါင်း၊(၅၅၂၀၀၀)ငါးသိန်းငါးသိန်း နှစ်သောင်း တို့အား၊ ဘော်ပြပါဆွမ်း၊ ဆွမ်း ဟင်းလျာ တို့ဖြင့်၎င်း၊ နောက်ပိုင်း (၄)နှစ်အတွက် သံဃာတော် တို့အား ဆွမ်း၊ဆွမ်း ဟင်းနှင့်တကွ စာရေး တန်မဲ သံဃာတော်သုံးပစ္စည်းတို့ပါ လှူဒါန်းပြီး ခဲ့ကြလေသည်။

.....o.....

## ဆဋ္ဌသံဂါယနာလိုဏ်ဂူကြီးအတွက်

# ကုသိုလ်ပါဝင်ကြသူများ

ယခင်အပတ်မှဆက်၍

### အရှုခံဖြတ်ပိုင်း

### စာအုပ်အမှတ် (၄)

၁။ တောင်ငူ ပန်းပဲတန်းရပ် ပရိက္ခရာကုန်သည် ဒေါ်ပြုံနှင့် မြေးတစုတို့က သံဖြူတင်းပေါက် ၅-ခုပေါက်၊

၂၊ ရန်ကုန်မြို့ဝန်ကြီးချုပ်ကတော်နှင့် အဖွဲ့ဝင်များက ၅ဝိ၊

၃၊ ရန်ကုန်မြို့ ၁၂ လမ်း ပွဲစားကြီး ဦးမောင်လှ ဒေါ်ညွန့်ညွန့်တို့က ၁ဝိ၊

၄၊ ပန်းတနော် မောင်ကျော်မြင့်က ၂ဝိ။

၅၊ ပန်းတနော် ကိုရွှေက ၂ဝိ၊

၆။ သုံးခွပိုင် အောင်ပန်းစိန် ဦးဥက္ကံသက ၁၅ဝိ၊

၇၊ သုံးခွပိုင် အောင်ပန်းစိန် ဦးဥက္ကံသက ၁ဝိ။

၈။ ရန်ကုန် ၁၄၇၊လမ်းမတော် ဒေါ်ထွေးက ၆ဝိ။

၉။ ကြည့်မြင်တိုင် မကြီးကြီးလမ်း ဦးမြို့ ဒေါ်ဘုတ်ဆုံတို့က ၂ဝိ၊

၁၀။ ကြည့်မြင်တိုင် မကြီးကြီးလမ်း မောင်ချစ်ထွန်း၊ မသန်းအေး သို့မတောင်သိန်းတို့က ၂ဝိ။

၁၁၊ ၎င်းတို့ကပင် ၁ဝိ၊

၁၂။ ၎င်းတို့ကပင် ၁ဝိ၊

၁၃။ မန္တလေး ရတနာမဥ္ဇူရိပ်သာ မပိဋကရီ ဦးမြင့် ဒေါ်ရစ်တို့က ၈ဝိ။

၁၄၊ ကြည့်မြင်တိုင် မကြီးကြီးလမ်း ဦးမြိုးက ၂ဝိ၊

၁၅။ ရန်ကုန် ဆူးလေ ဘုရားလမ်း မကျင်ပုက ၄ဝိ။

၁၆။ ကွယ်လွန်သူဝန်ကြီး ဦးဘဝင်း ဇနီး ဒေါ်ခင်းစာ သားသမီးတို့က ၅ဝဝိ။

၁၇။ ရန်ကုန်ရေကျော် ခြောင်းကြီးလမ်း တိုင်းချစ် ဘလောက်တိုက် ဦးဘဆက် ဒေါ်လှရွှေတို့က ၁၅ဝိ၊

၁၈။ မန္တလေးမောင်ကိုလေး ၅ဝိ။

၁၉။ မန္တလေး ကိုကိုလေး ၅ဝိ။

၂၀။ ဝန်ကြီးမန်၊ဘခိုင်ကို ရည်မှန်း၍ ဝန်ကြီးကတော် ဒေါ်ခင်နီ သို့မြင့်မြင့်ခိုင် သားမောင်စိန်ခိုင်တို့က ၅ဝဝိ။

၂၁။ ကွယ်လွန်သူ ဦးအုန်းမောင် (I.C.S.)အား ရည်စူး၍ ဇနီး ဒေါ်သိန်းကြွယ်၊ သား ကိုတင်မောင်သိန်း၊ ဂိုကိုလှ ကိုမင်းမြင့်ဘို့က ၅ဝဝိ။

၂၂၊ ရန်ကုန်မြို့ ဇော်တင်လမ်း ဒေါ်ချစ် သားသမီးတစုတို့က ၅ဝိ။

၂၃။ ကိုကျော်ဝင်း၊ မခင်စိန် တို့က ၁ဝိ။

၂၄ ဒေါ်စိန်ငွေနှင့်သားမောင်ခင်က ၅ဝိ။

၂၅၊ ဘောက်ထော် ကိုထွန်းငြိမ်း၊ မလှိုင် မိသားတစုတို့က ၁၅ဝိ၊

၂၆။ မြောင်းမြ ဦးမောင်ကြီး၊ ဒေါ်ရွှေမှုတ်တို့က ၅ဝိ။

၂၇၊ မြောင်းမြ ရုံးသင်း ဦးရုံလွင် ဒေါ်ညက် သားသမီးတစု ၁၅ဝိ၊

၂၈။ မြောင်းမြမောင်ဟန်၊ မအုန်းတင် ၅ဝိ။

၂၉။ ရန်ကုန်ဒေါ်အုန်းစိန်၊ ကိုမောင်ညွန့် ၁ဝိ။

၃၀။ ဦးမောင်လေး သားသမီး တစု ၁၅ဝိ။

၃၁။ ကွယ်လွန်သူ ဝန်ကြီးသခင်မြကို ရည်စူး၍ ဝန်ကြီးကတော် ဒေါ်ခင်ညွန့်က ၅ဝဝိ။

၃၂၊ မြင်းခြံမြို့ ဇေယျာသိန် ကိုအောင်မိုး ၅ဝိ။

၃၃၊ တွံတေး ဒေါ်ဟံ ၁ဝိ။

၃၄။ လပွတ္တာ ဒေါ်လှသွင် ၅ဝိ၊

၃၅၊ ရန်ကုန်မြို့ ဒလ မသန်းတင် ၁ဝိ။

၃၆။ ကျိုက်သတ်မြို့ဦး၊သုဇာတ၅ဝိ၊

၃၇။ မိတ္ထီလာမြို့ ရွှေဂူကျောင်း ဦးပညာစာရ ၂ဝိ၊

၃၈၊ ရန်ကုန်မြို့ ဘျူးကြီးလမ်း၊ မမြရီ ၁၅ဝိ၊

၉၃။ ပယ်ဖျက်သောအမှတ်၊

၄၀။ ရန်ကုန် မောင်တင့် ၅ဝိ။

၄၁၊ မောင်ပွ- မသန်းကြည် ၂ဝိ၊

၄၂၊ မောင်ရွှေမှန် ၅ဝိ၊

၄၃၊ ရေကျော် ဒေါ်ကြီးမေ မိသားတစု ၁ဝိ၊

၄၄၊ ကြည့်မြင်တိုင် ဦးစိန်ဖေ ဒိ၊

၄၅။ ၊ ဦးစံညွှာ ဒိ

၄၆။ ၊ ဦးဘိုးထိဝ် ဒိ၊

၄၇။ ၊ ဦးလှ ဒိ၊

၄၈။ ရန်ကုန်မြို့ ၄၆ လမ်းဘလောက်တိုက် ဦးစံမြ ဒေါ်ပွား ၁ဝိ၊

၄၉။ သုံးခွ ဦးဝဏ္ဏဝတ ဂိ၊

၅၀။ ရန်ကုန် ကုန်ဈေးတန်း ဆရာဝန် ဦးမြ ဒေါ်သင်သားသမီးမြေးများ ၁ဝဂိ။

၅၁။ ပခုက္ကူ မောင်စံမြင့် မသိန်းမေ သားမောင်ခင်မောင်မြင့် ၅ဝိ၊

၅၂။ ရန်ကုန် ကျောက်မြောင်းဒေါ်သင်းမြင့် သားသမီးတစု ၆ဝိ၊

၅၃။ လားရှိုး မောင်ဘညွန့် မအုံးကြည် သားသမီးများ ၁၅ဝိ၊

၅၄။ ၊ ကိုလှမောင်မအုန်းစိန် သားသမီးများ ၄ဝိ၊

၅၅။ ရန်ကုန် ကင်း၊ဘဲလမ်း၊ မမြညွန့် ၂ဝိ။

၅၆။ ၊ ရဲမှူး၊ ရဲကျောင်းမြေလမ်း ဦးဘထွန်းဒေါ်ငွေစိန် ၃ဝဝိ။

၅၇။ ကန်တော်မိတ် ရခိုင်အဖွား ၁၅ဝိ။

၅၈။ ပစ္စည်းထိမ်းမှူး ဦးမှအောင်သင်း ၃၄ဝိ။

၅၉။ စက်နှင့် လျှပ်စစ်ဌာန အလုပ်သမားများ ၉ဝ၊

၆၀။ လှည်းကူး ဒေါ်စောမေနှင့် သားမောင်မောင် မယန်း ၁ဝိ။

၆၁။ ၊ မသက် မနက် ၂ဝိ၊

၆၂။ အလှူခံသေတ္တာမှ ၄၉၃ဝိနှင့် ထိလက်မှတ်နှစ်စောင်

၆၃။ မလှိုင်မြို့ ကွယ်လွန်သူ ဦးထွန်းတင်၊ဒေါ်နီတာအား ရည်စူး၍ ရန်ကုန် ကီလီယံမ်းအမှတ် ၇၃ နေသားသမီးများ ၅ဝဝိ။

၆၄။ နိုင်ငံတော် ဝန်ကြီးချုပ်ရုံးမှ ပဋ္ဌမရစ် ၈၈၄ ကျ၁း၅ဝ

၆၅။ အာလုံ ဦးမှန် ၃ဝိ။

၆၆။ ကျိုက်လတ် ဦး၊ဘအေး၊ ဒေါ်သိန်း ၂ဝိ။

၆၇။ မြန်အောင် မောင်သိန်းမောင် ၂ဝိ။

၆၈။ ရုံးဒေါင့် ဦးဝိမလ ဒိ။

၆၉၊ မြန်အောင် ဒေါ်ပွင့် ဒိ။

၇၀။ မော်လမြိုင်ကျွန်း၊ဦးစံမြင့် ၁ဝိ။

၇၁။ မော်လမြိုင်ကျွန်း ဦးဝမ်းကြန် မစောကြင် ၁ဝိ။

၇၂။ ‹နက္ကန် မောင်စစ်ဝမ်း ၅ဝိ။

၇၃။ ဒါးပိန်မြို့ ဦးခင် ၅ဝိ၊

၇၄၊ မော်လမြိုင်ကျွန်း မောင်တလုပ်ကြီး ၅ဝိ။

၇၅၊ ကျောက်ဆယ်မြို့ စေ့ကိုင်ကြီး ဦး‹ ၅ဝိ။

၇၆။ ထန်းတပင် မီးသတ်အစည်းအရုံးခွဲမှ ကြီးမှူးကောက်ခံရငွေ ၁၈ဝိ၊

၇၇။ ဒေါက်တာ ဘလူးဝါ၊နှင့်အိမ်သားများ ၁၅ဝဝိ။

၇၈၊ ဇလွန် ဒေါ်စိန်နှင့် သို့များ ၅ဝိ။

၇၉။ ရန်ကုန်အလုံ ရွှေကိုလေးဆေးတိုက် ဦးဟုတ်စိန် ဒေါ်သန်းစိန် ၅ဝိ၊

၈၀။ ဒိုက်ဦး ကိုးအောင် ၂ဝိ၊

၈၁၊ ရန်ကုန် သိမ်ကြီးဈေး ဒေျးရဲကိုမောင်မောင် ၅ဝိ၊

၈၂၊ ပုသိမ် ဦးလေးမောင်နှင့် သားသမီးများ ၃၅ဝိ။

၈၃။ မော်လမြိုင် ရွှေတောင် ရပ်ရွှေမြိုး ၁၅ဝိ၊

၈၄၊ လပွတ္တာမြို့ ကုန်သည်မခလေး မဒေါ် မမြမြ ၂၅ဝိ၊

၈၅၊ ပဲခူး ရွှေခြုံ၊ ဆေးလိပ်ရုံပိုင်ရှင် ၃ဝိ၊

၈၆။ မော်လမြိုင် မောင်ချစ်လှ မခင်ကြည် ၁ဝိ။

၈၇။ ရန်ကုန် ရာပါခြံရေကူး ဦးအောင်ပွင့် ၁ဝိ။

၈၈။ ပြည်မြို့ ဇဆပလ ဥက္ကဋ္ဌ ဦးသိန်း ဒေါ်လှရင် ၁ဝိ၊

၈၉၊ အိမ်ရာ ဆောက်လုပ်ရေးနှင့် အလုပ်သမားဝန်ကြီးဌာနလက်အောက်ခံဌာန အကြီးအကဲများနှင့် ဘုတ်အဖွဲ့များ အပါအဝင် ၃၁၁၅ဝိ။

၉၀။ မင်းလှ ဦးသိန်း ဒေါ်သောင်ဒေါ်ဇေ ၁ဝိ၊

၉၁။ ရန်ကုန် ခြောက်မိုင် မကြေည် ၂ဝိ။

၉၂။ ၁၁၇၊ ၃၃-လမ်း၊ သမ္မာဆန္ဒကုမ္ပဏီကျောက်သားမှုန့် ၂ ပုံး။

၉၃။ အမှတ် ၁၆ မြောင်းမြလမ်း ဒေါက်တာ ဦးမောင်မောင် ဒေါ်ကြည်ကြည်သားသမီးများ ၁ဝဝိ။

၉၄၊ ပေါင်း၊တည်မြို့မောင်သန်း ၁ဝိ၊

၉၅။ ဦးသန့် ဒေါ်ကျေ့ သားသမီးများ ၅ဝိ။

၉၆။ ဦးတင် ၅ဝိ။

၉၇။ ရန်ကုန် မဂိုလမ်း ပွဲစားကြီး ဦးအုံးမောင် ၁ဝဝိ၊

၉၈။ (၂၂၅) မဂိုလမ်း လှသိန်းကုမ္ပဏီ ၅ဝိ။

၉၉၊ ဓနုဖြူမြို့ တရားသူကြီးဟောင်း ဦးစံမောင် ဒေါ်ခင်တင့် သား သမီး များ ၁ဝဝိ၊

၁၀၀။ ဦးသိန်းဟန် ဒေါ်ခင်သန်း၊သားသမီးများ ၅ဝိ။

....o....

# သံဂါယနာပွဲတော်ကြီးအတွက် ကမ္ဘာ့အရပ်ရပ်သို့

# ဖိတ်ကြားရန် ရာထားချက်များ

နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၏ ဆဋ္ဌသံဂါယနာ စီစဉ်ရေးဆိုင်ရာ ညှိနှိုင်းရေးနှင့် သယ်ယူပို့ဆောင်ရေးအဖွဲ့ (၂၉-၉-၅၃) နေ့ အစည်းအဝေးတွင် အကျိုးဆောင်စာချီ ဦးချန်ထွန်းက ဆဋ္ဌသံဂါယနာတင်ပွဲတော်ကြီးတွင် ထေရဝါဒတိုင်းပြည်များနှင့်မဟာယာနတိုင်းပြည်များမှရဟန်းတော်များ၊ အစိုးရအဖွဲ့ဝင်ဝန်ကြီးများနှင့် သာသနာရေး ခေါင်းဆောင် လူပုဂ္ဂိုလ်များအား ဖိတ်ကြားထိုက်ခြင်း အကြောင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း ရှင်းလင်းပြောကြားသည်။

ယခုကျင်းပမည့် ဆဋ္ဌသံဂါယနာတင်ပွဲတော်ကြီး စတင်ဖွင့်လှစ်သည့်အချိန်မှာ တကမ္ဘာလုံး အုံးအုံး ကြွက်ကြွက် စိတ်အားထက်သန်ခါ နိုးကြား လာအောင် ဖြစ်စေခြင်းပါတယ်။ သံဂါယနာတင် ပွဲတော်ကြီးကိုလဲ သိုက်သိုက်မြိုက်မြိုက်စည်စည်ကားကားဖြင့် ကျကျနနကျင်းပချင်ပါတယ်။ ယခုအခါ ကမ္ဘာ့အပေါ်တွင် ဗုဒ္ဓဘာသာကို စိတ်ဝင်စားပြီး နားလည်လိုတဲ့ လူပုဂ္ဂိုလ်တွေဟာ အနှံ့အပြားရှိနေပါတယ်။ အဲဒီလို ပုဂ္ဂိုလ်တွေကို ရှေ့သို့ တိုးတက်ပြီး စိတ်အား ထက်သန်အောင် လှုံ့ဆော်ပေးဘို့လိုပါတယ်၊ အချို့တိုင်းပြည်များရှိ စဉ်းစားဉာဏ် ထက်သန်သူများက ဗုဒ္ဓဘာသာတရားတော်သာလျှင် တမ္ဘာ့ငြိမ်းချမ်းရေးအစေကို ပေးစွမ်းနိုင်တယ်လို့ ယုံကြည်နေကြပါတယ်။ အနောက်နိုင်ငံ တိုင်းပြည်များအား ဗုဒ္ဓဘာသာကို ပိုမိုပြီး စိတ်ဝင်စား လာအောင် လှုံ့ဆော်ပေး သင့်တယ်လို့ ထင်မြင်ပါတယ်။

သံဂါယနာပွဲတော်ကြီး ကျင်းပတဲ့အခါမှာ ပိဋကတော်သုတ်သင်မှုကိုအကြောင်းပြုပြီး ဗုဒ္ဓဘာသာနိုင်ငံများ အားလုံး အုံးအုံး ကြွက်ကြွက်နှင့် ၂ နှစ်ပါတ်လုံး ထိုနိုင်ငံများ၏ ကမ္ဘာကပါအာရုံ စူးစိုက်ခါ စိတ်ပါဝင်စားနေကြမည်ဆိုလျှင် သာသနာပြန့်ပွားရေးကိစ္စဟာ အထူးပင် တိုးတက်ပြီး ထိရောက်လိမ့်မည်ဟု ထင်မြင်ပါတယ်။ ကမ္ဘာ့လုံးကလဲ ဆဋ္ဌသံဂါယနာကို မြော်လင့်တောင်းတတဲ့ စိတ်မျိုးဖြစ်ပေါ်လာစေခြင်းပါတယ်။ ဤသံဂါယနာပွဲတော်ကြီးကို မြန်မာပြည်ကကြီးမှူး၍ ထေရဝါဒ နိုင်ငံ ၅-နိုင်ငံ ပူးပေါင်းပြီး ဆောင်ရွက်တဲ့ သံဂါယနာ ဖြစ်ရမည်လို့ ဩဝါဒါစရိယ သံဃနာယကအဖွဲ့ကြီးက ဆုံးဖြတ်ချက်ချထားတဲ့အတိုင်း ထေရဝါဒ ၅ နိုင်ငံမှ ရှိတဲ့သံဃာတော်၊ အစိုးရနှင့်လူထုအပေါင်းဟာ သံဂါယနာတင်ပွဲကျင်းပတဲ့အချိန် ၂ နှစ်ပါတ်လုံးကာလမှာ သံဂါယနာတွင် တကယ်တန်း စိတ်ပါဝင်စားပြီးနေအောင် ဆောင်ရွက်ဘို့က အလွန်ဘဲအရေးကြီးပါတယ်။

နောက်ပြီးတော့ ထေရဝါဒနိုင်ငံများအပြင် နိုင်ငံ ၃ စားရှိနေပါတယ်၊ အဲသည် ၃ စားကဘာလဲဆိုလျှင် (၁) မဟာယာနဗုဒ္ဓဘာသာနိုင်ငံတွေ၊ (၂) ရှေးကဗုဒ္ဓဘာသာပြန့်ပွားထွန်းကားခဲ့ပြီးနေခင်ကိုလည်း ဗုဒ္ဓဘာသာ ပြန်လည်ထွန်းကားပြန့်ပွားဘို့အလားအလာရှိတဲ့ အာရှတိုက်ရှိ နိုင်ငံတွေ၊ (၃) ကျန်တမျိုးကတော့ ရှေးတုန်းကလည်းဗုဒ္ဓဘာသာမထွန်းကားဘူးဘူး၊ ယခုလဲမထွန်းကားသေးတဲ့နိုင်ငံတွေဖြစ်ပါတယ်။ အဲသည်လိုနိုင်ငံတွေကိုလဲ ကျွန်တော်တို့ ယခုကျင်းပမဲ့ ဆဋ္ဌသံဂါယနာ ပွဲတော်ကြီး၏ ဘိတ်မန္တကပြုဘို့ရန် သင့်တော်တယ်လို့ ကျွန်တော် ထင်မြင်ပါတယ်။

ပဌမဦးစွာ ထေရဝါဒ နိုင်ငံများကို ဘိတ်ကြားရန် ဖြစ်ပါတယ်၊ ထေရဝါဒ နိုင်ငံတွေမှာဆိုရင် သံဃာတော်များ အင်အားစု၊ အစိုးရအင်အားစု၊ တိုင်းပြည်သူ တိုင်းပြည်သား များရဲ့ အင်အားစုဆိုတဲ့ အာအားစုခု မျိုးစလုံးကို ဘိတ်ရပါမည်။

စသည်ဖြင့် ရှင်းလင်းပြောကြားသည်ကို ကြားနာပြီးနောက် တိုင်းပြည်အသီးသီးမှ အောက်ပါအတိုင်း သံဃာတော်၊ အစိုးရနှင့် တိုင်းသူ ပြည်သား များကို ပင့်ဘိတ်ရန်ရာထားကြသည်။

## ၁။ ယိုးဒယားနိုင်ငံမှ

(က) သံဃ ရာဇာ အမှူးရှိသော သံဃာအစိုးရအဖွဲ့ဝင်ရဟန်းတော်များ။ (ခ) ရှင်ဘုရင်။ (ဂ) နန်းရင်းဝန်။ (ဃ) သာသနာရေးတွင် စိတ်ပါဝင်စားသည့် ဝန်ကြီးများနှင့် သာသနာ့ညွှန်ကြားရေးဝန် စသည့်အရာရှိများ။ (င) ယိုးဒယားနိုင်ငံတော် ဗုဒ္ဓဘာသာအသင်း၏ ကိုယ်စားလှယ်များ။

## ၂၊ သီဟိုဠ်ကျွန်းမှ

(က) ဂိုဏ်းပေါင်းစုံမှ ဂိုဏ်းချုပ်ရဟန်းတော်များ (သံဂါယနာ အတွက် ဖွဲ့စည်းပြီးအဖွဲ့ရှိသည်။) (ခ) ဘုရင်ခံချုပ်။ (ဂ) နန်းရင်းဝန်။ (ဃ) သာသနာရေး ဘက်တွင် စိတ်ဝင်စားသည့် ဝန်ကြီးများ။ (င) သံဂါယနာထောက်ပံ့ရေး အဖွဲ့ဝင်များ။ (စ) အခြားထင်ရှားသော ပုဂ္ဂိုလ်ကြီးများ။

## ၃။ ကမ္ဘောဒီယားမှ

(က) သံဃရာဇာနှင့်ထမ္မယုတ်ဂိုဏ်းမှ နာယက ဆရာတော် အမှူး ရှိသော ရဟန်းတော်များ။ (ခ) ရှင်ဘုရင်၊ (ဂ) နန်းရင်းဝန်။ (ဃ) သာသနာရေး ခေါင်းဆောင် လူ ကိုယ်စားလှယ်များ။

## ၄။ လာအိုပြည်မှ

(က) သံဃရာဇာ။ (ခ) ရှင်ဘုရင်။ (ဂ) နန်းရင်းဝန်။ (ဃ) သာသနာရေးခေါင်းဆောင် လူပုဂ္ဂိုလ်များ။

## မဟာယာန နိုင်ငံများ

## ၅။ ဂျပန်ပြည်မှ

(က) ရှင်ဘုရင် (သို့မဟုတ်) ညီတော် မိကာဆ မင်းသား။ (ခ) ရဟန်း ဂိုဏ်းချုပ်များ။ (ဂ) ဗုဒ္ဓဘာသာအဖွဲ့ ခေါင်းဆောင် လူပုဂ္ဂိုလ်များ။

## ၆။ တရုတ်ပြည်မှ

(က) ရဟန်းတော်များ အဖွဲ့ချုပ်မှ ကိုယ်စားလှယ်များ (ခ) ဗုဒ္ဓဘာသာ လူအသင်းချုပ်မှ ကိုယ်စားလှယ်များ။

## ၇။ အိန္ဒိယပြည်မှ

(က) မဟာဗောဓိ ဦးနန္ဒဝံသ၊ ဦးစန္ဒမုနိ၊ ဦးကိတ္တိမ၊ ဦးမဟိန္ဒ၊ ဘိက္ခုကဿပ၊ ဘိက္ခုအာနန္ဒကောသလာယန၊ အရှင်ဗုဒ္ဓရက္ခိတနှင့်အခြားထင်ရှားသော ရဟန်းတော်များ။ (ခ) သမတကြီး ရာဂျင်ဒြာပရာဆတ်။ (ဂ) ရှမီနေရူးနှင့် ဗုဒ္ဓဘာသာကိုစိတ်ပါဝင်စားသည့်အခြားဝန်ကြီးများ (ဃ) မဟာဗောဓိအသင်း ဥက္ကဋ္ဌနှင့်အကျိုးဆောင်၊ (င) ပါမောက္ခ မွတ်ဟာဇက် စသော ထင်ရှားသော ပုဂ္ဂိုလ်ကြီးများ။

## ၈။ အင်ဒိုနီးရှားမှ

(က) သမ္မတ။ (ခ) နန်းရင်းဝန်။ (ဂ) ဆန်ကောင်း အသင်းမှ လူပုဂ္ဂိုလ် ကိုယ်စားလှယ် ၂-ဦးခန့်။

## ၉။ တိဗက်ပြည်မှ

(က) ရဟန်း အဖွဲ့၊ မင်းကြီးနှင့် ရဟန်း၊ အစိုးရ အဖွဲ့ဝင်များ၊ (တရုတ်သံရုံးနှင့်စုံစမ်းပြီးဘိတ်ရန်)။

## ၁၀။ နီပေါပြည်မှ

(က) သံဃ ကိုယ်စားလှယ်များ။ (ခ) နန်းရင်းဝန်။ (ဂ) ရှင်ဘုရင်။

## ၁၁။ ဆင်ကင်မှ

(က) သံဃာ ကိုယ်စားလှယ်များ။ (ခ) ရှင်ဘုရင်။ (ဂ) နန်းရင်းဝန်။

## ၁၂။ လာဒက်မှ

(က) ခေါင်းဆောင် လားမား ရဟန်း။

## ၁၃။ မီယက်နန်မှ

(က) ရှင်ဘုရင်။ (ခ) ဘာသာရေးခေါင်းဆောင်။ (ယိုးဒယား သံရုံးနှင့် ယိုးဒယားရှိ မြန်မာသံရုံးနှင့် စုံစမ်းဘိတ်ရန်)။

## ၁၄။ အာသံပြည်မှ

[က] သံဃာကိုယ်စားလှယ် ၃ ပါး နှင့် [ခ] လူကိုယ်စားလှယ် ၃ ယောက်။ (စာရင်းပေးရန် ဦးသန်းစိန်ကတာဝန်ယူသည်)။

## ၁၅။ ကပ္ပလီကျွန်းမှ

(က) ရဟန်းတော်တပါး။ (ခ) လူပုဂ္ဂိုလ်တယောက်။

## ၁၆။ ပါကစ္စတန်မှ

[က] ဘုရင်ခံချုပ်။ [ခ] နန်းရင်းဝန်။

## ၁၇။ စစ်တကောင်းမှ

(က) သံဃာ ကိုယ်စားလှယ်တော် ၂ ပါး၊ [ခ] ဗုဒ္ဓဘာသာခေါင်းဆောင် ၂ ဦး။

## ၁၈။ ပသျှူးကျွန်းဆွယ်မှ စင်ကာပူ၊ ပီနန်

(က) သံဃာကိုယ်စားလှယ်တော် နှစ်ပါး။ (ခ) လူကိုယ်စားလှယ် ၃-ဦး။

အထက်ပါအတိုင်း သက်ဆိုင်ရာနိုင်ငံ၏ အဓိပတိများနှင့်နန်းရင်းဝန်စသည်တို့ကို ဘိတ်ရန်သင့်မသင့် မည်သို့မည်ပုံဘိတ်ရမည်စသည်တို့ကို သက်ဆိုင်ရာသံရုံးများ အာဏာပိုင်များနှင့် အကျိုးဆောင်စာချီ (၁)က ဆွေးနွေးပြီး၊ တန်သမျှဆွေးနွေးပြီးဖြစ်ကြောင်း။

## ရဟန်းတော်ပေါင်း၊

ဆဋ္ဌသံဂါယနာတင် ပွဲတော်ကြီးတွင် အနိုင်နိုင်ငံများမှ ရဟန်းတော်များနှင့် လူပုဂ္ဂိုလ်များသည် အောက်ပါ အရေ အတွက်အတိုင်း တက်ရောက်ကြလိမ့်မည်ဟု ခန့်မှန်းကြသည်။

(က) မြန်မာပြည်မှ ရဟန်းတော် ၂၀၀၀-ခန့်၊ [ခ] ယိုးဒယား ပြည်မှ ၂၀၀-ခန့်၊ (ဂ) သီဟိုဠ်ကျွန်းမှ ၂၀၀-ခန့်၊ (ဃ) ကမ္ဘောဒီယားမှ ၃၀-ခန့် (င) လာအိုပြည်မှ ၂၀-ခန့်၊ (စ) ကျန်နိုင်ငံများမှ ထေရဝါဒသံဃာများ ၅၀-ခန့်၊ ခန့်မှန်းခြေသံဃာတော်ပေါင်း ၂၅၀၀ခန့်။

## လူဧည့်သည်တော်များ

(က၊ သီဟိုဠ်ကျွန်းမှာ ၃၀၀-ခန့်၊ [ကျောင်းတကျောင်းတွင် ထားရန်] [ခ] ထိုးဒယားမှ ၂၀၀၊ [ဂ] ကမ္ဘောဒီးယားမှ ၅၀၊ [ဃ] လာအိုပြည်မှ ၅၀၊ [င] ကျန်မဟာယာနနိုင်ငံများမှ (လူနှင့် ရဟန်း) ၁၀၀၊ ပေါင်း ၇၀၀-ခန့်။

.... .....

## ဓမ္မသင်္ဂါဟက ရဟန်းတော်များအား

# လျှောက်ထား တောင်းပန်သွာ

၁၃၁၄–ခုတန်ခူး လဆန်း (၇) ရက်၊ ဆဋ္ဌသင်္ဂါယနာ ဝန်ဆောင်သံဃအဖွဲ့ ဥက္ကဋ္ဌ ကျောင်းဆရာတော်က ကောင်းမြတ်သော သမ္မာ ဆန္ဒဖြင့် သတိပေး စကား လျှောက်ထား တောင်းပန်ပါသည်ဘုရား။

ပဌမ၊ ဒုတိယ၊ တတိယ သင်္ဂါယနာတင် ရဟန္တာမဟာထေရ် မြတ်တို့ ကဲ့သို့ ပိဋကသုံးပုံ ပါဠိတော် မြတ်ကို ဓမ္မသင်္ဂါဟက ရဟန်းတော် တိုင်းသည် နှုတ်ဖြင့် အကုန် မရွတ်နိုင် စေကာမူ "ယခု ကျင်းပလတ္တံ့သော ဆဋ္ဌသင်္ဂါယနာ သန္နိပါတ အစ အစဉ်နေ့များ၌၊ ပုဗ္ဗကိစ္စဖြင့် ညီညီ ညာညာ ပေါင်းစု၍ နှုတ်လွတ်ရွတ်တော် မူလျက်၊ သင်္ဂါယနာတင်တော် မူနိုင်ကြစေရန်" ဆဋ္ဌသင်္ဂါယနာ ဓမ္မသင်္ဂါဟက ရဟန်း တော်တိုင်းသည် အနည်းဆုံး အောက်ပါ ပါဠိတော်များကို အာဂုမ် ရရှိအောင် အားထုတ်တော်မူကြပါမည့် အကြောင်း ရိုသေလေးမြတ်စွာ လျှောက်ထား တောင်းပန်ပါသည်ဘုရား။

(က) ပရိတ်ကြီး ပါဠိတော် (၁၁) သုတ်၊ (ခ) မဟာသမယ သုတ်ပါဠိတော်၊ (ဂ) ဝိနည်း၊ မဟာဝါ ပါဠိတော်အစ ဗောဓိကထာ၊

(ဃ) ဓမ္မစက္က ပဝတ္တနသုတ်ပါဠိတော်၊

(င) အနတ္တလက္ခဏသုတ် ပါဠိတော်၊

(စ) မဟာသတိ ပဋ္ဌာနသုတ် ပါဠိတော်၊ (ဆ) ဓြဝါဒ ပါတိမောက် ၃–ဂါထာ၊ (ဇ) ဘိက္ခု ပါတိမောက် ပါဠိတော်။

(ဈ) ပဋ္ဌာန်း၊ ပစ္စယုဒ္ဒေသနှင့်ပစ္စယနိဒ္ဒေသ ပါဠိတော်။

အထူးအားဖြင့် ဆက်လက် လျှောက်ထားလိုသည်မှာ၊ အရှင်မဟာ ကဿပ စသော ရဟန္တာ မဟာထေရ် မြတ်တို့သည် ပဌမသင်္ဂါယနာဘင်ရန် ညှိနှိုင်းတိုင်ပင်သော အစည်း အဝေးကြီး၌ ရဟန်းတော် အရှင်မြတ်များ သိန်းသန်း ကုဋေ မက ရှိစေကာမူ၊ ဤပဌမသင်္ဂါယနာတင်ရာ၌ အထူးသဖြင့် အလွန်စင်ကြယ်သော ရဟန်းတော် ပရိသတ်ရမှ သာလျှင် သင့်လျော်မည်ဟု ဆင်ခြင်တော် မူကြပြီးလျှင် တိပိဋက ကရေ၊ ဆဋ္ဌဘိည၊ ခီဏာသဝ၊ အသေက္ခ၊ ရဟန္တာ မဟာ ထေရ်မြတ် (၅၀၀) ငါးရာ တို့ကိုသာ ရွေးကောက်တော်မူကြလေသည်၊ ဤပရိတ် သတ်တွင် ဗဟုသုတ တေဒဂ်ရ သေက္ခဖြစ်သော အရှင် အာနန္ဒာ ပါဝင်နေသည် ဖြစ်၍ ရဟန္တာ မဟာထေရ် မြတ်ကြီးတို့က ဤပရိသတ်၌ အစိန်းနံ့ နံ့စော်သည်ဟုမိန့်ဆိုတော် မူကြရာ အရှင် အာနန္ဒာသည် ငါ့ကို ရည်၍ ဆိုသည်ဟု သတိ သံဝေဂရတော်မူပြီးလျှင်၊ အသေက္ခ ဖြစ်အောင်မနေမနား စင်္ကြံသွား၍ (၃၂) ပါးသော ကောဋ္ဌာသ ကမ္မဋ္ဌာန်းကို ပွားများ အားထုတ်တော်မူလေသည်။ ထိုသို့ အားထုတ်၍အသေက္ခ၊ ခီဏာသဝ အဖြစ်သို့ ရောက်ပြီးမှသာလျှင် ပဌမ သင်္ဂါယနာတင် မဟာဓမ္မ သဘင်ကြီးတွင် ပါဝင် ဆောင်ရွက်တော်မူသကဲ့သို့ ယခုကျင်းပလတ္တံ့သော ဆဋ္ဌ သင်္ဂါယနာတင် မဟာဓမ္မ သဘင်ကြီး၌လည်း အထူးသဖြင့် စင်ကြယ်သော ရဟန်းမွန် ရဟန်းမြတ် ပရိသတ်ကို အလိုရှိအပ်ပါသောကြောင့် အရှင်မြတ်တို့သည်လည်း အသေက္ခ မဖြစ်နိုင်စေကာမူ ကလျာဏ သေက္ခဖြစ်အောင် မိမိတို့၏ သန္တာန်၌ ကိလေသာ အညစ်အကြေး များကို သီလဝိသုဒ္ဓိ ဝိပဿနာ ဘာဝနာရေစင်ဖြင့် စင်ကြယ်နိုင်သမျှ စင်ကြယ်စေပြီးလျှင် ဖြစ်နိုင်ခဲ လှစွာသော ဤဆဋ္ဌသင်္ဂါယနာဘင် မဟာဓမ္မ သဘင်ကြီး တွင် သမ္မဇဉ် တရားဖြင့် ပါဝင် ဆောင်ရွက်တော်မူကြပါမည့်အကြောင်း၊ သတိပေး စကား၊ လျှောက်ထား တောင်းပန် ပါသည်ဘုရား။

ဦးရေဝတ

အဂ္ဂမဟာပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု

ကျောင်းရဲ့ဆရာတော်

ဥက္ကဋ္ဌ

ဆဋ္ဌသင်္ဂါယနာ ဝန်ဆောင် သံဃအဖွဲ့၊

"ဤလျှောက်ထားလွှာကို ၁၃၁၄ခု၊ တန်ခူး လဆန်း ၇–ရက် (၂၁–၃–၅၃) စနေနေ့တွင် ကျင်းပသော ဝန်ဆောင်သံဃအဖွဲ့ အစည်းအဝေး မှတ်တမ်း အမှတ်စဉ် ၄၊ ဆုံးဖြတ်ချက် အပိုဒ် ၂–အရ ဆဋ္ဌသင်္ဂါယနာ ဝန်ဆောင် သံဃ အဖွဲ့၏ သဘော တူညီချက်ဖြင့် ထုတ်ဝေ ဆက်ကပ်သည်။"

### စာမျက်နှာ ၆ မှအဆက်။

ကြိမ့်သာ မက အကြိမ့်ကြိမ် အတန် တန်စီမံဆောင်ရွက် စေအပ်သော လုပ်ငန်းမြတ်ကြီး ဖြစ်၍ ပေါ်ပေါက် လာမှုနှင့် ဆောင်ရွက် ဘွယ်များ၊ စွာတို့၌ အလွယ်တကူဆောင်ရွက် နိုင်ရန်အခြေခံ အတွက် ယခုလိုတင်ပြ အစီရင်ခံရပါသည်။

ဤအောင်မြင်ချက် အားလုံး တို့မှာ၊ နိုင်ငံတော် ဗုဒ္ဓ သာသနာ အဖွဲ့ ဗိုလ်ဂိုဏ်းပေါင်းစုံ မဟာသံဃ အဖွဲ့ ချုပ်၊ ဗုဒ္ဓဘာသာအဖွဲ့ ချုပ်တို့၏ တောင်တန်း သာသနာပြုအဖွဲ့ ကြီးမှ ဥက္ကဋ္ဌ–အမှုဆောင်–အကျိုးတော်ဆောင်တို့၏စေတနာရှေ့ထား လျှက်ကြိုးစား အားထုတ်မှုမှ ထွက်ပေါ်လာသည့် အောင်မြင် ချက်များ ဖြစ်ပါကြောင်း။

ဗုဒ္ဓ သာသနာ၊ နေဝါလဝန်၊ ပမာ ညွှန်း လောက်အောင် ကွန့်ရှန်း၊ ပြန့်ပွား ခဲ့သော အာသံပြည် နှင့်တကွ အိန္ဒိယ နိုင်ငံတော်ကြီးသည် အခြေ အနေ အမျိုးမျိုးတို့ ကြောင့် ညှိုးမှိန် ခဲ့ရသော် လည်း ယခုကဲ့သို့ ကြိုးပမ်းမှုများကြောင့် တနေ့တခြား ဒိုးရအသာ၊သို့ တိုးပွား ထွန်းတောက် နိုင်ပါစေသော်။

အာသံ– ဦးပညာဝံသဆရာတော် အာသံသာသနာပြု ခေါင်းဆောင် နှင့် တောင်တန်းသာသနာပြု အဖွဲ့– တွဲဘက် အကျိုးဆောင်။

....၀.....

စာမျက်နှာ [၁၈] တတိယကော်လံအဆုံး၌ ဟီသန်ဆိုးအစား [ပဟီသန်] ဟုပြင်ဖတ်ပါ။

## နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့တွင်ရနိုင်သည့် ကျမ်းစာများနှင့် စာစောင်များ

| | ကျမ်းအမည် | အတွဲ | ရိုက်နှိပ်သည့်ဘာသာ | အဘိုး | မှတ်ချက် |
|---|---|---|---|---|---|
| ၁။ | မူလပဏ္ဏာသဋီကာ | ပထမတွဲ | ပါဠိ | ၆-ကျပ် | ရနိုင်သည် |
| ၂။ | မူလပဏ္ဏာသဋီကာ | ဒုတိယတွဲ | ။ | ၅-ကျပ် ၅၀-ပြား | ။ |
| ၃။ | မဇ္ဈိမနှင့် ဥပရိပဏ္ဏာသဋီကာ | | ။ | ၆-ကျပ် ၅၀-ပြား | ။ |
| ၄။ | ပဋိသမ္ဘိဒါမဂ်ဘာသာပြန်(စံကျောင်း) | | မြန်မာ | ၆-ကျပ် | ။ |
| ၅။ | အဘိဓမ္မတ္ထသင်္ဂြိုဟ်ပါဠိနိဿယ | | ။ | ၃-ကျပ် | ကုန်နေသည် |
| ၆။ | ဗားကရာသင်္ဂြိုဟ်အဓိပ္ပါယ်ကောက် | | ။ | ၂-ကျပ် ၅၀-ပြား | ရနိုင်သည်၊ |
| ၇။ | အဘိဓမ္မတ္ထသရုပဒီပနီ | | ။ | ၂-ကျပ် ၅၀-ပြား | ။ |
| ၈။ | အဘိဓမ္မာနေ့အရေးတော်ပုံ | | ။ | ၁-ကျပ် ၅၀-ပြား | ။ |
| ၉။ | ဆုတောင်းခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၀။ | ပါရမီခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၁။ | နေမိငရဲခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၂။ | သာသနာ့ရောင်ခြည်စာစောင် | | မြန်မာ | ၁-ကျပ် | ။ |
| ၁၃။ | ဓမ္မရောင်ခြည်စာစောင် | | အင်္ဂလိပ် | ၁-ကျပ် ၅၀-ပြား | ။ |
| ၁၄။ | သံဃါယနာစာစောင် | | မြန်မာ | ၂၅-ပြား | ။ |
| ၁၅။ | သံဃါယနာစာစောင် | | အင်္ဂလိပ် | ၂၅-ပြား | ။ |

## ဘုရားရှင်တာဝတိံသာမှ ပြန်ကြွတော်မူရာသက်ဿနဂိုရ်ပြည်အတွက်

# နှစ်ပေါင်း ၁၄၀၀ ကျော်က မှတ်တမ်း

''အင်ဒဝိစ်''(ဗုဒ္ဓ)မြစ်ကို လှကူး နိုင်သော နေရာမှစ၍ ဗုဒ္ဓယပြည် တောင် ဘက်ရှိ (တောင်ဘက် ပင်လယ်) သို့ ရောက်အောင်''လိ''ပေါင်း (၄၀၀၀၀) လေး သောင်း ကျော် (၅၀၀၀၀) ငါး သောင်း အကွာအဝေး၌ တည်ရှိသော တိုင်းပြည်သည် ညီညွတ်ပြန့်ပြူး၍ တောင် ကြီးများနှင့်မြစ်ကြီး ချောင်းကြီးများ မရှိချေ၊ သို့ရာတွင် မြစ်ငယ်ကလေးများကား ရှိလေသည်။

### သက်ဿနဂိုရ်ပြည်

၎င်းနေရာမှ အရှေ့ တောင်ဘက်သို့ တဆယ့်ရှစ် ယူဇနာ အကွာအဝေး၌ ''သံကေသ'' (ယနေ့အခါ ကပိလ) ခေါ်သော တိုင်းပြည်တပြည် ရှိလေသည်။ ၎င်းတိုင်းပြည်သည် ဗုဒ္ဓ ရှင်တော်ဘုရား တာဝတိံသာနတ်ပြည်၌ မယ်တော်ဖြစ်ခဲ့ ဘူးသော ''သန္တုဿိတာနတ်သား'' အား ဝါတွင်းသုံးလပတ်လုံး''အဘိဓမ္မာ တရားတော်'ကို ဟောတော်မူပြီးနောက်၊ နတ်ပြည်မှ ဆင်းသက်တော်မူသော နေရာ ဖြစ်လေသည်။ ဘုရားရှင် ကိုယ်တော်မြတ် သည် မိမိ၏တာည့်သား တဦးတယောက် ကိုမျှ မသိစေဘဲ တန်ခိုးတော် အားဖြင့် တက်ကြွတော်မူလေသည်။

### စောင့်မျှော် နေသည့်လူထုကြီး

ပြန်လည်ဆင်းကြွတော်မမူမီ 'ခုနစ်ရက်' ကနတ်တပ်ကြီး၌ 'အစိန္တေယျတန်ခိုးတော်' ကို လွှတ်တော်မူသောအခါ၊ အဝေး လူ့ ပြည်မှာ နေတော်မူသော တပည့်သား ''အရှင်အနုရုဒ္ဓါ'' မထေရ် မြတ်သည် ''ဒိဗ္ဗ စက္ခု ဉာဏ်'' ဖြင့် ဘုရားရှင် ကိုယ်တော်မြတ်ကို မြင်တော်မူ၍ လက်ဝဲ တော်ရံ''အရှင်မောဂ္ဂလာန်'' မထေရ် မြတ်အား ''အရှင်ကြွတော်မူ၍ ဘုရားရှင် အားရှိခိုး ဝတ်ပြုတော်မူပါ''ဟုလျှောက် ထား ပြောဆို လေသည်။ ''အရှင်မဟာ မောဂ္ဂလာန်'' မထေရ်မြတ်လည်း တာ ဝတိံသာသို့ တက်ကြွတော်မူ၍ ဘုရားရှင် ကိုယ်တော်မြတ်၏ခြေတော်အစုံ ကြာပဒုံ၌ ရှိသေကိုင်းညွတ် ပျားပျား ဝင်လျက် ဆည်းကပ်ခစား၊ စကား ပဋိသန္ထာရပြုပြီး သောအခါ ဘုရားရှင်က ''ချစ်သား မောဂ္ဂလာန် ငါဘုရားသည် ၎င်းနေ့မှစ၍ (ခုနစ်ရက်) မြောက်သောအခါ လူ့ပြည် လောကသို့ ဆင်းသက်တော်မူမည်'' ဟု အမိန့်ရှိတော်မူလေသည်။ ''အရှင်မဟာ မောဂ္ဂလာန်''မထေရ်မြတ်သည် ပြန်ကြွ ဆင်းသက်တော်မူလာ၍ ထိုအကြောင်းကို လူ့ပြည်၌ မိန့်တော်မူသောကြောင့်ဘုရား ရှင် ကိုယ်တော်မြတ်အား ကြာမြင့်စွာမဖူး မြော် ကြရ ကုန်သော ရှစ်ပြည်ထောင်၌ နေထိုင်ကြကုန်သော ဘုရင် မင်းများနှင့် တကွ တိုင်းသား ပြည်သူများ ဗိုလ်လူတို့ သည် ဘုရားရှင် ကိုယ်တော်မြတ်ကို ဖူး မြော်ရန်၊ ရေဝတ်သောယောက်ျားအလား မျှော်လင့်တောင့်တကြ၍ နတ်ပြည်မှ ဆင်း ကြွတော် မူလာသော ''ဗုဒ္ဓ ရှင်တော် ဘုရား''ကို စောင့်ရှောက် ဖူးမြော်ခြင်း အလို့ငှါ မရေမတွက်နိုင်သော လူစု လူ ဝေးကြီးသည်၊ ၎င်း ''သံကိသ'' ပြည် (သက်ဿနဂိုရ်ပြည်) သို့စုရုံးလာရောက် ကြလေသည်။

### ဥပ္ပလဝဏ် ထေရီ၏အကြံ

ဗုဒ္ဓ ရှင်တော်ဘုရား လူ့ပြည်သို့ ဆင်း ကြွတော်မူမည့် ဖြစ်သော နေ့၌ ''ဥပ္ပလ ဝဏ်ထေရီမ''၏စိတ်ဘွင်ယနေ့သည်သုံး လူ ထွင့်ထား သမ္ဗုဒ္ဓ ရှင်တော် ဘုရား ၎င်းလူ့ပြည်သို့ ဆင်းကြွတော်မူမည် ဖြစ်၍ တိုင်းရှင် ပြည်ရှင် ဘုရင်မင်းအပေါင်းနှင့် တကွ မှူးကြီး မတ်ရာ သေနာပတိ စစ်ရှိမ ကုန်နိုင်ငံသူ နိုင်ငံသား လူအများတို့သည် ဘုရားရှင်ကို ဖူးမျှော်ရန် မိမိတို့တိုင်းပြည် မှ ထွက်ခွါ သွားကြလိမ့်မည်၊ ငါသည် မိန်းမ တယောက် ဖြစ်ပေ၏ အဘယ်သို့ လျှင် ဘုရားရှင်ကိုယ်တော် မြတ်ကြီးကို လက်ဦးစွာ ဖူးတွေ့နိုင်ရန် စီမံအားထုတ် ရပါမည်နည်း''ဟုကြံစီစဉ်စား မိလေ၏ ၎င်းကဲ့သို့ကြံစီ စဉ်းစား မိသော ခဏ၌ပင် လျှင် ဗုဒ္ဓရှင်တော်ဘုရားသည် မိမိ၏ အနန္တ တန်ခိုးတော် အားဖြင့် ဥပ္ပလဝဏ် ထေရီမ အား သေးကျွန်း သေဌ်နင်း စကြာ မင်းကြီး၏ အဖြစ်ကို ဖန်ဆင်းပေး တော်မူပြီးလျှင် ဘုရားရှင်အား လက်ဦး စွာ ဖူးတွေ့နိုင်သော နေရာ၌ ထားတော် မူလေသည်။

### စေါင်းတန်းကြီး ၃-သွယ်

တာဝတိံသာ နတ်ပြည်မှ သက်ဿ နဂိုရ်ပြည်သို့ ဗုဒ္ဓရှင်ဘုရား ကြွဆင်း တော်မူသော အခါ ရဘနာ ခုနစ်ပါး အဘိုး ထန် ကျောက် သံ ပတ္တမြား တို့ ဖြင့် အံ့ဩဘွယ်ရာ ဆန်းကြယ် လှစွာ သော စောင်းတန်း လှေကားကြီး သုံး သွယ်ကို တင့်တယ်စွာ ဖန်ဆင်းတော်မူ၍ ရဘနာ ခုနစ်ပါး လှေကား ထစ်များတို့ ဖြင့် ဆန်းပြား ခန့်ထယ် သော အလယ် စောင်းတန်းလှေကားကြီးဖြင့် ဘုရားကိုယ် တော်မြတ်ကြီး ဆင်းကြွတော်မူလေသည်၊ မြဟ္မာမင်းကြီးသည် ဖြူဖွေးသော သား မြီးယပ်ဖြင့် မြတ်စွာဘုရားအား လွှဲခပ် ပူဇော် ပြီးလျှင် လကျာဘက်ရှိ ငွေလှေ ကားထစ် တို့ဖြင့် ဆန်းသစ် ရောင်လျှမ်း သောစောင်းတန်း လှေကားကြီးမှ ဝန်း ရံ လိုက်ပါ၍ နတ်တို့ သေဌ်နင်း သိကြား မင်း သည် လက်ဝဲဘက်ရှိ ကြေးနီလှေ ကား ထစ် အပေါင်းဘို့ဖြင့် ရွှေညောင်း ဘွယ် ရှားသော စောင်းတန်း လှေကား ကြီးမှ ခြံရံလိုက် ပါလျက် ရတနာ ခုနစ် ပါးဖြင့် ပြီးသော ရတနာ ထီးဘော်ကြီး ဖြင့်သုံးလူ ထွင့်တင် ဘုရားရှင်ကို ကြည် လင်ရှိကြိုး ဖြန့်ကာမိုးလျက် မြတ်နိုး ကော် ရော် ပူဇော်လေသည်၊ များပြားပြည့် နှက် မရေမတွက်နိုင်သော နတ်ပရိသတ် တို့သည်လည်း ဘုရား ကိုယ်တော် မြတ် နောက်ပါးက ခစားလျက် လိုက်ပါ ပူ ဇော် ကြလေသည်၊ မဟာပထဝီ ၎င်းလူ့ ပြည်သို့ မြတ်စွာဘုရား ရောက် တော်မူ သော အခါ ရဘနာ အတိပြီးသော စောင်းတန်း လှေကားကြီး သုံးသွယ်ဘို့ သည် အလိုလို ကွယ်ပျောက် မြေကြီးထဲ သို့ ဝင်ရောက်လျက် လှေကားထစ် ခုနစ် ခုမျှ သာကြွင်းရစ်လေတော့သည်ဟုလို။

### မမ္ဘာသောကမင်း၊ စောင်းတန်းကိုတူးခြင်း

သာသနာသက္ကရာဇ်(၂၁၈) နှစ်ရာ ဆယ့်ရှစ်ခု နှစ်၌ ဇမ္ဗူဒိပ် တကျွန်းလုံး ကိုစိုးပိုင် အုပ်ချုပ် မင်းလုပ် တော် မူသော ကောရာဇ်သခင် ဓမ္မာ သောက ''ဘုရင် မင်းမြတ်သည်၊ ရတနာ အ မျိုး မျိုးတို့ဖြင့် ဖုံ့ဘွယ်ဘနန်း ထူးဆန်း လှသော ထိုရဘနာ စောင်းတန်းကြီးတို့၏ အောက်ခြေ တည်ရာကို သိလိုသောအာ သီသ ဆန္ဒဖြင့် တူးဖေါ်လေရာ 'ရေဝါ' သို့ရောက်သည်တိုင်အောင် တူးဖေါ်သော် လည်း စောင်းတန်းကြီးဘို့၏ ''အောက် ခြေ''တို့ကို မတွေ့ရှိကြ လေကုန်၊ ထို နောက် ရာဇာသနင်း ''ဓမ္မာသောက ဘုရင်မင်းကြီး''သည် အံ့ဩမကုန် ထူး ဆန်းပုံဘို့ကို ကိုယ်တိုင်မိမိ တွေ့မြင်တော် မူရသောကြောင့် ရတနာသုံးပါး မွန်မြတ် သော တရားဘို့၌ဖွံ့ထွားသောစေတနာ ယုံကြည်ခြင်း သဒ္ဓါဘို့သည်၊ သနုဒ္ဒရာ ဒီရေမာဏ ရှေ့ကသက် တိုးပွါး ထက် သန်လျက် ကြွင်းကြံရှိနေသော လှေကား ထစ်(ခုနစ်ခု) အပေါ်၌ ဘုရားကျောင်း တော်ကြီးကို ဆောက်လုပ်လှူဒါန်းပြီးလျှင် ''ဘုရားရှင်ကိုယ်တော်ဘိုင်'' ဆင်းကြွ တော်မူသော အလယ်စောင်းတန်း လှေ ကားပေါ်၌ ဘုရားကိုယ်တော်မြတ်ကြီး၏ ''ရူပကာယခန္ဓာ'' ကိုယ်တော်နှင့် ညီမျှ စွာ ညာဏ်တော် 'တဆယ်ခြောက်ပေ' ရှိသော ရုပ်ပွားတော် ဥဒ္ဒိဿ စေတီ တော်ကို တည်ထားလေသည်။

### သက်ဿနဂိုရ်ပြည် ကျောက်စာတိုင်ကြီး

၎င်းဘုရားကျောင်းအဆောက်အဦး ကြီး၏နောက်၌ နှောင်လာနောက်သား လူအများတို့ အစဉ်ထာဝရ သတိရစေ ခြင်းအကျိုးငှါ ကမ္ဘာနှင့်အမျှ ခိုင်ခန့်လှ အောင် တည်ဆောင် ထားခဲ့သော ထိပ် များ၌ 'ခြင်္သေ့ရုပ်'နှင့်တကွ 'ကျောက် စာတိုင်'ကြီးကိုလည်း စိုက်ထူထားလေ သည်၊ ၎င်း 'ကျောက်စာတိုင်ကြီး' ၏ လေးမျက်နှာတို့၌လည်း 'ဗုဒ္ဓ ရှင်တော် ဘုရား၏ကိုယ်စား ရုပ်ပွားတော် များကို ရတနာအတုအပကဲ့သို့ စွန်းကွက် ညှိုးမှိန် ခြင်းမရှိစေဘဲ ဝင်းပြောင်ထိန်လှစ် ကြည် လင်သော အရောင်ဓါတ်တို့ဖြင့် သပ်ယပ် စမ္ပါယ်ကြည်ညိုဘွယ်ရာ တင့်တယ်စွာ ပြု လုပ် ထားကြလေသည်။ (သာသနာပ- တိတ္ထိယ)တို့၏ ဂဏဦးစီး တိတ္ထိဆရာ ကြီးများနှင့် (သာကျပုတ္တ) 'သာကီယ ဇာတ်၊ ရဟန်းတော် အရှင်မြတ်တို့သည်' (၎င်းကျောက်စာတိုင်ကြီး) ၏ နေရာနှင့် ပတ်သက်၍ မိမိတို့ သာလျှင် ပိုင်ဆိုင် ကြောင်းနှင့် အချင်းချင်း ငြင်းခုံကြလျက် ယုံကြည်ဘွယ်ရာ အထောက် အထားအ ကိုးအကား တို့ဖြင့် စကားဆင်ခြေဆိုကြ လေသောအခါ သာကီ ယဇာတ် ရဟန်း မြတ် တို့မှာ စကား မလှ ရှုံးခဲ့ ကြ၍ အောက်ပါ သစ္စာ မိဋ္ဌာန်ပြု ချက်ကို နှစ် ဦး နှစ်ဘက်- နှစ်သက် သဘော တူ ပြုကြလေသည်။

၎င်းနေရာ၌ အမြဲ နေထိုင်ရန် အခွင့် ကို သာကီ ယဇာတ်ရဟန်း မြတ်တို့သာ ပိုင်ဆိုင် သင့်ပါလျှင် ယခု ချက်ခြင်း အံ့ ဩဘွယ်ရာ အထိမ်းအမှတ် နိမိတ်လက္ခ ဏာများ ဖြစ်စေသားဟု သစ္စာ မိဋ္ဌာန်ပြု လျှင် ပြုခြင်း) ကျောက် စာ တိုင် ထိပ် ဖြား၌ တပ်ဆင်ထားသော ကျောက်ဖြစ တော့) ခြင်္သေ့ရုပ် ကြီးသည် ကျယ်စွာ သောအသံဖြင့် ဟိန်းဟောက်လျက် သာ ကီယဇာတ် ရဟန်း မြတ်တို့သာလျှင် ၎င်း နေရာ ဌာနကို အုပ်ချုပ် လက်ကိုင် စိုး ပိုင်သင့်သည်ဟု ပြောကြားသည့် အနေ သက်သေ ခံလေသည်။ ထိုအခါ ကာလ (တိတ္ထိယဆရာကြီး)တို့သည် နှလုံးစိတ်ဝမ်း မချမ်း မသာပြေးကြရ ရှာလေကုန်၏။

### သက်ဿ နဂိုရ်ပြည် ရေချိုးအိမ်တော်

သုံးလူဆွင့်ထား ရှင်တော်ဘုရားသည် (တာဝတိံသာ) နတ်ပြည်၌ ထူးကဲ မွန်မြတ်သော နတ်တို့၏ဩဇာကို (သုံးလ ပတ်လုံး၊) (ဘုန်းပေး သုံးဆောင်တော် မူရခြင်းကြောင့် ခန္ဓာကိုယ်တော်၏ကိုယ် နံ့တော်သည် မနုဿဘုံသား လူအများ တို့နှင့်ခြားနားမတူ မွှေးကြိုင်သင်း လှွန် ကဲခြင်းကြောင့် ရေသပ္ပါယ်ခြင်းပြုတော်မူ လေရာ၊ ထိုနေရာ၌ ယခု တိုင်အောင် တည်ရှိသော (ရေချိုးအိမ်တော်) ကို အသစ် တဖန် ထပ်မံ၍ ပြုပြင် ထားကြ လေသည်။

### သက်ဿနဂိုရ်ပြည်စေတီများ

လေးကျွန်းသေဌ်နင်း စကြာ မင်းကြီး ၏ ပုံသဏ္ဍာန် ဖန်ဆင်း၍ ဘုရားရှင် ကိုယ်တော်မြတ်အား ဦးစွာပဌမ ဖူးတွေ့ရ သော (ဥပ္ပလဝဏ် ထေရီမ) ၏ နေရာ၌ လည်း အထိမ်းအမှတ် စေတီတော် တဆူ

ကို မကြာမီက တည်ထား ကိုးကွယ်ကြ လေသည်။

(ဗုဒ္ဓရှင်တော်ဘုရား) သက်တော် ထင်ရှား ရှိတော်မူစဉ် အခါ ဘုရားရှင် ကိုယ်တော်မြတ်၏ ဆံတော်၊ ခြေသည်း၊ လက်သည်း တော်များကို ပယ်ဖြတ်သုတ် သင်တော်မူသော နေရာဌာန များနှင်း (ဂေါတမ ဗုဒ္ဓသကျမုနိ) ရှင်တော် ဘုရားနှင့် တကွ ဤဘဒ္ဒ ကမ္ဘာ၀ယ် ပွင့် တော် မူပြီးကုန်သော ရှေး‌ရှေ၊ (ဘုရား သုံးဆူတို့၏) သီတင်းသုံး နေထိုင်တော် မူသော နေရာများ၌ ၎င်း၊ ကြွေ ကြွသွား သမာပါတ် ဝင်စား၊ တော်မူသော နေရာ များ၌ ၎င်း တည်ထား ကိုးကွယ်တော်မူ ကြသော (ရှစ်ပွ‌ဲ၊တော် - စေတီတော်) များသည် ယခုဘုံ်အောင် တည်ရှိတော် မူကြ လေကုန်၏။ ဘုရားရှင် ကိုယ်တော် မြတ် တာဝတိံသာမှ ဆင်းကြွ တော်မူ စဉ်အခါ နောက် တော် ပါးက စောား ဆည်း ကပ်လျက် မနုဿ လူပြည် ဤမ ဟာ ပထဝီ တိုင်ရောက် အောင် ဆင်း သက်လိုက်ပါကြသော (မြဟ္မာမင်းကြီး) နှင့် (သိကြားမင်းကြီး) တို့၏ နေရာများ၌ လည်း နောင်လာ နောက်သား သဒ္ဓါ ရှိ‌ေလာက် အောင် စေတီများကိုတည် ထား ကိုးကွယ်ကြလေသည်။

## သင်္ကဿ နဂိုရ်ပြည် ရဟန်းတော်များ

ရဟန်းတော်များ သီတင်း သုံးတော်မူ သော နေရာဌာနနှင့် နားရွက်မှာ အဖြူ ကွက် ပါရှိသော (နဂါးကြီး) တဦး သည် ဗုဒ္ဓရှင်တော် ဘုရား၏ ဆုံးမဩဝါ ဒကို လိုက်နာ ကျင့်ကြံတော် မူကြကုန် သော ရဟန်းတော် တို့အား သဿနာ ဒါယကာကဲ့သို့ ကောင်းမြတ် သောအ ခြင်း အရာဖြင့်စောင့် ရှောက်လျက် မြေ ဩဇာ ကောင်းမွန်ခြေင်း ရွာချိန် သင့် သော ကာလ အခါ သမယ၌ မိုယ်းရွာ စေခြင်း၊ ရဟန်းတော် အရှင်မြတ်တို့အား ဘေးရန်နှင်း ကိုယ်စိတ် ချမ်းသာစေခြင်း ၄င်းဆင်ရဲဒုက္ခဟူသမျှတို့ကို ကာကွယ်စေ ခြင်းစသော ချမ်းသာ စေကြောင်း (ဓါ သုဗိဟာရ) တရား ကောင်းကို အမြဲပေး လျက် ကူညီစောင်မလေသည်။ (နဂါး ကြီး) ၏ကောင်းမြတ်သော ကူညီစောင် မခြင်းကို ကျေးဇူး တုန့်ပြန်သော အား ဖြင့် ရဟန်း တော်တို့သည် (နဂါးကြီး) ချမ်းသာစွာ လည်းလျောင်းနေ့ ကျယ် ဝန်း လှစွာသော နေရာအခင်း နှင့်တ ကွ နဂါးကြီး၏ ဂုဏ်ထူး ကျေးဇူး ကို ရည်ရွယ်၍ နတ်ကွန်းတမူအဆောက်အဦ တခု ကို ဆောက် လုပ် ၍ ပေး ကြ လေ သည်။ နောက် ရ ဟန်း တော် တို့ သည် နဂါးကြီး အား မင်္ဂလာရှိသော စားပွဲ သောက် ပွဲကြီးကိုခံမြကြ၍ နေစဉ်နဂါး ကြီး၏ နေရာ အဆောက် အဦ၌ ဆွမ်း ဘောဇဉ် ဘုန်းပေး၊ တော်မူကြရန် ရ ဟန်း တော်သုံးပါးကို ရွေးချယ်၍ စေ လွှတ်တော်မူကြလေသည်။ နှစ်စဉ်သတင်း ကွတ်ပြီး သောအခါ နဂါးကြီးသည် ကြီး ကျယ် ခွန့်ထွားသော နဂါး၏ ပုံသဏ္ဍာန် ကို ကွယ်ပျောက် စေ၍နားရွက်၌ အဖြူ ကွက်အမှတ် အသားပါရှိသော မြွေငယ် တကောင်ကဲ့သို့ ဖန်ဆင်း လေသည်။ ရဟန်း တော်တို့သည် ထိုအကြောင်း အရာကိုသိ လျှင် သိခြင်း ထောပတ် မလိုင်တို့ဖြင့် ပြည့် သော ကြေးနီခွက်၌ နေစေပြီး နောက် အမြင့်ဆုံး နေရာမှ အနိမ့် ဆုံးနေရာသို့ရွှေ့ ပြောင်း ယူလာကြ သော အခါ မြွေ သဏ္ဍာန် ဖန်ဆင်းလျက် ရှိသော နဂါး ကြီးသည် ရဟန်းတော်တို့အား ဦးခေါင်း ညွတ်ဓာတုဗ်ကွ ရှိသေသော အမူအရာဖြင့် လိုက်ပါလာလေသည်။ ဤကဲ့သို့လှည့်လည် ယူဆောင်ပြီး သောအခါ မိမိ၏ ဇာတိ ဘဝမူလရင်း အတိုင်း သူတပါး မမြင်နိုင် သော နဂါးအဖြစ်သို့ ပြန်လည်ပြောင်းလဲ လိုက်လေသည်၊ ထိုနဂါးကြီးကို လှည့်ပတ် ပူဇော်ခြင်း၊ ပွဲသည် တနှစ်လျှင် တကြိမ် ကျင်းပမြဲ ဖြစ်သောဟူ၏။

## သင်္ကဿနဂိုရ်ပြည် တိုင်းသူပြည်သားများ

ဤ (သင်္ကဿနဂိုရ်ပြည်) သည်အလွန် တရာ စည်ပင်ဝပြော ချမ်းသာ၍တိုင်းသား ပြည်သူ များဗိုလ်လု တို့မှာလည်း ဥစ္စာ ခန့် ကုဋေ ကြွယ်ဝ ကြပြီးလျှင် ကာယ စိတ္တ သုခ ချမ်းသာများ စွာပြည့်စုံကြလေ သည်။ မိမိတို့တိုင်း ပြည်သို့ တိုင်းတပါး သား ဧည့်သည် အာဂန္တုများ၊ ရောက် လာ သောအခါ မယွင်းမချွတ်စေရ၊ ဧည့် သည်တို့၏ (ဝတ်နိပါတ်) ဟူသမျှတို့ ကို မြဲမြံ၍ ဧည့်သည်တို့ အလိုရှိအပ်သော အ ရာ ငွေများ ကိုလည်း၊ ကောင်းမွန်စွာပြု ပြင်စီရင်ထားကြလေသည်။

(သင်္ကဿနဂိုရ်ပြည်) အထက်ပါ န ဂါးကြီး၏ အဆောက် အဦ ရှိသော ကျောင်း တိုက်ကြီးမှ မြောက်ဘက်သို့ ယူ ဇနာငါးဆယ် ကွာမှာ ဗုဒ္ဓ ရှင်တော် ဘု ရားသည် (ဘီလူးကြီး) တဦးအား ဟော ချွတ်တော် မူသော နေရာတခုရှိ၍ နောင် လာ နောက်သား လူအများ တို့သည်၊ ၎င်းနေရာ၌ အထိမ်း အမှတ် အဖြစ်ဖြင့် (ကျောင်းတကျောင်း) ကိုဆောက်လုပ် လှူဒါန်း၊ ထားကြလေသည်၊ ၎င်းကျောင်း ကြီး၏အမည်သည်ဘီလူးကြီး၏အမည်ကို အစွဲပြု၍ ထင်ရှား၊ ကျော်စော လေသည်

အထက်ပါ (ဘီလူး ကျောင်းကြီး) ကို ရောက် သွန်းချ လှူဒါန်းစဉ် အခါ၊ 'ရဟန္တာ' အရှင်တပါးသည် လက်တော် ကို ဆေးဆေး၍ မြေကြီးပေါ်သို့ ကျသော 'ရေ' တို့သည်ယနေ့ထက်တိုင်အောင်တည် ရှိလျက် အသယ် မှလော်ကပင် ပွတ်တိုက် သုတ်သင်စေကာမူ ပျောက်ပျက်ခြင်း မရှိ ဘဲ အမြဲပင် ထင်ထင် ရှားရှား တည်ရှိ လေသည်။

၎င်းဘိုင်းပြည်၌ သက်တော် ထင်ရှား မြတ်စွာဘုရား၏ ဂုဏ်တော်ကို ရည်ရွယ် ကော်ရော်ပူဇော်ခြင်း အထိမ်းအမှတ်ဖြင့် တည်ထား ကိုးကွယ်ကြသော စေတီတော် လည်း တဆူရှိ၍ 'သမာဒေဝ နတ်ကောင်း နတ်မြတ်' တဦးသည် ၎င်းစေတီတော်ကို အမြဲလာရောက် ဆည်းကပ်ပြီးလျှင် ပန်း၊ ဟောင်းနွမ်းပြီ- ပန်းသစ်တင်ဆက် တမြက် လှဲခြင်း၊ ကောင်းမြတ်ကြည်လင် ရေ ငင် ရေကောင်း တို့ဖြင့် သွန်းလောင်း ပူ ဇော်ခြင်းအစရှိသော (ဗုဒ္ဓပူဇနမင်္ဂလာ) ဝတ်နိပတ်အဖြာဖြာတို့ကိုတစုံတယောက် သော ပုဂ္ဂိုလ်မှ မကူညီရဘဲ ကိုယ်တိုင်

စာမျက်နှာ ၄ မှအဆက်

နှင့်အရှင် ဗုဒ္ဓဒတ္တ၏ ကျမ်းဂန်များ၌ပါ သော နိဂုံးများအရသိရလေသည်။ စင်စစ် ကားဗိနာလင်္ကာရအဋ္ဌကထာနှင့်ဋီကာကို ရေးသား ပြုစုတော်မူသော ပုဂ္ဂိုလ်မှာ၊ အရှင် မဟာဗုဒ္ဓဒတ္တ မဟုတ်မူ၍ အရှင် မဟာဗုဒ္ဓ ရက္ခိတသာလျှင် ဖြစ်လေသည်။

လက်ရှိ အမြဲ ပြုစု လေသည်။ သံသရာ တဘက်ကမ်း ဗုဒ္ဓတို့၏ဆုံးခမ်းဖြစ်သော နိဗ္ဗာန်နန်းသို့ ပြောင့်တန်း ထုတ်ချောက် ပေါက်ရောက် စေနိုင်သော ရှင်တော် ဗုဒ္ဓ ဂေါတမ၏အယူဝါဒကို မနှစ်သက်နိုင်ကြ ကုန်သော တိတ္ထိယဂိုဏ်းသား လူအများ တို့၏ သင်ပြည့်ရှင်မင်းတပါးသည် စေတီ တော်၏ 'ဝေယျာဝစ္စကရ' ဖြစ်ပေသော 'သမာဒေဝနတ်' အား ပြောသည်မှာ- (အသင်နတ်သားသည် ဤကဲ့သို့သုတ်သင် ရှင်းလင်းခြင်းကို ပြုစွမ်းနိုင်ခဲ့လျှင် ကျွန်ုပ် သည် စစ်တပ်ကြီး ထတပ်ကို ဤနေရာ၌ စခမ်းချရန်ပို့ လိုက်မည်။ တိုးပွားများပြား လာသော အမှိုက်သရိုက် အညစ်အကြေး များကို အသင် နတ်သား သုတ်သင် ရှင်း လင်းရန် စွမ်းနိုင်ပါမည်လော) ဟု မေး မြန်းပြောဆိုပြီးလျှင် လွှတ်လိုက်သော စစ် တပ်ကြီး ရောက်လာသောအခါ 'သမာ ဒေဝနတ်' သည် ငြင်းထန်သော လေကို တိုက်ခတ်စေလျက် စစ်တပ်ကြီးကို သုတ် သင် ရှင်းလင်းလိုက်လေသည်။

## မရေမတွက်နိုင်အောင်

၎င်းတိုင်းပြည်မှာပင် အရာမက များ လှစွာသော ဘုရားစေတီတော် များကို လည်း တည်ထားကိုးကွယ်ကြလေသည်။ ၎င်း ဘု ရား စေ တီ တော် များ ၏ အရေအတွက်ကိုသိလိုသော်လူတယောက် သည် တနေ့လုံးပင် ရေတွက်ငြား သော် လည်း မှန်ကန်စွာ သိရှိရန် ခဲယဉ်းလှပေ သည်။ အလွယ်ဆုံးသော ရေတွက်ရန် နည်းလမ်းမှာ ဘုရား တဆူလျှင် လူ တယောက်ကျစီ စေ့၍အောင်ရပ်စေ ပြီး သောအခါလူကို ရေတွက်ခြင်း အားဖြင့် မှန်ကန်သော ဘုရား စေတီတော် များ၏ အရေအတွက်ကို ရနိုင်လေသည်။

## ကျောင်းတိုက်ကြီး

၎င်း တိုင်းပြည် မှာပင် အာသဝေါ ကုန်ခမ်းပြီးသော ရဟန္တာ အရှင်မြတ် တပါးသည် ဆွမ်းဘုဉ်းပေးတော် မူပြီး၍ ပရိနိဗ္ဗာန်ပြုတော်မူသော နေရာ၌ ရဟန်း တော်ပေါင်း ခြောက်ရာ ကျော် - ခုနစ်ရာ မျှ သီတင်းသုံးတော်မူသော ကျောင်းတိုက် ကြီး တတိုက် ရှိလေသည်။ ၎င်းရဟန္တာ အရှင်မြတ် တေဇောဓါတ် လောင်ကျွမ်း ရာ လှည်းဘီးခန့် ပမာဏကျယ်ဝန်းသော နေရာ၌၎င်း၊ သင်္ကန်းတော်လှမ်းသော နေရာဌာန၌၎င်း၊ မြက်သစ်ပင်များမပေါက် ရောက်ဘဲ ယနေ့တိုင်အောင်ပင် ထင်ထင် ရှားရှား တွေ့မြင်နိုင်လေသည်။

(တရုပ် ရဟန်းတော် ခရီးသည်ကြီး ဟီယန်ဆိုင်၏ မှတ်တမ်းမှ ထုတ်နုတ် ဖော်ပြခြင်းဖြစ်ပါသည်)

အယ်ဒီတာ။

.... ....

ထို့ကြောင့် ဇိနာလင်္ကာရဋီကာ (ယော ဇေယာကညာဏ) ဂါထာအဖွင့်၌ "ဗုဒ္ဓ ရက္ခိတာ စရိယော ''ဟု ကျမ်းတက်၍ ထားသည်ကို တွေ့ရလေသည်။ ဇိနာ လင်္ကာရ နိဂုံး၌လည်း၊ ''သာသနာနှစ် တထောင် ခုနှစ်ရာ (၁၇၀၀) တွင် ရောဟနဇနပုဒ်၌ မွေးဖွားတော်မူသည်ဟု ကိုယ်တော်တိုင် အသေ အချာပြဆို၍ ထားသည်ကိုတွေ့ရပေသည်။ ထို့ကြောင့် ဇိနလင်္ကာရမှာ ဗုဒ္ဓရက္ခိတ အရှင်မြတ် ရေးသားတော်မူသည့်ကျမ်းသာ ဖြစ်သည် ဟု ကောက်ဆတ်ဆတ် မှတ်ယူအပ်ပေသည်။

## ကဗျာ ဆရာကြီး တဦး

အရှင် မဟာဗုဒ္ဓဒတ္တသည်ကားစာပေ အရေးအသားဖြင့်အလွန်တရာလုပ‌ျော်မွေ့ အောင် ရေးသားတော်မူနိုင်သော ပါရမီ ထူးရှိသည့် ပုဂ္ဂိုလ် မြတ်ကြီး တဦးဖြစ် ကြောင်းကို ထိုအရှင်မြတ်၏ စာပေများ ကိုကြည့်ရခြင်းအားဖြင့်သိသာလှပေသည်၊ ကိုယ်တော်တိုင်လည်း စကားလုံးလှလှ- အစပ်ပြေပြေနှင့် ရေးသားတော်မူလိုသည့် ဆန္ဒများစွာ ရှိကြောင်း သိရပေသည်။ ဗုဒ္ဓ ဝင်အဋ္ဌကထာ ကျမ်းဦး ဂါထာများကို ရေးသားတော်မူရာ၌-

ကရုဏာ လယ်-လယ်
သုသမ္မာ ဟိတ်-ဟိတ် စသည်ဖြင့်

လုံးထပ်များနှင့်စပ်ဆိုရေးသားထားသည် ကိုတွေ့ရပေသည်။ ထိုဗုဒ္ဓဝင် အဋ္ဌကာ ဂေါတမဗုဒ္ဓဝင်အဖွင့်၌လည်း၊ အောက် ပါ ကဗျာ တပုဒ်ကို တွေ့ရလေသည်-

"အဋ္ဌရာဇဂဟံ
ဝရရာဇဝဟ'
နရာဇဝရေ
နရဂရံဘု ဂတေ
ဂိရိရာဇဝရော
မုနိရာဇဝရော
ဓိဂရာဇဂတော
သုဂတောပိဂတော'',

အထက်ပါ ဗုဒ္ဓဝင် ကဲ့သို့ ကြည်ညို ဘွယ် ကောင်းအောင် ရေးသား နိုင်ခွင့် ရှိသည့် အဋ္ဌကထာဖွဲ့၌ ကဗျာသံများ ဖြင့် ရေးသားတော်မူသည်ကို ထားဦး တော့၊ လွန်စွာနက်နဲသိမ်မွေ့သည့် အဘိ ဓမ္မာနှင့်ပတ်သက်သော အဘိဓမ္မာဝတာ ရအမည်ရှိ လက်သန်း၊ အဋ္ဌကထာကို ရေးသား တော်မူရာမှာပင်၊ စကားလုံး လှလှနှင့် ကဗျာသံပါလှသည့် ဂါထာ များကို ညှပ်ကာညှပ်ကာ ရေးသားတော် မူထားသည်ကို တွေ့ရလေသည်။ ကိုယ် တော် တိုင်ကပင် ဤကဲ့သို့ စကားလုံး ကောင်းကောင်း-အစပ်အဟပ် ကောင်း ကောင်းတို့ဖြင့် ဂရုပြုရေးသားလိုက်ခြင်း ဖြစ်ကြောင်းကိုလည်း၊ အဘိဓမ္မာဝတာရ အဋ္ဌကထာနိဂုံး၌

"မဓုရက္ခရ သံယုတ္တော
အတ္ထော ယသ္မာ ပကာသိ တော''

ဟုမှာထားတော်မူခဲ့လေသည်။

.... ၀ ....

## ဆဋ္ဌသံဂါယနာတင်မည့်စာမူများ
# ပုံနှိပ် အခမ်း အနား ဖွင့် လှစ် ပွဲ



၁၃၁၅-ခု၊ သီတင်းကျွတ်လဆုတ် ၂ ရက် (၂၅-၁၀-၅၃) တနင်္ဂနွေနေ့ နံနက် ၆ နာရီခွဲအချိန်တွင် ရေကူး၊ ကမ္ဘာအေးစေတီတော်အနီးရှိ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့အဆောက်အဦသစ်ကြီး၌ ဆဋ္ဌသံဂါယနာတင်မည့် ပါဠိပိဋကတော်များကို စတင်၍ စက်တင်ပုံနှိပ်မည့် မင်္ဂလာအခမ်းအနားဖွင့်ပွဲတရပ်ကို ကျင်းပခဲ့သေသည်။

ထိုအခမ်းအနားသို့ နိုင်ငံတော်ဝန်ကြီးချုပ်နှင့် ပြန်ကြားရေးဌာနဝန်ကြီး ဦးထွန်းဝင်း၊ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ဝင် လူကြီးများ၊ အတွင်းဝန်များနှင့် သတင်းစာဆရာများတက်ရောက်ကြသေသည်။

ပထမ ကြည့်မြင်တိုင် လေသာ ဆရာတော် စသော ဆရာတော်ကြီးများအား နံက်ဆွမ်းဆက်ကပ်ကြပြီးနောက်၊ ပရိတ်တရားတော်များကို နာသူကြလေသည်။ ၎င်းနောက် သာသနာရေးဌာနအထူးအရာရှိဦးဘဆွေကပိဋကတော်များ စက်တင်ပုံနှိပ်သည့်အခမ်းအနား၊ အတွက်နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့. ဥက္ကဋ္ဌကြီးက မိန့်ခွန်းစကားမြွက်ကြားပြီးနောက် သာသနာအလံတော်ဖြင့် အချက်ပေး၍ ဖွင့်လှစ်ပါရန်တောင်းပန်လေရာ ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ ဆာဦးသွင်က (ဓါတ်ပုံ) မိန့်ခွန်းကို မြွက်ကြားပြီးနောက် သာသနာအလံတော်ဖြင့် အချက်ပြလိုက်လေရာ ကြေးစည်ထုခြင်း၊ ခရုသင်းမှုတ်ခြင်းများနှင့်အတူ ပိဋကပုံနှိပ်စက် လည်သံများပေါ်တပြိုင်နက်ထွက်ပေါ်လာလေတော့သည်။ အခမ်းအနားအပြီးတွင် ကြွရောက်သည့် လူကြီးများအား ကော်ဖီ မုန့်တို့ဖြင့် ကျွေးမွေးဧည့်ခံသေသည်။

### ပိဋကစာပုံနှိပ်တိုက် ဖွင့်ပွဲတွင် နိုင်ငံတော်
### ဗုဒ္ဓသာသနာအဖွဲ့ ဥက္ကဋ္ဌကြီး၏ မိန့်ခွန်း။

အရိယာနွယ်ဝင် အရှင်ကောင်း၊ အရှင်မြတ်တို့အား၊ ရိုးသေစွာလျှောက်ထားကာ နိုင်ငံတော် ဝန်ကြီးချုပ်အမှူးရှိသော ပရိသတ်အပေါင်းတို့အား ပြောကြားလိုသည်မှာ—

နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးက ဆဋ္ဌသံဂါယနာတင်ရေးကိုရှေးရှုပြီး ထေရဝါဒ ဒေါ်နိုင်ငံအားလုံးမှာအသန့်ရှင်းဆုံး ပိဋကတော် စာမူတမူထဲဖြစ်စေရမည် ဆိုတဲ့ရည်ရွယ်ချက်ကြီးနှင့် ဤသို့သော စာပုံနှိပ်စက်ဖွင့်ပွဲကြီးကို ယနေ့ယခု ကျင်းပရခြင်းဖြစ်ပါတယ်။ ပိဋကတွေမှန်သမျှဟာ ဘုရားဟောအွေချည့်ဖြစ်တဲ့ အတွက် ဘုရားဟောနှုတ်တော်ထွက်ကို ကွဲပြားချက်၊ ချို့ယွင်းချက် မရှိအောင်ပြုပြင်ရခြင်းမှာ ဘယ်လောက်ကြီးကျယ် လေးနက်တယ်ဆိုတာ အထူး ပြောဘို့ မလိုတော့ပါ။ မြတ်စွာဘုရားပရိနိဗ္ဗာန်စံတော်မူခါနီးမှာ ညီတော်အာနန္ဒာအား (ယောခေါ အာနန္ဒ မယာ ဓမ္မောစ ဝိနယောစ ဒေသိတော ပညတ္တော သောဝေါ မမစ္စယေန သတ္ထာတိ။ ။အာနန္ဒာ၊ ငါဘုရား၏ သုတ်နှင့်အဘိဓမ္မာ ဝိနည်းတရားတွေဟာ ငါဘုရားပရိနိဗ္ဗာန်စံပြီးတဲ့နောက် သင်တို့၏ဆရာဖြစ်ရစ်လိမ့်မယ်)လို့ မိန့်မှာတော်မူခဲ့တဲ့ အတိုင်း ဒီစာပုံနှိပ်စက်ကြီးက ယနေ့မှစ၍ အများမိခိုရာအားထားရာ ကိုးကွယ်ရာ ဆီးကပ်ချာဖြစ်တဲ့ ပိဋကတော် အဆုဆူဘို့ကို ပုံနှိပ်လုပ်ဆောင် ပါတော့မယ်။ ရှေးအခါက ဗုဒ္ဓသာသနာကို စွမ်းအားရှိသမျှပြုစုခဲ့ကြသော်လဲ ပိဋကတော်တို့ကို အပြည့်အစုံ ဤမျှသေသာကောင်း၊ မှန်အောင် ဤကဲ့သို့သော စာပုံနှိပ်စက်ကြီးမျိုးနှင့် ကြိုးစား ဆောင်ရွက်ခဲ့တယ်ဆိုတာမရှိခဲ့သေးပါ။ ထွက်ပေါ်လာခဲ့ပိဋကတော်စာမူမှာလဲ နိုင်ငံတော် အတွင်းရှိပိဋကတော် ဆရာတော်များနှင့် သီဟိုဠ်ယိုးဒယားဆရာတော်များပြင်ဆင် သုတ်သင်တော်မူကြတဲ့ အတွက် ယခုအချိန်အထိ အကောင်းဆုံး အမှန်ဆုံးဖြစ်တယ်လို့ ဆိုသင့်ပါတယ်။

ပဉ္စမသံဂါယနာတင်ပြီးအချိန်ကစပြီး နိုင်ငံတော်အတွင်းမှာကျောက်စာမူကို သူကငါက ဆိုသလို ကူးယူကာ စာပုံနှိပ်စက်တွေအမျိုးမျိုးထောင်ကာ စီးပွားရေးအတွက် လုပ်ကိုင်ခဲ့ကြပါတယ်။ အစိုးရသဘောနှင့် အတိအကျ ထိထိရောက်ရောက် ပြင်ဆင်ခဲ့ခြင်းလဲမရှိပါ။ မှတွေကလဲတဆင့်ဆင့် ပြောင်းလဲလာခဲ့ပါတယ်။ ဒီလိုအပြောင်းအလဲတွေများတော့ တနေ့ကျရင် တခြားသဘော တိမ်းစောင်းသွားမှာအမှန်ဖြစ်ပါတယ်။

အဲဒီလိုမဖြစ်ရအောင် နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့ချုပ်ကြီးက ကြိုးပမ်းပြီး နိုင်ငံတော်အတွင်းရှိ ဆရာတော် သံဃာတော်တို့၏ ဆုံးမ ဩဝါဒကို ခံယူကာ ဆဋ္ဌသံဂါယနာတင်ပွဲမှီ ပိဋကတော်အရပ်ရပ်ကို တည်းဖြတ်သုတ်သင် ပြီးတဲ့နောက် ထေရဝါဒ နိုင်ငံအားလုံး သဘောကွဲလွဲခြင်းမရှိရလေအောင် အကြိမ်ကြိမ် ပြင်ဆင်ပြီး စက်တင်ပုံနှိပ်ရန် ဤစာပုံနှိပ်စက်ဌာနကြီးကို ဖန်တီးရခြင်း ဖြစ်ပါတယ်။ ထေရဝါဒ နိုင်ငံအားလုံး ကောင်းကျိုးကို သည်ပိုးဆောက်ရွက်ရတယ်ဆိုတဲ့ အလုပ်ဟာ အလွန်ကြီးလေးတဲ့ တာဝန် ဖြစ်ပါတယ်၊ ဒီလိုကြီးလေးတဲ့ တာဝန်ကိုတဦးကောင်း၊ တယောက်ကောင်းဆောင်ရွက်လို့ မဖြစ်နိုင်တဲ့အတွက် ယနေ့ယခုဆရာတော် သံဃာတော်များနှင့်တကွ နိုင်ငံတော်ဝန်ကြီးချုပ်အမှူးရှိတဲ့ လူကြီး လူကောင်း ပရိသတ်ကိုကြွရောက် တာပြီး အသီးသီးကူညီ ယိုင်းပင်းတော်မူကြတဲ့ အတွက် ဆဋ္ဌသံဂါယနာတင် ပိဋကတော် ရိုက်နှိပ်ရေးကိစ္စကြီး ရည်မှန်းတိုင်းပေါက် လိုရာရောက်တော့မယ်ဖြစ်၍အထူးဝမ်းမြောက်မိပါတယ်။

ယခု အချိန်သည် ဆဋ္ဌသံဂါယနာ၏ ပဌမ အဋ္ဌမြစ်သဘွယ်ဖြစ်သော ပိဋကတော်ပုံနှိပ်စက်ကြီးကို စတင်ဖွင့်လှစ်ရမည့် အချိန်ကောင်း၊ နာရီကောင်း ဖြစ်သည့်အတိုင်း သာသနာ့ အောင်လံတော်နှင့် အချက် ပြလိုက်သည်နှင့်တပြိုက်နက် ခရုသင်း ကြေးစည်တို့ဖြင့် အောင်သံပေးကာ ပိဋကပုံနှိပ်စက် ယန္တယားသည် သွက်သွက်ခါျ လည်ပါစေသတည်း။

[ပုံ] သတိုးသီရိသုဓမ္မ ဆာဦးသွင်
ဥက္ကဋ္ဌ
နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၊

....၀....

# ဗုဒ္ဓသာသနာအဖွဲ့စာပုံနှိပ်တိုက်
## လက်ရှိအခြေအနေ

၁၃၁၅-ခု၊ ဝါခေါင်လပြည့်ကျော် ၆-ရက် (၃၁-၈-၅၃) နေ့အထိ၊ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၊ စာပုံနှိပ်တိုက်ဌာန၏ အခြေအနေမှာ အောက်ပါအတိုင်း၊ ဖြစ်ကြောင်း၊

### စာပုံနှိပ်တိုက် အဆောက်အဦ

ရေကူး၊ ကမ္ဘာအေးစေတီအနီးတွင် ဆောက်လုပ်ခဲ့သော စာပုံနှိပ်တိုက် အဆောက်အဦမှာ ယခုအခါတွင် လုံးဝပြီးစီးခဲ့သည်ပြီ၊

### ပုံနှိပ်စက်များ

Committee For Free Asia မှ လှူဒါန်း ပေးပို့ထားသော ပုံနှိပ်စက်နှင့် ပစ္စည်းသေတ္တာများကို၊ ကမ္ဘာအေးစေတီအနီးရှိ ဂိုဒေါင်မှ ပုံနှိပ်တိုက်အဆောက် အဦသစ်သို့ ၁၉၅၃-ခု၊ ဩဂုတ်လ ၅ ရက်နေ့မှစ၍ ရွှေ့ပြောင်းယူငင်ပြီး အမေရိကန်ပြည်မှ ရောက်ရှိလာသော စာပုံနှိပ်တိုက်ဆိုင်ရာ ပါရာ၊ မစ္စတာစတင်တန်၏ အကူအညီဖြင့် စက်သေတ္တာများကို ဖွင့်လှစ် ဆေးကြောပြီးလျှင် ၁၉၅၃-ခု ဩဂုတ်လ ၇ ရက်နေ့မှစ၍ ပုံနှိပ်စက်နှင့် စာအုပ်ချုပ်စက်များကို နေရာတကျတပ်ဆင်ခဲ့ပါသည်။

အောက်ဖော်ပြပါ စက်များကို ယခုအခါတွင် တပ်ဆင်ပြီးသည့်ပြင် ဓါတ်အားသည်း ဆက်သွယ်ပြီးသောကြောင့် ပုံနှိပ်သည့်အခမ်းအနားပင် ဖွင့်လှစ်ရှိပြီးပေပြီ။

(၁) ကွက်ကရောင်းမီလီစက်တလုံး။ (၂) လီချယ်လင်၊ ဒဗယ်ဒီမိုင်းစက်တလုံး။ (၃) စာရွက်ခေါက်စက်တလုံး။ (၄) ကြိုးချုပ်စက်တလုံး။ (၅) သံကြိုးချုပ်စက်တလုံး။ (၆) ကတ္တူဖြတ်စက် တလုံး။ (၇) စာအုပ်ဖုံးလုပ်စက်တလုံး။ (၈) စက္ကူဖြတ်စက်တလုံး။ (၉) တံဆိပ်ရိုက်စက်တလုံး။ (၁၀) ခဲစလုံးသွန်းစက်တလုံး။

.........


### သံဂါယနာစာစောင်
### စာတည်းအဖွဲ့

(၁)
ပြန်ကြားရေးဌာနဝန်ကြီး
ဦးထွန်းဝင်း။

(၂)
နိုင်ငံတော်ရှေ့နေချုပ်ကြီး
ဦးချန်ထွန်း။

(၃)
တရားရုံးချုပ်အတွင်းဝန်ဟောင်း
စည်သူ ဦးစံညွန့်။

၄
ပြန်ကြားရေးဌာနအတွင်းဝန်
သီရိပျံချီ ဦးသန့်။

၅
ပြန်ကြားရေးဌာန ညွှန်ကြားရေးဝန်ထောက်ကျော်ထင်
ဦးယော(ဇေယျ)

အယ်ဒီတာ ဦးသာတင်။



သံတိုင်များ ဆုံးလျှင် ခေါင်းလောင်းပုံအတိုင်းဖြစ်ပေရာ
သံတိုင်များဆက်၍ထူနေပုံ



ရွှေမော်ဓော ခေါင်းလောင်းပုံ
ကျောက်ပြားမှ အထက်သို့ ပေ—၇၀ တက်သည့်သံတိုင်များ

## ဆဋ္ဌသံဂါယနာတွင် ကုသိုလ်ပါဝင်ကြရန် ညောင်ရမ်း ဆရာတော်ကြီး၏ တိုက်တွန်း နှိုးဆော်ချက်

ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်းရှိ ဗုဒ္ဓဘာသာဝင် ဥပါသကာ ဥပါသိကာ အပေါင်း သူတော်ကောင်းတို့သည်လည်း ရေးဖန်းပွင့်ကို ရနိုင်ခဲ့သကဲ့သို့ရှင်း၊ လူ့ရှိသောယုန်ရုပ်ကိုလက်ဖြင့်ကိုင်ယူနိုင်ရန်ခဲယဉ်းသကဲ့သို့ရှင်း၊ကျိုးကန်း၏နို့ ရည်ကိုရနိုင်ခဲသကဲ့သို့ရှင်း၊ ယုန်ချို၊ လိပ်မွေး၊ ပုဇွန်သွေးကို ဘေးသင့်အောင် ရှာသော်လည်း မရနိုင်သကဲ့သို့ရှင်း၊ ဘုရားပွင့်တော်မူရာ အခါကာလကို ရခဲ ကြုံကြိုက်ခဲ သကဲ့သို့ရှင်း၊ အလွန်တရာမှ တွေ့မြင်ရခဲ ကြုံကြိုက်ရခဲလှစွာသော ဆဋ္ဌသင်္ဂါယနာတင် မဟာသဘင်တော်ကြီးကို ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရကို အမှီပြု၍ တွေ့မြင် ကြုံကြိုက်ရသည့်အခါ၊ အလွန်တရာမှ ရခဲ၊ သိမြင်နိုင်ခဲလှစွာသော မင်္ဂလိုလ်နိဗ္ဗာန် တရားမြတ်ကြီးကို အမြန်ဆုံး သူ့ထက်ငါဦးစွာ ရရှိကြစေရန် ဆဋ္ဌသင်္ဂါယနာတင် မဟာသဘင်တော်ကြီး၌ ညီညီညွတ်ညွတ် ဝမ်းမြောက်ဝမ်းသာ ကုသိုလ် ပါဝင်ကြရန်နှင့် အခြားမိမိတို့ စွမ်းနိုင်သည့်ဘက်မှလည်း သာသနာတော်ထွန်းတောက်စေခြင်းအကျိုးငှါ ညီညာဖြိုဖြိုလုံ့လ ဝီရိယ သတိပညာဖြင့် ကူညီဆောင်ရွက်ကြရန်အလွန်သင့်မြတ်လှပေကြောင်း ဆရာတော်က မေတ္တာကရုဏာ ရှေ့ထား၍ မိန့်ကြားလိုက်သည်။

ဦးရေဝတ၊

အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ
ညောင်ရမ်းဆရာတော်၊
ဥက္ကဋ္ဌ၊
ဆဋ္ဌသင်္ဂါယနာဝန်ဆောင်သံဃအဖွဲ့။

## ဆဋ္ဌသံဂါယနာတွင် ကုသိုလ်ပါဝင်ကြရန် နိုင်ငံတော်-သမတကြီး၏ တိုက်တွန်း နှိုးဆော်ချက်

ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း မှီတင်းနေထိုင်ကုန်ကြသော ဗုဒ္ဓဘာသာဝင် သူတော်စင်အပေါင်းတို့.....

"ယန္နူနာ'ဟံ'မယ္ဟံ ဓိနယဉ္စ သင်္ဂါယေယျံ ယထယိဒံ သာသနံ အဒ္ဓနိယံ အဿ စိရဋ္ဌိတိကံ" "သာသနာ တော် အဓွန့်ရှည်စွာ တည်စေရန် သံဂါယနာ တင်ရပါမူ ကောင်းလေစွ"ဟူသော ပထမသင်္ဂါ တိပါမောက္ခ အရှင်မဟာကဿပ ထေရ်၏ စိတ်အကြံ ဆန္ဒတော်ထုံးကို နှလုံးပြုမိတော်မူကြသော မြန်မာ၊ သီဟိုဠ်၊ ယိုးဒယား၊ ကမ္ဘောဒီးယားနှင့်လောပြည်ဟုဆိုအပ်သောထေရဝါဒငါးနိုင်ငံရှိလဇ္ဇီပေသလနိကာယ ပါရဂူသံဃာတော်အရှင်သူမြတ်တို့သည်၊ မြတ်စွာဘုရား၏ သာသနာတော် အနှစ်ငါးထောင်တည်ပါစေခြင်းငှါ၊ ၁၃၁၆-ခုနှစ်၊ ကဆုန်လပြည့်နေ့မှစ၍ ၁၃၁၈ ခုနှစ်၊ ကဆုန်လပြည့်နေ့အထိ၊ ၂-နှစ်တိုင်တိုင်ရန်ကုန်မြို့ရေကူးရပ်၊သီရိမင်္ဂလာကမ္ဘာ့စေတီတော်အနီးတွင် ဆောက်လုပ်အပ်သော "ဆဋ္ဌသင်္ဂီတိ မဟာပါသာဏဂုဟာ" ခေါ် ကျောက်လိုဏ်ဂူတော်ကြီး၌ ခြောက်ကြိမ်မြောက် သင်္ဂါယနာတင်တော်မူကြပေတော့မည်။

အတိဒုလ္လဘ အလွန်တွေ့ကြုံခဲလှစွာသော ဤဆဋ္ဌသံဂါယနာ မဟာသဘင် အထမြောက်ရေးအတွက် အထက်ပါ ထေရဝါဒ နိုင်ငံများရှိ ဗုဒ္ဓဘာသာဝင် လူဒါယကာ အပေါင်းတို့က ပစ္စယာနုဂ္ဂဟအားဖြင့် ဝိုင်းဝန်းလှူဒါန်းကြီးပမ်းကြရန်ဟူသော အစီအစဉ်အရ၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်သူ နိုင်ငံတော်သား အပေါင်းတို့ကလည်း အခွင့်ကောင်းရရှိခိုက် အမှတ်မဲ့ မဖြစ်ကြစေဘဲ နည်းများဟူ အလှူငွေထည့်ဝင်လှူဒါန်းကြသောအားဖြင့်"ဆဋ္ဌသင်္ဂီတိဒါယကာ"ဟူသော သာသနိက ဂုဏ်ထူးဘွဲ့ထူးကိုခံယူကြပါရန်၊ ကျွန်ုပ်ကလေးနက်စွာ တိုက်တွန်းနှိုးဆော်လိုက်ပါကြောင်း။

(ပုံ) ဦးဘဦး၊
သမတ၊
ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ။

၁၃၁၅ ခု၊ တော်သလင်းလ။

စက္ကူလက်ဆောင်
နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့

# သံဃါယနာ

## သာသနာ့ရောင်ခြည်





သတိုးသီရိသုဓမ္မ ဆာဦးသွင်-ဒေါ်ဒေါ်သိန်း၊ သား-ဦးစံမောင်၊ သမီး-ဒေါ်ခင်ခင်ကြီးတို့၏ကောင်းမှု၊
သာသနာ့ရိပ်သာအတွင်းရှိ ဦးဖန်-ဒေါ်ရင်ဓမ္မာရုံ။

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့နှင့်ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့မှ၊ ပြုလုပ်သော အခမ်းအနားများအပြင် ဆဋ္ဌသံဂါယနာတင်မည့် ပိဋကတ်ကျမ်းစာများကို ထေရဝါဒနိုင်ငံမှ ဆရာတော်များ စုပေါင်း၍ထပ်မံသုတ်သင်ရာ သာသနာ့ဗောင်မြေဖြစ်၏။

## အပြီးသတ်သုတ်သင်ပြီးသော ပိဋကတ်တော်များ

(၁) ပါရာဇိကဏ်ပါဠိတော်။ ကဆုန်လပြည့်နေ့မှ စတင်၍ ထပ်မံ ပြင်ဆင်ရာ ကဆုန်လဆုတ် (၁၁) ရက်နေ့တွင်ပြီးစီးသည်

(၂) ပါစိတ်ပါဠိတော်၊ ကဆုန်လဆုတ် (၁၁) ရက်နေ့မှ စတင်၍ ထပ်မံ ပြင်ဆင်ရာ နယုန်လဆန်း (၁၃) ရက်နေ့တွင် ပြီးစီးသည်။

(၃) ဓိနည်းမဟာဝါပါဠိတော်။ နယုန်လဆုတ် (၁) ရက်နေ့မှ စတင်၍ ထပ်မံ ပြင်ဆင်ရာ ပဌမဝါဆိုလဆန်း (၆) ရက်နေ့တွင် ပြီးစီးသည်။

(၄) စူဠဝါပါဠိတော်။ နယုန်လဆုတ် (၁) ရက်နေ့မှ စတင်၍ ထပ်မံပြင်ဆင်ရာ ပဌမဝါဆိုလဆန်း (၉) ရက်နေ့တွင် ပြီးစီးသည်။

(၅) ပရိဝါပါဠိတော်။ ပဌမဝါဆိုလဆန်း (၇) ရက်နေ့မှ စတင်၍ ထပ်မံ ပြင်ဆင်ရာ ပဌမဝါဆိုလဆန်း (၁၃) ရက်နေ့တွင် ပြီးစီးသည်။

(၆) သုတ်သီလက္ခန်ပါဠိတော်၊ ဒုတိယဝါဆိုလဆုတ် (၂) ရက်နေ့မှစတင်၍ ထပ်မံပြင်ဆင်ရာ ဝါခေါင်လဆုတ် (၃) ရက်နေ့တွင်ပြီးစီးသည်။

(၇) သုတ်မဟာဝါပါဠိတော်။ ဝါခေါင်လဆုတ် (၃) ရက်နေ့မှ စတင်၍ ထပ်မံ ပြင်ဆင်ရာ တော်သလင်းလဆုတ် (၁) ရက်နေ့တွင်ပြီးစီးသည်။

(၈) သုတ်ပါထေယျ။ တော်သလင်းလဆုတ် (၁) ရက်နေ့မှ စတင်၍ ထပ်မံ ပြင်ဆင်ရာ သီတင်းကျွတ်လဆန်း (၁) ရက်နေ့တွင် ပြီးစီးသည်။

(၉) သဂါထာဝဂ္ဂသံယုတ်။ သီတင်းကျွတ်လဆုတ် (၁၀) ရက်နေ့မှ စတင်၍ ပြင်ဆင်ရာ တန်ဆောင်မုန်းလဆန်း (၁၄) ရက်နေ့တွင် ပြီးစီးသည်။

၁၃၁၅-ခု၊ တန်ဆောင်မုန်းလ၊ အတွဲ-၁၊ အမှတ်-၈၊ (တစောင်-၂၅-ပြား)



၁၃၁၅-ခုတန်ဆောင်မုန်းလ၊ အတွဲ ၁၊ အမှတ်-၈

## မတုနိုင်သည့် အဘိဓမ္မာ

ဖ^ိလိုဆိုဖ^ိ ဟူသောစကားကို မြန်မာဘာသာအားဖြင့် အဘိဓမ္မာဟူ၍ရင်း၊ သဘာဝဗ္ဗပညာဟူ၍ရင်း၊ သဘာဝဝေဒဟူ၍ရင်း၊ အမျိုးမျိုးပင်ပြန်ဆိုကြသည်ကို တွေ့ရလေသည်။ သင်္သကရိုက် ဘာသာ၊ ဟိန္ဒူဘာသာအားဖြင့် ဒဿန ဟု ပြန်ဆိုကြသည်များကို တွေ့ရလေသည်။ အဘိဓမ္မာဟူသော စကားမှာ ပိဋကတော်ထွက်စကားဖြစ်လေရာ သုတ္တန်ထက်လွန်ကဲထူးမြတ်သော တရားတော်ဟု ဆိုလိုရင်းဖြစ်ရလေသည်။ ထို့ကြောင့် ဖ^ိလိုဆိုဖ^ိကို အဘိဓမ္မာဟုပြန်ဆိုလျှင် မှားသည်ဟု မသိသူအချို့က အမှတ်မဲ့ ပြောဆိုတတ်ကြလေသည်။ စင်စစ်အားဖြင့် ရှိနည်းအရ သုံးစွဲနိုင်ကြောင်းထင်ရှားလေသည်။ ထို့ကြောင့် ဖ^ိလိုဆိုဖ^ိကို အဘိဓမ္မာဗီ၊ လိုဆိုဖါကိုအဘိဓမ္မာဆရာဟုပင် ဤနေရာ၌ သုံးစွဲလိုပေသည်။

အဘိဓမ္မာ အင်္ဂလိပ်ဘာသာပြန်များကို ဖ^ိလိုဆိုဖ^ိ ဟူသောအမည်ဖြင့် မှည့်လျက်ရှိသည်မှာသည်း အထင်အရှားပင်ဖြစ်လေသည်။

ခေတ်ပညာတတ်အချို့သည်၊ ဗုဒ္ဓရှင်တော်မြတ်ဘုရားအား အယ်ရစ်တိုတယ်လ်ပခေလတိုးသော ဂရိတ်အဘိဓမ္မာ ဆရာများကဲ့သို့ရင်း၊ နစ်ရှေးစသော ဂျာမန်အဘိဓမ္မာ ဆရာများကဲ့သို့ရင်း၊ ဗုဒ္ဓရှင်တော်ဘုရားကိုလည်း သာမညအဘိဓမ္မာဆရာ တဦးလောက်ကဲ့သို့ မှတ်ထင်သုံးနှုန်းနေကြသည် များကို တွေ့ရလေသည်။ ဂရိစ်အဘိဓမ္မာ၊ ဂရိတ်အဘိဓမ္မာ၊ ဂျာမန်အဘိဓမ္မာ၊ အိန္ဒိယအဘိဓမ္မာ၊ တို့သည်၊ တိုးတက်ထွန်းကားလျက်ရှိသော လောကီပညာချက်စေ့အမြင်ဖြင့် အသေ အချာ အကြည့်အရှုမခံနိုင်သော အချက်များကို တွေ့ရသကဲ့သို့၊ ဗုဒ္ဓအဘိဓမ္မာ၌ကား အကြည့်အရှု မခံနိုင်သော အချက်များကို ယနေ့အထိ တစွန်းတစ မတွေ့ရသေးချေ။ နောင်ကိုလည်း တွေ့ရလိမ့်မည် မဟုတ်ချေ။ သို့ဖြစ်ပါလျက်၊ လေးကျွန်းသေဋ္ဌိနင်း စကြဝဠာမင်းကြီးအား သာမညဘုရင်နှင့် နှိုင်းယှဉ်ရေးသား ပြောဆိုသကဲ့သို့၊ အဘူမရှိ-အတုမရှိ နက်နဲ မွန်မြတ်လှသော အဘိဓမ္မာ တရားတော်ကို ဟောကြားတော်မူသည့် ဗုဒ္ဓရှင်တော်ဘုရားအား သာမညအဘိဓမ္မာ ဆရာများနှင့် နှိုင်းချိန်၍ ပြောဆိုကြခြင်းသည် ကား မှားယွင်းလှပေ၏။

ကမ္ဘာ့ ယောက္ခတ်ဘာဝဆရာကြီးဘဦးအဖြစ်ဖြင့် ကြီးကျယ်မြင့်မားလှသော ဂုဏ်ဖြစ်များကို ခံယူ သွားသူ အိုင်းစ်တိုင်းလ်သည်လည်း ဤနေရာတွင် အနိုင်းမှားရှာသူ တဦးအဖြစ်သို့ ဆိုက်ရောက်ခဲ့ရသသည်။ ထိုအဖြစ်ကား၊ ဗုဒ္ဓအဘိဓမ္မာကို ကျနသေချာစွာမလေ့လာမလိုက်စားမိခြင်းမှ တပါး အခြားသော အကြောင်းထူးရှိမည်မထင်ချေ။ စာရေးဆရာကြီး အိုင်းစ်တိုင်းသည် အခြား ပညာတတ်များစွာတို့၌ အံ့ဩလောက်အောင် ရှေ့နောက် သိမြင်သကဲ့သို့ ဗုဒ္ဓရှင်တော်မြတ်၏ အဘိဓမ္မာကိုလည်းအံ့ဩလောက်အောင် ရှေ့နောက် သိမြင်မည်ဆိုပါက၊ ဗုဒ္ဓရှင်တော်ဘုရားအား အလွန် ထူးချွန်သော အဘိဓမ္မာဆရာတဦးအနေလောက်သာ ထင်မိမည် မဟုတ်ချေ။ အသက်ဘနည်းအားဖြင့် ဟိန္ဒူဘာသာ ဝေါသ သင့်သောစကားမျိုး (အယူအဆမျိုး)ဟု ဆိုရပေလိမ့်မည်။ အိုင်းစ်တိုင်းဝဲ ကဲ့သို့သော စာရေးဆရာကြီး၏ နောက်လိုက်များစွာတို့ကလည်း ဗုဒ္ဓရှင်တော်ဘုရားအား မိမိတို့ဆရာ အိုင်းစ်တိုင်းဝဲလောက်မှ အထင်ကြီးမိကြဟန်မတူပေ။ ထိုအချက်မှာသည်း အိုင်းစ်တိုင်းဝဲလောက်မှ ဗုဒ္ဓအဘိဓမ္မာကို မစမ်းဝါး နိုင်ကြသောကြောင့်သာ ဖြစ်ရပေလိမ့်မည်။

ကမ္ဘာပေါ်၌ ဗုဒ္ဓဘာသာ အကျဆုံးအချိန်သည်၊ ဗုဒ္ဓအဘိဓမ္မာ၏ အကျဆုံးအချိန်ပင် ဖြစ်ရပေလိမ့်မည်။ ကမ္ဘာပေါ်၌ ဗုဒ္ဓဘာသာ အကြီးပွားဆုံးအချိန်သည်လည်း၊ ဗုဒ္ဓအဘိဓမ္မာအကြီးပွားဆုံးအချိန်ပင်ဖြစ်ရပေလိမ့်မည်။ ဗုဒ္ဓအဘိဓမ္မာသည် ပစ္စုပ္ပန်လောက်သာ ပေါ်ငြားအပ်သော အဘိဓမ္မာမျိုးမဟုတ်ပေ။ အတိတ်အနာဂတ်-ပစ္စုပ္ပန်ဟု ဆိုအပ်သော ကာလသုံးပါးလုံးအတွက် အလွန်ပြည့်စုံလေးနက်သော အဘိဓမ္မာ ဖြစ်ပေ သဖြင့် ပစ္စုပ္ပန်၏ ကြီးပွား တိုးတက် မှုလောက်ကိုသာ မှန်းမျှော်နေရသောလောကီခေါ်ပညာ၏ စံချိန်သည် ဗုဒ္ဓအဘိဓမ္မာကို မှန်းဆစ်ရေးအတွက် မိုးကို လက်လှမ်းသကဲ့သို့သာ ရှိနေပေလိမ့်မည်။ အဖြူ၏ သဘောကို ကျနကုန်စင်အောင်မသိဘဲ၊ အမဲနှင့် နှိုင်းယှဉ်သူသည်ရင်း၊ အမဲ၏သဘောကို ကျနကုန်စင်အောင် သိဘဲ အဖြူနှင့်နှိုင်းယှဉ်သူသည်ရင်း၊ လက်ဘဲ့မေ်းသကဲ့သို့သာ ရှိမည်ဖြစ်သောကြောင့်၊ အဘိဓမ္မာပညာချင်း၊ အဘိဓမ္မာဆရာချင်း၊ နှိုင်းယှဉ်လိုသူ ဟူသမျှသည် မနှိုင်းယှဉ်မီက ကြိုတင်၍နှစ်ဘက်စလုံး ကိုယ် ပညာလိုက်ဘာသင့်လှကြောင်း ရေးသားနိုက်ရပေတော့သည်။

---

## ဒုတိယ အဋ္ဌကထာဆရာကြီး
# အရှင်ဓမ္မပါလအနုပ္ပတ္တိ

### ဆီးချိုပင်ဆိပ်ကမ်း

အရှင်ဓမ္မပါလ၏ မွေးဖွားရာဇာတိကိုရင်း၊ လူမျိုးကိုရင်း၊ အရှင်ဓမ္မပါလ ကိုယ်တိုင် ရေးသားပြုစုတော်မူသည့် ကျမ်းကိုရင်း၌ ထိုထိုစာပေမှတ်တမ်းတို့၌ရင်း မတွေ့ရပေ၊ ဝိသုဒ္ဓိမဂ် မဟာဋီကာနိဂုံး၌—

ဗဒရတိတ္ထ ဝိဟာရဝါသိနာ အာစရိယဓမ္မပါလေနကတာ၊ ပရမတ္ထမဉ္ဇူသာနာမ ဝိသုဒ္ဓိမဂ္ဂ ဋီကာ သမတ္တာ၊ (ဆီးချို ဆိပ်ကမ်းကျောင်းနေ ဆရာ ဓမ္မပါလ ပြုစုအပ်သော ပရမတ္ထမဉ္ဇူသာ အမည်ရှိ ဝိသုဒ္ဓိမဂ်အဋ္ဌကထာ၏အဖွင့် ဋီကာကား ပြီးပါပြီ)။

ဟု ကိုယ်တော်တိုင် ရေးသားတော် မူချက်ကို တွေ့ရလသည်။

ဤစကားအရ၊ ဆီးချိုပင် ဆိပ်ကမ်းကျောင်း၌သီတင်းသုံးတော်မူကြောင်းကိုသာ အသေ အချာ သိရပေသည်။ ထိုကျောင်းသည်၊ သီဟိုဠ်ကျွန်းတွင်ရှိသလော ဇမ္ဗူဒီပ နိုင်ငံတွင် ရှိသလေးဟု ကွဲပြားအောင်မပါခဲ့ပေ။ မောင်းထောင်သာသနာပိုင် (လူထွက်ပြီးနောက်၊ မင်းတိုင်ပင်အမတ်ကြီး မဟာဓမ္မသင်္ကြံ) ရေးသားသည့် သာသနာလင်္ကာရကျမ်း အခေါ်း ၁၄ ၌ကား—

ဆရာဓမ္မပါလကား၊ သီဟိုဠ်ကျွန်းအနီး၊ ပဒရတိတ္ထဆိပ်၌နေ၍၊ သီဟိုဠ်စာရင်းဝင်ဖြစ်လေသည်–

ဟု ရေးသား ထားသည်ကို တွေ့ရလေသည်။

နန်းမတော်ဝန် ဦးရန်၏ ပိဋကတ်သမိုင်း တတန်း၊ စာမျက်နှာ ၂၃ ၌—

သီဟိုဠ်ကျွန်း အနုရာဓမြို့ အနောက်ပဒရတိတ္ထကျောင်းနေ ရှင်ဓမ္မပါလပြုသည်။

ဟု ဆိုထားသည်ကိုတွေ့ရပြန်လေသည်။ ထိုစကားအရဆိုပါလျှင် ပဒရတိတ္ထဝိဟာရခေါ် ဆီးချိုပင်ဆိပ်ကျောင်းမှာ၊ သီဟိုဠ်၌ရှိသည်ဟုဆို ပိုရင်းဖြစ်ကြောင်းထင်ရှားပေသည်။ ထို့ကြောင့် ယခုထက်တိုင် မှားရှိသောပုဂ္ဂိုလ်တို့သည်၊ အဋ္ဌကထာဆရာကြီး အရှင်ဓမ္မပါလအား၊ သီဟိုဠ်သားဟု ရှိ၍ရင်း၊ သီတင်းသုံးရာ ကျောင်းတော်ကိုလည်း သီဟိုဠ်ကျွန်းရှိ ပဒရတိတ္ထကျောင်းဟု၍ရင်း၊ မှတ်ယူပြောဆိုသေ့ရှိကြကုန်၏။

### ဇမ္ဗူဒီပနိုင်ငံတွင်ရှိသည်

စင်စစ်ကား၊ ပဒရတိတ္ထခေါ် ဆီးချိုပင်ဆိပ်ကျောင်းသည်၊ သီဟိုဠ်ကျွန်း၌မရှိ ပေါ်ရှိ နိုင်ငံအတွင်း၌သာ ရှိလေသည်။ ထို့ကြောင့် မဟာဓမ္မသင်္ကြံ ရေးသားသည့် သာသနာလင်္ကာရကျမ်း အခေါ်း ၂၄ ၌၊ ဓမ္မာစေတီမင်း၏ သီဟိုဠ်သွားဆရာတော်ကြီးများ ပြန်ကြလာသည့် အခေါ်ကိုပြဆိုရာ၌—

နာဂပဋ္ဋနဆိပ်ဘွင် နေတွဲ အဋ္ဌကထာ စသော များစွာသော ကျမ်းပြုဆရာ အရှင် ဓမ္မပါလနေရာ သိမ်မြို့ သောကမင်းကြီး ကောင်းမှုတော် ကျောင်း ရှစ်ဆောင်းလေးထောင် အဝင်အပါ ပဒရတိတ္ထ ( ဆီးတောဆိပ် ) ကျောင်းရာကို ဖူးမြော် ကြရ၏၊ ကာလိင်္ဂရာဇ်ပြည်က၊ ဟေမမာလာ၊ ဒန္တကုမာရ မင်းသမီးမင်းသားတို့ စွယ်တော်ကို သီဟိုဠ်ကျွန်းသို့ ဖင့်ခဲ့သည့် ကာလ၊ စွယ်တော်ထားရာတွင်၊ ဓိနပဋ္ဋနမင်းတည်သော ဂူကြီး၌ ပြပြင်ထားသည်ကိုရင်း၊ ကြည်ညိုဖူးမြင်ကြရ၏—

ဟု ရေးသား၍ ထားပြန်သည်ကို တွေ့ရလေသည်။

ဤအမတ်ကြီး၏စကားသည်၊ ဓမ္မစေတီမင်းကြွားကြီး၏ ကလျာဏီ ကျောက်စာအတိုင်း ရေးသားခြင်းဖြစ်သည်ဟု မှတ်ယူသင့်၏။ ကလျာဏီကျောက်စာ၌—

ထေရာပန-လ-တ မသေရိသု—

ဟု ပြဆိုသားသည်ကို တွေ့လေသည်။ (အဓိပ္ပါယ်မှာ၊ ယခင်အမတ်ကြီး၏ရေးသားချက်အတိုင်းပင် ဖြစ်လေသည်)။

### ဒုတိယ အဋ္ဌကထာဆရာကြီး

အရှင်ဓမ္မပါလမှာ၊ အဋ္ဌကထာဆရာကြီးလည်းဖြစ် ဋီကာဆရာကြီးလည်းဖြစ် ပေလသည်။ အဋ္ဌကထာဆရာကြီးဟု ဆိုရာ၌လည်း မိမိထက်ရှေးကျသော အဋ္ဌကထာဆရာအများအပြားပင် ရှိကြသော်လည်း၊ ထင်ပေါ်ကျော်ကြား လှသိများသည်ကို အကြောင်းပြု၍ အရှင်မဟာ ဗုဒ္ဓဃောသ နောက် ဒုတိယ အဋ္ဌကထာဆရာကြီးဟု ခေါ်ဆိုလေ့ ရှိကြကုန်၏။

### ပြုစုတော်မူသည့် အဋ္ဌကထာများ

(၁)ပရမတ္ထ ဒီပနီခေါ် ဥဒါန်းအဋ္ဌကထာ၊ (၂) ဣတိဝုတ္တ အဋ္ဌကထာ(၃) ပရမတ္ထဒီပနီခေါ် ဝိမာနဝတ္ထုအဋ္ဌကထာ (၄) ပေတဝတ္ထုအဋ္ဌကထာ၊ (၅)ထေရဂါထာ အဋ္ဌကထာ၊ (၆)ထေရီဂါထာ အဋ္ဌကထာ၊ (၇) ပရမတ္ထဒီပနီခေါ် စရိယာပိဋက အဋ္ဌကထာ၊ (၈) နေတ္တိအဋ္ဌကထာများဖြစ်လေသည်။

### ပြုစုတော်မူသည့်ဋီကာများ

ထို့ပြင်(၁) လီနတ္ထပကာသနီခေါ် မူလပဏ္ဏာသဋီကာ(၂)မဇ္ဈိမပဏ္ဏာသဋီကာ၊(၃) ဥပရိပဏ္ဏာသဋီကာ၊(၄)သဂါထာဝဂ္ဂသံယုတ်ဋီကာ၊(၅) နိဒါနဝဂ္ဂသံယုတ် ဋီကာ(၆) ခန္ဓဝဂ္ဂသံယုတ် ဋီကာ(၇)သဠာယတနဝဂ္ဂ သံယုတ်ဋီကာ

( စာမျက်နှာ ၂၀ သို့ကြည့်ပါ )

# ဆဋ္ဌသံဂါယနာကုသိုလ်ကြီးအတွက်

## အလှူတော်ငွေကောက်ခံရေးနည်းဥပဒေများ

### နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ ဆာဦးသွင်၏ ပြည်ထောင်စု မြန်မာနိုင်ငံတော်သူ နိုင်ငံတော်သားအပေါင်းတို့အား နိုးဆော် တိုက်တွန်းချက်

**(က) နိဒါန်း**

ပြည်ထောင်စု မြန်မာ နိုင်ငံတော်သူ နိုင်ငံတော်သား အပေါင်းတို့အား နိဗ္ဗာန် ပေါက်အောင် ကောင်းကျိုး ဆောင်နိုင်၍ သာသနာ့ပြုကိစ္စ တရား လက်ဆောင်ကြီး ဖြစ်သည့် "ဆဋ္ဌသံဂါယနာနှင့်လူထု" ဟူသော အကြောင်းကို နိုင်ငံတော် ဗုဒ္ဓ သာသနာအဖွဲ့ကြီး၏ ဥက္ကဋ္ဌ အနေဖြင့် ကျွန်ုပ်တော် ဖေါ်ပြလိုပါသည်။

**(ခ) သင်္ဂါယနာ**

သင်္ဂါယနာ ဟူသည်မှာ ပါဠိ စကား ဖြစ်၍ အဓိပ္ပါယ်မှာ ရဟန်း သံဃာတော် များ ဝါဒ ကွဲပြားမှုမရှိမူ၍ မြတ်စွာဘုရား ၏ စကားတော် များကို တညီ တညွတ် တည်း စုပေါင်းကာ ရွတ်ဆိုတော် မူခြင်း ဖြစ်ပါသည်။ မြတ်စွာ ဘုရား၏ စကား တော်များဖြစ်သည့် ပိဋကတ် စာပေများ သည် နှုတ်တက် ဆောင်ရာ၌၎င်း၊ ပေမူ၌၎င်း၊ ကျောက်ထက် အက္ခရာမူ၌၎င်း၊ ပုံနှိပ်မူ၌၎င်း၊ တစတစ ချွတ်ချော်ပြီး မှား ယွင်းချက်များ ဖြစ်ပေါ် နေသည်ကို တွေ့ရှိရသဖြင့် ထိုအမှားများကိုမှန်ကန်သော စာပေအဖြစ်သို့ ရောက်အောင် ပြုပြင်၍၊ သံဃာတော် အပေါင်းတို့ တညီတညွတ် တည်း ရွတ်ဆိုခြင်း ဖြစ်ပါသည်။ သို့မှ သာလျှင် မှန်ကန်သော ကျင့်ကြံမှုကို ရရှိ ပြီး ခြောင်းရာ နိဗ္ဗာန်၏အရသာကို ခံစား ရမည်ဖြစ်ပါသည်။

**(ဂ) သင်္ဂါယနာအရေးကြီးပုံ**

သင်္ဂါယနာ တင်ခြင်းသည် ရောဂါ ပျောက်ကင်း စေတတ်သည့် ဆေးနည်း ကောင်းကြီးနှင့် တူပါသည်။ ကာလကြာ မြင့်သဖြင့် ချွတ်ယွင်းမှု များပြားလျက်ရှိ သော ဆေးနည်းကောင်း တခုကို မှီခို နေသည့် ပုဂ္ဂိုလ်အား၊ အသက် ဘေးမှ ကာကွယ်ရန် တတ်ကျွမ်း နားလည်သော ဆရာကြီးများသည် ဆေးနည်းကို မှန်ကန် အောင် သုတ်သင်ပေးရပါသည်။ ထို့အတူ နိဗ္ဗာန်တိုင်အောင် ကောင်းကျိုးချမ်းသာ ကို ပေးစွမ်းနိုင်သည့် ဆေးနည်းကောင်း ထူးဖြစ်သော မြတ်စွာ ဘုရား၏ စကားတော် များသည်၊ ကျောက်စာမူ၊ ပေမူ၊ ပုံနှိပ်မူတို့၌ အရေးအသား မှားယွင်း ပါက ထုံကြိုးအားထုတ်မှုလည်း ဖေါက် ပြန်စတတ်လေရာ၊ ၎င်းဘေးမှ ကာကွယ်ရန် အတွက် ဆရာတော် ကြီးများသည် မှား ယွင်းသော စာလုံးများကို သုတ်သင် ပြင် ဆင်၍ နှစ်ပေါင်းများစွာ တည်တံ့မှု ရှိ စေအောင် ဆောင်ရွက်ရပါသည်။

**(ဃ) သင်္ဂါယနာ ၅ ကြိမ်**

လွန်လေ ပြီးသော သာသနာဝင် တလျှောက်ကို ပြန်လည် သုံးသပ်ကြည့် ပါမူ၊ မဇ္ဈိမဒေသခေါ် အိန္ဒိယပြည်မှာ သုံးကြိမ်၊ သီဟိုဠ်ကျွန်းမှာတကြိမ်၊ မြန်မာ ပြည်မှာ တကြိမ်အားဖြင့် သာသနာ နှစ် ပေါင်း ၂,၅၀၀ အတွင်း၌ ၅ကြိမ်တိုင် တိုင်ပင်၊ သင်္ဂါယနာ တင်ခြင်း ကိစ္စကို သံဃာ့ရှေ့ သုပါ မိမိတို့နှင့် သက်ဆိုင်ရာ တာဝန်များကိုယူကြပြီး ဆောင်ရွက်ခဲ့ကြ ပါသည်။ အရှင်မဟာကဿပအစရှိသော သံဃာတော်ဘက် ဆိုင်ရာ မြတ်စွာဘုရား၏ တပည့်သားကြီး များနှင့် တကွ၊ အဇာ တသတ်မင်း စသော လူဘက်ဆိုင်ရာ သာ သနာပြု မင်းကောင်း မင်းမြတ် ကြီးများ သည်၊ မြတ်စွာဘုရား၏ စကားတော်များ ဖြစ်သည့် ပိဋကတ် စာပေများကို အလေး မမူ၊ လျစ်လျူရှုကာ ထားခဲ့ပါမူ၊ ပြည်သူ လူထု တရပ်လုံးသည် ယခု မျက်မှောက် ဘဝတွင် ကြားသိလိုက်နာ ကျင့်ကြံအား ထုတ် နေကြသော ဘုရား ဂုဏ်တော် ၉ ပါး၊ တရားဂုဏ်တော် ၆ ပါး၊ သံဃာ ဂုဏ်တော် ၉ ပါးတည်း ဟူသော ဂုဏ် တော်အပေါင်းနှင့် ငါးပါးသီလ၊ ရတနာ သုံးပါးကို ဆည်းကပ်ကိုးကွယ်မှုဟုဆိုအပ် သောသရဏဂုံစသည်တို့၏အကြောင်းကို အသံမျှပင် မကြားရသည့်အခြေသို့ ဆိုက် ရောက်ရပေမည်။ ကြားရသည့်တိုင်အောင် လည်း တိကျမှန်ကန်သော ကျင့်ကြံအား ထုတ်မှုကို ရရှိနိုင်မည် မဟုတ်ပေ။ အရှင် မဟာ ကဿပ အမှူး ရှိသော ရဟန္တာ မထေရ်မြတ်ကြီးများနှင့် အဇာတသတ်မင်း စသော သာသနာပြုမင်းကောင်းမင်းမြတ် များ၏ ဆောင်ရွက် ခဲ့သော ကျေးဇူး၊ များကြောင့်ပင် အလှူ ပေးခြင်း၊ သီလ ဆောက်တည်ခြင်း၊ ကမ္မဋ္ဌာန်း စီးဖြန်း ခြင်း၊ နိဗ္ဗာန် ရောက်ကြောင်း အလင်း ရောင် ကောင်းများကို ပြည်သူ လူထု အပေါင်း ရရှိခံစားကြရ ပါသည်။ ရှေး ခေတ်က ကျေးဇူးရှင် ကြီး များသည် မျက်မှောက်ခေတ် လူထု တရပ်လုံးအား အသိဥာဏ် အလင်းရောင်ကို ပေးခဲ့သည့် နည်းတူ၊ မျက်မှောက်ခေတ် လူထု တရပ် လုံးကလည်း နောင်လာခေတ်တွင် တည်ရှိ ကြမည့် လူထုအပေါင်းအား အမှောင်ကို ခွင်း၍အလင်းသို့ရောက်အောင် ပို့ဆောင် နိုင်သည့် မြတ်စွာဘုရား၏ စကားတော် များကို ပျောက်ပျက် မှားယွင်းမှု မရှိရ လေအောင်ထိန်းသိမ်းထားရပါမည်။

**(င) အဖွဲ့ကဆောင်ရွက်နေပုံ**

ဤကဲ့သို့ အလွန် အရေးကြီး၊ လှသော သာသနာရေး ကိစ္စကြီးဖြစ်သည်ကို တွေး နက်စွာ တွေးတောသိမြင်သဖြင့်၎င်း၊ နှစ် တရာလောက် တိုင်းတပါးသား၊ တို့၏ လက်အောက်တွင် ရောက်ရှိ ခဲ့ရသဖြင့် မတရားမှုများ လွှမ်းမိုးခြင်း ဒဏ်ကို ခံရ ၍ ညှိုးငယ်သော့ ခြောက်မည့်ကဲ့သို့ ဖြစ်နေ သော မြတ်စွာ ဘုရား၏ စကား တော် အစဉ်ဖြစ်သည့် တရားစစ် တရားမှန်များ ကို ရှေးနည်းတူထွန်းလင်း တောက်ပ စေရန် ရည် သန် သော အား ဖြင့် ၎င်း၊ ကျွန်ုပ်တော် ကိုယ်တိုင် ဥက္ကဋ္ဌ အဖြစ်ဖြင့် ဆောင်ရွက်လျက်ရှိသော နိုင်ငံတော် ဗုဒ္ဓ သာသနာအဖွဲ့ကြီးသည်မြန်မာသက္ကရာဇ် ၁၃၁၆ ခု ကဆုန် လပြည့် နေ့မှ စ၍၊ ၁၃၁၈ ခု ကဆုန် လပြည့်နေ့အထိ ဆဋ္ဌ သင်္ဂါယနာ တင်ခြင်းတည်း ဟူသော ကြီး ကျယ်မွန်မြတ်လှသည့် တရား သဘင်ကြီး ကို ဆင်ယင်နိုင်ရန်အတွက် သင်္ဂါယနာ တင်ပွဲတော်ကြီး၏ ရှေ့ပြေးဖြစ်သည့်ကိစ္စ များကို ယခုကပင် စတင် ဆောင်ရွက် လျက်ရှိပါသည်။

**(စ) အလုပ်ကိစ္စ ကျယ်ဝန်းပုံ**

ကျင်းပလတံ့ ဖြစ်သောဆဋ္ဌသင်္ဂါယနာ တင်ပွဲတော်ကြီးတွင် ပြည်ထောင်စုမြန်မာ နိုင်ငံတော်မှ သံဃာတော်များသာ မက၊ သီဟိုဠ်၊ ယိုးဒယား၊ ကမ္ဘောဒီးယားနှင့် လာအိုး (၄) ပြည် များမှ သံဃာတော် များလည်း ပါဝင်တော် မူကြမည်ဖြစ်ရာ၊ ပူးပေါင်းဆောင်ရွက်ရေး အနေအားဖြင့် တာဝန်များ ကျယ်ဝန်းလှပါသည်။ သင်္ဂါ ယနာတင်ပွဲတော် ကျင်းပရေး အတွက် သင်္ဂါယနာ သာသနာပြု ဒါယကာများ ပြုလုပ်ရမည့် ရှေ့ပြေး လုပ်ငန်းစဉ် များ လည်းများပြားလှပါသည်။ ၎င်းတို့မှာ—

---

### ဆဋ္ဌသင်္ဂါယနာတင် အလှူတော်ငွေ ကောက်ခံရေး ဗဟိုအဖွဲ့ဝင်ကြီးများ

**နာယကကြီးများ**

(၁) နိုင်ငံတော်သမ္မတကြီး၊ (၂) နိုင်ငံတော်ဝန်ကြီးချုပ်၊ (၃) နိုင်ငံတော်တရားဝန်ကြီးချုပ်၊ (၄) လူမျိုးစုလွှတ်တော်နာယကကြီး (၅) ပြည်သူ့လွှတ်တော်ဥက္ကဋ္ဌကြီး။

**အဖွဲ့ဝင်လူကြီးများ**

(၁) နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ဥက္ကဋ္ဌကြီးသတိုးသီရိသုဓမ္မဆာဦးသွင်၊

**ဖ-ဆ-ပ-လ အဖွဲ့ချုပ်မှ**

(၂) ဝန်ကြီးဦးဗဆွေ၊ (၃) ဝန်ကြီး ဦးကျော်ငြိမ်း၊ (၄) ဝန်ကြီး သခင်သာခင်၊ (၅) ဝန်ကြီး သခင်တင်၊

**နိုင်ငံတော်အစိုးရအဖွဲ့မှ**

(၆) သာသနာရေးဝန်ကြီး ဦးဝင်း၊ (၇) ဘဏ္ဍာရေးဝန်ကြီး ဦးတင်၊ (၈) ပြည်ထဲရေးဝန်ကြီးဗိုလ်ခင်မောင်ကလေး၊ (၉) လမ်းပန်းဆက်သွယ်ရေး ဝန်ကြီး ဦးဝင်းမောင်၊ (၁၀) ကယ်ဆယ်ရေးဝန်ကြီး ဦးဘစော၊ (၁၁) မြို့ကြားရေးဝန်ကြီး ဦးထွန်းဝင်း၊ (၁၂) ပြန်လည်ထူထောင်ရေးနှင့် အစိုးရအဆောက်အဦများတည်ဆောက်ရေး ဝန်ကြီး ဗိုလ်မင်းခေါင်၊

**နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ**

(၁၃) မဟာသီရိသုဓမ္မဦးမြ (ဟသ်ာတ)၊ (၁၄) နိုင်ငံတော်ရှေ့နေချုပ်ကြီး သတိုးမဟာသရေစည်သူ ဦးချန်ထွန်း၊ (၁၅) ဦးဘဘင် (ချပ်သင်း)၊ (၁၆) စည်သူ ဦးဘခင်၊ (၁၇) ဦးမောင်းမောင်ကလေး (မန္တလေး)၊ (၁၈) ဦးစံရီ (မန္တလေး) (၁၉) လွှတ်တော်တရားဝန်ကြီးချုပ် ဦးထွန်းဗြို၊ (၂၀) ဝန်ကြီးချုပ်ကတော် ဒေါ်မြ၊ (၂၁) နိုင်ငံတော်တရားဝန်ကြီးချုပ်ကတော် ဒေါ်စောတင်၊ (၂၂) မြို့တော်ဝန် ဦးထွန်း၊ (၂၃) ကယားပြည်နယ်ဝန်ကြီး စဝ်ဝမ္ဗ၊ (၂၄) ကရင်ပြည်နယ်ဝန်ကြီး မန်းမြစ်န်၊ (၂၅) ရှမ်းပြည်နယ်ကောင်စီဥက္ကဋ္ဌ စကားဝ်စော် ဘွားကြီး၊ (၂၆) ကချင်ပြည်နယ်ဝန်ကြီးဗိုလ်လူကြင်၊ (၂၇) ချင်းဝိသေသတိုင်းဝန်ကြီး ဦးရွှိန်ထန်း၊

(၁) သံဃာတော်များ ဘက်မှ ပိဋကတ် စာပေများကို မှုကောင်းမွန် ရှိစေရန် အတွက် သုတ်သင် တည်းဖြတ် ရမည့်ပါဠိ စာပေ သုတ်သင် စစ်ဆေးရေး လုပ်ငန်း။

(၂) သင်္ဂါယနာသာသနာပြု ဒါယကာ ခံယူကြမည့် လူပုဂ္ဂိုလ်များ ဘက်မှ ဆဋ္ဌသင်္ဂါယနာ တင်ရေးနှင့် သက်ဆိုင်သော အဆောက်အဦများကိုဆောက်လုပ်ရေးလုပ်ငန်း၊

တို့၌ အတိုချုပ် အားဖြင့် လုပ်ငန်းကြီး ၂ ရပ် ရှိပါသည်။

## (ဆ) သံဃာဘက်က ဆောင်ရွက်နေပုံ

ဖော်ပြပါ လုပ်ငန်းကြီး ၂ ရပ်အနက် သံဃာတော်များဘက်မှ ဆောင်ရွက် ရမည့်လုပ်ငန်းကြီးဖြစ်သည့် ပါဠိတော်များ၊ သုတ်သင်စိစစ်ရေး အခြေအနေနှင့် ပတ်သက်၍ကား၊ ဆဋ္ဌသင်္ဂါယနာတင်ပွဲတော် အဘွက် ဩဝါဒ ပေးတော်မူရန် ဖွဲ့စည်းထားသည့် ဩဝါဒါစရိယ သံဃနာယက အဖွဲ့ဝင်ဆရာတော်ကြီးများ၏ အမိန့်အရ၊ နိုင်ငံတော် အရပ်ရပ်တွင် အရည်အချင်းနှင့်ပြည့်စုံသည့် စာချ ဆရာတော်များ ပါဝင်သော ပါဠိတော်သုတ်သင် စိစစ်ရေး အဖွဲ့ပေါင်း တရာကျော် ဖွဲ့စည်းပြီးပါပြီ၊ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီးမှလည်း မန္တလေးမြို့ရှိ ကျောက်စာတော် မှုနှင့် ညှိနှိုင်း တိုက်ဆိုင် ထားသော နိကာယ် ငါးရပ် ပိဋကတ်ပါဠိတော်များနှင့် တကွ သက်ဆိုင်ရာ အဋ္ဌကထာ၊ ဋီကာ၊ သီဟိုဠ်မူ၊ ယိုးဒယားမူ၊ လန်ဒန်မူ၊ ကမ္ဘောဒီးယားမူများကို ထိုပါဠိတော် သုတ်သင် စစ်ဆေးရေးအဖွဲ့များအား အသီးသီး ခွဲဝေ ဆက်ကပ်ထားပြီးဖြစ်ပါသည်။ ပါဠိတော်သုတ်သင်စစ်ဆေးရေးအဖွဲ့ဝင် ဆရာတော်များသည်တာဝန်အလျောက်၊ မိမိတို့အား အပ်နှင်းထားသော ပါဠိတော်များကို သုတ်သင်စစ်ဆေးလျက် ရှိသည့်အပြင် သင်္ဂါယနာတင် ပွဲတော်တွင် အာဂုံပြန်ဆိုတော်မူရန်အတွက် ကျက်မှတ်အာဂုံဆောင် တော်မူဆဲဖြစ်နေကြပါသည်။

သီဟိုဠ် ကျွန်းရှိ သံဃာတော်များ သုတ်သင် တည်းဖြတ်တော်မူရန် အတွက်လည်း ၁၉၅၃ ခု၊ ဇန္နဝါရီလ ၁၃ ရက် နေ့ကပင် ညောင်ရမ်းဆရာတော် အမှူးရှိသည့် ဆဋ္ဌသင်္ဂါယနာဝန်ဆောင်သံဃာအဖွဲ့ဝင်ဆရာတော် ၅-ပါးနှင့်သာသနာရေးဝန်ကြီး အမှူး ရှိသော သာသနာရေး အရာရှိများ ပါဝင်သော ဆဋ္ဌသင်္ဂါယနာ မိတ်ဆက် အဖွဲ့သည် ကျောက်စာတော်မှုနှင့်တိုက်ဆိုင်ပြီးဖြစ်သော နိကာယ် ငါးရပ် ပိဋကတ် ပါဠိတော် ၅ စုံကို သီဟိုဠ်ကျွန်းသို့ ဆောင်ကြဉ်းကာ ဆက်ကပ်ခဲ့ပြီးဖြစ်ပါသည်၊ ယိုးဒယား ပြည်မှ သံဃာ ရာဇာအမှူးရှိသော သာသနာရေး မိတ်ဆက်အဖွဲ့ မြန်မာပြည်သို့ ကြွရောက်လာရာတွင်ယိုးဒယားမှသံဃာတော်များ သုတ်သင်တော်မူရန် အတွက် ပိဋကတ်တော်များကိုလည်း၊ ဆက်ကပ်ပြီးစီးပါပြီ၊ အရှင်မဟာ ကဿပ၏ ဝါဒနှင့်ဝါဒချင်းကိုက် ညီသော ဗုဒ္ဓဘာသာ ငါးနိုင်ငံမှ သံဃာတော်များ၊ သုတ်သင် ပြီး၍ အားလုံး သဘောတူ လက်ခံနိုင်သည့် နိကာယ်ငါးရပ်ပိဋကတ်တော်များကို စက်တင်ပုံနှိပ်၍ ဆဋ္ဌသင်္ဂါယနာတင် မှုအဖြစ်ဖြင့်ထုတ်ဝေဖြန့်ချိပြီးနောက်၊ ၎င်းမူကိုပင် သင်္ဂါယနာတင်ပွဲတော်ကြီးကျင်းပနေချိန်မှာ သံဃာတော် အပေါင်းက အစမှ အဆုံး တိုင်အောင် ၂ နှစ် အတောအတွင်းရွတ်ဖတ်ကာ သင်္ဂါယနာတင်ကြပါလိမ့်မည်။

## (ဇ) လူ့ဘက်ကတာဝန်

ဒုတိယ လုပ်ငန်းရပ်ကြီး ဖြစ်သည့် လူဒါယကာများ ဆောင်ရွက်ရမည့် ဆဋ္ဌသင်္ဂါယနာဆိုင်ရာ အဆောက် အဦ အကြောင်းများနှင့်စပ်လျဉ်း၍ ဖော်ပြရပါမူ ဆဋ္ဌသင်္ဂါယနာတင်ရန်အတွက် တည်ရာဌာနတခုအဖြစ်ဖြင့်ရန်ကုန်မြို့ကမ်းနားလမ်း ရေကူးရပ်ရှိ သိရိမင်္ဂလာ ကမ္ဘာအေးစေတီတော်အနီး ကေ တရာကျော် ကျယ်ဝန်းသည့် မြေကွက်လပ်ကြီးကို ရွေးချယ်ခဲ့ပါသည်၊ ၎င်းမြေကွက်ကြီးပေါ်တွင် သံဃာတော်များစုဝေး၍ သင်္ဂါယနာတင်ရမည့် သင်္ဂါယနာတင်ခန်းမအဆောက်အဦ၊ သံဃာတော်များ သီတင်းသုံးတော်မူရန်အတွက် ကျောင်း၊ အဆောက် အဦများ၊ ဆွမ်းစားကျောင်း အဆောက် အဦ၊ ဆေးရုံ အဆောက်အဦ၊ ပိဋကတ်တော်များပုံနှိပ်ရန်အတွက်ပုံနှိပ်တိုက်အဆောက်အဦ စသည်ဖြင့် သင်္ဂါယနာဆိုင်ရာ အဆောက်အဦများကို ငွေသိန်းပေါင်း ၁၅၀ ကျော်ခန့် အကုန်အကျခံပြီးဆောက်လုပ်ပါမည်။ စာပုံနှိပ်တိုက်အဆောက်အဦမှာ မှုကား ယခုအခါပြီးစီးပါပြီ၊ ဆဋ္ဌသင်္ဂါယနာတင်ရာဌာနအဖြစ်အသုံးပြုမည့်သင်္ဂါယနာကျောက်လိုဏ်ဂူတော်ကြီးကိုလည်း၊ ဖေဖော်ဝါရီလ ၄ ရက်နေ့တွင် အုတ်မြစ်ချ၍ အမြန်ပြီးမြောက်အောင် ဆောက်လုပ်နေပါသည်။ ပဌမသင်္ဂါယနာတင်စဉ်အခါကအရှင်မဟာကဿပအမှူးရှိသော မထေရ်ကြီးများနှင့် အဇာတသတ်မင်းတို့ အသုံးပြုတော်မူခဲ့သော စရည်းပင်ရောက် ရှာလိုဏ်ဂူတော်ကြီးကို အမှတ်ရစေခြင်းငှါ ရည်သန်လျက်၊ သောဝန်ကြီးချုပ် ဦးနု၏အကြံပေးချက်အရ ဆဋ္ဌသင်္ဂါယနာတင်ကျောက်လိုဏ်ဂူတော်ကြီးကိုလည်း အဝေးမှနေ၍ ကြည့်ပါမူ ပြကတေ့သော ကျောက်သားဖြင့် ပြီးသည့် လိုဏ်ဂူကြီးနှင့်မခြား မြင်ရလေအောင် ကျွမ်းကျင်သော အင်ဂျင်နီယာများနှင့် တိုင်ပင်ကာ ငွေသိန်းပေါင်း ၅၀ ခန့်အကုန်အကျခံ၍ အလုင်အန်းဆောက်လုပ် နေပါသည်။

## (ဈ) သင်္ဂါယနာနှင့်လူထု

သင်္ဂါယနာတင်ပွဲတော်အတွက် ကုန်ကျမည့် ငွေသိန်းပေါင်း ၁၅၀ ကျော်ကို နိုင်ငံတော်အစိုးရက လူထုကိုယ်စားမှတည်ပြီး၊ ပြည်နယ်အရပ်ရပ်မှ သင်္ဂါယနာ သာသနာ ဒါယကာတို့၏ သဒ္ဓါတရား အလျောက်၊ လှူဒါန်း ကြသည်ကို လက်ခံစေ့ရောက်၍ ပြီးမြောက်အောင် ဆောင်ရွက် သွားပါလိမ့်မည်၊ ဤ ကြိမ်တိုင်တိုင် ကျင်းပပြီးစီးခဲ့သောသင်္ဂါယနာတင် ပွဲတော်များတွင် ပြည်သူလူထုနှင့် သင်္ဂါယနာသည် အဆက်စပ် မရှိသကဲ့သို့ ဖြစ်ခဲ့ပါသည်၊ အကြောင်းမှာ ထိုစဉ်အခါက ဘုရင်ခေတ်ဖြစ်သည့် အားလျော်စွာ သင်္ဂါယနာတင်ပွဲတော်များကိုလည်း ဘုရင်ကပင် ဦးစီးခေါင်းဆောင်ပြုလုပ်ခဲ့သဖြင့် လူထု၏စိတ်ဓါတ်တွင် မိမိတို့သည် သင်္ဂါယနာတင် ဒါယကာ မဖြစ်နိုင်သလောက်၊ မဖြစ်ကောင်း၊ သူလောက်ပင် စွဲလမ်းမှတ်ထင်မှု ဖြစ်ခဲ့ရပါသည်။ ပြည်ထောင်စုမြန်မာနိုင်ငံတော်မှာမူကား၊ လူထုတရပ်လုံးက အပ်နှင်းထားသည့် အာဏာကို သိမ်းပိုက်ထားသည့် လူထုအစိုးရဖြစ်ပါသည်။ လူထုအစိုးရက ရှေ့ကမားမား မတ်မတ်ရပ်တန့်ပြီး ဆောင်ရွက်သွားရမည့် ဆဋ္ဌသင်္ဂါယနာ သာသနာပြုကိစ္စကြီးတွင် ရှမ်း၊ ကချင်၊ ကရင်၊ မွန်၊ နာဂ၊ ကယား စသော ပြည်ထောင်စုသားအပေါင်းတို့သည်၊ ၎င်းမိမိတို့၏ သာသနာပြုကိစ္စကြီးပင် ဖြစ်သည်ဟု နှလုံးပိုက်ကာ၊ သဒ္ဓါတရားအားသမျှ အလှူတော် ပါဝင်ကြပါရန်တိုက်တွန်းနှိုးဆော်ပါသည်။

## (ည) နိဂုံးချုပ်တိုက်တွန်းချက်

ငါးဘဝ၊ ခြောက်ဘဝလောက်ကြာမှ ကံအကြောင်းထောက်မသဖြင့် တကြိမ် လောက်သာကြုံတွေ့နိုင်သည့် သာသနာပြုကိစ္စကြီးတွင် ပြည်သူလူထုတရပ်လုံးမှ သာသနာပြုဒါယကာအဖြစ် ခံယူလိုကြသည့် သဒ္ဓါရှင်များ လက်လှမ်းမှီလှူဒါန်းနိုင်စေခြင်းငှါ ပြည်ထောင်စုတဝှမ်းလုံးရှိ ပြည်တော်သာအဖွဲ့အပေါင်းအား အလှူတော်ငွေ ကောက်ခံရန် ဌာနအဖြစ် သတ်မှတ်ပြီးဖြစ်ပါ၍ သဒ္ဓါတရားအားသမျှ ကုသိုလ်တော် ပါဝင်ကြပါရန် လေးလေးနက်နက် တိုက်တွန်းနှိုးဆော်လိုက်ပါသည်။

# သံဂါယနာ အစီအစဉ်

## ၁။ တင်ရာကာလ၊ ဒေသ ပရိသ္သဒ်နှင့် တင်မည့်ကျမ်းစာများ

ဆဋ္ဌသင်္ဂါယနာ မဟာသဘင်ကြီးတွင် နိကာယ်ငါးရပ်၊ ပိဋကတ် ပါဠိတော်နှင့် ၎င်းပိဋကတ် မြန်မာပြန် ကျမ်းစာများကို ကောဇာသက္ကရာဇ် ၁၃၁၆-ခုနှစ်၊ကဆုန် လပြည့်နေ့မှစ၍၊ ကောဇာ သက္ကရာဇ် ၁၃၁၈-ခုနှစ်၊ ကဆုန်လပြည့်နေ့အထိ၊ ၂ နှစ်တိုင်တိုင်၊ ရန်ကုန်မြို့ ရေကူးရွာ၊ ကမ္ဘာအေးစေတီတော်အနီးရှိသိရိမင်္ဂလာကုန်းတော်၌ ဆောက်လုပ် အပ်သော လိုဏ်ဂူတော် အဆောက်အဦခန်းမကြီးတွင်၊ ထေရဝါဒ ဗုဒ္ဓဘာသာ နိုင်ငံများဟုဆိုအပ်သောမြန်မာ၊သီဟိုဠ်၊ယိုးဒယား၊ ကမ္ဘောဒီးယားနှင့် လာအိုး(စ) ငါးနိုင်ငံရှိ ပိဋကတ် အကျော် ရဟန်းတော်ပေါင်း၂,၅၀၀ ခန့်တို့သည်၊အောက်ပါ အစီအစဉ်အတိုင်း ပါဝင်စုပေါင်း ကာတင်တော်မူမည်။

## ၂။ ဆဋ္ဌသင်္ဂါယနာ (သန္နိပါတ)အချိန်ဇယား

(၁) ပဌမသန္နိပါတ၊ ၁၃၁၆-ခု၊ ကဆုန် လပြည့်မှ ဝါဆို လပြည့်အထိ၊ ပါဠိတော် ဝိနည်း ငါးကျမ်း၊ သုတ်သုံးကျမ်း၊ ပဋ္ဌာန်းသုံးကျမ်း။

(၂) ဒုတိယသန္နိပါတ၊ ၁၃၁၆-ခု၊ တန်ဆောင်မုန်း လပြည့်ကျော် ၁ ရက်မှ တပို့တွဲ လပြည့် အထိ၊ ပါဠိတော် သံယုတ်ငါးကျမ်း၊အင်္ဂုတ္တိုရ်တဆယ့်တကျမ်း၊ ခုဒ္ဒက နိကာယ်တစိတ်၊

(၃) တတိယသန္နိပါတ၊ ၁၃၁၇-ခု၊ တန်းလပြည့်မှ ဝါဆို လပြည့်အထိ၊ ပါဠိတော် အဋ္ဌကထာ ကျမ်းအထိ၊အဘိဓမ္မာ အောက်ငါးကျမ်း၊ မြန်မာပြန်၊ ဝိနည်း ငါးကျမ်း၊သုတ်သုံးကျမ်း၊သံယုတ်ငါးကျမ်း၊ကောဒုက၊တ်ကစတုက္ကင်္ဂုတ္တရ

(၄) စတုတ္ထသန္နိပါတ၊ ၁၃၁၇-ခု တန်ဆောင်မုန်း လပြည့်ကျော် ၁ ရက်မှ တပို့တွဲလပြည့်အထိ၊ ပါဠိတော် ယမက ပဋ္ဌာန်း(ပ) မြန်မာပြန်၊ပဉ္စက-လ-ကောသင်္ဂုတ္တရ၊ခုဒ္ဒကနိကာယ် တစိတ်။

(၅) ပဥ္စမသန္နိပါတ၊ ၁၃၁၈-ခု၊ တပေါင်းလဆန်းမှ ကဆုန်လပြည့်အထိ၊ ပါဠိတော်ပဋ္ဌာန်း(ဒု-တ-စ-မ) မြန်မာပြန် ပုဂ္ဂလပညတ်၊ ကထာဝတ္ထု၊ယမက၊ (ပ-ဒု-တ)ကို ချန်၍၊ ကျန် အဘိဓမ္မာ။

# ၃။ ပိဋကတ် သုတ်သင်ရေး

## (၁) ဗုဒ္ဓသာသနာအဖွဲ့နှင့် ဩဝါဒါစရိယ သံဃနာယကအဖွဲ့

ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရက၊ ဆဋ္ဌသင်္ဂါယနာဆိုင်ရာ တာဝန်အရပ်ရပ်ကို ၁၉၅၀ ပြည့်နှစ် ဗုဒ္ဓသာသနာအဖွဲ့ အက်ဥပဒေအရ ပြည်တွင်းပြည်ပ၌ ဗုဒ္ဓသာသနာတော်မြတ်စည်ပင်ထွန်းကားရေးအတွက် ဆောင်ရွက်ရန် ဖွဲ့စည်းအပ်သော''ဗုဒ္ဓသာသနာအဖွဲ့''သို့လွှဲအပ်ဆောင်ရွက်စေသည်၊ ထိုဗုဒ္ဓသာသနာအဖွဲ့အား၊ မြန်မာပြည်အရပ်ရပ်ရှိဂိုဏ်းဂဏအသီးသီးမှအဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ရ ဆရာတော်ကြီးများ၊ နိုင်ငံတော်ဩဝါဒါစရိယ ဆရာတော်ကြီးများနှင့် နိုင်ငံတော် ဝိနည်းဓိုရ်ဆရာတော်ကြီးများ၊ ပေါင်း ဆရာတော်ကြီး ၆၆ ပါး ပါဝင်သော''ဩဝါဒါစရိယ သံဃနာယက''အဖွဲ့ကြီးက၊ ဆဋ္ဌသင်္ဂါယနာနှင့်စပ်လျဉ်း၍ ဩဝါဒအရပ်ရပ်ကို ချီးမြှင့်တော်မူလျက်ရှိသည်။

## (၂) ဝန်ဆောင်သံဃအဖွဲ့

ဩဝါဒါစရိယသံဃနာယကအဖွဲ့ကြီးကဆဋ္ဌသင်္ဂါယနာဆိုင်ရာ ပါဠိတော်ကျမ်းစာများ အသင့်စီစဉ်ထားရှိရေးနှင့် စပ်လျဉ်း၍ ဗုဒ္ဓသာသနာအဖွဲ့အားဩဝါဒ ချီးမြှင့်ခါ၊ လုံးဝတာဝန်ယူ၍ ဆောင်ရွက်ရန် မိမိတို့ အထဲမှ ရဟန်းတော် ၂၅ ပါး ပါဝင်သည့် ဝန်ဆောင် သံဃအဖွဲ့ကို အာဏာကုန် လွှဲအပ်ခါ ဖွဲ့စည်း ထားလေသည်။

## (၃) ပါဠိဝိသောဓကအဖွဲ့များ

ထိုဩဝါဒါစရိယ သံဃနာယကအဖွဲ့ကြီး၏ ဩဝါဒအရ၊ ပိဋကတ် ပါဠိတော်များ စာမျက်နှာ ၁၈ သို့ ဆက်ကြည့်

## ယိုးဒယားပြည်

# ကိုယ်တွေ့သာသနာစင်ကြယ်ရေး

ရေးသူ-ဦးဝိရိယ
ဇေယျဝတီတိုက်
ထားဝယ်မြို့

ယိုးဒယားပြည်တွင် သံဃာ့ရာဇာသာသနာပိုင်ရှိ၍ လက်အောက်ခံတံဆိပ်ရနာယကဆရာတော်များ ၁၅ ပါးရှိပါသည်၊ ထိုန ၁ ယ က ဆရာတော်ကြီးများ လက်အောက် ခရိုင်နာယက,မြို့နယ် နာယကဟူ၍ အသီးသီ ၁၅ ပါးထက်မနည်း အဖွဲ့များရှိလေသည်၊ နာယကဆရာတော်များ၏ ဂုဏ်ထူးမှာ ဇရကျောက်ခွန်းဘုန်းကြီးမင်းကြီး,ဇရထေစား ဘုန်းကြီးအရေးပိုင်,ဇရထမ်ခရူ ဘုန်းကြီးမြို့အုပ်၊ ထို့မှတပါး နယ်လှည့်မဲ့ကထိက,၄ မြို့ပိုင်,၅ မြို့ပိုင်ဟု အသီးသီး ရှိကြပါသည်။

သံဃာ့ရာဇာနှင့် အစိုးရ အသိအမှတ်ပြုထားသော အထက်ပါ တံဆိပ်ရ ဆရာတော်များသည် သာသနာကို အာဏာပိုင် (ရာဇဝတ်မှုမှတပါး) သံဃာ့ အမှုအခင်းများကိုသန့်ရှင်း စင်ကြယ်အောင်ဆုံးဖြတ်နိုင်ကြပါသည်။

### သာသနာစင်ကြယ်ရေးအစ

ရဟန်းလောင်း တယောက်သည် ရဟန်းခံလိုသော် ရွာဦးစွာ ဆိုင်ရာ ဘုန်းကြီးထံ လျှောက်ကြားပြီး နောက်တဖန် အထက်ပါ တံဆိပ်ရ အစိုးရအသိအမှတ်ပြုထားသော ဘုန်းကြီးများထံ လျှောက်ထားရပါသည်။ ထိုဆရာတော်များမှ တဆင့် ရဟန်းလောင်းသည် လူဘို့ထုံးစံအတိုင်း အပြစ်ရှိ၊ မရှိ စစ်ဆေးရန် ဆိုင်ရာသူကြီးနှင့် မြို့ပိုင်ရုံးသို့ တာဝန်လွှဲလိုက်သည်။ မြို့ပိုင်ရုံးမှ အပြစ် မရှိကြောင်း ထောက်ခံစာနှင့် ရဟန်းခံပေးရပါကြောင်း

### သာသနာစင်ကြယ်ရေး လက်မှတ်

ရဟန်းခံပြီးလျှင် ဓါတ်ပုံရိုက်၍ ဆိုင်ရာအစိုးရထုတ်ပေးထားသော (ဘိုင်စုတ္တိ) ခေါ် စင်ကြယ်သော စာအုပ်ကလေးတွင် မိမိဓါတ်ပုံကပ်ထားရသည်။ ထိုစာအုပ်ကလေးတွင် ရဟန်းသက္ကရာဇ်ကို စုံလင်စွာ ရေးသားထားသည့်ပြင် အထက်ပါတံဆိပ်ရ ဆရာတော်များကသာ ထုတ်ပေးခြင်း, တံဆိပ်နှိပ်ခြင်း,လက်မှတ်ထိုးခြင်းများကို ပြုနိုင်ပါကြောင်း။ ထိုစာအုပ်ကလေးကို ခရီး သွား၊ လာ တိုင်း ယူသွားရပါသည်။ (ဗမာပြည်မှာ ရဟန်းသက္ကရာဇ်ကို ဗလာစာအုပ်ထဲတွင် ရေး၍ အမှတ်တမဲ့ ထားကြပါကြောင်း။) အဘယ်ကြောင့်ဆိုသော အစိုးရက ဘိုင့်စုတ္တိ စာအုပ်မရှိသော ရဟန်းသည် ရဟန်းမဟုတ်၊ ရဟန်းတု,ရဟန်းယောင်မျှသာဖြစ်သည်။ စာအုပ်မရှိသော ရဟန်းမှသာ ရဟန်းကောင်း၊ ရဟန်းစစ် မှန်ကြောင်း ကျေညာ ထားလေသည်၊ ထိုစာအုပ်မရှိသော ရဟန်းများကို ဆိုင်ရာအစိုးရအရာရှိတို့က စစ်ဆေး၍ ဆိုင်ရာ ဘုန်းကြီးထံသို့ ပို့လေသည်၊ 3

### တံဆိပ်ရဆရာတော် ထောက်ခံချက်

မိမိနေထိုင်သော ကျောင်းတိုက်မှ တမြို့ တရွာကျောင်းတိုက်သို့ အပြီးပြောင်းရွှေ့ နေထိုင်လိုလျှင် တံဆိပ်ရ ဆရာတော်ထောက်ခံချက် တံဆိပ်လက်မှတ် ပါမှသာလျှင် အမြဲ နေထိုင်ခွင့်ရသည်။ ထောက်ခံချက်မပါက အာဂန္တု အဖြစ်ဖြင့်သာ နေထိုင်ခွင့်ရသည်။ အမြဲနေထိုင်လိုက စာအုပ်တွင် ထောက်ခံချက် ပြန်တောင်းရသည်။

### စာအုပ်၏အကျိုးကျေးဇူး

ဘိုင်စုတ္တိ စာအုပ်ပါသော ရဟန်းများသည် အစိုးရပိုင် မီးရထား,မီးသင်္ဘော ဘတ်စ်ကား ကုမ္ပဏီများ၌ ခရီးသွားလက်မှတ်ခံလျှင် စာအုပ်ကလေးပါသော ဘုန်းကြီးများကို သုံးပုံတပုံလျှော့စေ၍ ယူပါကြောင်း၊ ဘန်ကောက်မြို့တွင် ပြေးနေသော အစိုးရဘတ်စ်ကား,ကုမ္ပဏီဘတ်စ်ကားများတွင်လည်း စာအုပ်ကလေးကိုပြ၍စီးပါက ရှေ့ခုံမှ ၂ ပါး အခမဲ့ စီးနိုင်ပါကြောင်း၊ ဓါတ်ရထား လက်မှတ်များကို အဝါရောင်ဖြင့် အထူးစပါယ်ရှယ် ပြုလုပ်ကာ လူတို့ထက်လျှော့၍ ရောင်းလေသည်။

### နောက်ဆုံး၊ ကိစ္စ

သာသနာ့ဘောင်တွင် ရဟန်းအဖြစ်နှင့် မပျော်မွေ့၍ လူထွက်လိုသော် ထိုစာအုပ်ကလေးတွင် အဘယ်အကြောင်းကြောင့် လူထွက်သည်၊ အဘယ်အပြစ်ကြောင့် လူထွက်သည်ဟု မှတ်ချက်ရေး၍ ဆိုင်ရာမြို့ပိုင်ရုံးသို့ ပို့ရလေသည်၊ ဘုန်းကြီးလူထွက် အမည်ကိုလည်း ဆိုင်ရာသူကြီးထံတွင် စာရင်း သွင်းထားရပေတော့သည်။ စာအုပ် နောက်ပိုင်း တွင်လည်း စည်းမျဉ်းဥပဒေကို ရေးထားသည့်ပြင်၊ စာအုပ်အတွင်း၌ အကောင်း အဆိုးထောက်ခံချက်များကို မည်သူမဆိုရေးနိုင်ပါကြောင်း၊

### ဗမာပြည်မှာမရှိ

ယိုးဒယား သာသနာ စင်ကြယ်ရေး စည်းမျဉ်းကဲ့သို့ ဗမာပြည်မှာ မရှိသဖြင့် တမြို့ရွာ ကျောင်းတိုက်မှ တမြို့ရွာသို့ ကျောင်းတိုက်များသို့ ရွှေ့ပြောင်း သွားလာနေထိုင်ရန် အခက်အခဲနှင့်တွေ့ကြုံနေကြရတော့သည်၊ အထူးအားဖြင့် စာသင်သားများသည်သာ၍အခက်အခဲနှင့် တွေ့ကြုံကြရပါကြောင်း။

### စာတွေ့မဟုတ် ကိုယ်တွေ့

ဦးပညွင်းသည် ယိုးဒယားပြည်သို့ ၂ ကြိမ်တိုင်တိုင် ဗမာလူမျိုးတို့က ပင့်ဖိတ်၍ သာသနာပြုကြွရာတွင် ယိုးဒယားပြည်အထက်ပိုင်း အောက်ပိုင်းသို့ ထိုစာအုပ်ကလေးဖြင့်လှည့်လည်ရာ အသိမရှိ စကားမတတ်သော်လည်းအခက်အခဲနှင့် မတွေ့ဘဲ ဘုန်းကြီးများနှင့် အစိုးရအရာရှိများ,ဒါယကာများတို့သည် အာဂန္တုဝတ်တရားအတိုင်း ပြုစုကြွေးမွေး စောင့်ရှောက်သဖြင့်ကိုယ်တိုင်ကျေးဇူးခံစားရပါကြောင်း။

အထက်ပါ ယိုးဒယားပြည်၏ သာသနာစင်ကြယ်ရေးကို ထောက်ရှုသဖြင့် ဗမာပြည်မှာလည်း ယခုအခါဗုဒ္ဓသာသနာဒါယကာမင်းများ ဖြစ်သည် အားလျော်စွာ သာသနာ စင်ကြယ်ရေးကို အဓိကထားပြီး ဖြစ်မြောက်အောင် ရွက်ဆောင်အားထုတ် စေလိုကြောင်း စေတနာကောင်းဖြင့် ရေးသား ဖေါ်ပြလိုက်ပါကြောင်း။

ဦးဝိရိယ (မူလမွှာစရိယ)
အိန္ဒိယ၊ သီဟိုဠ်၊ ယိုးဒယားပြန်။

.... ဝ ....

### မန္တလေးမြို့ စံပြအကျဉ်းထောင်၌စာမေးပွဲ။



### မော်ဘီမြို့အမှတ် { ၁ } ကားတပ်မှ ရုပေါင်း ရှင်ပြုပွဲလှည့်လည်စဉ်။



### သုံးဆယ်မြို့သက်ကြီးပူဇော်ပွဲတွင် ပူဇော်၍နေကြစဉ်။



# ဗိုလ်တထောင်ကျိုက်ဒေးအပ်စေတီ



ကျူးပေါ်ရရှိသည့် ဗုဒ္ဓရုပ်လုံးပုံ။



ရုပ်လုံးတော်ကျောဘက်ရှိစာ။

## ရဟန္တာရှစ်ပါးတို့ကြွခြင်း

အဇာတသတ်မင်း နိဗ္ဗာန်စံသည် နှစ်ပေါင်း တော်ဘုရား ပရိနိဗ္ဗာန်စံပြီး ၂၁၅-ခုနှစ်တတိယသင်္ဂါယနာတင်၍ကိုး တိုင်း ကိုးဌာန သာသနာပြုစေလွှတ်ပြီး သောအခါ တတိယသင်္ဂါယနာတင် အ ရှင်မဟာမောဂ္ဂလိပုတ္တ တိဿထေရ်၏ တပည့်ရင်း ဖြစ်ကုန်သော အရှင်ယသ ထေရ်,အရှင်သောဏထေရ်, အရှင်သုစိ ထေရ်အမှူးရှိသော ရဟန္တာ ရှစ်ပါးတို့ သည် မြန်မာပြည် ရာမညတိုင်း သုဝဏ္ဏ ဘူမိ သထုံပြည်သို့ သာသနာတော် စည် ပင်ပြန့်ပွား၍တိုင်းသူပြည်သားတို့အကျိုး စီးပွားများစေခြင်းငှါ မြတ်စွာဘုရား၏ ဆံတော်ဓာတ် ၁၆-ဆူနှင့် သရီရဓာတ် တော် ၃၂-ဆူတို့ကို ပင့်ဆောင်တော်မူခဲ့ ကြ၍*ဒုတိယ သိရိမာသောက၊သီဟဒီပ မင်းကြီးကို ပေးအပ်တော်မူကုန်၏။ မင်း ကြီးလည်း သာသနာတော်ကို ကြည်ညို လေးစားသော သာသနာပြုမင်းကောင်း မင်းမြတ်ဖြစ်သည်အားလျော်စွာ အလွန် ဝမ်းမြောက် တာမလျက် အတိုင်းမသိ များစွာသော ပူဇော်ဘွယ်တို့ဖြင့် ပူဇော် သက္ကာရပြုတော်မူ၏။

*(မှတ်ချက်-ကလျာဏီကျောက်စာ ၌ ဒုတိယသိရိမာသောကမင်းဟု ဆို၏။ သထုံသမိုင်း တစောင်၌လည်း သိရိမာ သောကမင်းဟူ၍ပင် ဆို၏။ ကျိုက္ကစံသ မိုင်းဟောင်း၌ကား သီဟဒီပမင်းဟု ဆို၏ သင့်ရာကို ယူကြပါကုန်။)

## စေတီတော်တည်ခြင်း

ထိုနောက် သီဟဒီပ မင်းကြီးသည် ရဟန္တာအရှင်မြတ်တို့အား "အရှင်ဘု ရားတို့-ဤဆံတော်ဓာတ်နှင့်သရီရဓာတ် တော်တို့ကို အဘယ်အရပ်၌ ကိန်းဝပ်စေ တော်မူရသော် သင့်လျော်ပါမည်နည်း" ဟု လျှောက်ထားလေ၏။ ထိုအခါ ရဟန္တာ အရှင်မြတ်တို့သည် မင်းကြီးအား 'ဒကာ တော်မင်းကြီး-ငါတို့ မြတ်စွာဘုရားသခင် ဟင်္သာမင်းဖြစ်တော်မူစဉ်အခါရှေး ဦးစွာ ကျနားရာဖြစ်၍ ဗျာဒိတ်ထားတော်မူခဲ့ဘူး သော ပဉ္စမပတိတ ကုန်းတော် (ကျိုက္ကစံ စေတီတော် တည်ရာ ကုန်းတော်) တွင် ကိန်းဝပ် စေတော်မူရသော် သင့်လျော် မည်' ဟု မိန့်တော်မူကုန်၏။

သီဟဒီပမင်းကြီးလည်း ရဟန္တာအ ရှင်မြတ်တို့၏ အမိန့်တော်အတိုင်း ဆံ တော်ဓာတ်နှင့် သရီရဓာတ်တော်တို့ကို စေတီတော် တည်ထား ကိုးကွယ်ရန် ရဟန္တာရှစ်ပါးတို့ကို ရှေ့ဆောင်ထား လျက် မိဖုရား,မင်းညီ,မင်းသား,သူကြွယ်,ကုန်သည် ဆင်းရဲသား ။ များ လှသော ဗိုလ်ပါပရိသတ် အခြံအရံဖြင့် သုဝဏ္ဏဘူမိ သထုံပြည်သို့ ထွက်တော်မူပြီး လျှင် ကျိုက္ကစံစေတီတော် တည်ရှိရာ ပဉ္စမ ပတိတ ကုန်းတော်သို့ သွားလေ၏။

ရောက်လျှင် တဲနန်း မဏ္ဍပ် ကနွား ဆောက်လုပ်စေ၍ တည်းခိုတော်မူပြီးလျှင် ခုနစ်ရက် ပတ်လုံး ပူဇော်သက္ကာရ ပွဲကြီး ကျင်းပလေ၏။ တပို့တွဲလပြည့်နေ့ မဂ်လာ သိဒ္ဓိ အခါတွင် ရှေးအခါသိရိမာသောက သီဟရာဇာ မင်းကြီး တည်ထားခဲ့သော ကျိုက္ကစံစေတီကိုပင် ဒုတိယအကြိမ် တိုး ချဲ့ထပ်ဆင့် တည်ထားကာ ခိုင်ခန့်သော ဌာပနာတိုက်ဘော်ကို ပြုလုပ်လျက် သရီ ရ ဓာတ် ဆယ် ဆူ နှင့် ဆံ တော် ဓာ တ် ခြောက်ဆူကို ပတ္တမြား ကြုတ် စသော ကြုတ်ခုနစ်ထပ် အတွင်းသို့ ထည့်သွင်း ကာ ဌာပနာလေ၏။ စေတီတော် တည် ပြီးသောအခါ သီဟဒီပ မင်းကြီးသည် သထုံပြည်သို့ပြန်လေ၏။ ရဟန္တာရှစ်ပါး တို့လည်း၊ သာသနာတော် အဓွန့်ရှည်စွာ ခိုင်ခံ့ တည်တံ့ နိုင်ရန် ရှင်ယသသိမ် စသော သိမ်ကြီး ကိုးလုံးတို့ကို သမုတ် တော်မူကုန်၏။

## ကျန်သောဆံတော်များ

မင်းကြီးလည်း စေတီတော်တည်၍ ပြီး လျှင် ကြွင်းကျန်သော သရီရဓာတ် နှစ်ဆဲ နှစ်ဆူနှင့် ဆံတော်ဓာတ် ဆယ်ဆူ တို့ကို သဏ္ဍာဝါ ကို အကျိုးစီးပွား များစေခြင်းငှါ မိမိထံ၌ပင် လုပ်ကျွေးခဲ့သော အလွန် ကျေး ဇူးများသော အမတ် သူရဲကောင်းကြီး တကျိပ်တို့အား စေတီတည်ထား ကိုးကွယ် ကြစေရန် သရီရဓာတ်နှစ်ဆူစီနှင့်ဆံတော် ဓာတ်တဆူစီ အသီးအသီး ပေးအပ်လေ ၏။ အမတ် သူရဲကောင်းကြီး တကျိပ် တို့လည်း မိမိတို့ ရရှိသော သရီရဓာတ် နှင့်ဆံတော်ဓာတ်တို့ကို ရန်ကုန်မြို့ ရွှေတိ ဂုံ၏ စေတီတော်၏ အနီး ပတ်ဝန်းကျင် အရပ်တို့၌ အသီးအသီး စေတီတည်ထား ကိုးကွယ်ကြကုန်၏။

## စေတီတော်တည်ခြင်း

သရီရဓာတ် နှစ်ဆူစီနှင့်ဆံတော်ဓာတ် တဆူစီရကြသော အမတ် သူရဲကောင်း ကြီး တကျိပ်တို့တွင် အမတ်သူရဲကောင်း ကြီး တယောက်သည် မိမိရရှိသောသရီရ ဓာတ်နှစ်ဆူနှင့် ဆံတော်ဓာတ် တဆူကို မိမိ၏ဆရာ ကျောင်းကုန်းရဟန်းနှင့် တိုင် ပင် ဆွေးနွေးဘာထိုကျောင်းကုန်းရဟန်း ကိုပင် ကြပ်မတ် စီမံစေ၍ရွှေတိဂုံဆံရှင် တော် စေတီကြီး၏အရှေ့တောင်ထောင့် အရပ်သို့ ယွန်းလျက် တာတထောင်ခန့် ဝေးကွာသော မြစ်ဆိပ်ကမ်းနား၌ *ကုန်း တော်တွင် တည်ထားကိုးကွယ်လေသည်။ ထိုစေတီကိုပင် ယခုအခါ ဗိုလ်တထောင် ကျိုက်ဒေးအပ် ဆံတော်ဦးစေတီဟု ခေါ် တွင်လျက်ရှိသည်။

* (မှတ်ချက်၊ ။ဤစေတီ တည်ရာ ကုန်းကား ရှေးအခါသီချင်းသီတတ်သော သူတို့ နေရာကုန်းဖြစ်သည်။ ထိုကြောင့် (ကျိုက်ဒေးအဲ့)ဟုခေါ်ကြသည်။ကျိုက်

စာမျက်နှာ ၁၅ သို့ ဆက်ကြည့်

# အင်္ဂုတ္တရနိကာယ်နှင့် ခုဒ္ဒကနိကာယ်

# ပါဠိဝိသောဓကဆရာတော်များ

## ကျမ်းအမှတ်စဉ်(၁၆)အင်္ဂုတ္တိုရ်(ဒုတိယ)

### မန္တလေးမြို့ စကုတိုက် ပါဠိဝိသောဓက အဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးသာရမ္ဘိယ | ၂၉ | မူလဓမ္မာစရိယ | ဝိုက်ကျုံးအုတ်ကျောင်း | မန္တလေး |
| ၂ | ဦးဣန္ဒက | ၄၁ | ။ | ဆိုင်းတန် အုတ်ကျောင်း | ။ |
| ၃ | ဦးသုမန | ၃၉ | သာသနဓဇဓမ္မာစရိယ | ရွှေမန်းအုတ်ကျောင်း | ။ |
| ၄ | ဦးနန္ဒာစရိယ | ၂၈ | မူလဓမ္မာစရိယ | အလယ်တိုက်ကြီး | ။ |
| ၅ | ဦးဥက္ကဋ္ဌာဘိဝံသ | ၁၇ | သာသနဓဇဓမ္မာစရိယ | ။ | ။ |
| ၆ | ဦးဝိစိတ္တာစာရ | ၂၃ | မူလဓမ္မာစရိယ | မြသိန်းတန် | ။ |
| ၇ | ဦးခေမိန္ဒ | | | ကျောင်း | ။ |
| ၈ | ဦးဥက္ကဋ္ဌ | | | အလယ်တိုက်ကြီး | ။ |
| ၉ | ဦးကောဝိဒ | | | ။ | ။ |
| ၁၀ | ဦးပညာသိမ္ပ | | | ရွှေမန်းအုတ်ကျောင်း | ။ |
| ၁၁ | ဦးသုဘာသိတ | | | အလယ်တိုက်ကြီး | ။ |
| ၁၂ | ဦးနရိန္ဒာစာရ | | | မြသိန်းတန် | ။ |

## ကျမ်းအမှတ်စဉ်(၁၇)အင်္ဂုတ္တိုရ်(တတိယ)

### မန္တလေးမြို့ တောင်သမန်တိုက် ပါဠိဝိသောဓက အဖွဲ့

| | | | | | |
|---|---|---|---|---|---|
| ၁ | ဦးရေဝတ | ၃၂ | မူလဓမ္မာစရိယ | ပုသိမ်ကျောင်း | မန္တလေး |
| ၂ | ဦးကောသလ | ၂၅ | ပရိယတ္တိဓမ္မာစရိယ | မင်္ဂလာရုံသီကျောင်း | ။ |
| ၃ | ဦးသီဟ | ၃၀ | မူလဓမ္မာစရိယ | တုလွတ်ရန်ရှေ့ကျောင်း | ။ |
| ၄ | ဦးအဂ္ဂါစာရ | ၁၇ | သာသနဓဇဓမ္မာစရိယ | ငွေကအုတ်ကျောင်း | ။ |
| ၅ | ဦးကုမာရ | ၁၅ | ပရိယတ္တိဓမ္မာစရိယ | နန်းဘော်ကျွန်းကျောင်း | ။ |
| ၆ | ဦးတိလောက | | သာသနဓဇဓမ္မာစရိယ | သမဏသုခကျောင်း | ။ |
| ၇ | ဦးဇောတိပါလ | | မူလဓမ္မာစရိယ | ။ | ။ |

# ခုဒ္ဒကနိကာယ်

## ကျမ်းအမှတ်စဉ်(၂၅)ခုဒ္ဒက ပါဌ ပါဠိတော်

### အင်းစိန်မြို့ ရွှေကျင်နိကာယ ပါဠိဝိသောဓကအဖွဲ့

| | | | | | |
|---|---|---|---|---|---|
| ၁ | ဦးအာဒိစ္စ | ၃၉ | မူလဓမ္မာစရိယ | မေဒနီတိုက် | ကံဘဲ့၊အင်းစိန် |
| ၂ | ဦးပညာဝံသ | ၁၄ | သာသနဓဇဓမ္မာစရိယ | ။ | ။ |
| ၃ | ဦးဥာဏာလင်္ကာရ | ၁၂ | ။ | ။ | ။ |
| ၄ | ဦးသုစိန္တ | ၃၀ | မူလဓမ္မာစရိယ | ရွှေကျင်တိုက်သစ် | ကျိုက္ကဆံ |
| ၅ | ဦးပညာဝိတ | ၁၁ | သာသနဓဇဓမ္မာစရိယ | ။ | ။ |
| ၆ | ဦးပညာဝါ | ၂၄ | မူလဓမ္မာစရိယ | မြေဝိကာရာမ | ခရိုင်ဖုံးသာဝတီ |
| ၇ | ဦးနန္ဒဝံသ | ၉ | သာသနဓဇဓမ္မာစရိယ | ။ | ။ |
| ၈ | ဦးဝါသေဋ္ဌ | ၂၂ | ။ | သဘြေကန် | ။ |
| ၉ | ဦးစန္ဒာဓိက | ၂၀ | မူလဓမ္မာစရိယ | ကြို့ကုန်းတောင | ။ |
| ၁၀ | ဦးသာဂရာဘိဝံသ | ၂၇ | သက္ကသီဟဓမ္မာစရိယ | ကျိက်ကလေးကျောင်း | တွံတေး |

## ကျမ်းအမှတ်စဉ်(၂၆)ဓမ္မပဒပါဠိတော်

### ပဲခူးမြို့ ရွှေကျင် ပါဠိဝိသောဓကအဖွဲ့

| | | | | | |
|---|---|---|---|---|---|
| ၁ | ဦးအာလောက | ၅၂ | မူလဓမ္မာစရိယ | ဘောကနင်းကျောင်း | ပဲခူး |
| ၂ | ဦးကေလာသ | ၅၂ | ။ | ဆံတော်တွင်းကျောင်း | ။ |
| ၃ | ဦးပဏ္ဍိတ | ၄၀ | ။ | မဟာဇေဒီ တဲရ | ။ |
| ၄ | ဦးဝိမလ | ၄၀ | ။ | ပြြင်ပိ ကျောင်း | ။ |
| ၅ | ဦးပညာသိရိ | ၃၀ | ။ | ဆံမုံဘောရကျောင်း | ။ |
| ၆ | ဦးကုဏ္ဍလ | ၃၅ | ။ | ဘိုးဘိုးပေါက်ကျောင်း | ။ |
| ၇ | ဦးဥာဏာလင်္ကာရ | ၃၂ | ။ | မျက်နှာတော်ကျောင်း | ။ |
| ၈ | ဦးပညာဝံသ | ၂၉ | ။ | ပင်ဦမိသန်ကျောင်း | ။ |
| ၉ | ဦးသုစိဏ္ဏ | ၂၉ | ။ | ငွေရှုံကျောင်း | ။ |
| ၁၀ | ဦးပညာသာမိ | ၂၇ | ။ | သနပ်ပင်ရေးကျော် | ။ |

### ညောင်လေးပင်မြို့နယ် ရွှေကျင် ပါဠိဝိသောဓကအဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးမောဝံသ | ၃၇ | မူလဓမ္မာစရိယ | ဇေယျမင်ရုံကျောင်း | ဝေါမြို့ |
| ၂ | ဦးဝါသဝ | ၂၅ | 〃 | ကြားတောရတိုက် | ညောင်လေးပင် |
| ၃ | ဦးကေသရ | ၃၆ | 〃 | အင်းဝိုင်းတောရကျောင်း | 〃 |
| ၄ | ဦးပဏ္ဍိတ | ၃၁ | 〃 | အသောကာရုံကျောင်း | ကျောက်တံခါး |
| ၅ | ဦးတိက္ခိမြို | ၂၂ | 〃 | စံမွာရုံကျောင်း | မြိုန်တံဆာ |
| ၆ | ဦးဇာဂရ | ၃၀ | 〃 | သုဇာတာရုံကျောင်း | ကညွတ်ကွင်း |
| ၇ | ဦးဥာဏိက | ၂၁ | 〃 | ကန်ကလေးတောရ | အုတ်တွင်း |
| ၈ | ဦးခေမာနန္ဒ | ၂၅ | 〃 | တန်ခွန်တိုက်ကျောင်း | ညောင်လေးပင် |
| ၉ | ဦးစန္ဒောဘာသ | ၂၁ | 〃 | တောရကျောင်းကြီး | 〃 |
| ၁၀ | ဦးနိပုဏ | ၂၃ | 〃 | 〃 | 〃 |

### မော်လမြိုင်မြို့ ရွှေကျင်နိကာယ ပါဠိဝိသောဓကအဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးသောပါက | ၅၈ | မူလဓမ္မာစရိယ | ဇေတဝန်ကျောင်း | မော်လမြိုင် |
| ၂ | ဦးစန္ဒောဘာသ | ၄၁ | 〃 | ကမာဝက်ကျောင်း | 〃 |
| ၃ | ဦးရေဝတ | ၃၉ | 〃 | မဟာမြိုင်ကျောင်း | 〃 |
| ၄ | ဦးဇာဂရ | ၃၈ | 〃 | 〃 | 〃 |
| ၅ | ဦးအာသဘ | ၃၈ | 〃 | ပုပ္ပါရုံကျောင်း | 〃 |

### ရွှေကျင်မြို့ ပါဠိဝိသောဓကအဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးပဏ္ဍိတ | ၅၂ | ဥက္ကဋ္ဌ နာယက | ဆင်ရုံတောရတိုက် | ရွှေကျင် |
| ၂ | ဦးသြဘာသ | ၃၃ | အကျိုးဆောင် | ရွှေဟင်္သာတောရ | 〃 |
| ၃ | ဦးဇမ္ဗုစရိယ | ၂၀ | တွဲဘက်အကျိုးဆောင် | ကြီးကာရာမတိုက် | 〃 |
| ၄ | ဦးကဝိန္ဒ | ၄၁ | မူလဓမ္မာစရိယ | ဝက်စုတောရ | 〃 |
| ၅ | ဦးဥာဏဝံသ | ၃၃ | 〃 | ကြားတောရကျောင်း | 〃 |
| ၆ | ဦးပဏ္ဍဝ | ၃၁ | 〃 | အဓိဋ္ဌာန်တောရ | 〃 |
| ၇ | ဦးဝဇိရ | ၃၀ | 〃 | မဟာဗောဓိတောရ | 〃 |
| ၈ | ဦးပညာဝံသ | ၂၀ | 〃 | တောင်တံခွန်တိုင်ကျောင်း | 〃 |

## ကျမ်းအမှတ်စဉ် (၂၇) ဥဒါနပါဠိတော်

### ညောင်ဦးမြို့ ပါဠိဝိသောဓကအဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးဥာဏိန္ဒ | ၄၀ | မူလဓမ္မာစရိယ | မဟာဝိသုဒ္ဓါရာမ | ညောင်ဦး |
| ၂ | ဦးဝါယမ | ၄၀ | 〃 | 〃 | 〃 |
| ၃ | ဦးဥာဏိန္ဒ | ၂၅ | 〃 | 〃 | 〃 |
| ၄ | ဦးပညာဝံသ | ၁၁ | 〃 | 〃 | ငွေကူ |
| ၅ | ဦးကုမာရ | ၃၆ | 〃 | မဟာဝိသုဒ္ဓါရုံတိုက် | 〃 |
| ၆ | ဦးကုမာရ | ၃၆ | 〃 | 〃 | 〃 |
| ၇ | ဦးကောသလ္လ | ၃၄ | 〃 | | |

## ကျမ်းအမှတ်စဉ်(၂၈)ဣတိဝုတ္တကပါဠိတော်

### ရေစကြိုမြို့ ပါဠိဝိသောဓကအဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးစန္ဒိန္ဒ | ၅၃ | မူလဓမ္မာစရိယ | အောင်မြေသာယာတိုက် | စကြို |
| ၂ | ဦးဥတ္တရ | ၅၂ | 〃 | 〃 | 〃 |
| ၃ | ဦးကုသလ | ၄၀ | 〃 | 〃 | 〃 |
| ၄ | ဦးခေသရ | ၄၇ | 〃 | 〃 | 〃 |
| ၅ | ဦးညြ | ၄၀ | 〃 | 〃 | 〃 |
| ၆ | ဦးတိဿာသန | ၃၄ | 〃 | 〃 | 〃 |
| ၇ | ဦးရှန္ဒာစာရ | ၃၁ | 〃 | 〃 | 〃 |
| ၈ | ဦးဝိသုဒ္ဓ | [၃၀ | 〃 | 〃 | 〃 |
| ၉ | ဦးကေလာသ | ၂၇ | 〃 | 〃 | 〃 |
| ၁၀ | ဦးသောဘဏ | ၂၁] | 〃 | 〃 | 〃 |
| ၁၁ | ဦးသိရိန္ဒ | ၁၇ | 〃 | 〃 | 〃 |
| ၁၂ | ဦးသီလဝံသ | ၂၁] | 〃 | 〃 | |

( စာမျက်နှာ ၁၃ သို့ )

# မိုး ပန်း ပွင့် တုန်း တန် ဆောင် မုန်း

## လှေသင်းဝန်မင်း ဦးချိန်ရေးသားချက်

### ဗြိဿာရာသီ

ဗြိဿာရာသီဟု ခေါ်ဝေါ်ရေးသားကြသည့်မှာ၊ ရာဇမတ္တက်ကျမ်း ရာသီတိဓါန အခိုင်းတွင်၊ ကောဇုံးကျွာ ဗြိဿာရာသီ၊ ဝိဿ°ကာ ဗြိဿရာသီ၊ ဟိရွော်ဗြိဿာရာသီ၊ အာလိ ဗြိဿာရာသီ၊ ဟူ၍ ပရိယာယ် ၄ ပါးပြသည်၊ သဒ္ဒါ ကျမ်း ဒေါဓေသသုတ်တွင်၊ ကုဇ္ဇတော ကုဝဘော ဟူသကဲ့သို့ ဝိဿကာပုဒ်တွင် ဝ–ကို ဗ–ပြု၍၊ သကင္ဂ အလို ရရစ်နှင့် ဗြိဿကာဖြစ်သည်။ မြန်မာ ဘာသာမှာ ဗြိဿာခေါ်ဝေါ်ရေးသားကြသည်၊ ထိုပရိယာယ်–၄ ပုဒ် ကား၊ ကင်းမြီးကောက်–ကင်းပုဇွန် ပရိယာယ်တည်း။ ကင်းမြီးကောက်–ကင်းပုဇွန်ဟို ကြွက်နှစ်သက်သော ရာသီ၊ ထို သတ္တဝါ တို့နှင့် အဆင်းသဏ္ဍာန်တူသောရာသီ ဆိုလိုသည်။

### မိုးနတ်စောင့်၏

ထိုရာသီကား ကြတ္တိကာ နက္ခတ်နှင့် ယှဉ်၍ လပြည့် သောကြောင့် ကတ္တိကာဟု သဒ္ဒါကျမ်း၊ အဘိဓါန် ကျမ်းတို့တွင် ဆိုသည်၊ ရာဇမတ္တက်ကျမ်းတွင် ထိုကြတ္တိကာနက္ခတ်မှာ ဗဟုလံ ဒဟနော ဗဟိန၊ ပါဝကောအဂ္ဂိ စဒသာ မိုးပရိယာယ် ၁၁ ပါးဖြင့် ပြဆိုသည်။ ထိုကြတ္တိကာ နက္ခတ်ကို ဒဟန်မည်သော မိုးနတ်သား၊ စောင့်ကြောင်းကိုလည်း ဆိုသည်။ ဝုံတ္တောဒယ ဆန်းကျမ်းတွင်လည်း၊ အလယ်၌ လဟု အစ အဆုံး၊ ဂရုရှိသောဂိုဏ်းတွင်၊ ကြတ္တိကာ နက္ခတ် မိုးနတ်သားစောင့်ကြောင်း ကိုလာသည်၊ ဂိုဏ်းလက်ာ တွင်လည်း ''မိုးနတ် အာကာကြတ္တိကာ သရဝဏ် စောင့်မြဲမှန်၏''စပ်ဆိုသည်။

### ဥမ္မာဒန္တီဇာတ်တွင်

ပဏ္ဏာသ နိပါတ် ဥမ္မာဒန္တီဇာတ် တွင်လည်း၊ ''အထဲဆိုအခါ၌၊ သူရိးယ၊ နေသည်၊ အဋ္ဌဂံတေ၊ ဝင်သည်ရှိသော်၊ ပုဏ္ဏာမာစန္ဒေ၊ လပြည့်ဝန်းသည်၊ ဥဂ္ဂတေ၊ တက်သည့်ရှိသော်၊ ဓေဝနဂရုံဝိယ၊ နတ်ပြည်ကဲ့သို့၊ နဂါရ၊ ပြည်ကို၊ အလင်္ကတေ၊ တန်းဆာဆင်ပြီးသည်ရှိသော်၊ သဗ္ဗဝိသာသု၊ ခပ်သိမ်းသော အရပ်ဘို့၌၊ ဒီပေသု၊ ဆီမီးတို့ကို၊ ဇာလိတေသု၊ ထွန်းညှိ ကုန်ပြီးသည်ရှိသော်''ဟူ၍ အရိုးပြသည်၊ ဘုရားအလောင်းသိဝိမင်းကြီး ကြတ္တိကာ သဘင်ခံ၍ ဆီမီး ထွန်းညှိ ကြောင်းကို လာသည်၊ ကေနိပါတ်ကဏှာက မှာဇာတ်တွင်လည်း၊ ဤနည်းတူပင် လာသည်။

### တန်ဆောင်တိုင်ထုံးစံ

ထိုသို့ အရပ်ရပ် ကမ္ဘာ့ တန်းဆာ သဒ္ဒါကျမ်း၊ ရာဇမတ္တက်ကျမ်း၊ ဝုံတ္တော ဒယ ဆန်းကျမ်း၊ ဘုရားဟော ဇာတ်နိပါတ်တွက်ဆိုသည့်အတိုင်း။ ပုဗ္ဗ ကတ္တိကာ သတင်းကျွတ်၊ ပစ္ဆိမ ကတ္တိကာ တန်းဆောင်မုန်းလတို့၌၊ ကမ္ဘာဦး ကာလ ဆီမီးတန်းဆောင် ထွန်းညှိ ပူဇော်ခဲ့သော ထုံးစံ အစဉ်ရှိသည်အတိုင်း။ ယခု ကာလတိုင်အောင် ဇမ္ဗူဒီပါကျွန်းအလုံးနှင့်တကွ၊ သုနာပရန္တ တမ္ဗဒီပ မြန်မာ့ ဦးဖွန်း တိုင်းကြီးပြည်ကြီး၊ ရွှေထီး ဆွေနန်း အဆက်ဆက်၊ ရွှေမြို့တော်မှ စ၍ နိုင်ငံတော်အတွင်း အရပ်ရပ်၊ မြို့ကျေးရွာများ၊ တွင် အင်အားအလျောက် ဆီးမီးထောင် ပြည့်ဘွန်းခြင်း၊ နေအိမ်မှစ၍ စပို၊ လှေခါး၊ စပါးကျီ တိုက်ကြ၊ မြင်းစောင်း၊ နွားခြံ၊ မောင်းဆုံများမှာ ဆီမီးထွန်းညှိခြင်း၊ အာကာသဒီပကောင်းကင်၌ ဆီမီးထွန်းညှိခြင်း၊ မီးရှူးတန်ဆောင် ထွန်းခြင်းကို ပြုကြ သောကြောင့် ထိုလကို တန်ဆောင်မုန်း ခေါ်ဝေါ် သမုတ် ကုန်သည်၊ အမြဲယူမှတ်ရမည်။

### တန်ဆောင်လ

မုန်းကို ချန်လှပ်၍ တန်ဆောင်လဟုလည်း ရှေးဆရာတို့ ခေါ်ဝေါ်မြဲဖြစ်ကုန်သည်။ ဗေဒ သာဘ်ဆောက် လက်ာတွင်၊ ''နှင်းမှုန်ရီဖျော်တန်ဆောင်မာသပြောသိလဝယ်''ဟု စပ်ဆိုသည်၊တရားသူကြီး လက်ဝဲသုန္ဒရလည်း ''တန်ဆောင်လကို ဆန်းရောင်ပြလို၊ သန်းမှောင်မြိုင်ညို ''ဟူ၍ ရတုအစချီ၍ စပ်ဆိုသည်။ ဘူရိဒတ်ဇာတ်ပေါင်းတွင်၊ ''မိုးပန်း ပွင့်တုန်း၊ တန်ဆောင်မုန်းတွင်၊ မဒုန်းဝဿ၊ မကျ နှင်းမြူ''ဟုစပ်ဆိုတော်မူသည်။

မုန်း ဟူသော စကားမှာ၊ ပုံတောင်နိုင် မော်ကွန်းတွင် ''သံချေးချက်မြုန်း၊ သံတွေမြုန်းသို့၊ နတ်မှုန်းကြမှာ၊တောင်ငူစားသည်''ဟူ၍၎င်း၊ ဘုံခန်းတွင်''ထိုရောင်ငြာဘုန်း၊ တချက်မှုန်းက၊ ပျက်မြုန်း ကြေနိုး၊ နဂါးလျှိုလျက်'' ဟူ၍၎င်း၊ ဝဏ္ဏဗေါဓိနေတွင် 'နတ်မှုန်းပဲပြောင်း' ဟူသစ်ပင်ကို မှုန်းဟု တချောင်းငင် ဟထိုး နသတ်နှင့် အင်းစောက်ချ ပုံစံရှိသည်၊ ကဝိသက္ကဏာ သတ်ပုံတွင်လည်း ''ရေယဉ်ရစ်မှုန်း၊ တိုက်ဇူက်ပြုန်းကျင်းကုန်း ပျိုမှက်ကွဲ'' ဟူ၍ သံပေါက် စပ်ဆိုသည်။

ထိုကြောင့် အမိုက်မှောင်ကို မီးရှူး တန်ဆောင်ဖြင့်၊ ဖျောက်လွှင့် ဇူက်မှုန်းသည်ဖြစ်၍၊ တန်ဆောင်မုန်းလ၊ မြန်မာ့ ဘာသာ ခေါ်ဝေါ်ကြသည်၊ တ အက္ခရာ ရှည် ကြာ ၍ ကြေ ပျောက် လေ သည်၊ သက္ကရာဇ် ၉၀၀ ကျော်က ရေးသားသည့် စာဟောင်းများတွင် သတိထား၍ ကြည့်ရှုရမည်။

### အသာယာဆုံးရတု

ရာဘုကာလာနံ၊ ရာဘုကာသ တို့တွင်၊ သရဒ်၊ တန်ဆောင်မုန်းလသည်၊ပြဋ္ဌာန်မြတ်၏ဟု၊ သောကနီတိတွင် ဆိုသည်။ အရှင်သာရိပုတ္တရာအာဒါဒါနိတွင်ယသာ ပိရမးကမာသော၊ ဗဟုပုပ္ဖက္ကီ ါရိဘာ၊ ဟူ၍ တန်ဆောင်မုန်းလ နှလုံး မွှေ့လျော်ဘွယ် ရှိကြောင်း၊ ကြည်နူးကြောင်း ကိုလည်းဆိုသည်။

....ဉ....

# လူပေါင်း ၂-သောင်းကျော် ဖြေဆိုမည့် ဒုတိယနှစ်အဘိဓမ္မာစာမေးပွဲကြီး

ယခုဆက်ထက်၍ တန်ဆောင်မုန်းလဆုတ် ၇–၈–၉ ရက် နေ့များတွင် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီးက ကြီးမှူးကျင်းပမဲ့ အဘိဓမ္မာ စာမေးပွဲနှင့် ပတ်သက်ပြီးအနည်းငယ် စီရင်ခံလိုပါတယ်။ လွန်ခဲ့သောနှစ်က အဘိဓမ္မာ စာမေးပွဲကို ဌာနပေါင်း ၉၀ တို့ ကျင်းပခဲ့ရာ ဝင်ရောက်ဖြေဆိုသူပေါင်း တသောင်းကျော် ကျော်ရှိခဲ့ပါတယ်။ယခုနှစ်တွင်ဌာနပေါင်း ၁၅၉ ဌာနတို့၌ ကျင်းပမည် ဖြစ်ပါ၍ လွန်ခဲ့သော နှစ်ကထက် ၆၉ ဌာန ပိုမို၍ လာပါသည်။ ဝင်ရောက်ဖြေဆိုမည့်လူဦးရေမှာလည်း နှစ်သောင်းကျော် ရှိတဲ့အတွက် မနှစ်ကထက် တဆနီး ပိုမိုနားပြား ထပါတယ်။ အဘိဓမ္မာ စာမေးပွဲ အတွက်အဖြေလွှာစါအုပ်များ၊ခုံအမှတ်များနှင့်မေးခွန်းများကို စာဖြေဌာန အသီးသီး၊ တို့သို့ သက်ဆိုင်ရာ ခရိုင်ဝန်၊နယ်ပိုင်၊ မြို့ပိုင်များမှတဆင့် ပေးပို့ပြီး ဖြစ်ပါတယ်၊ အထူးသဖြင့်အစီရင်ခံလိုသည်မှာ ရန်ကုန်မှ ဝင်ရောက်ဖြေဆိုရန် စာရင်းသွင်းထားသော ပုဂ္ဂိုလ်များအတွက် ဝင်ရောက်ဖြေဆိုခွင့်ရရန် ခုံအမှတ်များကို သင်တန်းအသီးအသီးက မိမိဘို့၏တာဝန်ယူ၍ စာရင်းသွင်းထားသော ကျောင်းသားများအတွက် ခုံအမှတ်များကို နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ တည်ရာ သာသနာ့ရိပ်သာ ကဘ်ကိုင်း၊ သို့–ကိုယ်တိုင် လာရောက်ယူကြပါမည့်အကြောင်း မေတ္တာရပ်ခံလိုက်ပါတယ်၊ ရန်ကုန်မြို့အတွက် အဘိဓမ္မာစာမေးပွဲကို ယခုနှစ်တွင် ကော်မရှင်နာသမ်းနှင့် ဘုရားလမ်းဒေါင့်ရှိ နိုင်ငံတော်အစိုးရ အထက်တန်း ကျောင်းကြီးတွင် ကျင်းပရန် ဆိုင်းရာကြီးကြပ်ရေးအဖွဲ့က စီစဉ်ထား ပါတယ်။ မန္တလေးကြီးကြပ်ရေးအဖွဲ့ကလည်း စာဖြေဌာန ၃–၄ ဌာန လုပ်မည်ဟု ကြားသိရသဖြင့် မေးခွန်းများမပို့ ရသေးပါ၊ သို့အတွက် တရက်နှစ်ရက်အတွင်း ကြီးကြပ်ရေးအဖွဲ့က မန္တလေးတွင် ဘယ်မှာဌာနထားကြောင်း ဌာနအသီးသီးအတွက် မေးခွန်း မည်ရွှေမည်မျှ ပို့ရန်ကျွန်တော်များ၏ အဖွဲ့သို့ ကြေးနန်းဖြင့် အကြောင်းကြား စေလိုပါတယ်။

အကျဉ်းထောင် ဗုဒ္ဓဘာသာစာမေးပွဲကို အကျဉ်းထောင်ပေါင်း ၃၀ တွင် ဖြေဆိုရန် စီမန်ခဲ့သော်လည်း၊ ကသာထောင် အဘွက် မေးခွန်းများကို အကျဉ်းထောင်မင်းကြီးထံမှတဆင့် ပေးပို့ခဲ့သော်သည်။ ကသာထောင်မှ ရောက်ရှိ၍ ၂၉ ထောင်၌သာ စာမေးပွဲကျင်းပနိုင်ခဲ့ပါသည်။ အကျဉ်းသားပေါင်း (၇၀၁) ကျော် ဝင်ရောက်ဖြေဆိုခဲ့ရာ ယခုအခါအဖြေစာအုပ်များ စစ်ဆေးပြီးစီးပြီဖြစ်ပါ၍ အောင်စာရင်းများကို နက်ဖြန်ဘွင်းမည့် အထူး ပယရိတ္တိအဖွဲ့ ငယ်အစီးအဝေးတွင် တင်ပြပြီးအောင်စာရင်းများထုတ်ပြန်ပါမည်။စာမေးပွဲ အောင်မြင်သူ အကျဉ်းသား များအားအစိုးရ ၊လွတ်လပ်ရေးနေ့တွင်လျော့ရက်များကို ပေးနိုင်လိမ့်မည်ဟု မျှော်လင့်ပါတယ်။

ဤမျှဖြင့် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့က ဆောင်ရွက်လျက် ရှိသော ဆဋ္ဌသင်္ဂါယနာတင် အထမြောက်ရေးလုပ်ငန်းနှင့် အခြားသာသနာပြုလုပ်ငန်းတို့၏ အကျဉ်းချုပ်ကိုယနေ့ည အစီရင်ခံရခြင်းဖြစ်ပါတယ်။ (ဦးစိန်းဓောင် အသံလွှင့်ချက်မှ)

## ဝါးခယ်မမြို့အဘိဓမ္မာဆုနှင်းသဘင်



နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့မှ ကြီးမှူးပြုလုပ်သော အဘိဓမ္မာ စာမေးပွဲကြီးကို ဝါးခယ်မမြို့ စာဖြေ ဌာနတွင် ၂၀၀ ကျော်မျှ ဝင်ရောက် ဖြေဆိုခဲ့ကြလေသည်။ နှစ်ရာအနက် အောင်မြင်သူများမှာ ၁၀၀ ကျော်မျှရှိသဖြင့် ထက်ဝက်မျှ အောင်ပန်းဆွတ်ခူး နိုင်လေသည်။ ၁၃၁၅–ခုနှစ်၊ အဘိဓမ္မာဆုနှင်းသဘင်ကို တော်သလင်းလဆန်း ၁၁ ရက်နေ့က အာရုံခံတန်ဆောင်းကြီးတွင် ခမ်းနားသိုက်မြိုက်စွာ ကျင်းပခဲ့လေသည်။

ဤဝါးခယ်မ စာဖြေ ဌာနမှ အဘိဓမ္မာ ပဌမဆင့်၌ မြန်မာတပြည်လုံးတွင် တတိယရ၍ ရောင်တီဘိုင်းတွင် ပဌမ ရခဲ့လေသည်၊ စာမေးပွဲအောင်မြင်သူ အဘိဓမ္မာ မောင်မယ် တရာကျော် တို့အား နိုင်ငံတော် ဗုဒ္ဓ သာသနာအဖွဲ့မှ ချီးမြှင့်သောဆုငွေအပြင် ဝါးခယ်မ အဘိဓမ္မာ စာဖြေဌာန၌ ရှိပေါ်ရှိ တကာ–တကာမများထံ ကောက်ခံ စုဆောင်းပြီး၊ အဆင့်တိုင်းတွင် ပဌမ၊ ဒုတိယ၊ တတိယ၊ ရွေးချယ်ပြီးအထူးဆု ချီးမြှင့်ကြလေသည်။

# သီဟိုဠ်မှ ပဋိဝိသောဓက ခ

သီဟိုဠ်အစိုးရနှင့် သံဃာတော်တို့က ရွေးချယ်စေလွှတ်လိုက်သည့် ၁ အမရပူရဂိုဏ်းမှ နာယ
ဘုရားရှင်၏ဓါတ်တော်ကို ပင့်ဆောင်ကာ { ဆဋ္ဌသံဂါယ



သီဟိုဠ်ဆရာတော်များသည် သင်္ဘောဆိပ်သို့ ရောက်လျှင်ရောက်ခြင်း နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ဝင် လူကြီးများအား ဗုဒ္ဓဘုရားရှင်၏သရီရဓာတ်တော်ကို အပ်နှင်းနေပုံ။





သီဟိုဠ်မှ ပင့်ဆောင်လာသော ဓာတ်တော်မြတ်ကို ဆန်းကြယ်စွာ တန်ဆာဆင်မာင်ထားသည့် မော်တော်ယာဉ်ဖြင့် သင်္ဘောဆိပ်မှ မြို့တွင်းသို့ စတင်ကြွမြန်းစဉ်ဖူးတွေ့ရပုံ။

## သီဟိုဠ်မှမူ

မြန်မာပြည်မှပဋိဝိသောဓက ဆရာတော်များထပ်မံစစ်ဆေးသုတ်သင်ပြီးတဲ့ ဝင်းဒီဃနိကာယ်ပါဠိတော်ကိုသီဟိုဠ်ကျွန်းမှ မကြာမီကပို့လိုက်တဲ့သီဟိုဠ်သံဃာတော်များ သုတ်သင်လိုက်တဲ့ ဒီဃနိကာယ် ပါဠိစာတော်နဲ့ ပြန်လည်ညှိနှိုင်းရန် ဖြစ်တဲ့ အတိုင်း လွန်ခဲ့တဲ့ သီတင်းကျွတ် လဆုတ် (၁၀)ရက်နေ့က စပြီး ရန်ကုန်မြို့ သာသနာ့ရိပ်သာ ဓမ္မာရုံကြီးမှာ ပဋိဝိသောဓက ဆရာတော်များ ဖြစ်ကြတဲ့ သီဟိုဠ်မှ အရှင်ဗုဒ္ဓဒတ္တ၊ ယိုးဒယားမှ အရှင်မြေရာဇာမဟာမုနိနှင့် အရှင်သုကိတ္တိ၊ မြန်မာနိုင်ငံမှ ဘုရားကြီးတိုက် ဆရာတော် ဦးကောဏ္ဍည၊ ဒေဝသာဂရ သိမ်ကုန်း ဆရာတော် ဦးရေဝတ၊ နှစ်ကျိပ်ရှစ်ဆူဆရာတော် ဦးဉာဏိက၊ ဗားကရာတော်ရ ဆရာတော် ဦးနာဂဝံသ၊ ဗားကရာ ဆရာတော် ဦးတိလောက၊ ဆရာတော် ဦးတိက္ခတို့သည်၊ သုတ်သီလက္ခန်ပါဠိတော်ကို မူချင်းညှိနှိုင်းကာ တိုင်ပင်ဆွေးနွေးပြီး တည်းဖြတ်ခဲ့ရာ၊ တန်ဆောင်မုန်းလဆန်း ၅ ရက်နေ့တွင်ပင် ချောမောစွာ ပြီးဆုံးသွားပါပြီ။

## သီဟိုဠ်ပဋိဝိသောဓကများ

ဤအတောအတွင်း သီဟိုဠ်နိုင်ငံအစိုးရနှင့် သံဃာတော် အပေါင်းက အမရပူရဂိုဏ်းမှ နာယကဆရာတော် အရှင်သောမာလောက၊ ရှမ်းဂိုဏ်းမှ နာယကဆရာတော် အရှင်ဝိပဿီနှင့် ရွေကျင်ဂိုဏ်းမှ နာယကဆရာတော် အရှင်ဉာဏဝါသဆိုတဲ့ ဆရာ
သုံးပါးကို ဆဋ္ဌသံဂါယနာတင်မဲ့ ပိဋကပါဠိတော်များကို ညှိနှိုင်းသုံ
ဘို့ ပဋိဝိသောဓက ဆရာတော်များအဖြစ် ရွေးချယ် စေလွှတ်တဲ့အ
ဆရာတော်များသည် ရန်ကုန်မြို့ ကျောက်ရပ် သီရိမင်္ဂလာ ကမ္ဘာအေ
တော်တွင် တည်ထား ကိုးကွယ်ဘို့ မြတ်စွာဘုရားရဲ့ ဓါတ်တော်မြ
ဆုကို ရွှေကြုတ်နှင့် တပါတည်း ပင့်ဆောင်ပြီးတောက်ပြောင်ယှဉ်ယှဉ်ယားသ
နှင့်ကြွလာခဲ့ရာ၊ ယခုနိုဝင်ဘာလ ၄ ရက် စနေနေ့ နံက် ၁၀ နာရီခွဲအ
မှာဘဲ ရန်ကုန်မြို့ ဆိပ်ကမ်းသို့ချောမောစွာရောက်ရှိလာကြပါတယ်။



သာသနာ့ရိပ်သာ ဓ
နိုင်ငံတော်ဗုဒ္ဓသာသန
ဆာဦးသွင်က သီဟိုဠ်ကျ
လျက်ရှိသော ဓ
ဖူးမျှော်

## ကြိုဆိုသူများ

သင်္ဘောဆိပ်မှ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ဥက္ကဋ္ဌကြီးသတိုး
သုဓမ္မ ဆာဦးသွင်၊ သာသနာရေးဝန်ကြီး ဦးဝင်း၊ နိုင်ငံတော် ရှေ့နေ
ကြီး သတိုးမဟာသရေစည်သူ ဦးချန်ထွန်း၊ စသော နိုင်ငံတော်ဗုဒ္ဓသာသ
အဖွဲ့ အမှုဆောင် လူကြီးများ၊ စေတီယင်္ဂဏပရိယတ္တိအသင်းလမ်းမ
ဆွမ်းလောင်းအသင်း စသော အသင်းအဖွဲ့များနှင့် သီဟိုဠ်သံအမတ်
တို့က ဆီးကြိုကြပါတယ်။ နိုင်ငံတော်ရဲ့အရေးရှိများကလဲ မြန်မာဆန်
ဒိုးပတ်ဝိုင်းနဲ့ တီးမှုတ်ကာ ကြိုဆိုကြပါတယ်။

## ဘုရားရှင်ဓါတ်တော်

ထိုနောက် အမရပူရဂိုဏ်း နာယကဆရာတော်အရှင်သောမာလောက

# ဥတော်များ ကြွလာကြခြင်း

**…တော်။ ၂ ရှမ်းဂိုဏ်းမှ နာယကဆရာတော်နှင့် ၃ ရွှေကျင်ဂိုဏ်းမှ နာယကဆရာတော်များသည် …မှု } ပဋိဝိသောဓက ကိစ္စအတွက်ကြွတော်မူလာကြခြင်း။**



**…ရောက်သောအခါ …ဥက္ကဋ္ဌကြီး၊ သတိုးသီရိသုဓမ္မ …ကလာပ်ပေါ်တွင်စံပါယ် …မြတ်ကို လူအများ …ပြသနေပုံ။**

မြတ်စွာဘုရား၏ဓါတ်တော် ကိန်းဝပ်လျက်ရှိသော ရွှေကြာပ်ကိုနိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ ဆာဦးသွင်က ရိုသေစွာခံယူပြီးလျှင် မွန်းမံထားသော မော်တော်ယာဉ်ဆီသို့ ပင့်ဆောင် သွားပါတယ်။

## လှည့်လည်ခြင်း

ငှင်းဓါတ်တော်မြတ်နဲ့ သီဟိုဠ် ပဋိဝိသောဓက ဆရာတော်များကို ရှေ့ဆုံးမှ စည်တော်ယွန်းလျက် မော်တော်ယာဉ် များဖြင့် ရွှေထီးမိုးပြီး သာသနာ့ရိပ်သာသို့ပင့်ဆောင်သွားတဲ့အခါ ဆူးလေဘုရားမှ ဦးဘထွန်း ဦးခေဖအောင်စသော လူကြီးမင်းများကရင်၊ ဘုရားလမ်းပညာမင်းကြီးရုံးမှ ဗုဒ္ဓဘာသာအသင်းဝင် ရုံးသူရုံးသားများကရင်း၊ အလုံလမ်း ပြည်ထောင်စု တောင်ပိုင်းစခန်းရဲဌာနချုပ်မှ စစ်ရဲအရာရှိကြီးငယ်များကရင်း၊ ပြည်လမ်း မြေနီကုန်းကင်းဂိတ်မှ ရဲအမှုထမ်းအရာထမ်းများကရင်း။ မြို့ပတ်လမ်း မိုးညှင်းဝိပဿနာဌာနမှယောဂီများကရင်း၊ ပန်းပေါက်ပေါက်များ ကြဲဖြန့်ခြင်း၊ တူရိယာများ တီးမှုတ်ခြင်း၊ သေနတ်ဖြင့်ဝမ်းမြောက်ဝမ်းသာကြိုဆိုရှူးမြှော်ကြတဲ့အတွက် ထိုအသင်းအဖွဲ့နှင့် ပုဂ္ဂိုလ်အပေါင်းတို့အား နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီးကအထူးပင်ကျေးဇူးတင်လျက်ရှိပါကြောင်းကို ကျွန်တော် ဖော်ပြအစီရင်ခံလိုက်ပါတယ်။

### တည်းဖြတ်တော်မူနေကြပြီ

ဤသီဟိုဠ် ပဋိဝိသောဓက ဆရာတော်များ ဆိုက်ရောက်သည့်နောက် …ယနေ့ဖြစ်တဲ့ ယခုလ ၁၆ ရက်နေ့မှာဘဲ ရန်ကုန်မြို့ ကြည့်မြင်တိုင် …ကျောင်းကြီးတိုက် ဆရာတော်ဦးပညာသာမိ၊ ကြည့်မြင်တိုင်ဝင်ဆ… …င်း ကန်တော်မင်္ဂလာကျောင်းဆရာတော်၊ ဗဟန်းရွှေကုန်တိုက် မန္တ… …ဆရာတော် ပုဇွန်တောင်အသီတကျောင်း၊ ဆရာတော်ဦးအာဒိစ္စ။ …ရားကြီးတိုက် စာချဆရာတော် ဦးအာဒိစ္စ၊ ကျောက်ကုန်းတော… …ရာတော် ဦးအာငွေး ရော့ပါဝင်တဲ့ ပဋိဝိသောဓက မြန်မာဆရာတော် …း ဖိုဒယားမှ ပဋိဝိသောဓက ကိုယ်စားလှယ် ဆရာတော်များနှင့် အ… …ပါ သီဟိုဠ် ပဋိဝိသောဓက ဆရာတော်များသည်၊ ဒီဃနိကာယ်သုတ် …ဘာဝါ ပါဠိတော်ကို စစ်ဆေးတည်းဖြတ်တော်မူလျက်ရှိကြပါပြီ။ သုတ်မ… …ဝါ ပါဠိတော်ကိုစစ်ဆေးတည်းဖြတ်ပြီးစီးပါလျှင် သုတ်ပါထေယျ ပါဠိ… …တ်ကို ဆက်လက်ပြီး စစ်ဆေးတည်းဖြတ်တော်မူကြပါလိမ့်မည်။ ဒီဃနိ… …ကာယ်ပါဠိတော် သုံးကျမ်းစလုံးစစ်ဆေး တည်းဖြတ်ပြီးတဲ့အခါငှင်း ဒီဃနိ… …ကာယ်ပါဠိတော်ကိုဝိနည်းပါဠိတော်ကဲ့သို့ တန်ဆောင်မုန်းလ ပြည့်ကျော် …ရက် (ဒီဇင်ဘာလ ၂ ရက်) ဗုဒ္ဓဟူးနေ့တွင် ရန်ကုန်မြို့ သာသနာ့ရိပ်သာ …ကျင်းပမဲ့ ဝန်ဆောင်သံဃာအဖွဲ့အစည်းအဝေးတွင် လက်ခံအတည်ပြုရန် …တင်သွင်းပါလိမ့်မည်။ (အုပ်ချုပ်ရေးအရာရှိချုပ် ဦးစိန်မောင်အသံလွှင့်ချက်)



ဓာတ်တော်မြတ် ကိန်းဝပ်တော်မူသည့် ယာဉ်ပျံသည် မြို့တွင်းဝယ် မြို့သူမြို့သား တို့၏ အပူးအမျှော်ကို ခံယူပြီးနောက် သာသနာ့ရိပ်သာ ဓမ္မာရုံကြီးသို့ ဆိုက်ရောက်လာ၏။





ဓာတ်တော်မြတ်ကို ပင့်ဆောင်လာသည့် သီဟိုဠ်ဆရာတော်များ၊ ဥပသကာများနှင့်နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ဝင် လူကြီးများသည် သာသနာ့ရိပ်သာဓမ္မာရုံအတွင်းသို့ အတူတကွ ဝင်ကြစဉ်။

# ခြောက်ကြိမ်မြောက်တိပိဋကစာရွေးပွဲ

## ဝင်ရောက်ပြန်ဆိုရေးဖြေတော်မူကြမည့် သာသနအာဇာနည်များ

အောက်တွင်ဖော်ပြသော အရှင်မြတ်တို့အား၊ ၁၃၁၅ ခုနှစ် နတ်တော်လဆန်း (၁၄) ရက် (၂၀-၁၂-၅၃) နေ့တွင် (၆) ကြိမ်မြောက် စတင် ကျင်းပမည့် တိပိဋကစာ ရွေးချယ် ပွဲကြီးတွင် ဝင်ရောက် ပြန်ဆို ရေးဖြေတော် မူကြရန်၊ တိပိဋကစာ ရွေးချယ်ရေး အဖွဲ့ခွဲ၏ နာယကဆရာတော်များက ခွင့်ပြုတော်မူလိုက်သည့် ဆရာတော်များဖြစ်ကြောင်း။

### ဝိနယပိဋက

(၁) အရှင်သာဂရ (၃၅) ဝါ၊ အစိုးရ ဓမ္မာစရိယနှင့် မဟာဝိနယကောဝိဒဘွဲ့ရ၊ မရမ်းချိုကျောင်း၊ ကျိုက်ထိုမြို့။ (၂) အရှင်ကလျာဏ (၃၅) ဝါ၊မူလ ဓမ္မာစရိယ၊ မန္တလေးကျောင်း။ဝါးခယ်မမြို့၊ (၃) အရှင်နာဂိန္ဒ (၃၅) ဝါ၊ မူလ ဓမ္မာစရိယ၊ ကသစ်ပိုင်ကျောင်း။ သနတ်ပင်မြို့။ ပဲခူး ခရိုင်။ (၄) အရှင်ဇနိန္ဒဝံသ (၂၇) ဝါ၊ မူလ ဓမ္မာစရိယ၊ မန္တလေးကျောင်း၊ ရွှေကျင်မြို့။ (၅) အရှင် စန္ဒိမာ (၂၂) ဝါ မူလဓမ္မာစရိယ၊ကျွန်းဦးကျောင်း ဇီးကန်ရွာ၊ တံတားဦးမြို့။ (၆) အရှင်နေမိန္ဒ (၇) ဝါ၊ အစိုးရ ဓမ္မာစရိယ၊ သိရောမဏိဘွဲ့ရ၊ မဟာဝိသုတာရာမတိုက်၊ ပခုက္ကူမြို့။

### သုတ္တန္တပိဋက

(၇) အရှင် ဝိစိတ္တ သာရာဘိဝံသ (၂၂) ဝါ၊ အစိုးရ ပဌမကျော်နှင့် ဓမ္မာစရိယ၊ သက္ကသီဟ ဓမ္မာစရိယနှင့် ငွေသကာဘွဲ့၊ ဝိသိဋ္ဌဝိနယဓရ မဟာဝိနယကောဝိဒဘွဲ့နှင့်ဝိသိဋ္ဌအဘိဓမ္မိကမဟာအဘိဓမ္မ ကောဝိဒဘွဲ့ရ၊ ဓမ္မနာဒတိုက်၊ မင်းကွန်းမြို့၊ စစ်ကိုင်းခရိုင်။

### အင်္ဂုတ္တရနိကာယ် ၁ ၁ ကျမ်း

(၈) အရှင် သောဘိတာ ဘိဝံသ (၁၁)ဝါ၊ သက္ကသီဟဓမ္မာစရိယဘွဲ့ရ၊ ချမ်းသာကြီး တိုက်၊ အနောက်ပြင်၊ မန္တလေးမြို့။

အဘိဓမ္မာ ပိဋက၊ အဘိဓမ္မာနောက်ပိုင်း (၂) ကျမ်းပြန်ဆိုရေးဖြေရန်။

(၉) အရှင်ကောဝိဒ (၂၄) ဝါ၊ ဝိနယဓရ မဟာဝိနယ ကောဝိဒဘွဲ့ရ၊ အဘိဓမ္မာပိဋကရှေ့ပိုင်း(၅)ကျမ်း အာဂုံသဘောရေးဖြေ ၂ ရပ်လုံး အောင်မြင်ပြီး၊ သာသနဝိပုလာရာမတိုက်၊ ပခုက္ကူမြို့

### အဘိဓမ္မာရှေ့ပိုင်း

(၁၀) အရှင်အဂ္ဂဝိရ (၈)ဝါ၊ ဖြနံပါတ်ကျောင်း၊ ဒလမြို့။

အမိန့်အရ

**မင်္ဂလာ-မောင်မောင်မြင့်**

အကျိုးဆောင်

တိပိဋကရွေးချယ်ရေးအဖွဲ့ခွဲ

....o....



ကျွန်းသီဟိုဠ်မှ ပင့်ဆောင်လာသော ဓာတ်တော်များကို သတ္တုရထားပျံဖြင့် ပင့်ဆောင်လာစဉ်။



ရွှေတိဂုံယင်ပြင် မသိုးသင်္ကန်းရက်ပြိုင်ပွဲကို လူမျိုးစုနာယကကြီး စောရွှေသိုက်က ဖွင့်လှစ်လျက်ရှိစဉ်။



မသိုးသင်္ကန်းရက်ပြိုင်ပွဲတွင် ထမဆုရရှိသော မြမာလာစင်တော်မှ အမျိုးသမီးများအား ကျောင်းအုပ် မဟာဒေဝီကဆုချီးမြှင့်နေစဉ်။

# ပိဋက မြန်မာပြန်လုပ်ငန်းနှင့် ဩသာနသောဓေယျ လုပ်ငန်း

ပိဋကမြန်မာပြန်များကို စစ်ဆေး သုတ်သင်နေပုံအကြောင်းကို အနည်းငယ်အစီရင်ခံလိုပါသေးတယ်၊ မဟာစည် ဆရာတော်၊ ဝိသုဒ္ဓါမဂ်ဆရာတော်ဦးဓေမောဝိနှင့်နှစ်ကျိပ်ရှစ်ဆူဆရာတော် ဦးဩဘာသတို့ ပါဝင်သော မြန်မာ ပဋိဝိသောဓက အဖွဲ့က သတ်သီလကျွန်ပါဠိတော် မြန်မာပြန်ကို စစ်ဆေး တည်းဖြတ်တော်မူလာခဲ့ရာ လုံးဝပြီးစီးသွားပြီဖြစ်၍ ယခု သုတ်မဟာဝါပါဠိတော် မြန်မာ ပြန်ကို ဆက်လက်စစ်ဆေး တည်းဖြတ်တော် မူလျက်ရှိကြပါတယ်။

ယခင်က မန္တလေး မြို့တွင် ကျင်းပခဲ့သော ဝန်ဆောင် သံဃာအဖွဲ့ အစည်းအဝေးမှ လက်ခံ အတည်ပြုပြီးဖြစ်သော ဝိနည်း ၅ ကျမ်း ပါဠိတော်ကို ယခု အခါ ရန်ကုန်မြို့ ရေကျော်ရပ် သီရိမင်္ဂလာကမ္ဘာအေးစေတီတော်မြောက်ဘက်ရှိ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီး၏ စာပုံနှိပ်တိုက်တွင် စတင်ရိုက်နှိပ်လျက်ရှိပါသည်။

ဤသို့ စက်တင် ပုံနှိပ်ရာတွင် အမှားအယွင်း တစုံတရာ မရှိစေဘဲ ထေရဝါဒနိုင်ငံများရှိ ပဋိဝိသောဓကဆရာတော်များ သုတ်သင်ထားတဲ့ မူအတိုင်း တိတိကျကျဖြစ်စေရန်အလို့ငှါ စာပြင်မူးချုပ် ဆရာဦးဘက် အမှူးရှိသော အရည် အချင်းနှင့်ပြည့်စုံတဲ့ စာပြင်ဆရာများက သေချာစွာ စစ်ဆေးလျက် ရှိသည့် အပြင် အလယ်တောရ စာချကျောင်း ပါဠိတက္ကသိုလ်ကျောင်းအုပ် ဆရာတော် ဦးသုရိယာဘိဝံသ အမှူးရှိသော ဆရာတော်များကလဲ သောဓေယျပါဌကခေါ် ပရုဖ်ဘတ်ဆရာတော်များအဖြစ်ဖြင့် နေ့စဉ် စာပုံနှိပ်တိုက်သို့ ကြွရောက်ခါ ဘတ်ရှု စစ်ဆေးတော်မူလျက်ရှိကြပါတယ်။ ဤမျှသာမက လူပုဂ္ဂိုလ်စာပြင်ဆရာများအဖွဲ့နှင့် သောဓေယျပါဌကခေါ်ပရုဖ်ဘတ်ဆရာတော်များ အဖွဲ့က ဘတ်ရှုစစ်ဆေးပြီးတဲ့ စာမူများကို ရန်ကုန်မြို့ ဘုရားကြီး ကျောင်းတိုက် ဆရာတော် ဦးကောဏ္ဍည၊ သာသနာ့ရိပ်သာ မဟာစည်ဆရာတော်ဦးသောဘဏမါးကရာတောရဆရာတော်ဦးနာဂဝံသ၊ ဝိဇ္ဇာလက်ာရ ဆရာတော် ဦးဝိသုဒ္ဓနှင့် သီဟိုဠ်ပဋိဝိသောဓကဆရာတော် အချင်ဗုဒ္ဓဒတ္တတို့ပါဝင်သည့် ဩသာန သောဓေယျ ပါဌကခေါ် နောက်ဆုံး ပရုဖ်ဘတ်အဖွဲ့ကလည်း သေချာစွာ ပြန်လည် စစ်ဆေးဘတ်ရှု၍ မှန်ကန်ပြီဟုဆိုမှ စက်တင်ပုံနှိပ်ခြင်းကိုပြုလုပ်ပါတယ်။

**(ဦးစိန်းမောင်ဘသံလွှင့်ချက်မှ)**

# အကျဉ်းထောင်စာမေးပွဲအောင်သူများ

ဒုတိယအကြိမ်မြောက် အကျဉ်းထောင် ဗုဒ္ဓဘာသာသင်တန်းစာမေးပွဲကို ၁၃၁၅ ခု သီတင်းကျွတ် လဆန်း ၁–၄–၅–၆ ၁၉၅၃ ခု၊ အောက်တိုဘာလ ၂၆–၂၇–၂၁–၂၉ ရက် များ တွင် အကျဉ်းထောင်ပေါင်း ၂၉ ထောင် တို့၌ ကျင်းပ ရာ ပထမဆင့်တွင် ၄၇၅ ဦး ဝင်ရောက် ဖြေဆိုကြရာ ၄၇၈ ဦး အောင်မြင်ကြသည်။ ဒုတိယဆင့်တွင် ၄၅၀ ဦး ဝင်ရောက် ဖြေဆိုကြရာ ၂၃၃ ဦး အောင်မြင်ကြသည်၊ တတိယ ဆင့်တွင် ၄၀၂ ဦး ဝင်ရောက် ဖြေဆိုခဲ့ရာ ၁၂၅ ဦးအောင်မြင်ကြသည်။ စတုတ္ထ ဆင့်တွင် ၂၇၉ ဦး ဝင်ရောက် ဖြေဆိုကြရာ ၂၀၆ ဦး အောင်မြင်ကြကြောင်း၊

တနင်္လာ လေးဆင့် စလုံး ဝင်ရောက်ဖြေဆိုရာ အောင်ကြသူများမှာ ၈၁ ဦး ဖြစ်ကြောင်း။

.....o.....

## ဆဋ္ဌသံဂါယနာလိုဏ်ဂူကြီးအတွက်

# ကုသိုလ်ပါဝင်ကြသူများ

ယခင်အပတ်မှဆက်၍

---

အလှူခံဖြတ်ပိုင်း

စာအုပ်အမှတ် (၅)

၁။ မအုန်း ရေလချင်ခေါ်ဝါဗြဲ ၁ဝိ၊

၂။ မြိဘ်မြို့ မြစ်ငယ်ရပ် ဦးမြတ်ထွား ခေါ်အေးမှင်နှင့်သားသမီးများ ၁၀ဝိ၊

၃။ ရန်ကုန် ကုတ်ကိုင်း ဦးဘိုးလွင် ခေါ်သင်သားသမီးများ ၅ိ၊

၄။ စစ်ကိုင်း ရွာတောင်ရပ် ငွေ ပန်းတိမ် ဦးဝင်း ၃ိ၊

၅။ မအူပင် ရွှေလောင်၊ သုံးခွ ကုန် သည် ကိုဘေါ မခင်မှ ၂၁၉ဝိ၊

၆။ ရန်ကုန် ကြည် သန်း တင် စော ကျင် ၅ိ၊

၇။ ဦးစံရွှေ ဒေါ်နှင်းကျွယ် ၅ိ၊

၈။ ဦး ခင်မောင်ကြီး ဒေါ်ထွေး သားများ ၁ဝိ၊

၉။ ဖဟန်း ဘိုးဘိုးအောင် ဆေး ဟိုက် ဝိ၊

၁၀။ ပဒေါ း ကြီးစက် ဗိုလ်ကေ မအေးမှုင် ၁ဝိ၊

၁၁။ ဖဟုး ရေတာရှည်လမ်း ကို မောင်ခင် မအုန်းမေ ၅ိ၊

၁၂။ ကျောက်မြောင်းဦးစံကဲ မောင် သန်းညွန့် မစောမှီ ၁ဝိ၊

၁၃။ ပန်းတိမ်တန်းလမ်း ဦးရွှေဒေါ် ဖွားညွှန့် ၁ဝိ၊

၁၄။ ၁၃၈ လမ်း ကိုအောင်စိန် မမြတင် ၁ဝိ၊

၁၅။ ကမာရွတ်မပု ၁ဝိ၊

၁၆။ ကြည့်မြင်တိုင် အုန်းဝေ ၁ ဒေါ် ငွေယဉ် ၁ဝိ၊

၁၇။ ရန်ကုန် မတင်တင် ၂ိ၊

၁၈။ ဦးဝိစာ ချပ်ကွက်၁-လမ်း ရွှေ ပန်းတိမ်ဆရာ ဦးနှင့် သားသမီးများ ၁၅ဝိ၊

၁၉။ ကြည့်မြင်တိုင် တူ ဘာရုံလမ်း ဒေါ်ငွေယဉ် ၁ဝိ၊

၂၀။ ရန်ကုန် အလုံ မောင်ဘအေး မခင်ကြည် သားသမီးများ ၅ိ၊

၂၁။ ကြာနိမြင်တိုင် ဒေါ်နင်းခက် သွီး ဒေါ်မြစိန် သားသမီးများ ၅ိ၊

၂၂။ ကျောက်မြောင်းပြံစံရွှေ ၃ိ၊

၂၃။ မမြစိန် ၃ိ၊

၂၄။ ရန်ကုန် အလုံ မမြလေး ၂ိ၊

၂၅။ ဆင်ဆိုကုန်းလမ်းမအုန်းဘင် ၂ိ၊

၂၆။ ကွမ်းခြံကုန်းသုံးခွမအုန်းယဉ် ၂ိ၊

၂၇။ ရန်ကုန် ရီရီမွေး ၂ိ၊

၂၈။ မော်လမြိုင်ကျွန်း ဦးအောင်သာ ခေါ်လုံး သားသမီးများ ၅ိ၊

၂၉။ ရန်ကုန် ဘောက်ထော် ကိုကျော် သောင်း မကျင်ရီ ၃ိ၊

၃၀။ ။ မောင်အုံ၊ ၂ိ၊

၃၁။ ကြည့်မြင်တိုင် ကျောက်မြောင်း လမ်း ဦးပိုင် ဒေါ်ငြိမ်း ၁ဝိ

၃၂။ ကြည့်သင်း ကုန်သည် ဦးစိန်းသိန်း ခေါ်အေးမေ မခင်ရွှေ ၂ဝိ၊

၃၃။ ။ လှည်းတန်း၊ စေ့၊ မောင် ထွေး မဘွားကြိုင် သားသမီးများ ၅ိ၊

၃၄။ ။ လှည်းတန်း ကိုမောင်လှိုင်မမြ ကျင် ၅ိ၊

၃၅။ ၄၄ လမ်း ဦးမောင်ကြီး မရီ ၁ဝိ၊

၃၆။ ပေါင်းတည် ဒေါ်ငြိကြီး ၁ဝိ၊

၃၇။ ရန်ကုန် ဦးဘိုးစိန် နှင့် သား သမီး မြေးများ ၂ဝိ၊

၃၈။ မန္တလေး တောင်ပြင် စိုတြမပဲ ရပ်အငြိမ်းစား ဦးမောင်မောင်ကလေး (အေ-တီ-အမ်) သို့၊ လှလှခင် မြေး မောင်မောင်မြင့် ၁ဝိ၊

၃၉။ ရန်ကုန် ငရုံကြီးကဘော် ဒေါ် ကြည်ကြည် ၁ဝိ၊

၄၀။ ။ ကျောက်မြောင်းသုခလဲ့ခေါ် သိုက် မိသားစု၊ ၁၅ဝိ၊

၄၁။ ။ ၁၂၁ ၁၂လမ်း ဇင်ရောင်း ဝယ်ရေး ဦးကျင်စိန် ဒေါ်ခေါ်ဝင် သား သမီးများ ၂၀ဝိ၊

၄၂။ ကော့မှူးရွာ ကုန်သည် ဦးမြ မအေးသွယ် ၅ိ၊

၄၃။ ပုသိမ် တကောင်းဘုရားလမ်း ကန်လျားကျောင်းဦးပဏ္ဍိတ ၁၂ဝိ၊

၄၄။ ကျိုက္ကမီ ဒိစကြိုတ် သံဖြူ ဇရပ်ရွာ လင်းမတန်း ရွှေပန်းတိမ် ဆရာ ဦးချစ်ဆိုင်(မာမက်)ခေါ်အေးငွေ ၅ဝိ၊

၄၅။ ရန်ကုန် ကော်မရှင်နာလမ်း ဒေါ်အေး ၅ိ၊

၄၆။ ။ ကြည့်မြင်တိုင်ချင်းချောင်းခြံ ဒေါ်ယဉ် ၅ိ၊

၄၇။ ။ ကျောက်မြောင်း မောင်တင် ကြည် မလှရွှေ ၁ဝိ၊

၄၈။ ရန်ကုန် မထွေးတင် ၅ိ၊

၄၉။ ဝါးခယ်မ ဦး အောင်တင် ဒေါ်သန်းယဉ် ၂ဝိ၊

၅၀။ ရန်ကုန် ဒေါ်သင်းမြ ၃ိ၊

၅၁။ အင်းစိန် ချော်တွင်း ကုန်း ဒေါ်ခင်နှင့်သားသမီးများ ၁ဝိ၊

၅၂။ စင်တွေ အိုးတန်းရပ် ခေတ်မှီ လက်ရေးတိုကျောင်း မောင်စောလှ၊ မစံ သာဦး ၅ဝိ၊

၅၃။ စင်တွေ အိုးတန်းရပ် ဦးခဲ မစံမြို့ ၁၅ိ၊

၅၄။ ရွှေဂုံတိုင် ရဲမှူး ဦးအောင်သန်း ဒေါ်ကျင်ငွေ ၁ဝိ၊

၅၅။ ရန်ကုန်တာမွေမောင်စိန်ဝင်း၅ ။

၅၆။ ပုဇွန်တောင် မတင်ညွန့် ၂ိ၊

၅၇။ လပွတ္တာ ဦးဘကျင် ၅ိ၊

၅၈။ သာယာဝတီ ပညာဝန်ရုံး စာရေး ကြီး ဦးသော်ဒေါ်သိန်းရှင် သားသမီးများ နှင့် မဂ်လာဒုံလေတပ်မဘော်-ဒုအရာခံ ဗိုလ် ညီမောင် မသိန်း ၅ဝိ၊

၅၉။ ရန်ကုန် ထီးတန်း ဈေးကလေး ကုန်သည် မောင်ယုစိန် မတင်နု ၅၀ိ၊

၆၀။ ။ ဗါ်ကရာ ကမ်းနားလမ်း ဇာ ဘော်လီရုံပိုင်ရှင် စမ်းစမ်းမြင့် ဒေါ်စိန်နှင့် တပည့်များ ၅ဝိ၊

၆၁။ မင်းလှ အိုးသည်ကုန်း မအေး သိန်း ၅ိ၊

၆၂။ အလုံ မတင့်- သား မောင် ကောင်းထိုက် ၁ဝိ၊

၆၃။ ကျောက်မြောင်း ဩဘာ လမ်း ဒေါ်သန်း ၁ဝိ၊

၆၄။ ဘားအံမြို့ ဘုံးအိုင်ရွာ ဆေး ဆရာ ဦးလွမ်းမြေ ၁ဝိ၊

၆၅။ ဘားအံမြို့ နောင်လုံမြောက်ရွာ ကြီးဒေါ် အုန်းယဉ်နှင့် ဒေါ်နုံးခမ်း ၂ဝိ၊

၆၆။ ။ ။ ဒေါ်ရွှေခင် ၅ိ၊

၆၇။ ။ ။ မသန်းတင် ၅ိ၊

၆၈။ ။ ။ ဒေါ်မြင် ၂ိ၊

၆၉။ ရန်ကုန် သမတရပ်ကွက် ၂ လမ်း မောင်အောင်ညွန့် ၈ိ၊

၇၀။ မော်လမြိုင် မစိန်သွယ် သားသမီး များ ၂ိ မြား-၅ဝ၊

၇၁။ ဟသ်ာတ ဒေါ်ဖွားသိနှင့် သား မောင်တင်စိန် ၂ဝိ၊

၇၂။ ရန်ကုန် ရွှေဂုံဘိုင် မောင်ငိုးငြိမ်း ၂ိ၊

၇၃။ ဝါးခယ်မ မင်းငိုင်၊ ဦးစိုးဖေ ဒေါ်အေးကြည် သားသမီးများ ၁ဝိ၊

၇၄။ ကျိုက်လတ် ရုံးဆောင့် ရွာသစ် ငိုင်း ကုန်သည်ဦးထွန်းလွင် ၁၅ဝိ၊

၇၅။ ဒိုက်ဦး ဒေါ်ထိုက် ၂ဝိ၊

၇၆။ ။ ဒေါ်ရီ မင့်ုး ၁ဝိ၊

၇၇။ ။ မသန်း မသိန်းရီ ၁ဝိ၊

၇၈။ ။ ဒေါ်ဘော်သား မောင်စံရွှေ မောင်ရဲမြင့် ၂ဝိ၊

၇၉။ ။ မောင်ဖိုးညွန့် မောင်ဟန်စိန် ၁ဝိ၊

၈၀။ အလှူခံသေတ္တာငွေ ၂၇၄ိ၊

၈၁။ လက်ပန်တန်း ဘိုးလင်း ဒေါ်၊ ဒေါ်စိုးသိုး အုန်းကြည် သားမောင်တင် လှိုင် ငွေဆုံးဘူး တလုံး၊

၈၂။ ရန်ကုန် မင်္ဂလာဒုံ စစ် မြေပြင် ကျွန်းမာရေးတပ် ၃ အရာခံဗိုလ် ကိုချစ် တင် မြကျင် ၅ဝိ၊

၈၃။ မန္တလေး အနိုးရ နော်မံကျောင်း ဆရာဖြစ်သင် နည်းပြဆရာ ဦးဘိုးဆောင် နှင့် သားသမီးမြေးများ ၁၅ဝိ၊

၈၄။ ရန်ကုန် ကန်တော်ကလေး မြောက် ရိုလမ်း ဆရာမှီ ဒေါ်ခ ၅ဝိ၊

၈၅။ ညောင်လေးပင် ချစ်တီး ဘုရား လမ်းကုန်သည် ဒေါ်အုန်းမေ ၂ဝိ၊

၈၆။ ညောင်လေးပင် ချစ်တီး ဘုရား လမ်းကုန်သည် ဒေါ်ပုဒေါ်ကျင်စိန် တူ တူများ ၂၅ဝိ၊

၈၇။ ညောင်လေးပင် ချစ်တီး ဘုရား လမ်း ကုန်သည် အမေပု ၂ဝိ၊

၈၈။ တော်ပိ ဒေါ်ငွေယုန် သား ကို ထွန်းယဉ် မအေး ၁ဝိ၊

၈၉။ ရန်ကုန် ရေကျော် ဇီဝဝါလမ်း မမကြီး ၂ဝိ၊

၉၀။ ရန်ကုန် ရေကျော် ဇီဝဝါလမ်း၊ မသိန်းလှ ၂ဝိ၊

၉၁။ ဗောဓိုင်လမ်း မြမြ ၂ဝိ၊

၉၂။ ရေကျော် ဇီဝဝါလမ်းမောင်လှ ငြိမ့် ၂ဝိ၊

၉၃။ ၂၂ လမ်း မခင်အေး ၂ဝိ၊

၉၄။ ကောင်းနွမ် ၂ဝိ၊

၉၅။ ပုဇွန်တောင်ဦးဝိဇ္ဇာလမ်း မကျင် မိုက် ၁ဝိ၊

၉၆။ ရေကျော် ဇီဝဝါလမ်း ဒေါ် ညွန့်စိန် ၁ဝိ၊

၉၇။ ရေကျော် ဇီဝဝါလမ်း မသိန်း ကြည် ၁ဝိ၊

၉၈။ လှည်းကူး သရက်ပင်ချောင်းရွာ မသန်းခင် မမြသန်း ၅ိ၊

၉၉။ ရန်ကုန် ၁၀၇-၂၂ လမ်း ကုန် သည် ဦးမောင်စိန် ဒေါ်စိန်ကျင် သားသမီး များ ၅ဝိ၊

၁၀၀။ ငွေးဟွဲကင် နောက်ထပ် ၁၀ဝိ၊

(ဆက်လက်ဖော်ပြဦးမည်)

....o....

---

## ကျမ်းအမှတ်စဉ် {၂၈—၂၉} ရှင်ဒီဃတ္တကနှင့်သုတ္တနိပါတ

ပခုက္ကူ။ မဟာဝိသုတာရာမ ပါဠိဝိသောဓကအဖွဲ့

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးဂန္ဓမာ | ၄၀ | မူလဓမ္မာစရိ | မဟာဝိသုဘာရာမ | ပခုက္ကူ |
| ၂ | ဦးမာဂိန္ဒ | ၃၀ | ။ | ။ | ။ |
| ၃ | ဦးသုန္ဒရ | ၂၆ | ။ | ။ | ။ |
| ၄ | ဦးနန္ဒိယ | ၂၂ | ။ | ။ | ။ |
| ၅ | ဦးပဏ္ဍိတ | ၆ | သီရိပဝရ | ။ | ။ |
| ၆ | ဦးကုဏ္ဍလ | ၂၉ | ။ | ။ | ။ |
| ၇ | ဦးနေမိန္ဒ | ၆ | သိရောမဏိ | ။ | ။ |
| ၈ | ဦးကုသလ | ၁၁ | မူလဓမ္မာစရိယ | ။ | ။ |

# တောင်တန်းသာသနာပြု

## အဖွဲ့မည်ကဲ့သို့ပေါ်ပေါက်လာပုံသမိုင်း

### နယ်လှည့်သာသနာပြု ဩဝါဒတော်

ခြောက်ကိုပ်ရှိသြား ငါ့ချစ်သားတို့—

ရှည်လျားလှစွာ၊ မနေရသာသည်၊ သံသရာဝဋ်၊ ဒုက္ခဩတ်မှ၊ မလွတ်နိုင်ဘဲ၊ တသဲသဲလျှင်၊ အမြဲနေ၊ များမိုလ်ခြေကို၊ ရှောင်သွေသန့်ရှင်း၊ ဝဋ်မှကင်းအောင်၊ ချွတ်ချွတ်ခြင်းအမှုကို၊ ငါဘုရားရှင်လည်း ပြီးနိုင်ခဲ့ပြီ။

ငါ့တပည့်သား သင်ရဟန်းများလည်း အလားတူ ချွတ်ချွတ်နိုင်စွမ်းရှိခဲ့ကြပြီ။

ဒုက္ခဝဋ်ဘွင်း၊ ဩတ်ကျောကွင်း၊ လွန်မင်းပျော်ပိုက်၊ နှစ်ချိုက် ကုန်သော သတ္တဝါဘို့သည်း၊ လွန်စွာပင် များပြားကြလှချေ၏။

ထိုသူတို့၏ စီးပွားချမ်းသာကို၊ ကောင်းစွာပြု၍ နှိုင်းစိတ်ချည်သန်၍၊ အတန်တန်သော မြို့ရွာဒေသများသို့ သွားရောက်လှည့်လည်ကြကုန်လော့။

ဂလာဘ၊ ဇေါ်သ၊ မောဟဩတ်ကွင်း၊ သံ၌ရှင်ဘွင်းမှ၊ လွတ်ကင်းနိုင်ကြောင်း၊ တရားကောင်းကို၊ ပြောင်းမှ ဟောကြားရန်၊ အမြန်ဘွက်ခွါကြလေလော့။

ခရီးတကြောင်း၊ နှစ်ပါး၊ ပေါင်း၍၊ မသွားလာကြလေနှင့်၊

၈, လယ်, ဆုံး, သုံးပါးလုံးကောင်းခြင်းရှိသော၊ ငါဘုရား၏ တရားတော် အဖြိက်မှိုင်းကို၊ ရွှေမြို့သွန်းချန်းဆော်ကြကုန်လော့။

ရဟန်းခွင်ငါ၊ နိုဝင်လီသူ၊ တွေ့ကြုံမှုသည်း၊ ကြည်ဖြူ၍ လက်ခံ၍၊ ငါဘုရားထံသို့ မခေါ်လာဘဲ၊ သင်ကို ဘာသာ၊ သုံးဖြာသော သရဏဂုံဖြင့်၊ ပြန့်စုံစွာ ဆင်မြန်းလျက်၊ ပဟန်း အဖြစ်သို့ ဆိုက်ရောက်အောင်၊ ချွတ်ဆောင်ခြင်းကို၊ ငါဘုရား ခွင့်ပြုတော်မူလိုက်ပြီ။

ဤသော နယ်လှည့်သာသနာပြုဩဝါဒတော်နှင့် ခွင့်ပြုတော်မူချက်များကို ဗုဒ္ဓရှင်တော် ဘုရားသည်၊ ဗာရာဏသီပြည်၊ မိဂဒါဝုန် တောယ် ၌ရှိသမည်သော ချွတ်ချွတ်ကြီး၏ ကျောင်း၌ ပဥ္စမဝါကြီးမဝါဆိုတော်မူပြီးနောက်၊ ဝါကျွတ်တော်မူလျှင်ပင်၊ မိန့်ကြားတော်မူခဲ့ခြင်း ဖြစ်ပေသတည်း။

ထိုအမိန့်တော် ၌ ဩဝါဒတော်တို့ကို ပေးတော်မူ၍ အခါက လောက သံသာ တော်၌ရေ မှ ၆၀ မျှ ရှိသေး၏။ ကောဏ္ဍည ... ပဥ္စဝဂ္ဂီ ငါးပါး၊ အဖွင့် ယသနှင့် တကွ မိတ်အဆွေ ယသ၏ လူ ၅၀ က အဆောင်နှင့် ... သည်းကြသော ... ယသ သူဌေးသား၊ ... ဂဝမ္ပတိသော ပုဂ္ဂိုလ် များသေးပါ၊ ဝရာဏသီ အနီးမှ အရှင်ယသ၏မိတ်ဆွေဖြစ်ခဲ့ကြကုန်သော သူဌေးသားငါးကိုပ်အားဖြင့်၊ အစုစုတပည့်သား သံဃာရဟန္တာဆိုလျှင်၊ ခြောက်ကိုပ်မျှသာ ရှိသေးသည့် အချိန် အခါ ဖြစ်ပေသတည်း။

ဗုဒ္ဓရှင်တော်ဘုရား ထင်ရှားပွင့်တော်မူစအခါက မဇ္ဈိမဒေသ၌၊ နှစ်ရှည်လများ ထွန်းကားခဲ့သော ဗြဟ္မဏ ဘာသာကြီးသည်၊ အမြစ် စိုက်လျက် ရှိ၏။ ''ဇိန'' ခေါ် ''ဂျိန်း''ဘာသာများနှင့် တကွ အခြား ဘာသာ ဝါဒအမျိုးမျိုးတို့သည်း ကြီးပွားနေသော အချိန် ခေါ်ပြစ်၏။ ထို့ကြောင့်၊ သာမညဘာသာသစ်, သာသနာသစ် တခုသည်၊ ထိုရှေ့ဘာသာ ဝါဒများကို၊ လွှမ်းမိုးနိုင်ရန် အပထား၍၊ ယှဉ်ပြိုင်လျက် တိုးဝင် တည်ထောင်ရန်ပင် လွန်စွာ ခဲယဉ်းသော အချိန်ကာလကြီး ဖြစ်ပေ၏။ သို့သော်လည်း ထိုမျှခဲယဉ်းသော အချိန်အခါကြီး မှာပင်၊ အခြား ဘာသာဝါဒ အသီးသီး တို့ကို လွှမ်းမိုး၍ထွန်းကားနိုင်ခဲ့ပေ၏။ ထိုသို့ လွှမ်းမိုးထွန်းကားရာ၌လည်း နှစ်ပေါင်းများစွာ ပြုစုပျိုးထောင်နေရသည် မဟုတ်ချေ။ အံ့ဩသောက်အောင် လျှင်မြန်စွာ လွှမ်းမိုး ထွန်းကားနိုင်ခဲ့ပေ၏။ ဤသို့ အောင်မြင် နိုင်သည့် အကြောင်းရင်း အကြောင်းခံ များကို ဗုဒ္ဓဘာသာစာပေပြဖြူအစား၊ တိဝက်စာဆိုများကို အမှီပြု၍၊ ကျွန်ုပ်တို့ ဉာဏ်မှီသမျှ နှိုက်နှိုက်စစ်စစ်ရှာ ရပါလျှင်—

(၁) တရားတော် (အယူဝါဒ)၏ မှန်ကန်ခြင်း။

(၂) အလွန် နိုင်မြဲနသည်၊ ဇာတ်ဖွဲ့ခြင်းသဘောကိုတွန်းလှန်ပယ်ဖျက်တော်မူလျက်၊ အယုတ် အလတ် အမြတ် မရွေး၊ သာသနာတော်သို့ ဝင်ရောက်ခွင့် ပြုတော်မူခြင်း။

(၃) မြို့ ရွာ တော တောင်မရွေး ဒေသစာရီ လှည့်လည်၍၊ သာသနာပြုလုပ်ငန်း ကို၊ ကိုယ်တော် တိုင်မနားမနေ ဆောင်ရွက်တော်မူရုံမျှမက၊ အထက်ပါ ဩဝါဒတော် အတိုင်း၊ တပည့်သား သံဃာတို့အား ပြည်းနည်းဆောင်ရွက်စေတော်မူခြင်း။

ဟူသော အချက်ကြီး သုံးချက်ဘို့ကို၊ ထင်ရှားစွာ တွေ့မြင်ပေ၏။ ဗုဒ္ဓရှင်တော်ဘုရား၏ အဖြစ်သနစ်တော်များကို၊ ဖတ်ရှုလေ့လာ ဘူးသူ တိုင်း၊ ရှင်တော်မြတ်ဘုရားသည်၊ ဘုန်းအတည်ကြည်၊ ပြည်အဖြံဖြံ၊ ရွာ နိဂုံး အထပ်ထပ်၊ တောတောင်အရပ် ဝိသို့ အကြိမ်ပေါင်း များစွာ-လှည့်လည်၍ သာသနာပြုတော်မူပုံ များကို တွေ့နိုင်ကြပေကုန်၏၊ ထိုကြောင့် အဆိုပါ အချက်ကြီး သုံးချက် တို့တွင်၊ နယ်လှည့် သာသနာပြု လုပ်ငန်းသည်၊ ကြီးပွား အောင်မြင်ရန် အရေးကြီးသော အကြောင်းရင်းကြီးတရပ် ဖြစ်ကြောင်းကို သတိပြုသင့်လှပေ၏။

သက်တော်ထင်ရှား၊ ရှင်တော်ဘုရား မရှိသည့်နောက်၊ သာသနာ့ဝင်တလျှောက်ကို တွေးထောက် မြော်မြင်၊ ဆင်ခြင်ကြည့်ရှု၊ သတိပြုပြန်ကလည်း၊ ဗုဒ္ဓဘာသာ သာသနာကို သဒ္ဓါကြည်ညို၊ မှီခိုကြကုန်သော ရှင်ရဟန်း အဆက်ဆက်၊ ဘုရင်မင်းအဆက်ဆက်တို့သည်လည်း၊ ကာလဒေသ အလျောက် အနည်းနည်း အဖုံဖုံ၊ သာသနာပြုခဲ့ကြရာတွင်၊ နယ်လှည့် သာသနာပြု လုပ်ငန်းကိုလည်း အပန်း တကြီး ဆောင်ရွက်ရန် မမေ့ မလျော့ ခဲ့ကြပုံ များကို၊ သာသနာဝင် ရာဇဝင် သမိုင်းကပင် သက်သေခံလျက်ရှိကြပေပြီ။

အထူးအားဖြင့်၊ ကျွန်ုပ်တို့မြန်မာပြည်တွင် မြန်မာမင်း အဆက်ဆက် တို့သည်၊ ဗုဒ္ဓဘာသာ သာသနာတော်မြတ်ကို၊ ထူးကဲစွာကိုးကွယ် ပြုစုခဲ့ကြသည့်ပြင်၊ ပြည်သူလူထုကလည်း ကြည်ညို ကိုးကွယ်သော သာသနာ ဖြစ် ခဲ့ ရ ပြန် သော ကြောင့်၊ အဓိတ်အပင် အတားအဆီးမရှိဘဲ၊ ကြီးပွားထွန်းကားခွင့်ကို ရရှိခဲ့ပေ၏။

ထိုနောက်၊ ဗုဒ္ဓသာသနာတော်သည် အားနည်းဘို့ နှ အကြောင်း တရပ် ဖြစ်ပေါ်ခဲ့လေ၏။ ထိုအကြောင်းကား–၁၂၄၇ ခုနှစ်၌၊ ဗုဒ္ဓဘာသာ သာသနာပြု သီပေါ ဘုရင်မင်းမြတ်သည်၊ အင်္ဂလိပ် တို့အား၊ မိမိစိုးပိုင်တော်မူသမျှ၊ နိုင်ငံတော် အလုံးကို၊ လွှဲအပ်တော် မူလိုက် ခြင်းပင် ဖြစ်ပေသည်။

ကိုးကွယ်သော လူမျိုးများ ကြီးပွားမှ သာသနာလည်း ကြီးပွားထွန်းကားခဲ့ပုံ များကို နောက်ကြောင်း သာသနာဝင်၊ ရာဇဝင်များ၌ သက်သေခံများစွာ ရှိခဲ့သည့် အတိုင်း၊ ကျွန်ုပ်တို့ မြန်မာပြည်တွင်၊ ဗုဒ္ဓဘာသာ သာသနာသည် တစတစ ညှိုးမှိန်ခဲ့ရလေတော့၏။

အင်္ဂလိပ်များ ကြီးစိုးနေစဉ်အတွင်း၌၊ သာသနာရေးနှင့် ပတ်သက်၍ သာသနာ ငိုင်ခန့်ဘားချီ မြင့်ခြင်း၊ အဋ္ဌမဟာ လှူတ ဘွဲ့တံဆိပ် ဆက်ကပ် လှူဒါန်းခြင်း၊ နှစ်စဉ် ပထမပြန်စားမေးပွဲ ကျင်းပပြုလုပ်ခြင်း၊ စသော အားဖြင့် အထိုက် အလျောက် ထောက်ပံ့ ပြုစုသည်များကို တွေ့မြင်ရပေ၏၊ တနည်းအားဖြင့် ''သာသနာတော် အရေး၌ လွှတ်လပ်စွာ ကိုးကွယ်ခွင့် ပြုသည်''ဟူသော ကျေညာချက်အတိုင်း သိသိသာသာ ဘက်လိုက်ချုပ်ချယ်မှု များကို မတွေ့ကြုံခဲ့ခြင်းသည်ပင် သာသနာရေး အတွက် ကံကောင်းသည်ဟု ဆိုရာ ဖြစ်ပေ၏။ သို့သော် အမျိုးတူ ဘာသာတူချင်း မဟုတ်သောကြောင့် အားရကျေနပ်လောက်အောင် ချီးမြှင့် ထောက်ပံ့မှုကား မရှိခဲ့ပေ။

သို့ရာတွင်၊ ခရစ်ယန် သာသနာ၏ အခြေအနေကား၊ ဘကြီးတော်ဘုရား လက်ထက်တွင် ဒေါက်တာဂျပ်ဆင်(Dr. Judson.) ရောက်လာသည်မှ အစ၊ မြန်မာနိုင်ငံတော်၌ တစတစ ခြေကုပ် ရခဲ့၍၊ အင်္ဂလိပ်လူမျိုးတို့ လုံးဝ ကြီးစိုးလာသော အချိန်အခါ၌မူကား၊ လူအား–ငွေအား အဖွဲ့ အားဖြင့် အင်္ဂလိပ် အမေရိကန် စသော သာသနာပြု ပုဂ္ဂိုလ်များက ခရစ်ယန်သာသနာကို အင်တိုက် အားတိုက် ပြုစုဆောင်ရွက်လေတော့၏။

ထို့ကြောင့် အင်္ဂလိပ်တို့ အုပ်စိုးနေချိန် အတွင်း၌၊ မြန်မာ, ရှမ်း, ကချင်, ချင်း, ကရင်, လဝ, ပအို့, စသော တိုင်းရင်းသားတို့တွင်၊ အခြား ဘာသာ သာသနာသို့ ဆိုက်ရောက် ကိုးကွယ်၍ သွားကြသော သူတို့ကား မနည်းလှချေ။

မြန်မာ နိုင်ငံတော် အတွင်းရှိ တောင်တန်း ဒေသများနှင့် ပတ်သက်၍ သံဃာတော်အရှင်မြတ်တို့သည်၊ သာသနာပြုရန် အတွက် ကြွရောက်လှည့်လည် ဟောပြောမှု၊ သီတင်းသုံးမှု၊ အလွန်နည်းပါးခဲ့သည်များကို တွေ့ရပေ၏၊ အားနည်းရဟန်းတော် အနည်းငယ် မျှသာ ရှိခဲ့လေသည်။ သို့သော် ထိုသို့ နည်းပါးခဲ့ ရခြင်းသည်လည်း အကြောင်းမဲ့ မဟုတ်ချေ။

၁။ နေ့ထိုင်း အထောက် အပံ့ နည်းပါးခြင်း။

၂။ သွားလာဘို့ရန် မလွယ်ကူခြင်း။

၃။ အရှင်ဆက်ဆံသီတင်းသုံးဘို့ရန် မလွယ်ကူခြင်း။

၄။ ဘေးအန္တရာယ် အမျိုးမျိုး တို့နှင့် တကွ ရောဂါဥပါဒ်များ ပြားခြင်း။

၅။ (ယခင် အင်္ဂလိပ် ခေတ်က) အနှောင့်အယှက် အကြပ် အတည်း များစွာ ရှိနေခြင်း။

စသော အခက် အခဲ အမျိုးမျိုးတို့ကြောင့် ထိုတောင်တန်း ဒေသများသို့ သာသနာပြု ကြွတော်မူသည့် အရှင်မြတ်များ မရှိသလောက် နည်းပါးခဲ့ရခြင်းဖြစ်ပေ၏။

### တောင်တန်း သာသနာပြု အဖွဲ့ အစပထမ ဖြစ်ပေါ် လာပုံ

ထိုမျှဆောင်ရွက်နိုင်သူ၊ ဆောင်ရွက်လိုသူ နည်းပါး ခဲ့သော တောင်တန်း သာသနာပြု လုပ်ငန်းနှင့် ပတ်သက်၍ အင်္ဂလိပ်တို့ အုပ်စိုးစဉ် ဒုတိယ စစ်ကြီး မဖြစ်မီနှစ်အနည်းငယ်အတွင်းက မုသိမ် ဦးဝိမလ ဆရာတော်သည် တောင်တန်းဒေသများသို့ မိုင်ပေါင်း များစွာ ခြေလျင် လှည့်လည် သာသနာရေးကိစ္စနှင့် တောင်တန်းသားတို့၏ အခြေအနေကို ကိုယ်တွေ့မျက်မြင် စုံစမ်း ထောက်လှမ်းခဲ့၍၊ ရန်ကုန်မြို့သို့ပြန်လည် ကြွလာပြီးလျှင်၊ သာသနာ့တော်ကြီး အထောက်အကြည်ညို၊ လေးစား ... ကြီး ... ဦး ... အား မိမိ တွေ့မြင်ခဲ့ရသော အကြောင်း အရာ များကို ပထမဦးစွာ စိတ်ဝင်စားဘွယ်ရာ မိန့်ကြားခဲ့လေသည်။



မြေတွင်းဌာပနာတိုက်မှ ပေါ်လာသော ဂဝံကျောက်ကြုတ်တော်



ကြုတ်အတွင်းမှ ကျောက်ဆင်းတုတော် ငွေကလပ်နှင့်ရွှေကြုတ်။

## တောင်တန်းသာသနာပြုမှ အဆက်

ထိုနောက်၊ ၎င်းပုသိမ်ဦးဝိမလ ဆရာတော်ကိုယ် အကြောင်းပြု၍၊ သူဌေးကြီး ဆာ,ဦးသွင်၊ စက်သူဌေး ဦးဘိုးဗျော ဝတ်လုံတော်ရဦးသိန်းမောင် [ယခု လွှတ်တော်တရားဝန်ကြီးချုပ်] မြိတ်သျှဘားမားသူဌေး ဦး‌ညွန့် အောင်ဇေယျာဘွဲ့ ဦးဒိုးဘ၊ ပါဠိဆရာကြီး ဆရာဝ အစရှိသော ပုဂ္ဂိုလ်များနှင့်ရန်ကုန်မြို့သွင်စိနိမာရုံကြီး၌ မြို့လုံးကျွတ် အစည်းအဝေးတရပ်ကျင်းပကာ ဥက္ကဋ္ဌ ဆာ,ဦးသွင်အမှူးပြု၍ အထက်ပါပုဂ္ဂိုလ်များ ပါဝင်သောတောင်တန်းသာသနာပြုအသင်းတဖွဲ့ဖွဲ့စည်း ခဲ့ကြလေသည်၊

သို့ရာတွင်သာသနာပြုပုဂ္ဂိုလ်များရနိုင်ရန် ခဲခဲယဉ်းယဉ်း ရှာနေဆဲမှာပင် ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွားမည့် အရိပ်နိမိတ်များ အထင်အလျှား ပေါ်လာပြီးလျှင်၊မကြာမီအတွင်း မြန်မာပြည်အတွင်းစစ်မီးကူးစက် လာခြင်းကြောင့်၊ တောင်တန်းသာသနာပြုလုပ်ငန်းကိုရည်မှန်းသည့်အတိုင်း ဆောင်ရွက်ရန်အထမမြောက်တော့ဘဲ အခိုက်အတန့်ရပ်စဲခဲ့ရပြန်လေသည်။

ထို့နောက် ဒုတိယကမ္ဘာစစ်ကြီးအပြီး၌ ၁၃၀၈-ခု၊ နယုန်လဆန်း ၁-ရက်နေ့တွင် ရန်ကုန်ပြည်ဘော် ရွှေဂုံတိုင်လမ်းခြောက်ထပ်ကြီး ဘုရားကြီးကျောင်းတိုက်၌ ကျင်းပသော မြန်မာ နိုင်ငံလုံးဆိုင်ရာ ဂိုဏ်းပေါင်းစုံ မဟာသံဃာအဖွဲ့ချုပ် ပြည်လုံးကျွတ် နှစ်ပတ်လည်အစည်းအဝေးကြီးတွင် ဥက္ကဋ္ဌ သူဌေးကြီး ဆာ'ဦးသွင်က၊ မှလ ၁၂ မ ဗိုဒ်ဓ ၇ ၁ က်င် စီစဉ်ခဲ့သော တောင်တန်း သာသနာပြုရေးကိစ္စကို သတိရ၍—

''မြတ်စွာဘုရားအလိုတော်အရ၊ ရှေးက မင်းကောင်းမင်းမြတ်များ သာသနာပြုတော်မူခဲ့ကြကုန်သကဲ့သို့ ယခုခေတ်အခါ၌ ကာလဒေသအားလျော်စွာ မြန်မာနိုင်ငံတော်နယ်စပ်ရှိ တောင်တန်းဒေသများ၌လည်း၊သာသနာပြုရေးကိစ္စကို ပြန်လည် ထူထောင်ရန်အတွက် မြန်မာနိုင်ငံလုံးဆိုင်ရာ ဗုဒ္ဓဘာသာအဖွဲ့ချုပ်က၊ ပစ္စယာနုဂ္ဂဟဖြင့် စွမ်းအားရှိသျှထောက်ပံ့လှူဒါန်းလိုကြောင်း။၎င်းပြင် ရေမြေခြားတိုင်းရင်းသားများဖြစ်ကြသော တောင်တန်းသားများအား သာသနာရေးဘက်မှ အားပေး ချီးမြှောက်ခြင်း အားဖြင့်၊ တိုင်းရင်းသား အချင်းချင်း ရင်နှီးလေးစား၊ မေတ္တာပွားလျက် များစွာ ပွားလူးကျေးဇူးဖြစ်ထွန်းဘွယ်ရှိကြောင်း။''

များကို ပြောက်ဆားခဲ့သည် ၁အခါ၊ ယခုတည်ရှိသော ပြည်ထောင်စု မြန်မာနိုင်ငံတော် တောင်တန်းသာသနာပြုအဖွဲ့ကြီးကို ဂိုဏ်းပေါင်းစုံ မဟာသံဃာအဖွဲ့ချုပ်ကြီးနှင့် ဗုဒ္ဓဘာသာ အဖွဲ့ချုပ်ကြီးက၊ စည်းကမ်းတကျ ဖွဲ့စည်းတည်ထောင်ခဲ့ကြပေရာ၊ ယခုအခါ၊ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏ အထောက်အပံ့ဖြင့် ဆိုင်ရာပုဂ္ဂိုလ်များသည် ဆိုင်ရာ ဘ ဝန်များကို အာသွန်ကြီးပမ်းလျက်ရှိကြလေသတည်း။

..... ....

## ကျိုက်ဒေးအပ်မှအဆက်

ဒေးအဲ့ကား မွန်ဘာသာ၊ မြန်မာဘာသာ အားဖြင့် ကျိုက်-ကားဘုရား၊ဒေး-ကားကုန်း၊အဲ့ကား-သီချင်းသည်၊ ထိုကြောင့် (သီချင်းသည်ကုန်းစေတီ) ဟုဆိုလိုသည်

ထိုဗိုလ်တထောင် စေတီကို ဟံသာဝတီ ဆင်ဖြူရှင်သည် အိမ်ရှေ့မင်း ဖြစ်စဉ် ထင်မိတည်ထားပြုပြင်တော်မူသည်။ ၎င်းနောက် အင်္ဂလိပ်တို့ မြန်မာပြည်ကို သိမ်းပိုက်စအခါတွင် ရွှေကျင်မင်းကြီး တစ်မံ ပြုပြင်ပြန်သည်။ ၎င်းနောက် မြို့ပျက်ပြန်၍ ရန်ကုန်မြို့သူမြို့သားတို့ ထပ်မံပြင်ဆင်ကြပြန်သည်။

### အယူဝါဒ ကွဲပြားခြင်း

အချို့ပညာရှိတို့ကဤဗိုလ်တထောင် စေတီကါ၊ဥက္ကလာပမြို့သူဌေးသူဌေးကြီး၏သား၊ဖြစ်ကြသောတဖုဿဘလ္လိကညီနောင်တို့ ပင့်ဆောင်ခဲ့သော သာဓါတ်ဆံတော်ရှင်ရှစ်ဆူတို့တွင် တဆူကို ဌာပနာ၍ တည်ထား သောစေတီဖြစ်သည်။ ဤနေရာ၌တည်ထားခြင်းမှာလည်း မဇ္ဈိမဒေသမှ ဆံတော်ရှင်တို့ကိုသင်္ဘောဖြင့်ပင့်ဆောင်လာရာ ဤဆိပ်ကမ်းသို့ ရှေးဦးစွာဆိုက်ကပ်၍ ခေတ္တ ကိန်းဝပ်တော်မူပြီးလျှင် အပူဇော်ခံဘူးသော နေရာထူးဖြစ်သောကြောင့် နောင်လာနေသားတို့အ ထိမ်းအမှတ်ဖြစ်ရစ်စေခြင်းငှါ တည်ထားကိုးကွယ်ခြင်းဖြစ်သည်ဟု ဆိုကြသည်၊ အချို့ပညာရှိတို့ကလည်း၊ ဤဗိုလ်တထောင် စေတီကား တဖုဿ ဘလ္လိကတို့ ပင့်ဆောင်လာ၍ခေတ္တ ဆံတော်ဓါတ်ကိုးကွယ်၍ ဥက္ကလာပမင်းကြီး၏ ဗိုလ်မင်းတထောင်တို့ ကြိုဆိုစောင့်ရှောက်ခဲ့ဘူးသည်ကိုစွဲ၍ ဗိုလ်တထောင်တွင်သည်ဟုယူဆကြသည်၊

အချို့ ပညာရှိတို့ကလည်း ဤစေတီကား ဗိုလ်မင်းတထောင် စေ င့်ရှောက်ခဲ့ဘူးသည်ကို စွဲ၍ ဗိုလ်တထောင်တွင်သည် မဟုတ်၊ ဝင်စင် က ႏ တဖုဿ ဘလ္လိ က တို့ ပင့်ဆောင်လာသောအခါ ရဟန်းရှင်, လူတို့ရှမျှော်နိုင်ဘို့ ခေတ္တ ကိန်းဝပ်ပေ ်ရန် အုတ်ဒိုက် တော င် ဆိုထားသည်ကိုစွဲ၍ (အတိုဘောင်ဘုရား) ဆိုလိုသည်။ နောက်က လ ၂ င်လျှ းလာသော အခါ (ဗိုလ်တထောင်ဘုရား) ဖြစ်လာသည်။ ။ကျိုင်ဒေးအဲ့ ဆိုရာ၌လည်း (ကျိုက်သဒ္ဒေးအာတ်) ဖြစ်သည်။ မွန်ဘာသာ၊မြန်မာဘာသာအားဖြင့် ကျိုက်ဘုရား၊ လဒ္ဒေး-အဘိုးဒို၊ အာတ်တောင်း၊ထို့ကြောင့် (အဘိုးတောင်းဘုရား) ဆိုလိုသည်ဟု ယူဆကြသည်။

မြိတ်သျှဘားမား ဂေဇက်တီးယားစာမျက်နှာ ၁၃၂ တွင်ကား ဗိုလ်တထောင်စေတီတော်သည် ရန်ကုန်မြို့တွင် ရှိ၍ သင်္ဘောဆိပ်ကမ်း၊ တံတားကြီးများအောက်ဆွယ်ရှိမြစ်ကမ်းနဖူးပေါ်၌ တည်ရှိလေသည်။ ဒေသန္တရ သမိုင်းအရဆိုလျှင် မြန်မာသက္ကရာဇ် ၃၅၉-ခုနှစ်တွင်၊ တွံတေးမြို့ ဥက္ကလာပမင်းကြီး၏ အမိန့်တော်နှင့် ပဲခူးမြစ်ထဲ၌ ရေနစ်၍သေဆုံးသော သားတော်မင်းနန္ဒာ၏အလောင်းကို မီးသင်္ဂြိုဟ်သောနေရာတွင် စစ်ဗိုလ်တထော င် ထိုစေတီကိုတည်ရသည်ဟုဆိုလေသည်။ ထိုစေတီရှိသော ရပ်ကွက်ကိုလည်း ဗိုလ်တထောင်ရပ်ကွက်ဟု ခေါ်ကြသည်။

### အမှန်ယူဆချက်

အမှန်အားဖြင့် သီချင်း သည်ကုန်းစေတီဖြစ်စေ၊ ဗိုလ်တထောင်စေတီဖြစ်စေ၊ အဘိုးတောင်း စေတီဖြစ်စေ၊ ဘယ်သို့ပင် ခေါ်ဝေါ်ပြည့်တ်စေကာမူ၊ ဆံတော်စစ် ဌာပနာ ထားကြောင်းကား အမှန်ပင် ဖြစ်သည်။ တဖုဿဘလ္လိကတို့ ပင့်ဆောင်လာသော ဆံတော်ရှင်ဟုတ် မဟုတ်ကိုကား မဆုံးဖြတ်နိုင်၊ တတိယသံဂါယနာတင်၍ သောဏဥတ္တရထေရ်တို့ သုဝဏ္ဏဘူမိသထုံပြည်သို့ ကြွလာတော်မူပြီးနောက် သာသနာသက္ကရာဇ် ၂၄၀ ကျော် ၂၅၁ လောက်တွင် အရှင်သ ၃ အမှူးရှိသော ရဟန္တာ ရှစ်ပါးတို့ ပင့်ဆောင် လာသော သရီရဓာတ်တော်စစ်နှင့် ဆံတော်စစ် ဖြစ်နိုင်ကြောင်းကိုကားနောင်တွင်ရှိဌာပနာပစ္စည်းများကို ဖူးမြော်ရ သောအခါ ရွှေကြုတ်



ငွေကလပ်နှင့်ရွှေကြုတ်ကိုဖွင့်ပြထားသောပုံ။



ရွှေကြုတ်အတွင်းမှ နားဒေါင်းပုံရွှေကြုတ်ငယ်။

ငယ်အတွင်းက သရီရဓာတ်တော်စစ်နှစ်ဆူနှင့်ဆံတော်စစ်တဆူကို ဖူးတွေ့ရသဖြင့် သမိုင်းအဆိုနှင့် ညီညွတ်နေရကား ဓါတ်တော်စစ်ဆံတော်စစ် ဖြစ်ကြောင်းကိုယုံကြည်ထိုက်ပေသည်။

## စေတီတော်ပျက်စီးခြင်း

ဤသို့လျှင် ဗိုလ်တထောင် စေတီတော်သည် နှစ်ပေါင်း ၂၀၀၀-ကျော် ကာလပတ်လုံး လူ နတ် မြဟ္မာ သတ္တဝါအများတို့ ရှူခါန်းပူဇော် ဖူးမျှော် ကံတော့ခြင်းကို ခံယူကာ လူနတ်နိဗ္ဗာန်သုံးတန်သော ချမ်းသာကို ပေး၍ လာခဲ့ရာ ဒုတိယကမ္ဘာစစ်ကြီး ဖြစ်လာသောအခါ လက်နက် အမျိုးမျိုး တို့ဖြင့် ပစ်ခတ်ခြင်း၊ သူခိုးထားပြ ထကြွ သောင်းကျန်းခြင်းတို့ကြောင့် တကမ္ဘာလုံး အနှံ့အပြား ပျက်စီးကြသည်၊ အချို့ အသက် စည်းစိမ်ပင် ဆုံးရှုံးကြသည်၊

၁၃၀၅–ခု နတ်တော်လဆန်း ၁၂–ရက် (၈–၁၁–၄၃) နေ့တွင် မိုးကြိုးစက်တဖျူအလွန် ပြင်းထန် လှသော ဗုံးဒဏ်ခံ,သဖြင့် မရှုမလှ ကြွပျက်စီးကာ အုတ်ပုံမြေပုံဘဝသို့ ရောက်ရှာလေသည်။ ထိုအခါ ဖူးမြင်ရသူတိုင်း ယူကျုံးမရဖြစ်ကြသော်လည်း တိုင်းပျက် ပြည်ပျက် အခါပျက်ကြီးဖြစ်၍ မပြုပြင်နိုင်တော့ဘဲလစ်လျူရှုကာ ထားခဲ့ကြရသည်း

## ပြန်လည် ထူထောင်ရေး အဖွဲ့ ဖွဲ့စည်းခြင်း

သတ္တဝါတို့ ကုသိုလ်ကံ အလျောက် ကမ္ဘာစစ်ကြီး ငြိမ်းငြိမ်း၍ ၁၃၀၈–ခုနှစ်သို့ ရောက်သောအခါ ထိုဗိုလ်တထောင် စေတီတော်ကို ပြန်လည် ထူထောင်ရန် ကိစ္စကြီးအတွက် ဗုဒ္ဓသာသနာပြု သူဌေးကြီး ဆာဦးသွင်၊ အငြိမ်းစား တရားဝန်ကြီးချုပ် ဆာမြဘူး၊ တရေးဝန်ကြီးချုပ် ဦးသိမ်းမောင်၊ ဗုိလ်တထောင် ဘုရားလူကြီးဦးဘသော်၊အငြိမ်းစား၊သမဝါယမအသင်းဝန် ဦးမောင်ကလေး စသော ရန်ကုန်မြို့ပေါ်ရှိလူကြီးမင်းတို့သည်၊ ကျွမ်းကျင် လိမ်မာသော အင်ဂျင်နီယာ ဗိသုကာဆရာကြီးတို့နှင့် တိုင်ပင် ညီညွတ်ကာ ပြန်လည်ထူထောင်ရေး အဖွဲ့ကြီးကို ဖွဲ့စည်းပြီးလျှင် ပျက်စီး ယိုယွင်းလျက်ရှိသော ဗုိလ်တထောင် စေတီးတော်၏ အုတ်ပုံကြီးကို ရှင်းလင်း သုတ်သင်ခြင်း စသော မုဒ္ဒိကိစ္စ အဝဝတို့ကို မနေမနား ကြိုးစားဆောင်ရွက်ခဲ့ကြလေသည်။

## အဖွဲ့ဝင်လူကြီးများ

၁။ သူဌေးကြီး ဆာဦးသွင် ဥက္ကဋ္ဌ။
၂။ အငြိမ်းစား တရား ဝန်ကြီးချုပ် ဆာမြဘူး။
၃။ တရားဝန်ကြီးချုပ် ဦးသိမ်းမောင်။
၄။ မြိတ်သျှဘားမား ရုပ်ရှင် သူဌေး ဦးညွန့် ဒုတိယဥက္ကဋ္ဌ။
၅။ ဗိုလ်တထောင်ဘုရားလူကြီး ဦးဘသော် ဒုတိယဥက္ကဋ္ဌ။
၆။ သူဌေးဦးဘိုးဖျော့ ငွေထိန်းလူကြီး။
၇။ အငြိမ်းစား သမဝါယမအသင်းဝန် ဦးမောင်ကလေး အကျိုးဆောင်၊
၈။ အမြတ်တော် အရေးပိုင် ဦးလူကလေးတွဲဘက်အကျိုးထောင်။
၉။ သူဌေး ဦးကြင်သိန်း စာရင်းစစ်လူကြီး။
၁၀၊ သူဌေးဦးအိဒွက်တွဲဘက်စာရင်းစစ်လူကြီး။
၁၁။ ချင်သင်းသူဌေး ဦးဘတင်။
၁၂။ မြို့တော်ဝန်ဟောင်း ဦးသင်းမောင်။
၁၃။ ခင်မခအင်ဆန်းသူဌေးဦးသာငင်း။
၁၄။ တရုပ်အမျိုးသားလူကြီးဦးမျိုးရှုး၊
၁၅။ ထတ်လုံတော်ရ ဦးဘလှ။
၁၆။ ကုန်သည်ကြီး ဦးအုန်းတင်။
၁၇။ ဦးဘတင်။
၁၈။ ပဋ္ဌမကျော် ဦးကြီးဖေ။
၁၉။ သမဝါယမဝန် ဦးကျော်အေး၊
၂၀။ ဝတ်လုံတော်ရဦးဘရှင်(M.B.E)
၂၁။ သူဌေး ဦးဘသွင်။
၂၂။ သမာဓိ သတင်းစာတိုက်ရှင် ဦးတကလေး။
၂၃။ မီးရထားကုန်ဝန်ထောက် ဦးဘသန်း။
၂၄။ ဘီ-အို-စီကိုယ်စားလှယ်ကြီးဦးစိန်
၂၅။ ဦးဘစိန်၊
၂၆။ မီးရထားဝန် ဦးမောင်မောင်။
၂၇။ ဦးအောင်သိန်း။
၂၈။ ဦးငွေမှုင်။
၂၉။ ကံထရိုက်တာကြီး ဦးမောင်မောင်စိန်။
၃၀။ ဦးကျော်သာ။
၃၁။ ဒေါက်တာ အုံးကြည်၊
၃၂။ တိုင်းပြုပြည်ပြု လွှတ်တော် အမတ် ဦးသန်းစိန်။
၃၃။ ဝတ်လုံတော်ရ ဦးထွန်းတင်။
၃၄။ ကုန်သည်ကြီး ဦးဟန်။
၃၅။ ကုန်သည်ကြီး ဦးဘိုးကြင်။

## အတိုင်ပင်ခံ ဗိသုကာကြီးများ

၁။ ဦးတင် K.S.M,F.I.I.A.
၂။ ဦးလှသွင် F.R.I.B.A,A.M.I.C.E
၃။ ဦးအုန်းသန်း F.R.I.B.A
၄။ ဦးသာထွန်း F.R.I.B.A,A.M.T.P.I
၅။ မစ္စတာ ဒူးမောင်း B.Sc.
၆။ ဦးအုန်းကြိုင် ရေဝန်ဘက် ဆိုင်ရာ အင်ဂျင်နီယာကြီး။
၇။ ဦးထွန်းတင် ၎င်း။

## ရွှေပန္နက်တော်စိုက်ထူခြင်း

၁၃၀၉–ခု ပြာသိုလဆုတ် ၉–ရက်နေ့ကား နှစ်ပေါင်း ၁၀၀ ကျော် ကျွန်တွင်းသပေါက်တွင်းသို့ ကျရောက်နေသော မြန်မာပြည်ကြီးသည်၊ လွတ်လပ်ရေးကို ရ၍ ပြည်ထောင်စု သမတ နိုင်ငံကြီး တည်ထောင်နိုင်သော နေ့ထူးနေ့မြတ်ကြီး ဖြစ်သည်။ ထိုအခါ ပြန်လည် ထူထောင်ရေး အဖွဲ့ဝင်လူကြီး တို့လည်း နိုင်ငံသစ် ထူထောင်သည့်အလား သာသနာသစ် ထူထောင်သောအနေဖြင့် ထိုနေ့ထူးနေ့မြတ်ကြီး၌ပင် ရွှေပန္နက်တော် စိုက်ထူရန် ဆုံးဖြတ်ကြသည်။

ထိုလဆုတ် ၉ ရက်နေ့ နံနက် ၈–နာရီ ၅၄ မိနစ် မင်္ဂလာ သိဒ္ဓိအခါတွင် မင်္ဂလာ သဘင် ဆင်ယင် ကျင်းပလျက် ဘေးရန် အန္တရာယ် ကင်းလွတ်၍ ဘုရားတည်ခြင်း ကိစ္စ အမြန်ပြီးမြောက်စေရန် သမ္မာဒေဝ နတ်ကောင်း နတ်မြတ်တို့ကို ပူဇော် ပသပြီး လျှင် သာသနာတော်စောင့်နတ်၊ စတုလောကပါလ နတ်မင်းကြီး လေးယောက်တို့ကို အရှေ့ ,အနောက်, တောင်, မြောက် အထက် အောက် ဤအရပ် ၆–မျက်နှာတို့၌ အစောင့် အရှောက် ထားလျက် အလယ်ဗဟိုရ်ရွှေပန္နက် တော်ကို ဥက္ကဋ္ဌကြီး ဆာဦးသွင်၊ အရှေ့ မြောက်ထောင့် ရွှေပန္နက်တော်ကိုဗုိလ်တထောင် ဘုရားလူကြီး ဦးဘသော်၊ အရှေ့တောင်ထောင့် ရွှေပန္နက်တော်ကို၊ အငြိမ်းစား တရားဝန်ကြီးချုပ် ဆာမြဘူး၊ အနောက်တောင်ထောင့် ရွှေပန္နက်တော်ကို သူဌေး ဦးဘိုးဖျော့၊ အနောက် မြောက်ထောင့် ရွှေပန္နက်တော်ကို တရားဝန်ကြီးချုပ် ဦးသိမ်းမောင်၊ဤပုဂ္ဂိုလ်ကြီး ၅–ဦး တို့ အသီးအသီး ကိုင်စွဲကာ တပြိုင်နက် စိုက်ထူကြလေသည်။

## ထူးခြားသော ဌာပနာပစ္စည်းများကို တွေ့ခြင်း

ရွှေပန္နက်တော် စိုက်ထူပြီးသောအခါ စေတီတော်ကြီးကို ပြန်လည် တည်ထားရန် ယိုယွင်းပျက်စီးနေသော အုတ်ပုံကြီးကို ရှင်းလင်းသုတ်သင်ကြရာ အလွန်ထူးခြားသော အောက်ပါဌာပနာ ပစ္စည်းများကို တွေ့ရလေသည်။ ထိုဌာပနာ ပစ္စည်းတို့တွင် အချို့မှာ နှစ်ပေါင်းများစွာကြာမြင့်သဖြင့်ပုပ်စီး၍နေသည်ကိုတွေ့ရသည်။

၁၃၀၉–ခု ဝါခေါင်လဆန်း ၁၃ ရက်နေ့ တွင် စေတီရံများ မှ တွေ့ရှိသော ပစ္စည်းများ–

၁။ ကျေးဆင်းတုတော် ၈ ဆူ။

၎င်းလဆန်း ၁၄ ရက်နေ့–

၁။ ကျေးဆင်းတုတော် ၅ ဆူ၊

စေတီတော်ကြီးမှ–

၁။ ငွေဆင်းတုတော် ၂၂ ဆူ။
၂။ ကျောက်ဆင်းတုတော် ၅ ဆူ။
၃။ ကျေးဆင်းတုတော် ၁ ဆူ။

၁၃၀၉–ခု ဝါခေါင် လပြည့် နေ့တွင် စေတီရံများမှ တွေ့ရှိသော ပစ္စည်းများ–

၁။ ကြေးဆင်းတုတော် ၅ ဆူ။

၎င်းမနက် တွေ့ရှိသော ဌာပနာ ပစ္စည်းများမှာ လွန်ခဲ့သော နှစ်ပေါင်း ၄၀ လောက်က ဌာပနာထားသော ပစ္စည်းများဖြစ်၍ စေတီတော် ပြိုသဖြင့် ထပ်မံပြင်ဆင်သော အခါ ဌာပနာ ထားဟန်တူသည်။

၁၃၀၉–ခု ပြာသိုလဆုတ် ၁ ရက်နေ့တွင် စေတီတော်ကြီး ငှက်ပျောဖူး ထဲမှ တွေ့ရှိသော ပစ္စည်းများ:–

၁။ ရွှေလက်စွပ် အတွဲလိုက် ၂၃ ကွင်း။
၂။ ရွှေကြေးစည်နှင့် နတ်ရုပ် ၁။
၃။ ရွှေကြေးစည်နှင့်ငွေပန်းခိုင်၊ ၁။
၄။ နဂါးရုပ်နှင့်စေတီငယ် ၁ ဆူ။
၅။ ကျောက်စီ ထားသော စေတီငယ် ၁ ဆူ။
၆။ ကျောက်ဖြူးများနှင့် ဖလ်ဘူး ၁။
၇။ ရှင်ဥပဂုတ် ၁ ဆူ။
၈။ ရွှေအုပ်အသေးနှင့်ငွေအုပ် ၁။
၉။ ရွှေပန်းခိုင်များ ၁။
၁၀။ ငွေကလာပ်နှင့်ဓာတ်တော် ၁ ဆူ။
၁၁။ ကျောက်များနှင့်ငွေသပိတ် ၁ လုံး။
၁၂။ ငွေဖလားငယ် တစုံ ၄ လုံး။
၁၃။ ငွေထုံဘူး ၁ လုံး။

၁၄။ ငွေစများနှင့်ရွှေဇယုံသီး ၁ လုံး။
၁၅။ ရှင်သီဝလိ ၁ ဆူ။
၁၆။ ငွေဆင်းတုတော် ၂ ဆူ။
၁၇။ ကျောက်ဆင်းတုတော် ၁ ဆူ။
၁၈။ ငွေလောက်လေး ၁။
၁၉။ ငွေယပ်တောင် ၂။
၂၀။ ကြေးဝါဆင်းတုတော် ၂ ဆူ။
၂၁။ ကြေးဆင်းတုတော် ၁ ဆူ။
၂၂။ ငွေသင်ရှုန်းထား ၁။

၁၃၀၉ ခု နှောင်းတံခူး လဆုတ် ၄ ရက် နေ့တွင် နောက်ထပ် တွေ့ရသော ဌာပနာပစ္စည်းများ။

၁။ ငွေဆင်းတုတော် ၂ ဆူ၊ ၁၂၇၀-ပြည့် ကြည့်မြင်တိုင်၊ ကိုသာလှိုင်-မဘုတ်။

၂။ ငွေကြုတ်နှင့် ဓာတ်တော် ၉ ဆူ၊ အိုးဗိုရပ်၊ ပြဿဒ်ကျောင်းအမ ဒေါ်ရစ်။

၃။ ငွေထုံ'ဘူးနှင့်ဓာတ်တော် ၀ ဆူ၊ ကိုဘိုးဝင်း၊ မအေးခင်။

၄။ ငွေကြုတ်နှင့်ဓာတ်တော် ၁၅ ဆူ၊ ကိုစော်ကဲ-မစံမယ်။ ၊

၅။ ငွေကြုတ် နှစ်ခုနှင့် ဓါတ်တော် ၉ ဆူစီ၊ မကြည်၊မအေးညွှန့်။

၆။ ပုလင်း၊ ရွှေကြွပ်နှင့် ဓါတ်တော်များ ဒေါ်စိုးကောင်းမှု။

၇။ ငွေပေါင်ဒါဘူးနှင့် ကျောက်မျိုးစုံ ရတနာ ၇ ပါး။ တန်ဆောင်းအမ ဒေါ်မိန်းကလေး သားသမီးတစု။

၈။ ငှက်မျှောစုး၊ ထီး၊ စိန်ဖူးနှင့် စေတီငယ်တဆူ။

၉။ ရွှေကြာပန်း၊ ငွေပြား၊ ခံ ၁၊ ကိုတိုးဝင်း မအေးခင်။

၁၀။ ငွေကြုတ်နှင့်ဓါတ်တော် ၂ ဆူ၊
၁၁။ ငွေပန်းခက် ၁။
၁၂။ ငွေပန်းခက်နှင့် ရွှေစိန်ဖူး ၁။
၁၃။ ရွှေဒင်္ဂါး၊ ၂-ကျပ်။ (၁၉၀၅-ခုနှစ်၊ ၁၉၀၆-ခုနှစ်။
၁၄။ ကြေးပြား ၇။
၁၅။ ငွေဆည်းလည်း ၁။ ၁၂၀၄-ခု၊ တပို့တွဲလ၊ မိုလ်တထောင်စတီး၊ စက်တန်းအမိ ဒေါ်ညိမ်း၊ လှ သား မောင်မိုးမင်း မောင်တင်နှင့်ညီမဘာစု။

## ဓါတ်တော်တွေကြွလာပြီ

အထူးအားဖြင့် ကောင်းမှုရှင် ဒေါ်စိုးလှဒါန်းသော ရွှေကြွပ်ဓါတ်တော် ပုလင်းမှာ မူလ ဓါတ်တော် ဆယ်ဆူမျှ ရှိသော်သည်း တဖြည်းဖြည်းကြွလာတော်မူသဖြင့် ဓါတ်တော်ဘို့မှာ ယခုအခါ ဆူရေ (၅၀၀) ကျော်မျှဖြစ်ပါသည်၊ အဖွဲ့ဝင်လူကြီးများနှင့် ဖူးမြင်ဖန်ကြွလာသူ ရှူဒါန်းသူတို့ ကိုးကွယ်ထိုက်ဒ်ကြွသာခြင်း ဖြစ်ပါသည်။ တိုးပွားဟောခြင်း ဖြစ်ပါသည် (အလှန်အံ့ဩဘွယ်ကောင်းလှသ)

## မြေတွင်းဌာပနာတိုက်ကို တွေ့မြင်ခြင်း

ဧရှပန္နက်ဖိုက်ထူမှီသော အခါ၌စန္ဒအုတ်မြစ်ချရန် နေ့စဉ်ရှင်းလင်း တူးဆွကြမြန်ရာ ဘုရားပျက်၏ အလယ်မဟုတ်မြေ အောက်အနက် ၃ ပေလောက်တွင် ဂဝံကျောက်တုံးဖြင့် သေသပ်စွာ ပြုလုပ်ထားသော ဌာပနာတိုက်ကို တွေ့လေ၏။ ထိုဌာပနာတိုက် အတွင်း အလယ် တည့်တည့်၌ကား ဂဝံကျောက်ဖြင့်ပြုလုပ်ထားရှိ အလွန်ဆန်းကြယ်သော လုံးတော် ၁၀ ပေခွဲ အမြင့် ၃ ပေခွဲရှိ စေတီ သဏ္ဍာန်ဖြကျောက်ကြုတ်တော်ကို တွေ့ပြန်လေ၏၊ ယင်းထိုကျောက်ကြုတ်၏နံဘေးပတ်ထည့်၌ကား အကျယ်ပေ ၂၀၊ အမြင့် ၆ ပေရှိလျက် အထက်၌ ဇမြည်၊မြည်းကျဉ်းရွှဲ ငိတ်နှံ၊စေလျက် အိုးကြီးတလုံးကိုမှောက်၍ ထားသကဲ့သို့ ဂဝံကျောက်တို့ဖြင့် ပြုလုပ်ထားသော ကျောက် ဌာပနာတိုက်ကို ဖြင်လေ၏၊ ၎င်းဌာပနာတိုက်ကို ထိပ်တည့်တည့်မှ တူးပေါ်မိသဖြင့် ကျောက်ကြုတ်ပေါ်လာခြင်းဖြစ်သည်၊ နှစ်ပေါင်း ၂၀၀၀ ကျော်ကြာမြင့်လာသဖြင့် ဌာပနာတိုက်အဘွင်းသို့ ရေစိမ့်၍ဝင်လျက်ရှိသည်။ ကျောက်ကြုတ်၏နံဘေးပတ်လည်၌ ညွန်နှစ်တို့ဖြင့် ပြည့်လျက်ရှိသည်၊ ကျောက်ကြုတ်ကို ရံလျက် ၎င်းညွန်ထဲ၌ ဆွေးမြေ့ကျိုးပဲ့လျက် ဂဝံကျောက်ကို ထုလုပ်ထားသော နဘ်ရုပ်များကို တွေ့ရသည်၊ ဆံတော်နှင့် ဓါတ်တော်တို့ကို အစောင့်အရှောက်ချထားဟန်တူသည်။

ဤသို့ဆန်းကြယ်ထူးခြားလှစွာသော ဌာပနာတိုက်ကို တွေ့ရှိသောအခါ အဖွဲ့ဝင်လူကြီးများနှင့် တိုင်းသူ ပြည်သားတို့သည် ''ငါတို့ကား ရှေးကံဟောင်းထောက်မသဖြင့် နှစ်ပေါင်း ၂၀၀၀ ကျော်ကဌာပနာထားခဲ့သော သရီရဓါတ်တော်စစ်နှင့် ဆံတော်စစ်တို့ကို ကိုယ်တိုင်မျက်မြင်ဖူးတွေ့ရပေပြီ၊လူဖြစ်ရကျိုးနပ်ပေပြီ'' ဟု အလွန်ဝမ်းမြောက်ကြသည်၊ အချစ်ရစ် အနှယ်နယ်မှလည်း များပြန် ခဲမှုပရိသတ်တို့သည် လာရောက်ဖူးမျှော်ကြကုန်၏၊ ကျောက်ကြုတ်တော်ကိုကား မဖွင့်ရသေးပေ၊ မျှော်ရှန်း၍သာ ဖူးမျှော် ကြရသည်။

## ဖွင့်ထိုက်မဖွင့်ထိုက်

ထိုနောက် အဖွဲ့ဝင် လူကြီးတို့သည် ကျောက်ကြုတ်တော်ကို ဖွင့်မည်ဟု ကျေညာလိုက်သောအခါ မျက်မြင် ဖူးမျှော်လိုသောသူတို့သည် လာရောက် စည်းဝေးကြကုန်၏၊ ထိုအခါ ဖွင့်ထိုက် မဖွင့်ထိုက် ပြဿနာသည် ဖြစ်ပေါ်၍လာ၏၊အဖွဲ့ဝင်လူကြီးတို့သည် ရှေ့နောက် တိုင်းထွာဝိစရဏဉာဏ်ပညာဖြင့် ဆင်ခြင်စဉ်းစားကာ မွှင့်ခသားဘဲ နှစ်ကြိမ် သုံးကြိမ် ဆွေးနွေးဟိုင်ပင်ကာ ရပ်ဆိုင်း၍ထားကြလေ၏၊

၁၃၀၉ ခု၊နှောင်းကဆုန် လဆန်း ၂ ရက်နေ့တွင်ရန်ကုန်မြို့ရှိ အဂ္ဂမဟာပဏ္ဍိတ ယသဇေယျာ၇ှိ ဆရာတော် အဂ္ဂမဟာပဏ္ဍိတ လေသာ ဆရာတော်၊ ပခုက္ကူမြို့ မဟာ ဝိသုဘာ ရာမဘိုက် ဆရာတော်၊ ရန်ကုန်မြို့ ၊စုရားကြီး ဆရာတော်၊ တချ ဆရာတော်၊ ဦးဓမ္မိက၊ ကြည့်မြင်တိုင် ဝေဠုဝန် ဆရာတော်၊ဗဟန်း ဝေဠုဝန်ဆရာတော်၊ သရက်တောတိုက် သာသနာလင်္ကာရဆရာတော်၊ တောင်ဘီလူး ဆရာတော်၊နှစ်ကျိပ်ရှစ်ဆူ ဆရာတော်၊မင်္ဂလာသုခ ဆရာတော်၊ ပုဇွန်တောင် ကျောင်းကြီး ဆရာတော်၊ဘုရားဖြူဆရာတော်၊ရွှေကျင်တိုက် မန်းဦး ဆရာတော်၊ အရှင်အာဒိစ္စဝံသကျောင်းဆရာတော်၊ ဤဆရာတော်ကြီး (၁၅) ပါး တို့ကို ဘိတ်ပင့်ည်၊ဆေး စေပြီးလျှင် ကျောက်ကြုတ်တော်ကို ဖွင့်ထိုက် မဖွင့်ထိုက် ပြဿနာကို လျှောက်ထားကြ ကုန်၏၊ ဆရာတော်ကြီးတို့လည်း ပသန္နစေတနာဖြင့် ပြုလုပ်သော အရာဖြစ်၍ တစုံတရာ အပြစ်မရှိ ကုသိုလ်တရား ပွားများ၍ အကျိုးများကြောင်းကို တညီ တညွတ် တည်း ဆုံးဖြတ် တော်မူကြသည်။

## ကျောက်ကြုတ်ကို ဖွင့်ခြင်း

၁၃၀၉-ခု ကဆုန်လဆန်း ၁၂ ရက် တနင်းလာနေ့ နံနက် ၆ နာရီ ၅၅ မိနစ်အချိန်တွင် အဖွဲ့ဝင်လူကြီးများနှင့်ပရိသတ်စုံညီ မျက်မှောက်ငယ် ဆရာတော် ၁၅ ပါးတို့ ဆုံးဖြတ်ချက်အရ ဥက္ကဋ္ဌ သူဌေးကြီး ဆာဦးသွင်ကြီးမှူး၍ အဖွဲ့ဝင်လူကြီးတို့သည် အဘိုးအနဂ္ဃ ထိုက်တန်သော ကျောက်ကြုတ်တော်ကို တစုံတရာ ပွန်းပဲ့ထိခိုက်ပျက်စီး၊ ချွတ်ယွင်းခြင်းမရှိစေဘဲ ပသန္န စေတနာဖြင့် ဖွင့်လှစ်ကြ ကုန်၏။ (အောက်-အုတ်ကလာပ်ပေါ်တွင် တင်ထားသောအဖုံးကို ဖွင့်ခြင်းသာဖြစ်သည် ရိုက်ချိုး၊ ထွင်း၊ ဖေါက် ၍ ဖွင့် နေ ရ သည် မဟုတ်။)

## ကြုတ်အထပ်ထပ်ရှိခြင်း

ဖွင့်ပြီးသော စေတီ သဏ္ဍာန် ဂဝံကျောက်ကြုတ် တော်ကား၊ အောက်က အုတ်ခုံကလာပ်ပေါ်တွင်ဖုံးအုပ်ထားခြင်း ဖြစ်သည်၊ အပြင်ဆုံး အထပ်လည်း ဖြစ်သည်၊ ၎င်းကို ဖွင့်လိုက်ပြီးသော အခါ အတွင်း၌ အောက်ခြေကလာပ် ပန်းတင်ခုံနှင့် တဘွယ်ပိတ်မှောက် ဖေါင်းရစ်ခုနှစ်ခု နှံ့အစုံအလင် ရွှေတင်းငင်းနှင့် ကျောက်ကြုတ် တခု ပေါ်လာပြန်၏၊ ၎င်းမှာ အလွန်ချောမွေ့ သေသပ်လှ၏၊ ရွှေတင်းဝင်၊ ရှိသဖြင့် ကြည်ညိုဘွယ် ကောင်းလှ၏၊ မြင်ရသော ပရိသတ်တို့လည်း ဆံတော်ကို ဖူးရလိမ့်မည်ဟု အလွန် အားတက်ကြကုန်၏၊ ၎င်း၏ပန်းတင်ခုံ ဘေးပတ်လည်၌ ညွှန်အနည်ငယ် ရှိ၏၊ ၎င်းညွှန်တို့ကိုယူ၍ ရေတွင် ကျင်သောအခါ ကျောက်, ယံ, ပတ္တမြား, ရွှေပြားကြီး, ရွှေပြားငယ်, လက်စွပ်, နားဒေါင်း စသော ရတနာအမျိုးမျိုး အဘိုးတန် ပစ္စည်းတို့ကို တွေ့ရှိပြန်၏၊

## ငွေကလာပ်နှင့်ရွှေကြုတ်

ထိုစေတီသဏ္ဍာန်အတွင်း၌ကျောက်ကြုတ်ကို ဖွင့်ပြန်သောအခါ ငွေကလာပ်ငယ်ပေါ်တွင် ဖုံးအုပ်ထားသော ရွှေသားပကတိကို ဆန်းကြယ်စွာ ပြုလုပ်ထားသော စေတီသဏ္ဍာန်၊ဝင်းဝင်း ပြောင်ပြောင် တောက်လောင် ဘနန်း အလွန်ဆန်းကြယ်လှသော ရွှေကြုတ်ကို တွေ့ရှိပြန်၏၊ ၎င်းကလာပ်နှင့် ရွှေကြုတ်၏ နံဘေးရှိ ကျောက်ကလင်ပေါ်တွင် သေသပ်စွာ ကျောက်သား ပကတိကို ပြုလုပ်ထား၍ အလွန်ရှေးကျသော ကျောက်ရုပ်ပွားတော်တဆူကို သပိတ်တော်ကို ပိုက်လျက် ရွှေတင်းငင်းနှင့် တွေ့ရှိပြန်၏၊အလွန်ကြည်ညိုဘွယ်ကောင်းလှ၏၊

## ရွှေကြုတ်ငယ်

ထိုစေတီသဏ္ဍာန်ရှိ ရွှေကြုတ်တော်ကို ဖွင့်ပြန်သောအခါ ဖက်လိပ် နားဒေါင်း သဏ္ဍာန် သေးငယ်သော ရွှေကြုတ်ကို တွေ့ရှိပြန်၏၊ ထိုအခါ ဖူးမြင်သောပရိသတ်တို့လည်း ရေးအခါထက်ပိုမို၍အားတက်လာကြပြန်၏၊ ၎င်းကြုတ်တွင်းရှိ ညွှန်အနည်းငယ်ကို ထုတ်ကာ ရေဖြင့်ကျင်၍ ယူသောအခါ မုန်ညင်းစေ့မျှ သရီရဓါတ်တော်စစ် ၂ ဆူနှင့် လွင့်စင်ပျောက်ပျက်မသွားနိုင်အောင် သားမွှေးဖြင့် ခွေလုံးကာ ရွှေချထားသော ဆံတော်စင်ကို တွေ့ရှိပြန်၏၊ ၎င်းဆံတော်စစ်ကားလုံး၍ထားသဖြင့် မှန်ဘီလူးဖြင့် ဖူးမြင်သောသူတို့မှာ ဆံတော်မါတ်သည် ပိုမို ထင်ရှားစွာ ဖူးတွေ့ရကုန်၏၊ရောက်လာသောပရိသတ်တို့လည်း အကြိမ်ကြိမ်ဖူးမျှော်၍ အားမရ နိုင်အောင်ရှိကုန်၏၊

၁၃၀၉-ခုနှစ်၊ကဆုံန်လဆန်း ၁၂ နေ့၊ မြေတွင်းဌာပနာတိုက် ဂဝံကျောက်ကြုတ်တော်အတွင်းမှ ရှိသောပစ္စည်းများ။

၁။ ပန်းတင်ခုံ သပိတ်မှောက်ဖေါင်းရစ် အစုံအလင်ပြုလုပ်ထားသောကျောက်စေတီ ၁ ဆူ (၎င်းကားဒုတိယထပ်ကြုတ်ဖြစ်သည်)။

၂။ ကျောက်စေတီ အတွင်းမှ ညက်တော် ၅ ဒိုလက်မရှိ ငွေကလပ်နှင့် ရွှေစေတီ ၁ ဆူ (၎င်းကားဘတိယထပ်ကြုတ်ဖြစ်သည်။)

၃။ ရွှေစေတီအတွင်းမှ အမြင့် ၉ ပဲ၊ ထိပ်ဝ ၅ ပဲ၊ ဖက်လိပ် နားဒေါင်း သဏ္ဍာန်၊ ရွှေကြုတ်ငယ် ၁ ဆူ၊ (၎င်းကား တေုတ္ထထပ် ကြုတ်ဖြစ်သည်။)

၄။ ရွှေကြုတ်ငယ်အတွင်းမှ မုန်ညင်းစေ့ခန့်ရှိ ဓါတ်တော်စစ် ၂ ဆူ သားမွှေးဖြင့်လုံးကာ ရွှေချထားသောဆံတော်စစ် ၁ ဆူ။

၅။ ညက်တော် ၄ဒိုလက်မရှိပုံတော် အလွန်ရှေးကျသော ကျောက်ရုပ်တုတော် ၁ ဆူ၊

၆။ ရွှေ, ငွေ, ကျောက်, သံ, ပတ္တမြား, ရတနာအမျိုးမျိုး၊ လက်ဝတ် လက်စား ရှေးဟောင်းပစ္စည်းအမျိုးမျိုး။

ဤသို့လျှင် စေတီပျက် အုတ်ပုံထည်းမှ ၎င်း၊ ဌာပနာတိုက်အတွင်းမှ၎င်း၊တွေ့ရှိဖူးမျှော်ရသော ရွှေ, ငွေ, ကြေး ကျောက် ဆင်းတုတော် ရုပ်ပွားတော်တို့မှာ ဆူရေ (၇၀၀) ခန့် ရှိသည်၊ ရွှေငွေကျောက်သံ ပတ္တမြား ရတနာ အမျိုးမျိုး တို့လည်း များပြားလှသည်။

## တိုက်တွန်းချက်

အို.....မုဋ္ဌဘာသာ သမ္မာဒိဋ္ဌိယင် သူတော်စင်အပေါင်းတို့ နှစ်ပေါင်း ၂၀၀၀-ကျော်လောက်က ဌာပနာ ထားခဲ့သော သရီရဓါတ်တော်စစ်၊ဆံတော်စစ်တို့ကား အကျွန်ုပ်တို့ဘုန်းကံကြောင့် ပေါ်ပေါက်၍လာပေပြီ၊ နှစ်ပေါင်း ၂၀၀၀ ကျော်မှ ခဲခဲယဉ်းယဉ်း ပေါ်ပေါက်၍လာသော ဓါတ်တော်စစ်၊ဆံတော်စစ်တို့ကို လူဖြစ်ကျိုးနပ်လေအောင် ဖူးမျှော်ကြကုန်လော့၊ ပူဇော်သက္ကာရ ပြုကြကုန်လော၊

.....၀.....

**စာမျက်နှာ ၄ မှအဆက်။**

ကို သုတ်သင် တည်းဖြတ်ခြင်းငှါ ပွမ်းဆောင်နိုင်သော မဇ္ဈိမဒေသ ရဟန်းတော်ပေါင်း ၁,၁၄၈ ပါးပါဝင်ဖွဲ့စည်းအပ်သည့် ပါဠိဝိသောဓကအဖွဲ့ ၁၁၄ ဖွဲ့တို့က၊ ပဉ္စမသင်္ဂါယနာတင် မူတော်ဟု ဆိုအပ်သော၊ မန္တလေးမြို့ ကျောက်စာမူနှင့် တိုက်ဆိုင်ပြီး၊ နိကာယ် ငါးရပ် ပိဋကတ်ပါဠိတော် (အုပ်ရေအားဖြင့် ၃၈ အုပ်) တို့ကိုခွဲဝေ၍မိမိတို့၏အဖွဲ့က တာဝန်ကျသည့် ပါဠိတော်ကို ဆိုင်ရာ အဋ္ဌကထာဋီကာများနှင့်ရင်း၊ မြန်မာမူ၊ သီဟိုဠ်မူ၊ ကမ္ဘောဒီးယားမူ၊ လန်ဒန်မူဟုဆိုအပ်သောမူကွဲပါဠိတော်များနှင့်ရင်း၊ ညှိနှိုင်း၍သုတ်သင်တော်မူခဲ့ကြရာ၊ယခုအခါ၊ ပါဠိဝိသောဓကအဖွဲ့ ၇၄ ဖွဲ့တို့မှ၊ ကျမ်းစာအုပ်ရေ ၃၁ အုပ်ပြီးစီးပြီဖြစ်ပါသည်။ ကျန် အဖွဲ့များမှ ကျမ်းစာအုပ် သည်လည်း မကြာမီအတွင်း ပြီးစီးပါလိမ့်မည်။

## (၄) ပါဠိပဋိဝိသောဓကအဖွဲ့

ထိုပါဠိဝိသောဓကအဖွဲ့များမှ သုတ်သင်ပြီး ပါဠိတော် ကျမ်းစာများကို ပရိယတ္တိ၌အထူးကျွမ်းကျင်တော်မူကြသော ဆရာတော်ကြီးများ ပါဝင်ကာ ဖွဲ့စည်းထားသည့်ပါဠိပဋိဝိသောဓကအဖွဲ့များက ထပ်မံ စစ်ဆေးတော်မူကြရာ၊ ဝိနည်းငါးကျမ်းနှင့်သုတ်သီလက္ခန်ပါဠိတော်ပြီးစီးပါပြီ၊ ထိုပါဠိ ပဋိ ဝိသောဓက အဖွဲ့များက သုတ်သင်စစ်ဆေးပြီး ပါဠိတော်များကိုတဖန် မြန်မာ၊ ယိုးဒယားနှင့် သီဟိုဠ်နိုင်ငံမှ ကိုယ်စားလှယ် ဆရာတော်များ ပါဝင်သည့် ပါဠိပဋိဝိသောဓကအဖွဲ့က ထပ်မံတည်းဖြတ်တော်မူရာ၊ယခုအခါ ဝိနည်းငါးကျမ်းပါဠိတော် ပြီးစီးပြီဖြစ်ပါသည်။ကျန်ပါဠိတော် များကိုလည်း ဤနည်းအတိုင်း ထပ်မံစစ်ဆေး၍ သုတ်သင်တည်းဖြတ်တော်မူကြပါလိမ့်မည်။

## (၅) နိဒါန်း၊ မာတိကာနှင့် ခေါင်းစဉ်စသည်များ ထည့်သွင်းခြင်း

ပါဠိပဋိဝိသောဓကအဖွဲ့များက စစ်ဆေးတည်းဖြတ်ပြီး သမျှ ကျမ်းစာများကို ဝန်ဆောင်သံဃာအဖွဲ့သို့ တင်ပြ၍၊ ဝန်ဆောင်သံဃာအဖွဲ့၏အတည်ပြုချက်ရရှိသည့်အခါ၊ ဆိုင်ရာနိဒါန်း၊ မာတိကာ ဘာဏဝါရ၊ ဝဂ္ဂ၊ သုတ္တ အမည်စသောခေါင်းစဉ်ငယ်များနှင့် အက္ခရာ ဝလိများထည့်သွင်းခါ၊ စက်တင်ပုံနှိပ်ရန်ဖြစ်လေသည်။

# ၄။ ပိဋကတ်မြန်မာပြန်

## ၁။ ပိဋကတ် မြန်မာပြန်ဌာန

အဂ္ဂမဟာပဏ္ဍိတ ဆရာလင်း (မဟာဝိဇ္ဇာ) အမှူးရှိသော ဓမ္မာစရိယ [illegible] ပညာရှိများက ပိဋကတ်ပါဠိတော်များကို မြန်မာပြန်လျက် ရှိသည်။ ပဋ္ဌမတွင် [illegible] ပုဂ္ဂိုလ်များက ပြန်ဆိုပြီးနောက်၊ ဝါ [illegible] တည်းအဖွဲ့ [illegible] များက ထပ်မံတည်းဖြတ်ပြီးလျှင်၊ နောက်ဆုံးအယ်ဒီတာချုပ်အဖွဲ့က ပြန် [illegible] ဆေးရလေသည်။ ယနေ့အထိ ပါဠိ [illegible] စာမျက်နှာပေါင်း ၁၃, ၀၀၄ မျက်နှာ [illegible] သည့်အနက် အယ်ဒီတာချုပ်များအဖွဲ့က တည်းဖြတ်ပြီးစီးသည့် ပိဋကတ်မြန်မာပြန်များမှာ ပါဠိတော် စာမျက်နှာအားဖြင့် ၄,၀၀၀ ခန့်ရှိပြီဖြစ်ပါသည်။

## (၂) ဝေါဟာရစိစစ်ရေးအဖွဲ့

အယ်ဒီတာချုပ် အဖွဲ့ကစစ်ဆေးပြီးစီးသည့် ပိဋကတ်မြန်မာပြန်များကို ပါဠိစာပေနှင့် မြန်မာစာပေတို့၌ ကျွမ်းကျင်သော လူပညာရှိများပါဝင်သည့် ပါဠိမြန်မာဝေါဟာရ စိစစ်ရေးအဖွဲ့က ထပ်မံတည်းဖြတ်လေသည်။

## (၃) မြန်မာ ပဋိဝိသောဓကအဖွဲ့

ထိုပါဠိမြန်မာ ဝေါဟာရစိစစ်ရေးအဖွဲ့မှစစ်ဆေးတည်းဖြတ်ပြီးသည့်ပိဋကတ်မြန်မာပြန်များကိုပါဠိနှင့်မြန်မာစာပေရပ်တွင် ကျွမ်းကျင်တော်မူသော ဆရာတော်များ ပါဝင်သည့် မြန်မာပဋိဝိသောဓကအဖွဲ့က ဆိုင်ရာအဋ္ဌကထာ ဋီကာ စသည်များနှင့် ညှိနှိုင်းခါ ထပ်မံ ပြင်ဆင်တော်မူရာ ယခုအခါ ဒီဃနိကာယ် သုတ်သီလက္ခန် ပါဠိတော်မြန်မာပြန်မှာပြီးစီးသလောက် ရှိပြီဖြစ်ပါသည်၊ ဤပိဋကတ် မြန်မာပြန်လုပ်ငန်းသည် ပိဋကတ်ပါဠိတော် သုတ်သင်ရေးလုပ်ငန်းထက် အချိန်ပိုမို ကြာမြင့်သော်လည်း (သင်္ဂါယနာ)၊ အချိန်ဇယားတွင် စီစဉ်ထားသည့်အတိုင်း အချိန်မှီပြီးစီးလိမ့်မည်ဖြစ်ပါသည်။

## (၅) ကျမ်းစာများပုံနှိပ်ရေး

ဝန်ဆောင် သံဃာအဖွဲ့၏ အတည်ပြုချက် ရရှိပြီးသော ပိဋကတ် ပါဠိတော်နှင့် ပိဋကတ်မြန်မာပြန် ကျမ်းစာများကို အမေရိကန်ပြည် စန်ဖရန်စစ္စကိုမြို့၊ ဟရီးအေရှားကော်မီတီမှ ဗုဒ္ဓသာသနာအဖွဲ့သို့ လှူဒါန်းထားသည့် ဆယ်သိန်းကျော်ခန့်တန်သော စာပုံနှိပ်စက်ကြီး အပြင်၊ အဖွဲ့က ဝယ်ယူထားသော အခြား စာပုံနှိပ်စက် ငယ်နှစ်လုံးတို့ဖြင့် ပဌမအကြိမ် အုပ်ရေ ၁,၀၀၀ စီ၊ဆက်ခါဆက်ခါ ပုံနှိပ်မည်ဖြစ်ပါသည်။ ထိုပုံနှိပ်ပြီး ပိဋကတ် ပါဠိတော်နှင့် ပိဋကတ်မြန်မာပြန်များကို ဆဋ္ဌသင်္ဂါယနာ ဓမ္မသဘင် ကျင်းပသည့်အခါ (သင်္ဂါယနာ) အချိန်ဇယားတွင် ပါရှိသည့် အစီအစဉ်အတိုင်း သင်္ဂီတိကာရက ရဟန်းတော်များက အသီးအသီး ရွတ်ဘတ်လျက်၊ သင်္ဂါယနာ တင်တော်မူကြမည်ဖြစ်လေသည်။

## (၆) အာဂုံပြန်ဆိုရေး

ရှေးရှေးသော သင်္ဂါယနာ များတွင်၊ သင်္ဂီတိကာရက အရှင်သူမြတ်တို့သည်၊ ပိဋကတ် ပါဠိတော်များကို အာဂုံနှုတ်တက်ပြန်ဆိုတော် မူကြသကဲ့သို့၊ ဤဆဋ္ဌသင်္ဂါယနာတွင်လည်း ဆိုင်ရာပါဠိဝိသောဓကနှင့် ဘာဏကာ ရဟန်းတော်များ၏ ပိဋကတ်ပါဠိတော်များကို အာဂုံနှုတ်တက် ပြန်ဆိုတော်မူကြရန် အစီအစဉ်တရပ်ကို၊ ဩဝါဒါစရိယ သံဃာနာယက ဆရာတော်ကြီးများ၏ အမိန့်အရ ထည့်သွင်းထားရှိသေသည်။ ထိုအာဂုံပြန်ဘာဏက အဖွဲ့များက နောက်တနေ့တွင်သင်္ဂါယနာတင်မည့် ပိဋကတ်ပါဠိတော်များကို ပဌမနေ့ ညဦးယာမ်အချိန်မှ စတင်၍ အာဂုံသရဇ္ဈာယ်တော်မူကြပါလိမ့်မည်၊ ဤအစီအစဉ်အရယနေ့အထိအာဂုံပြန်ရဟန်းတော် ၆၇၃ ပါးပါဝင်သည့် ပါဠိဝိသောဓက အဖွဲ့နှင့် ဘာဏကအဖွဲ့ပေါင်း ၅၃ ဖွဲ့မှ ပိဋကတ်ပါဠိတော် ကျမ်းစာအုပ်ရေ ၂၂ အုပ်ကိုအာဂုံပြန်ဆိုရန်စာရင်းသွင်းပြီးခါ၊ ထိုပိဋကတ်တော်ကျမ်းစာများကို၊ အာဂုံကျက်မှတ်တော်မူလျက် ရှိပေသည်။

# ၇။ နောက်ဆက်တွဲ သာသနာ့နုဂ္ဂဟ လုပ်ငန်းများ

## (၁) အဋ္ဌကထာနှင့်ဋီကာများ သုတ်သင်ခြင်း

ဗုဒ္ဓသာသနာအဖွဲ့၏ လျှောက်ထားတောင်းပန်ချက်အရ ပါဠိဝိသောဓကအဖွဲ့အသီးသီး၊ ကတာဝန်ကျသောပါဠိတော်ကို သုတ်သင် တော်မူပြီးနောက် ၎င်းပါဠိတော်၏ဆိုင်ရာ အဋ္ဌကထာနှင့် ဋီကာ ကျမ်းစာများကိုလည်း ဆက်လက် သုတ်သင်တော်မူလျက်ရှိပေသည်၊

## (၂) ပါဠိမြန်မာအဘိဓါန်

ပိဋကတ်မြန်မာပြန်ဌာနက ဆဋ္ဌသင်္ဂါယနာတင်ရန်အတွက် ပိဋကတ်ပါဠိတော်များကို မြန်မာပြန် ဆိုပြီးလျှင်နိကာယ်ငါးရပ်မှ ပါဠိပုဒ်များကို အက္ခရာစဉ်အတိုင်း၊ ဆိုင်ရာပါဠိတော်စာမျက်နှာ ကြောင်းရေ အညွှန်း၊ များနှင့်တကွ ထုတ်နုတ်၍ဆဋ္ဌသင်္ဂါယနာတင်မူအတိုင်းမြန်မာပြန်အသီးအသီးပါဝင်သည့်ပါဠိမြန်မာ အဘိဓါန် ကျမ်းကြီးတခုကို ဆက်လက် ပြုစုမည်ဖြစ်ပေသည်။

## (၃) တိပိဋကသာရ

နိကာယ်ငါးရပ် ပိဋကတ် ပါဠိတော်မှ ကောင်းနိုးရာရာ ဒေသနာကောက်နုတ်ချက်များတွင် ထပ်တူဖြစ်သော ပါဠိတော်ဝါကျများကို ရှေပေါင်း၍မတူကွဲပြား အရေးကြီးသောပါဠိတော်များမှရရှိသည့်အဆီအနှစ် အနက်အဓိပ္ပါယ်များသာပါဝင်သည့်ပိဋကတ်သုံးပုံအကျဉ်းချုပ်ဟုဆိုအပ်သော "တိပိဋကသာရ" ခေါ် ကျမ်းစာတအုပ်ကိုလည်း လူပုဂ္ဂိုလ်အများ၊ အလွယ်တကူ လေ့လာ ကြည့်ရှုနိုင်ရေးအတွက် ဆက်လက်ပြုစုပေးလိမ့်မည်၊

## (၄) ဗုဒ္ဓဝင်

လွန်လေပြီးသောမြတ်စွာဘုရားများ၏ အတ္ထုပ္ပတ္တိတော် အသီးသီးနှင့်တကွပါရမီတော်ဆယ်ပါး၊ စွန့်ခြင်းကြီးငါးပါး၊ စရိယ သုံးပါးအပြင် လိုရင်းဒေသနာတော်များ ပါဝင်သည့် ဗုဒ္ဓဝင် ကျမ်းသစ်တရပ်ကို

## အမှာစာ

### ဆဋ္ဌသင်္ဂါယနာ အဆောက်အဦများအတွက် အလှူတော်ငွေကိစ္စ

ရန်ကုန်မြို့အနီး ကမ္ဘာ့အေးဘုရားဘော်မြောက်ဘက် သီရိမင်္ဂလာ ကုန်းတော်တွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်နှင့် ယိုးဒယားပြည်၊သီဟိုဠ်ကျွန်း၊ ကမ္ဘောဒီးယားပြည်၊ လာအိုပြည်များရှိ ထေရဝါဒဂိုဏ်းဝင် မဟာထေရ်မြတ်ကြီးများ ပါဝင်သည့် ဆဋ္ဌသင်္ဂါယနာ ဩဝါဒါစရိယသံဃနာယကအဖွဲ့ကြီးက အမှူးပြုလျက်ရဟန်းတော်များသည်၊ကောဇာသက္ကရာဇ် ၁၃၁၆-ခုနှစ်၊ ကဆုန်လပြည့် ဗုဒ္ဓနေ့မှစတင်၍၊ ကောဇာသက္ကရာဇ် ၁၃၁၈-ခုနှစ် ကဆုန်လပြည့် ဗုဒ္ဓနေ့တိုင်အောင် ၂-နှစ် ကာလပတ်လုံး အပြီးတိုင် နိကာယ်ငါးရပ် ပိဋကတ်သုံးပုံတို့ကို သန့်ရှင်းအောင် သုတ်သင် ပြင်ဆင်လျက် ဆဋ္ဌအကြိမ်မြောက် သင်္ဂါယနာ တင်တော်မူကြမည် ဖြစ်ပါကြောင်း။ .

ထိုကဲ့သို့ဆောင်ရွက်နိုင်ရန် သိန်းပေါင်း ၁၅၀-မျှ တန်ဘိုးရှိသော ဆဋ္ဌသင်္ဂါယနာကျောက်လိုဏ်ဂူကြီး အပါအဝင် အဆောက်အဦ မြောက်မြားစွာတို့ကို စောင်ဆောက်လုပ်လျက်ရှိပါသည်။ဤကဲ့သို့ ကြီးကျယ်ခဲ့လှသည့်အခါကောင်းကြီးတွင် တိုင်းနိုင်ငံအသီးသီးမှ အလှူရှင်ပုဂ္ဂိုလ်အပေါင်းတို့သည် အလှူငွေများ ပါဝင်လှူဒါန်းလျက်ရှိနေကြပါသည်။ပြည်ထောင်စုအတွင်းရှိ အများပြည်သူလူထုအပေါင်းအား မြို့နယ်ဒေသအလိုက်ဖြစ်စေ၊အသင်းအဖွဲ့အလိုက်ဖြစ်စေ၊ တဦးခြင်းအနေအားဖြင့်ဖြစ်စေ၊အသီးသီးစေတနာ သဒ္ဓါတရားရှိသမျှ နည်းများမဆို ကုသိုလ်ပါဝင်နိုင်ရန် ပြည်ထောင်စုအစိုးရက တိုက်တွန်းနှိုးဆော်ပါသည်။ဤကဲ့သို့ အခါကောင်း အခွင့်ကောင်းကြီးမျိုးမှာ နှစ်ပေါင်း ၂၅၀၀-တွင်တကြိမ်မျှသာ ရရှိပါသည်။မိမိတို့သား စဉ်မြေးဆက်တွင်ပင် ပေါ်ပေါက်ကြုံကြိုက်ရရှိဘို့ ခဲယဉ်းလှပါသည်။

သို့ဖြစ်ပါ၍ တိုင်း-ခရိုင်နှင့်မြို့နယ် ပြည်တော်သာအဖွဲ့များအား၊ ဤမွန်မြတ်လှသော ဆဋ္ဌသင်္ဂါယနာ သာသနာရေးကိစ္စအချပ်တွင် စိတ်ပါဝင်စားစွာ ကူညီဆောင်ရွက်ကြစေလိုပါသည်၊မိမိတို့ဆိုင်ရာနယ်ပယ်များ၌ပြည်တော်သာလုပ်ငန်းများ ဆောင်ရွက်ရာ၌ ပြည်သူလူထုအပေါင်းတို့အား ဆဋ္ဌသင်္ဂါယနာတင် ကိစ္စကို အထူးဝရမြှ၍ ဟောပြောပြီးလျှင် စေတနာသဒ္ဓါတရားအလျောက် မိမိတို့အင်အားရှိသမျှ အလှူဒါနပါဝင်ကြစေရန်နှိုးဆော်ပေးစေလိုပါကြောင်း။

ဘစိန်
အတွင်းဝန်
အမျိုးသားစီမံကိန်းနှင့်သာသနာရေးဝန်ကြီးဌာန၊

လည်း ယခုအခါ အဂ္ဂမဟာ ပဏ္ဍိတ ဆရာကြီးဦးဖိုး (မင်္ဂလာဝိဟာ) ကိုယ်တိုင်ကြီးမှူးကာ ရေးသားစီရင်လျက်ရှိပေသည်။

## (ဂ) ဆဋ္ဌသင်္ဂါယနာ ဆိုင်ရာ အစဉ်ဆက် အဘိဓာန်

ဆဋ္ဌသင်္ဂါယနာ မပြီးမီတွင် ကျင်းပမည့်အဆိုပါ သီရိမင်္ဂလာ ကုန်းမြေမြတ်တွင် သိန်းပေါင်း ၁၅၀ ခန့် ကုန်ကျမည့် အောက်ပါ အဆောက် အဦ များကို ဆောက်လုပ်မည်ဖြစ်ရာအချို့ အဆောက် အဦ များမှာ ဆောက်လုပ်ဆဲ ဆောက်လုပ်ပြီးဖြစ်ပေသည်၊

(၁) သိန်း ၅၀ ခန့် ကုန်ကျမည့်ရဟန်းတော်ငါးထောင်နှင့်လူတသောင်းခန့် စည်းဝေးနိုင်မည့် ဆဋ္ဌသင်္ဂါယနာ မဟာပါသာဏဂုဟာခေါ် ကျောက်လိုဏ်ဂူတော်ကြီး (ဆောက်လုပ်ဆဲ)။

(၂) ၃၃ သိန်းခန့်ကုန်ကျမည့် ရဟန်းတော် အပါး နှစ်ရာ ငါးဆယ်စီ သီတင်း သုံးနိုင်မည့် စံကျောင်းတော်ကြီးလေးကျောင်း (ဆောက်လုပ်ဆဲ)။

(၃) ၁၂ သိန်းခန့် ကုန်ကျမည့်ရဟန်းတော် အပါး တထောင့်ငါးရာ ထကြွခ်ထည့် ဆွမ်းဘုဉ်းပေးနိုင်မည့် ဆွမ်းစားကျောင်း ကြီး (ဆောက်လုပ်ဆဲ)။

(၄) ၂၅ သိန်းခန့် ကုန်ကျမည့် ဆဋ္ဌသင်္ဂါယနာတင် ပိဋကတ်တော်များနှင့် ဗုဒ္ဓဘာသာဆိုင်ရာစာပေကျမ်းဂန်များထားရှိရန် (ပေါတ္ထကာလယ) ပိဋကတ် တိုက်ကြီး (ဆောက်လုပ်တော့မည်)။

(၅) ၅သိန်းခန့် ကုန်ကျမည့် ဂိလာနရဟန်းတော် များ တကြိမ်လျှင် အပါးလေးဆယ်ခန့် သီတင်းသုံးကာ ဆေးဝါးခံနိုင်မည့် ဆေးရုံ (ဆောက်လုပ်တော့မည်)။

(၆) ၃ သိန်းခန့် ကုန်ကျမည့်ဆဋ္ဌသင်္ဂါယနာတင် ကျမ်းစာများ ပုံနှိပ်ရန် စာပုံနှိပ်တိုက် အဆောက် အဦ (ဆောက်လုပ်ပြီး)။

## (ဃ) နိဂုံးချုပ် နိုးဆော်ချက်

အထက်တွင် ဖော်ပြထားသည့်အတိုင်း ဆဋ္ဌသင်္ဂါယနာမှသဘင် အစီအစဉ်များတွင်ပါဝင်သော–

(၁) ပိဋကတ်ပါဠိတော် သုတ်သင်ရေးဆိုင်ရာ၊

(၂) ပိဋကတ်တော်မြန်မာပြန်ဆိုင်ရာ၊

(၃) ပါဠိ မြန်မာအဘိဓာန် တိပိဋက သာရနှင့် ဗုဒ္ဓဝင်ကျမ်း ပြုရေးဆိုင်ရာ၊

(၄) ပိဋကတ်ကျမ်းစာပုံနှိပ်ရေးဆိုင်ရာ၊

(၅) ဆဋ္ဌသင်္ဂါယနာ အဆောက်အဦများဆိုင်ရာနှင့်

(၆) ထို ဆဋ္ဌသင်္ဂါယနာ နှင့် စပ်လျဉ်းသည့် အစည်းအဝေးများသို့ ကြွရောက်တော်မူသော သံဃာတော်များအား ဆွမ်းဘောဇဉ် ဆက်ကပ်ခြင်းစသော သံဃဝေယျာဝစ္စ ဆိုင်ရာတို့အတွက် အလှူငွေထည့်ဝင် လှူဒါန်း ကြရန် မေတ္တာရပ်ခံပါသည်။

အလှူ သဖြင့် အဆောက် အဦများအတွက် အလှူငွေ ထည့်ဝင်လှူဒါန်းလိုသော ပုဂ္ဂိုလ်များသည် မိမိတို့ စွမ်းနိုင်သလောက် အဆောက် အဦ တခုလုံးအတွက်ဖြစ်စေ၊ တစိတ်တဒေသအတွက်ဖြစ်စေ အလိုရှိသလောက် သတ်မှတ် လှူဒါန်းနိုင်ကြပါသည်၊ ထိုသို့ လှူဒါန်းသည့် အလှူရှင်တို့၏အမည်များကိုလည်းဆိုင်ရာ အလှူဝတ္ထုတွင်ကမ္ပည်းထိုး၍ မှတ်တမ်းတင်ထားမည်ဖြစ်ပါကြောင်း။

## ဆဋ္ဌသင်္ဂါယနာ အလှူငွေ ကောက်ခံရေး ဆိုင်ရာ နည်းဥပဒေများ

၁။ ဆဋ္ဌ သင်္ဂါယနာအတွက် အလှူငွေ ပေါင်သူများအား အလှူငွေလက်ခံရရှိကြောင်း ဌာနချုပ်အဖွဲ့မှ ထုတ်ပေးသော ပြေစာလက်မှတ်တဆောင်စီပေးရမည်။ ထိုပြေစာလက်မှတ်စာအုပ်များကို ဗဟိုအဖွဲ့မှ ခရိုင် အဖွဲ့ များသို့ တိုက်ရိုက် တင်ကြို၍ ထုတ်ဝေပေးထားရမည်၊ ခရိုင်အဖွဲ့များမှ တဆင့် လိုအပ်သလို မြို့နယ် အဖွဲ့အသီးသီးသို့ ခွေ ပေးပို့ရမည်။

၂။ ပြေစာများကို–

(က) အလှူငွေ တန်ဘိုး သတ်မှတ်၍ မထားသည့်ပြေစာ၊

(ခ) အလှူငွေ တန်ဘိုး သတ်မှတ်၍ ထားသည့် ပြေစာ၊

ဟူ၍နှစ်မျိုးနှစ်စားထားရှိရမည်၊

(က) အလှူငွေတန်ဘိုး သတ်မှတ်၍မထားသည့် ပြေစာ များကို ငွေ ၁၀ိ ထက်မနည်းသော အလှူငွေများအတွက် သာအသုံးပြုရမည်။ ခရိုင်သို့မဟုတ် မြို့နယ်အဖွဲ့ ဥက္ကဋ္ဌ သို့မဟုတ် တာဝန် လွှဲအပ်ခြင်းခံရသော ပုဂ္ဂိုလ်မှ သာလျှင် ထိုပြေစာ လက်မှတ်များ ပေါ်၌ ငွေရကြောင်း လက်မှတ်ရေးထိုးနိုင်ခွင့်ရှိသည်။ ထိုပြေစာများအတွက် ဗဟိုအဖွဲ့မှ သာရ အနုမောဒနာ စာစောင်များ ကိုလည်း သီးခြား ထုတ်ပေးလိမ့်မည်။

(ခ) အလှူငွေ တန်ဘိုး သတ်မှတ်ထားသည့် ပြေစာများကို တကျပ်တန်၊ ငါးကျပ်တန်၊ တဆယ်တန်ဟူ၍ သုံး မျိုး သုံးစား အရောင်အသွေးခွဲခြား၍ ရိုက်နှိပ်ထားရှိရမည်။

ပြေစာများပေါ်တွင် စက်ဖြင့် ရိုက်နှိပ်ထားသော စာအုပ် အမှတ်စဉ်နှင့် ပြေစာ အမှတ်စဉ်တို့ ပါရှိရမည်။ ၎င်းတို့တွင် ငွေ ကောက်ခံ ပေးသူ များက ငွေရကြောင်းလက်မှတ် ရေးထိုးနိုင်ခွင့်ရှိသည်။

၃။ ခရိုင်၊ သို့မဟုတ် မြို့နယ် အဖွဲ့များမှ တန်ဘိုး သတ်မှတ် ထားသည့် ပြေစာများဖြင့်၊ အလှူငွေ ကောက်ခံပေးရန် တာဝန်ခံပုဂ္ဂိုလ်များအား ပြေစာ စာအုပ်များထုတ်ပေးသည့်အခါ၊ ထိုစာအုပ်များကို လက်ခံရရှိကြောင်းဝန်ခံချက် လက်မှတ် ရေးထိုးရယူထားရမည်။ ၎င်းပုဂ္ဂိုလ်များ၊ အသီးကောက်ခံရရှိသည့်အလှူငွေများနှင့် တကွ ပြေစာ လက်ခံစာအုပ်များကို ဆောလျင်စွာ သက်ဆိုင်ရာ ခရိုင် သို့မဟုတ် မြို့နယ်အဖွဲ့သို့ ပြန်လည်ပေး အပ် ရ မည်။ အကြောင်းထူးမရှိဘဲ ရက်သတ္တ တပတ်ထက်ကျော်လွန်၍ အလှူငွေများကိုဆောင်ငင်၊ ပြေစာ စာအုပ်များကို သော်၎င်း သိမ်းဆည်းခွင့်မပြုပေ။

၄။ ခရိုင်၊ သို့မဟုတ် မြို့နယ် အဖွဲ့ ဥက္ကဋ္ဌသည် မိမိတို့ တိုက်ရိုက် ကောက်ခံရရှိသော ငွေများကိုသော်၎င်း၊ သီးခြားပုဂ္ဂိုလ်များကကောက်ခံပေး၍ရရှိသည့်ငွေများကို ၎င်း၊ ရရှိသည်နှင့်တပြိုင်နက်ငွေစာရင်းစာအုပ်၌ ထည့်သွင်းမှတ်သား၍ ၎င်းငွေများကို လုံခြုံစွာ သော့ခတ်သိမ်းဆည်းထားပြီးလျှင် သက်ဆိုင်ရာ ခရိုင်ငွေတိုက်၊ သို့မဟုတ် မြို့နယ် ငွေတိုက်များသို့ ဆိုင်းငံ့ခြင်းမရှိစေဘဲ၊ ဆောလျင်စွာ ပေးသွင်းရမည်။ လကုန်ဆုံးသည့် (ငွေတိုက်ဖွင့်ရက် နောက်ဆုံး) နေ့တွင် လက်ရှိငွေ ရစေပေါင်းကို မည်သည့်နည်းနှင့် မဆို ငွေတိုက်သို့ အချိန်မှီသွားရောက်ပေးသွင်းရမည်။

၅။ ခရိုင်၊ သို့မဟုတ် မြို့နယ် အဖွဲ့ ဥက္ကဋ္ဌသည်၊ ကောက်ခံရရှိသောငွေများကို အစိုးရငွေတိုက်သို့ ပေးသွင်းသည့်အခါ၊ အစိုးရငွေသွင်းချလံဖြင့် (မိတ္တူတစောင် အပိုရေးသား၍) ပေးသွင်းရမည်၊

၎င်းချလံများပေါ်တွင် အောက်ပါ အတိုင်း ငွေသွင်းရမည့်စာရင်းခေါင်းစဉ်ကို ထင်ရှားစွာဖော်ပြရေမည်။

'(Deposits and Advances-Suspense Account—Civil) အပ်ငွေများနှင့် ကြိုတင်ထုတ်ပေးငွေများ ယာယီငွေစာရင်းများ (Suspense-Buddha Sasana Council Suspense) မြို့နယ်ဆိုင်ရာ ဗုဒ္ဓသာသနာ ကောင်စီ ယာယီငွေစာရင်း။

၆။ အထက်ပါ နည်းဥပဒေ ၅ တွင် သတ်မှတ်ထားသောငွေစာရင်းခေါင်းစဉ်ဖြင့် မြို့နယ်ငွေတိုက်ခွဲများသို့ ပေးသွင်းသော အလှူငွေများကို မြို့နယ်ငွေတိုက်ခွဲများက ခရိုင်ငွေတိုက်သို့ငွေစာရင်းပြောင်းလွှဲပေးပို့ရမည်၊ လကုန်ဆုံးသော နေ့၌ ခရိုင်ငွေတိုက်၏ စာရင်းပိတ်သည့်အခါ၊ ခရိုင်ငွေတိုက်တွင် တိုက်ရိုက် ပေးသွင်းထားသည့် အလှူငွေနှင့်မြို့နယ်ငွေတိုက်ခွဲမှ စာရင်းပြောင်းလွှဲရရှိသည့် အလှူငွေတို့ကို စုပေါင်း၍၊ ၎င်းစုပေါင်းငွေအတွက် ခရိုင်အဖွဲ့ ဥက္ကဋ္ဌက နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့သို့ ထုတ်ပေးရန် ငွေလွှဲ လက်မှတ်ကို ပြည်ထောင်စုဘဏ် ငွေလွှဲ လက်မှတ်ကို လျှောက်ထားတောင်းယူရမည်။

မှတ်ချက်။ ။ဤကိစ္စအတွက် ခရိုင်အဖွဲ့ ဥက္ကဋ္ဌသည် ခရိုင်ဝန်မင်း ဖြစ်သဖြင့် လကုန်ဆုံး၍ စာရင်းပိတ်သည့်နေ့၌ဝင်လျှင်၊ ငွေလွှဲလက်မှတ်ကိုရရှိစေရန်၊ ငွေတိုက်အရာရှိနှင့် အထူးအစီအစဉ် ပြုလုပ်ထားရှိသင့်သည်။

ခရိုင် အဖွဲ့ ဥက္ကဋ္ဌသည် ငွေလွှဲလက်မှတ်ကိုရရှိသောအခါ၊ ၎င်းတို့ ငွေစာရင်းပြုလုပ်၍ ရန်ကုန်မြို့ ဗဟိုအဖွဲ့ရုံးသို့ ပေးပို့ရမည်၊

၇။ ခရိုင် သို့မဟုတ် မြို့နယ်အဖွဲ့များ၌ အောက်ဖော်ပြပါ စာရင်းများကို ထားရှိရမည်၊

(က) ငွေစာရင်း၊

(ခ) ပြေစာ စာအုပ်စာရင်း၊

(ဂ) ပြေစာလက်ခံရှင်းတမ်း။

ငွေစာရင်းကို ပုံစံအမှတ် (၁)အရ ထားရှိ၍ စက်ဖြင့်ရိုက်နှိပ်ထားသော စာမျက်နှာ အမှတ်စဉ်များ ပါရှိစေရမည်။ ငွေစာရင်းစာအုပ်မှ စာရွက်များ၊ ပျောက်ဆုံးသည့် အကြောင်းကြောင့်ဖြစ်စေ ဆုတ်ဖြဲခြင်း မပြုရ။ ကောက်ခံရရှိသော အလှူငွေများနှင့် ငွေတိုက်သို့ပေးသွင်းသော ငွေများကို ပုံစံတွင်လိုအပ်သည့်အတိုင်း ကျနစွာရေးမှတ်ထားရမည်၊ ငွေစာရင်း စာအုပ်တွင် ဘောက်ခံမိတ္တူမှုစ်စေ ရရှိရန်ကာ ဘွန်ပေ့ မှောက်ခံ၍ရေးသားရမည်။

ပြေစာ စာအုပ် စာရင်းကို ပုံစံအမှတ် (၂)အရ၊ ပြေစာပုံစံတမျိုးလျှင် စာရင်း စာအုပ်တခုစီ ထားရှိရမည်။ လက်ခံရရှိသော ပြေစာ စာအုပ်များကို အမျိုး အစားအတိုင်း ရရှိသည့်နေ့စွဲနှင့်တကွ သက်ဆိုင်ရာစာရင်းစာအုပ်တွင် ရေးမှတ်ထားရမည်။ ပြေစာ စာအုပ်များကိုလုံခြုံစိတ်ချရသည့်နေရာ၌ သော့ခတ် သိမ်းဆည်း ထားရှိ၍ ငွေကောက်ခံရန် ပြေစာလက်မှတ်စာအုပ်များကို ထုတ်ပေးသည့်အခါ ထိုထုတ်ပေးသည့်နေ့တွင်ပင်လျှင် စ ရင်း ရေးသွင်းမှတ်သားရမည်။ အနည်းဆုံး တလလျှင်တကြိမ်ကျ လက်တွင် ကျန်ရှိသော ပြေစာစာအုပ်များကို ရေတွက်၍ စာရင်း လက်ကျန် စာအုပ်ပေါင်းနှင့် တိုက်ဆိုင်ကြည့်ရှုပြီးလျှင်၊ ထိုသို့ဆောင်ရွက် ပြီးစီးကြောင်း လက်မှတ်ရေးထိုး ထားရမည်။ ချို့ယွင်းချက်များရှိပါက မဆိုင်းမတွ အရေးယူရမည်၊

ပြေစာလက်ခံရှင်းတမ်းကို ပုံစံအမှတ် (၃)အရ ထားရှိရမည်။ ထိုစာရင်းစာအုပ်ထုတ်ပေးသော ပြေစာ စာအုပ်များကို၊ ထုတ်ပေးသည့်နေ့စွဲနှင့်တကွ စာအုပ်နံပါတ်စဉ်အတိုင်း ဖော်ပြ၍၊ ပြေစာလက်ခံဖြတ်ပိုင်း စာအုပ်များပြန်လည် ရရှိသည့်အခါ၊ ရရှိသည့် နေ့စွဲနှင့်တကွ ထိုပြေစာလက်ခံစာအုပ်များကို စာရင်း တင်သွင်းရမည်၊ ပြန်လည် ရောက်ရှိခြင်း မရှိသေးသော ပြေစာစာအုပ်များ စာရင်းကို တလလျှင် တကြိမ်ကျ ကောက်ယူ၍ ၎င်းတို့ကို ပြန်လည်ရရှိရန်အတွက် သင့်သလို အရေးယူ ဆောင်ရွက်ရမည်၊

၈။ မြို့နယ်အဖွဲ့ ဥက္ကဋ္ဌသည် လကုန်ဆုံးသည့်နေ့တွင်ငွေစာရင်းကိုသက်ဆိုင်ရာ ပြေစာလက်ခံစာအုပ်ငွေသွင်းချလံနှင့်

တို့ဖြင့်စစ်ဆေးကြည့်ရှုပြီးနောက်၊ စာရင်းပိတ်၍ လက်ကျန်ငွေပါ မှန်ကန်ကြောင်း ကိုယ်တိုင် လက်မှတ်ရေးထိုးရမည်။ ၎င်းနောက် ငွေစာရင်းစာအုပ်ရှိ ကာဗွန်ခံ မိတ္တူ ငွေစာရင်းစာရွက် နှစ်စောင်ကို နှုတ်ယူ၍ ထိုစာရင်းပါ ပြေစာလက်ခံစာအုပ်များ၊ ငွေသွင်း ချလံများနှင့်အတူ ခရိုင်ဥက္ကဋ္ဌထံသို့ လကုန်ဆုံးပြီးနောက်သုံးရက်အတွင်း ရောက်ရှိအောင်ပေးပို့ရမည်။

၉။ ခရိုင်အဖွဲ့ဥက္ကဋ္ဌသည် မြို့နယ်အဖွဲ့ဥက္ကဋ္ဌကဲ့သို့ပင်လကုန်သည့်နေ့တွင် ခရိုင်အဖွဲ့၏ ငွေစာရင်းကို စစ်ဆေးကြည့်ရှုပြီးနောက် စာရင်းပိတ်၍ လက်ကျန် ငွေပါ မှန်ကန်ကြောင်း ကိုယ်တိုင် လက်မှတ်ရေးထိုးရမည်၊ ၎င်းနောက်ငွေစာရင်းစာအုပ်ရှိ ကာဗွန်ခံ မိတ္တူငွေစာရင်းစာရွက်ကို နှုတ်ယူ၍ မြို့နယ်ငွေတိုက်များမှ ရရှိသော မိတ္တူငွေစာရင်းများနှင့် ပူးတွဲပြီးလျှင် ပုံစံအမှတ် (၄) အရ၊ ခရိုင်တခုလုံးအတွက် အလှူတော် ရငွေ-သွင်းငွေ စာရင်းချုပ် တခုကို ပြုလုပ်ရမည်။ ထိုစာရင်း ချုပ်၌၊ မြို့နယ် ငွေတိုက်ခွဲများတွင် ငွေသွင်းပြီးဖြစ်သော်လည်း ခရိုင်ငွေတိုက်စာရင်း၌ အကြိုးမဝင်သေးသည့် (မြို့နယ်ငွေတိုက်ခွဲတွင် ထိုလအတွက် စာရင်းပိတ်ပြီးနောက် ပေးသွင်းသည့်) ငွေများအတွက် ကောက်ခံရရှိငွေနှင့် ပေးသွင်းငွေ ညှိနှိုင်းရှင်းလင်းချက်ကိုပါရေးသားပေးပို့ရမည်၊ ထိုစာရင်းချုပ်နှင့်တကွ ခရိုင်နှင့်မြို့နယ်အဖွဲ့များ၏ပင်မမိတ္တူငွေစာရင်းစာရွက်များကို ရန်ကုန်မြို့ ဗဟိုရုံအဖွဲ့၏ ဥက္ကဋ္ဌထံသို့ လကုန်ဆုံးပြီးသည့်နောက် ၇ ရက်အတွင်းပေးပို့ရမည်။ ထိုသို့ပေးပို့သည့်အခါ အထောက်အထားပြုရန် လိုအပ်သောခရိုင်နှင့်မြို့နယ်အဖွဲ့တို့၏ ငွေစာရင်းများအရ ပြေစာလက်ခံစာအုပ်များနှင့် ချလံများကိုလည်း ပြည့်စုံစွာ သီးခြားဦး ရေစာရင်းတခုစီဖြင့် ပူးတွဲပေးပို့ရမည်။

မှတ်ချက်။ ။ပြေစာများ ကုန်ရှိနေသော စာအုပ်များ အတွက်မှာမူ သင့်လျော်သောမှတ်ချက်ရေးသား၍ ပြီးပြတ်သွားသောစာအုပ်များကို နောက်လငွေစာရင်းနှင့်အတူ ဗဟိုရုံအဖွဲ့သို့ ပေးပို့ရန်ဖြစ်သည်။

၁၀။ ခရိုင် သို့မဟုတ် မြို့နယ် အဖွဲ့ဥက္ကဋ္ဌသည် ကောက်ခံရရှိသော အလှူငွေများကို မည်သည့် ကိစ္စအတွက် ဖြစ်စေ၊ ထုတ်ယူသုံးစွဲခြင်းမပြုရ။ ခရိုင်သို့မဟုတ် မြို့နယ်တို့၌ သုံးစွဲရန်ကိစ္စများအတွက် သီးခြားအစီအစဉ်ပြုလုပ်ရမည်။

၁၁။ ခရိုင် သို့မဟုတ် မြို့နယ် ဥက္ကဋ္ဌသည် မိမိအားလစ်သည့် အခါ၌ ယုံကြည် စိတ်ချရသော ပုဂ္ဂိုလ် တဦးအား ဤနည်းဥပဒေများပါကိစ္စရင်တို့တွင် ကူညီဆောင်ရွက်ရန် တာဝန်လွှဲအပ်နိုင်သည်။ သို့ရာတွင် လစဉ်ငွေစာရင်းများကို ပိတ်ခြင်း၊ လစဉ်စာရင်းချုပ်နှင့်ရှင်းတမ်းပြုလုပ်ပေးပို့ခြင်းတို့၌ မိမိကိုယ်တိုင် တာဝန်ခံယူ၍ဆောင်ရွက်ရမည်။

.... ....

စာမျက်နှာ ၂ မှ အဆက်

(၈) မဟာဝဂ္ဂသံယုတ်ဋီကာ၊ (၉) အင်္ဂုတ္တိုရနိကာယ်ဋီကာရှစ်ကျမ်း၊ (၁၀) ပါဠိဇာတ်ဋီကာ၊ (၁၁) နေတ္တိဋီကာ ဟောင်း၊ (၁၂) ဝိသုဒ္ဓိမဂ်မဟာဋီကာ များဖြစ်လေသည်။

## အနုဋီကာ ဆရာကြီး

ထို့ပြင်၊ အဘိဓမ္မာခုနှစ်ကျမ်းဋီကာ ဖြစ်သော မူလဋီကာကြီး၏အဖွင့် အနုဋီကာကိုလည်း ရေးသားတော်မူသောကြောင့်၊ အရှင်ဓမ္မပါလအား အနုဋီကာ ဆရာကြီးဟူ၍လည်းခေါ်ဆိုကြလေသည်။

## လက်သန်းအဌကထာ ဆရာကြီး

ထို့မှတပါး၊ အရှင်ဓမ္မပါလသည်၊ သစ္စသံခေပအမည်ရှိသော လက်သန်း အဋ္ဌကထာကိုလည်း ရေးသား ပြုစုတော်မူသေးသဖြင့်၊ လက်သန်းအဋ္ဌကထာ ဆရာဟုလည်း ခေါ်ဆိုကြသေးသည် သစ္စသံခေပအဋ္ဌကထာမှာ အဘိဓမ္မာနှင့် ပတ်သက်၍ အနက် အားဖြင့် အကျဉ်းရုံးရုံးမျှသာမကသေး သဒ္ဒါအားဖြင့်လည်း၊ မဟာဘုတ်လေးပါးနှင့် ပတ်သက်၍—

ရူပံ ဘူတပါနလာနိလံ-
စသည်ဖြင့် ရေးသားတော်မူသည်များကို အံ့ဩဘွယ်တွေ့မြင်ရလေသည်။

( မာဃ-ရေးသည် )

.........

သံဃါယနာစာစောင်
## စာတည်းအဖွဲ့

(၁)
ပြန်ကြားရေးဌာနဝန်ကြီး
ဦးထွန်းဝင်း။

(၂)
နိုင်ငံတော်ရှေ့နေချုပ်ကြီး
ဦးချန်ထွန်း။

(၃)
တရားဌာနအတွင်းဝန်ဟောင်း
စည်သူ ဦးစံညွန့်။

၄
ပြန်ကြားရေးဌာနအတွင်းဝန်
သီရိပျံချီ ဦးသန့်။

၅
ပြန်ကြားရေးဌာန ညွှန်ကြားရေးဝန်ဝဏ္ဏကျော်ထင်
ဦးယော(ဇေယျ)

အယ်ဒီတာ ဦးသာတင်။

## နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့တွင်ရနိုင်သည့် ကျမ်းစာများနှင့် စာစောင်များ

| | ကျမ်းအမည် | အတွဲ | ရိုက်နှိပ်သည့်ဘာသာ | အဘိုး | မှတ်ချက် |
|---|---|---|---|---|---|
| ၁။ | မူလပဏ္ဏာသဋီကာ | ပထမတွဲ | ပါဠိ | ၆-ကျပ် | ရနိုင်သည် |
| ၂။ | မူလပဏ္ဏာသဋီကာ | ဒုတိယတွဲ | ။ | ၅-ကျပ် ၅၀-ပြား | ။ |
| ၃။ | မဇ္ဈိမနှင့် ဥပရိပဏ္ဏာသဋီကာ | | ။ | ၆-ကျပ် ၅၀-ပြား | ။ |
| ၄။ | ပဋိသမ္ဘိဒါမဂ်ဘာသာပြန်(စံကျောင်း) | | မြန်မာ | ၆-ကျပ် | ။ |
| ၅။ | အဘိဓမ္မတ္ထသင်္ဂြိုဟ်ပါဠိနိသျ | | ။ | ၃-ကျပ် | ကုန်နေသည် |
| ၆။ | ဗားကရာသင်္ဂြိုဟ်အဓိပ္ပါယ်ကောက် | | ။ | ၂-ကျပ် ၅၀-ပြား | ရနိုင်သည်။ |
| ၇။ | အဘိဓမ္မတ္ထသရူပဒီပနီ | | ။ | ၂-ကျပ် ၅၀-ပြား | ။ |
| ၈။ | အဘိဓမ္မာနေ့အရေးတော်ပုံ | | ။ | ၁-ကျပ် ၅၀-ပြား | ။ |
| ၉။ | ဆုတောင်းခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၀။ | ပါရမီခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၁။ | နေမိငံခန်းပျို့ | | ။ | ၁-ကျပ် ၇၅-ပြား | ။ |
| ၁၂။ | သာသနာ့ရောင်ခြည်စာစောင် | | မြန်မာ | ၁-ကျပ် | ။ |
| ၁၃။ | ဓမ္မရောင်ခြည်စာစောင် | | အင်္ဂလိပ် | ၁-ကျပ် ၅၀-ပြား | ။ |
| ၁၄။ | သံဃါယနာစာစောင် | | မြန်မာ | ၂၅-ပြား | ။ |
| ၁၅။ | သံဃါယနာစာစောင် | | အင်္ဂလိပ် | ၂၅-ပြား | ။ |

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှထုတ်ဝေသည်။ တယ်လီဖုံး-မြောက်(၃၉၂)၊ သာသနာ့ရိပ်သာ၊ ကုဇ်ကိုင်း၊ ရန်ကုန်။

# သံဂါယနာ

## ဆဋ္ဌ-မဟာသိမ်တော်ကြီး

ဆဋ္ဌသင်္ဂါယနာ
မဟာသိမ်တော်ကြီး
သိမ်နှုတ်-သံဃာစာရင်း

| | | |
|---|---|---|
| တန်ဆောင်မုန်းလပြည့် | ၁၅-ရက် | ၁၀၀ |
| နတ်တော်လဆန်း | ၁-ရက် | ၂၄၀ |
| | ၂ " | ၂၄၀ |
| | ၃ " | ၂၄၀ |
| | ၄ " | ၂၄၀ |
| | ၅ " | ၂၄၀ |
| | ၆ " | ၁၂၀၀ |
| ပေါင်း = | | ၂၅၀၀ |

သာသနာ ၂၅၀၀-ပြည့်ကို ရည်ရွယ်လျက် ဒီဇင်ဘာလ(၆)ရက်နေ့တွင် သံဃာအပါး(၁၀၀)။
(၇)ရက်မှ (၁၁)ရက်နေ့အထိ၊ သံဃာအပါး(၂၄၀)စီ၊ (၁၂)ရက်နေ့တွင် သံဃာ(၁၂၀၀)။
(အနုရသံဃာတော်အပါး ၂၅၀၀)တို့ဖြင့်သိမ်နှုတ်ခဲ့လေသည်။
ဒီဇင်ဘာလ(၁၃)ရက်နေ့၌ ဆရာတော်ကြီးပေါင်း(၁၀၈)ပါးတို့ဖြင့် သိမ်သမုတ်ပွဲကြီး ကျင်းပခဲ့လေသည်။
ထိုတွင် ဆ-မဟာသိမ်တော်ကြီးကို ၁၀-သိန်းခန့် အကုန်အကျခံလျက်
ဆဋ္ဌသံ ဂါယနာတင်အမှီ ဆောက်လုပ်လိမ့်မည်ဖြစ်ကြောင်း။

# ကမ္ဘာ့ မဟာသိမ်တော်ကြီး

ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင် ကျင်းပတဲ့အခါ၊ မြန်မာ–သီဟိုဠ်–ယိုးဒယား–ကမ္ဘောဒီး ယား–လာဩ ဆိုတဲ့ ထေရဝါဒ ၅–နိုင်ငံမှကြွရောက်တော်မူလာကြမဲ့၊ ဆဋ္ဌသံဂီတိကာရက၊ ရဟန်းတော်အရှင်မြတ်များ ဥပုသ်–ပဝါရဏာစသော ကံကြီး–ကံငယ်တို့ကို ဝိနည်းဒေသနာတော်နှင့်အညီ အလွယ်တကူ ဆောင်ရွက်တော်မူကြစေရန် အတွက် တကြိမ်လျှင် သံဃာတော်ပေါင်း တထောင်ခန့်ကံဆောင်နိုင်မဲ့သိမ်တော်အဆောက်အဦကြီးတခုကို ဆယ်သိန်းခန့်အကုန်အကျခံပြီး စတင်ဆောက်လုပ်လျက်ရှိပါပြီ။

ထိုင်းသိမ်တော်ကြီး ဆောက်လုပ်မဲ့နေရာကို လွန်ခဲ့တဲ့ ဒီဇင်ဘာလ ၆ ရက်နေ့ကစပြီး၊ ၇-ရက် တိုင် တိုင်။ ရန်ကုန်မြို့ ခြောက်ထပ်ကြီးကျောင်းတိုက် အဂ္ဂမဟာပဏ္ဍိတ ဆရာတော် ဦးကောဏ္ဍညအမှူးရှိသော၊ သံဃာတော်မြတ်များက ကမ္မဝါစာများ ရွတ်ဘတ်လျက် သိမ်နှုတ်တော်မူကြပါတယ်၊ အဲဒီလိုသိမ်နှုတ်တဲ့အခါမှာလဲ၊ ဆဋ္ဌသံဂါယနာ မဟာဓမ္မသဘင် ဆင်ယင်ကျင်းပပြီးစီးမဲ့ သာသနာနှစ် ၂၅၀၀ ကိုရည်မှန်းပြီးတော့၊ ပဌမဆုံးနေ့ဖြစ်တဲ့ ဒီဇင်ဘာလ ၆ ရက်နေ့မှာသံဃာတော်အပါး ၁၁၀၊ ၇-ရက်နေ့ကစပြီး၊ ၁၁ ရက်နေ့တိုင် ၅ ရက်မှာတော့သံဃာအပါး ၂၄၀ စီ၊ ၇ ရက်မြောက်ဖြစ်တဲ့ ဒီဇင်ဘာလ ၁၂ ရက်နေ့မှာတော့ သံဃာတော်အပါး ၁၂၀၀ ပေါင်း သံဃာတော် ၂၅၀၀ တို့ကသိမ်နှုတ်တော်မူကြပါတယ်။

ထိုသိမ်နှုတ်ပွဲမင်္ဂလာ အခမ်းအနားသို့ ကြွရောက်တော်မူကြတဲ့ သံဃာတော် ၂၅၀၀ တို့ကို ရှမ်းမိုင်မော်တော်ယာဉ် အစည်းအရုံးက မော်တော်ယာဉ်များ အခမဲ့လှူဒါန်းခါ ပို့ဆောင်ခြင်းပြုကြတဲ့ အတွက် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့က အထူးဘဲကျေးဇူးတင်လျက်ရှိပါတယ်။ အဲဒီလို ၇ ရက်ပတ်လုံးသိမ်နှုတ်ပြီးတဲ့နောက် ဒီဇင်ဘာလ ၁၃ ရက်၊ တနင်္ဂနွေနေ့နံနက်အချိန်တွင်။ ရန်ကုန်မြို့ စာသင်တိုက်အသီးသီးမှ အဂ္ဂမဟာပဏ္ဍိတ လေးသာဆရာတော်၊ မန္တလေး မဟိုးရိမ်တိုက် ဆရာတော်၊ ပခုက္ကူမဟာဝိသုတာရာမ ဆရာတော်၊ ခြောက်ထပ်ကြီး ကျောင်းတိုက် ဆရာတော်၊ ကျားကူးဆရာတော်၊ ဖဟန်း မဟာအောင်မြေဘုံစံ ဆရာတော်၊ မဟာစည် ဆရာတော် စသော ဆရာတော်ကြီးများ ၁၀၀ ပါးက၊ သိမသမ္မုတိကမ္မဝါစာများရွတ်ဘတ်တော်မူလျက် သိမ်သမုတ်မင်္ဂလာ ဆင်ယင် ကျင်းပတော်မူကြပါတယ်။ ထိုသိမ်သမုတ်မင်္ဂလာ အခမ်းအနားသို့ ကြွရောက်တော်မူကြတဲ့ သံဃာတော်အရှင်မြတ်များအား နံနက် အချိန်တွင် မုန့်ခဲဘွယ်တို့ဖြင့်ဧည့်ခံ၊ ဆဋ္ဌသံဂါယနာအဆောက်အဦ များ တည်ဆောက်ရေးအဖွဲ့ဝင် မဟာသီရိသုဓမ္မ(ဟသံတ) ဦးမြနှင့် အုပ်ချုပ်ရေးအရာရှိချုပ်ဦးတင်ဦးတို့က ကြီးမှူး၍ ဆက်ကပ်လှူဒါန်းကြပါတယ်၊ ထိုသိမ်သမုတ်ပွဲအခမ်းအနားသို့ ကြွရောက်လာကြတဲ့ လူမျိုးစုလွှတ်တော်နာယကကြီး စပ်ရွှေသိုက်၊ သာသနာရေးဝန်ကြီးကတော် ဒေါ်မြမြဲဝင်းစတဲ့ ဧည့်သည်တော်များအားလည်း မုန့်ဟင်းခါး ဖြင့်ဧည့်ခံကျွေးမွေးကြပါတယ်၊ ယခု အချိန်တွင် ဤသိမ်တော်အဆောက်အဦကြီးကို (ဟသံတ) ဦးမြ ကိုယ်တိုင်ကြပ်မတ်ပြီးတည်ဆောက်လျက်ရှိပြီဖြစ်ရာ၊ ဆဋ္ဌသံဂါယနာ အမှီပြီးစီးရန်ခန့်မှန်းထားပါတယ်။

ထို့ပြင်ဆဋ္ဌသံဂါယနာဆိုင်ရာအခြားအဆောက်အဦများ ဖြစ်သော ကျောက်လိုဏ်ဂူတော် အဆောက်အဦကြီး၊ ဆွမ်းစားကျောင်း အဆောက်အဦနှင့် သီတင်းသုံးရန် အာဂန္တုဆောင် အဆောက်အဦကြီး လေးခုတို့မှာလဲ ဆဋ္ဌသံဂါယနာ တင်အမှီပြီးစီးနေပါလိမ့်မယ်၊ အုပ်ချုပ်မှုဆိုင်ရာ ရုံးအဆောက်အဦကြီးကိုလဲ အလျင်အမြန်ဆောက်လုပ်နေပါပြီ။

(အုပ်ချုပ်ရေးအရာရှိချုပ် – ဦးစိန်၊ မောင်အသံလွှင့်ချက်မှ)။

# ပိဋကတော်များ ပုံနှိပ်ရေး

ယခုဆက်သက်၍ ဆဋ္ဌသံဂါယနာတင်မဲ့ ပိဋကပေါ်ဌ်တော်များကို သုတ်သင် ပြင်ဆင်ရေး၊ စက်တင်ပုံနှိပ်ရေးတို့ကို အစီရင်ခံလိုပါတယ် ပဌမဆုံး သံဂါယနာတင်မဲ့ ကျမ်းဖြစ်တဲ့ ပါရာဇိကပေါ်ဌ်တော်ကိုအဖွဲ့စာပုံနှိပ်တိုက်ကြီးတွင် ပုံနှိပ်နေရာ ယခုအခါ၌ ပါရာဇိကပေါ်ဌ်တော်ကျမ်း ပုံနှိပ်ပြီးစီးသွားပါပြီ၊

ပဌမတုံက ဆဋ္ဌသံဂါယနာ တင်ရန် ဖြစ်သော ကျမ်းစာအုပ်များကို အုပ်ရေ ၃၀၀၀ စီပုံနှိပ်ရန် ရည်ရွယ်ခဲ့သော်လည်း၊ ပိဋကပေါ်ဌ်တော်များမှာ ထေရဝါဒနိုင်ငံ ငါးနိုင်ငံရှိ သံဃာတော်များက ညှိနှိုင်းသုတ်သင်တည်းဖြတ်ထားတဲ့ မူတော်ဖြစ်ခြင်း၊ စက္ကူအမျိုးအစားနှင့် မင်ကျမ်းကောင်းမွန်ခြင်း၊ ပုံနှိပ်ပုံ အနေ အထားရှင်းရှင်းလင်းလင်းရှိခြင်း၊ အတိုးနှုန်းအထူးချိုသာမည်ဖြစ်ခြင်းစသော ဂုဏ်တို့ကြောင့် အုပ်ရေ ၃၀၀၀ မှ ၅၀၀၀အထိ တိုးတက်ပုံနှိပ်ပေးပါလို့ အများရဲ့ တိုက်တွန်းချက်အရ၊ အုပ်ရေမည်မျှပုံနှိပ်မည်ဆိုတဲ့ ကိစ္စကို အဖွဲ့ကပြန်လည်စဉ်းစားရပါတယ်၊ အုပ်ရေတိုးမြှင့် ရိုက်ခြင်းကြောင့်၊ ဆဋ္ဌသံဂါယနာတင်အမှီ ပေါ်ဌ်တော်ကျမ်းစာများမပြီးဘဲနေမှာကိုစိုးရိမ်ရပါတယ်၊ ဒါကြောင့် ဝိနည်းငါးကျမ်း ပေါ်ဌ်တော်ကျမ်းစာများကို အစမ်းအနေနှင့် အုပ်ရေ ၅၀၀၀ စီပုံနှိပ်ဘို့ရန် ဆုံးဖြတ်ပြီးပါပြီ၊ အကယ်၍ အုပ်ရေ ၅၀၀၀ တိုးမြှင့်ပုံနှိပ်သော်လည်း အချိန်မှီနိုင်မယ်ဆိုရင်ကျမ်းပေါ်ဌ်တော်အားလုံးကိုပါ အုပ်ရေ ၅၀၀၀ စီပုံနှိပ်ဘို့ အသင့်စီမံထားပြီးပါပြီ၊

( ဦးစိန်းမောင်အသံလွှင့်ချက်မှ )

.....၀.....



သံဃာတော်များ သိမ်နှုတ်နေစဉ်။



သံဃာတော် ၁၀၀-ပါးတို့က သိမ်သမုတ်တော်မူနေကြပုံ။



သိမ်နိမိတ်ကြားနေသည်ကို တွေ့ရပုံ။



သာသနာ့ရိပ်သာ၌ ၄၊နှစ်မြောက်အထိမ်းအမှတ်အနေဖြင့် မဟာစည်ဆရာတော်အား ပူဇော်ကြစဉ်။



၁၃၁၅-၃ နတ်တော်လ၊ အတွဲ၁၊ အမှတ်-၉

## ကမ္မဿကတာဉာဏ်ရင့်သန်ရေး

လူတို့သည် မိမိတို့ ယုံကြည်ရာ အယူဝါဒတခုခုကို အမှီပြုလျက်၊ မိမိတို့၏ဘဝ တာဝန်အတွင်းသို့ သွတ်သွင်း ဆောင်ရွက်လေ့ ရှိကြပေသည်။ ဗြဟ္မဏ ဘာသာကို ယုံကြည်သူတို့ကလည်း၊ ဗြဟ္မဏ ဘာသာ၏ညွှန်ကြားချက်များကို အနည်းနှင့်အများလိုက်နာဆောင်ရွက်လေ့ ရှိကြကုန်၏။ ခရစ်ယာန်ဘာသာကို ယုံကြည်သူတို့ကလည်း၊ ခရစ်ယာန်ဘာသာ၏ညွှန်ကြားချက်များကို အနည်းနှင့် အများလိုက်နာဆောင်ရွက်လေ့ရှိကြကုန်၏၊ ဗုဒ္ဓဘာသာကိုယုံကြည်သူတို့ကလည်း ဗုဒ္ဓ ဘာသာ၏ညွှန်ကြားချက်များကို အနည်းနှင့် အများလိုက်နာ ဆောင်ရွက်လေ့ ရှိကြကုန်၏၊ ဘာသာဝါဒမရှိသူတို့ကလည်း၊ အခြားမိမိတို့ယုံကြည်ရာဝါဒတခုခုကို အခြေခံလျက်လိုက်နာ ကျင့်သုံးလေ့ ရှိကြပေကုန်၏၊

အယူဝါဒဟူသမျှ တည်ထောင်သူ ရှိရမြဲဖြစ်ပေသည်၊ ထိုတွင် အယူဝါဒမှန်ကန်မှု မမှန်ကန်မှုမှာကား၊ တည်ထောင်သူ၏ အသိဉာဏ်အမြင်ကို အခကြောင်းပြု၍ ဖြစ်ပေါ်ရလေသည်၊

ကျွန်ုပ်တို့သည်၊ ဗုဒ္ဓဘာသာ တရားတော်ကို ယုံကြည်ကိုးကွယ်ကြရာ၌၊ ဗုဒ္ဓဘာသာတရားတော်ကိုစတင်တည်ထောင်တော်မူသည့် ဗုဒ္ဓရှင်တော်ဘုရား၏ ဉာဏ်တော်နှင့်ပတ်သက်၍ ပြည့်စုံမှန်ကန်စွာ သိမြင်တော်မူသည့် ရွှေဉာဏ်တော်ကြီး ရှိတော်မူပါပေသည် တကားဟု ယုံကြည်ချက်မျိုး ရှိကြသဖြင့် လိုက်နာ ကိုးကွယ်၍ နေကြခြင်းဖြစ်လေသည်၊

ထိုဗုဒ္ဓဘာသာတရားတော်အရ၊ အသိဉာဏ်အမြင်နှင့်ပတ်သက်၍—

(၁) မှားသောအမြင်၊

(၂) မှန်သောအမြင်—

ဟု အချုပ်အားဖြင့် နှစ်မျိုး ရှိလေသည်၊ (ပါဠိဘာသာအားဖြင့် မိစ္ဆာဒိဋ္ဌိ-သမ္မာဒိဋ္ဌိဟုခေါ်ဆိုကြလေသည်)၊

အမြင်မှားမှုနှင့်ပတ်သက်၍အကြောင်း ၄ ရပ်မျှရှိကြောင်းကို၊ ဗုဒ္ဓဘာသာ စာပေများ၌ပင် ပြဆိုကြကုန်၏၊ ထို ၄-ချက်တို့မှာ-

(၁) မသူတော်တို့၏ တရားကိုနာရခြင်း၊

(၂) မကောင်းသော အဆွေခင်ပွန်းနှင့်ပေါင်းသင်းခြင်း၊

(၃) အရိယာသူတော်ကောင်းများကို မဖူးမြင်လိုခြင်း၊

(၄) အသင့်အတင့်နှလုံးမသွင်းခြင်း၊ တို့ဖြစ်လေသည်၊

ထိုအမြင်မှားမှုတို့ကို ဗုဒ္ဓဘာသာ စာပေတို့၌ ကျယ်ဝန်းစွာပေါ်ပြလေ့ ရှိကြပေရား အရေးကြီးသောအမြင်များ ၃ မျိုးမှ ရှိကုန်၏၊

(၁) သဿတဝါဒဆိုသည်မှာ၊ သံသရာမှ စင်ကြယ်ခြင်း၏အကြောင်းဟူ၍မရှိဘဲ၊ စင်ကြယ်ကြသည် စသည်ဖြင့် ယူဆကာ ကံကိုလည်း၊ ကံ၏အကျိုးကိုလည်း မယုံကြည်ကြဘဲပေ၊ ထိုဝါဒကို ပါဠိဘာသာအားဖြင့် အဟေတုကဒိဋ္ဌိဟုခေါ်သည်၊

(၂) ကောင်းမှုမကောင်းမှုဟူ၍မရှိ (ကုသိုလ်-အကုသိုလ် ဟူ၍မရှိ) မကောင်းမှုကို ပြုသော်လည်းပြုသည်မမည်၊ ကောင်းမှုကိုပြုသော်လည်းပြုသည်မမည်၊ မကောင်းမှုပြုသော်လည်းမကောင်းမှုကံဟူ၍မဖြစ်၊ ကောင်းမှုကိုပြုသော်လည်း၊ ကောင်းမှုကံဟူ၍မဖြစ်ဟု ကံကို မယုံကြည်သော ဝါဒဖြစ်လေသည်၊ ပါဠိဘာသာအားဖြင့်အကြိယဒိဋ္ဌိဟုခေါ်၏၊

(၃) လှူသော်လည်း၊ အကျိုး မရှိ၊ ကောင်းမှုပြုခဲ့ပေါ်လာသော ကောင်းကျိုး ဟူ၍ မရှိ၊ မကောင်းမှုပြုခဲ့ပေါ်လာသော မကောင်းကျိုးဟူ၍လည်း မရှိ စသည်ဖြင့် ကံ၏ အကျိုး (ဝိပါက်) ကိုလည်း ပစ်ပယ်သော ဝါဒ ဖြစ်လေသည်၊ ပါဠိဘာသာအားဖြင့်နတ္ထိကဒိဋ္ဌိဟုခေါ်၏၊

အထက်ပါ အမြင် ၃ မျိုး (ဝါ) အယူ ၃ မျိုး (ဝါ) ဝါဒ ၃ မျိုးတို့တွင် တမျိုးမျိုးကိုယုံကြည်သက်ဝင်မိသူသည်၊ သုံးမျိုး စလုံးကိုပင် ယုံကြည်သက်ဝင်ရာသို့ ရောက်၏၊ အဘယ့်ကြောင့်ဆိုသော်၊ ကံကိုပစ်ပယ်ခဲ့ပါလျှင်၊ အကျိုး [ဝိပါက်] ကို ပါ ပစ်ပယ်ရာရောက်သောကြောင့်တည်း၊ အကျိုး [ဝိပါက်] ကို ပစ်ပယ်ခဲ့ပါလျှင် ကံကိုပါ ပစ်ပယ်ရာရောက်သောကြောင့်တည်း၊

ဗုဒ္ဓရှင်တော်ဘုရား သက်တော်ထင်ရှားရှိတော်မူစဉ် အခါ၌ ပူရဏ ကဿပ ဆရာကြီး၏ဝါဒမှာ၊ကံကိုတားမြစ်သောဝါဒဖြစ်လေသည်၊ အဇိတ ကေသကမ္ဗလ ဆရာကြီး၏ ဝါဒ မှာ၊ အကျိုး (ဝိပါက်) ကိုတားမြစ်သော ဝါဒဖြစ်လေသည်၊ မက္ခလိ ဂေါသာလ ဆရာကြီး၏ ဝါဒမှာကား၊ ကံနှင့် အကျိုး (ဝိပါက်) နှစ်မျိုးလုံးကိုပင် ပစ်ပယ်သောဝါဒမျိုးဖြစ်လေသည်၊

# ပါဠိတက္ကသိုလ်ဓမ္မာစရိယအဖွဲ့ဝင်ဆရာတော်ကြီးများကြီးမှူးကျင်းပအပ်သော

### ၁၉၅၃-ခုနှစ်ဓမ္မာစရိယစာချတန်းအောင်သံဃာတော်များ၏

# မန္တလေးမြို့ဘွဲ့နှင်းသဘင်

## အခမ်းအနားတွင်

### အမျိုးသားစီမံကိန်းနှင့် သာသနာရေးဝန်ကြီး ဦးဝင်း၏

## ချီးကျူးလျှောက်ထားချက်



မန္တလေးမြို့အိမ်တော်ရာဘုရား ၁၄-ခန်းဇရပ်၌ ပါဠိတက္ကသိုလ်စာအောင်ပုဂ္ဂိုလ်များအား အောင်လက်မှတ်ဆက်ကပ်နေစဉ်။

ရှိခိုးလေးမြတ်စွာ လျှောက်ထားပါသည် ဆရာတော်အရှင်သူမြတ်ဘုရား—

ယနေ့ ဘွဲ့နှင်းသဘင်ကြီးမှာ ပြည်ထောင်စုမြန်မာနိုင်ငံတော်ပါဠိတက္ကသိုလ် ဓမ္မဟိ အဖွဲ့ဝင်ဆရာတော်ကြီးများ ကြီးမှူးကျင်းပပြီးခဲ့တဲ့ ဓမ္မာစရိယ စာချတန်းအောင်မြင်တော်မူတဲ့ ပုဂ္ဂိုလ်ထူးများကို ဖူးမြင်ရတဲ့အတွက်လဲ ဝမ်းမြောက် ဝမ်းသာဖြစ်မိတဲ့အပြင် ယခုလို "သာသနဓဇသိရီပဝရဓမ္မာစရိယ" ဓမ္မာစရိယသိရောမဏိ "အဂ္ဂမဟာအကျော်" ပုဂ္ဂိုလ်ထူးတွေကိုရွေးထုတ်နိုင်အောင်ပါဠိတက္ကသိုလ် ဓမ္မာစရိယ အက်ဥပဒေ အာဏာပိုင်ဖြစ်တော်မူကြတဲ့ "အဘိဓဇမဟာရဋ္ဌဂုရု" တံဆိပ်တော်ရ ညောင်ရမ်းဆရာတော် ဘုရားကြီးကြီးမှူးတဲ့ ပါဠိတက္ကသိုလ်ဓမ္မဟိအဖွဲ့ဝင်ဆရာတော်ကြီးများ၊ မြန်မာပြည်အနှံ့အပြား ဓမ္မာစရိယ အက်ဥပဒေ အရ ပိဋကတ်တော် နိကာယ်ငါးရပ်ကို ပို့ချပြီး သာသနာဝန်ကိုထမ်းဆောင်တော်မူကြတဲ့ မူလဓမ္မာစရိယ ဆရာတော်ကြီးများကို ဦးညွှတ်ပူဇော်ပြီးတော့ ယခုဘွဲ့တံဆိပ်တော် အလှူခံတော်မူကြတဲ့ ပုဂ္ဂိုလ်ထူးသာသနာ့အာဇာနည်တွေကို လွတ်လပ်ရေးရပြီးနောက် လူထုသမဂ္ဂခေတ် ဖဆပလအစိုးရရဲ့လက်ထက်မှာ ၂ကြိမ်မြောက် ရွေးထုတ်တော်မူလိုက်ခြင်းသည် သာသနဝံသ-သာသနပါလ ဆရာတော်ကြီးများ၏အမှန်မြတ်ဆုံးသော "သာသနာဝန်ထမ်းကြီးသန်းအောင်မြင်မှုကြီးတရပ်" ဖြစ်ပါတယ်ဘုရား၊

အခုလို သဿနပဋိပတ်၊ ပဋိဝေဓသတ်ကြီး နှင့် ကြုံကြိုက်တဲ့အခါ သာသနာရေးကိစ္စနှင့် ပတ်သက်၍နိုင်ငံတော်အစိုးရ၏ဆောင်ရွက်ခဲ့ပုံများကိုလျှောက်ထားလိုပါတယ်ဘုရား၊ တပည့်တော်တို့ နိုင်ငံတော်အစိုးရကလဲ ယခုလို ဆရာတော်ကြီးများကြီးမှူးတော်မူနိုင်အောင်ပါဠိတက္ကသိုလ်နှင့်ဓမ္မာစရိယအက်ဥပဒေ ၂ ရပ်ကို ပြည်ထောင်စု လွှတ်တော်ကြီးက အတည်ပြုပြဋ္ဌာန်းပြီးတော့ ၁၉၅၃—ခုနှစ်၊ နိုဝင်ဘာလကစ၍ ပါဠိတက္ကသိုလ် ကျောင်းများ အက်ဥပဒေအရဖွင့်လှစ်ပြီးခဲ့သည်မှာ ၁၉၅၁ခုဧပြီလအတွင်းတက္ကသိုလ်

---

အထက်ပါ နိယတ မိစ္ဆာဒိဋ္ဌိ အယူမျိုးရှိခဲ့ပါလျှင်၊ သံသရာမှ လွတ်မြောက်ရေးအတွက် ခက်ခဲလှသဖြင့် သံသရာဝဋ်၏အမြဲတိုင်ဟူ၍၎င်း၊ သံသရာဝဋ်၏သစ်ငုတ်ဟူ၍၎င်း ဗုဒ္ဓဘာသာစာပေများ၌ ခေါ်ဝေါ်သုံးနှုန်းတတ်သည်များကို တွေ့ရှိရပေသည်၊

ထိုကြောင့်သံသရာဝဋ်၏သစ်ငုတ်၊ သံသရာဝဋ်၏ ခလုတ်သဖွယ် မဖြစ်လိုကြသောပုဂ္ဂိုလ်တို့သည်၊ ကမ္မဿကတာဉာဏ်ထက်သန်ခိုင်မြဲရေးအတွက် လေ့လာမှု ဆွေးနွေးမှုတို့ကို ကြိုးစား၍ ပြုလုပ်သင့်ကြကြောင်း ရေးသား လိုက်ရ ပေသတည်း။

.....ပ.....

ကျောင်းပေါင်း၊ ၁၉ ကျောင်းထမြောက်အောင်မြင်ပြီးတော့ ယခုနှစ် ၁၉၅၃ ခုနှစ်မှာ ပါဠိတက္ကသိုလ် ကျောင်းပေါင်း ၃၂ ကျောင်း၊ ကျောင်းအုပ် ဆရာတော်ပေါင်း ၃၂ ပါး၊စာချကထိကဆရာတော်ပေါင်း ၁၅၃ ပါး၊ သောတုဇန တက္ကသိုလ် စမ္ပာစရိယသောင်း ကျောင်းသားပေါင်း (၆၀၀)ကျော်အထိတိုးတက်လာကြီးပွားလာခဲ့ပါတယ်။ စမ္ပာစရိယ စာချတန်းအောင်ပုဂ္ဂိုလ်ထူးများ၁၃၁၄ ခုနှစ်မှာစာမေးပွဲဝင်ပုဂ္ဂိုလ်(၅၀၀)ကျော်အနက်၊စာအောင်ပုဂ္ဂိုလ်[၃၉၁)ပါးကျမ်းပြီးဘွဲ့တံဆိပ်တော် အလှူခံရတဲ့ ပုဂ္ဂိုလ်[(၁၀၆)ပါး၊ စမ္ပာစရိယ သိရောမဏိပုဂ္ဂိုလ်(၄)ပါးဖြစ်ပါတယ်။ယခု ၁၃၁၅ ခုနှစ်မှာ စာမေးပွဲဝင်ပုဂ္ဂိုလ်(၉၇၃)ပါး၊စာအောင်ပုဂ္ဂိုလ်(၇၅၈)ပါး။ ကျမ်းပြီးအောင် ဘွဲ့တံဆိပ်တော် အလှူခံပုဂ္ဂိုလ်[(၂၄၁)ပါး၊ စမ္ပာစရိယ သိရောမဏိပုဂ္ဂိုလ်ထူး(၁၉)ပါး၊ ပေါ်ထွက် လာပါတယ်ဘုရား၊

စမ္ပာစရိယ အက်ဥပဒေအရ ပြည်ထောင်စု မြန်မာနိုင်ငံတော်မြို့ရွာနယ်ပယ်အတွင်း၊ ပရိယတ္တိသာသနာတော်ကိုအားပေးချီးမြှောက်ပို့ချတော်မူကြတဲ့ စမ္ပာစရိယဆရာတော်ပေါင်းများမှာ ၁၃၁၃ ခုနှစ်၊(၁၁၁)ပါး၊၁၃၁၄ ခုနှစ်၊(၂၂၃)ပါး၊ ၁၃၁၅ ခုနှစ်မှာ (၃၅၀)ပါးဖြစ်ပါတယ်၊

ယခုလျှောက်ထားခဲ့တဲ့အတိုင်း သာသနာတော်ထမ်း၊ ပရိယတ္တိစာသင် စာချပုဂ္ဂိုလ်များ တိုးတက် လာသည်နှင့်အမျှ ၁၃၁၄ ခု-၁၅ ခု၊(၁၉၅၂-၅၃)ခုနှစ်ပါဠိတက္ကသိုလ်ကျောင်းများအတွက် ဆွမ်းဆန်တော်အလှူတော်ငွေပေါင်း [၁၀၁၈၄ ၆)စာပြန်ပွဲအတွက် ငွေပေါင်း[၂၅၆၉ ၁၆၀)၊ မဟာဘွဲ့နှင်း သဘင်ဆုတံဆိပ်တော်လှူဒါန်းကျင်းပသည့်အတွက် (၉၂ ၈၀၂၀]ကျပ်ကျလှူဒါန်းခဲ့ပါတယ်။

၁၃၁၃-ခုနှစ်၊ ပြင်ပစမ္ပာစရိယစာချဆရာတော်၁၁၁-ပါးအတွက်(၃၃၉၆၆)ကျပ်၊ ၁၃၁၄-ခု၊ ၁၉၅၂-၅၃ ခုနှစ် ပြင်ပစမ္ပာစရိယ စာချဆရာတော် ၂၂၃-ပါးအတွက် ဆွမ်းဆန်တော်အ လှူ ငွေ ပေါင်း ၈၀၂၈၀-ကျပ်၊ ၁၃၁၅-ခုနှစ်၊ ၁၃၅၂-၅၃ နှစ်၊ ပြင်ပစမ္ပာစရိယ စာချ ဆရာတော် ၃၅၀-ပါးအတွက်၊ ပစ္စယာနုဂ္ဂဟဆွမ်းဆန်တော်ငွေပေါင်း ၁၂၆၀၀၀ ကျပ်ကျလှူဒါန်းပြီးသည်အတွက် ၁၉၅၂-၅၃ နှစ်အတွက်စုစုပေါင်းလှူဒါန်းသည့်ဆုဆန်တော်ငွေ ၃၆၄၇၄၂၀-လာမည့်နှစ် ပါဠိတက္ကသိုလ် ၃၂ ကျောင်းနှင့် စမ္ပာစရိယဆရာတော် ၄၀၀ ကျော်အတွက် ဆုဆန်တော်ငွေ ၆ သိန်းကျော်လှူဒါန်းထောက်ပံ့ရန်ရည်ရွယ်ပါဖြစ်ပါတယ်ဘုရား၊ ယခုလျှောက်ထားခြင်းသည်၊ ပြည် ထောင်စု မြန်မာနိုင်ငံတော်အစိုးရတို့၏၊ ပါဠိတက္ကသိုလ်နှင့်စမ္ပာစရိယ အက်ဥပဒေ ပြဋ္ဌာန်းသည့်အတွက်၊ မြတ်စွာဘုရား သာသနာတော်ကြီးတနှစ်ထက်တနှစ် တိုးတက်ကြီးပွားထွန်းကားလာခဲ့ခြင်းဟာ၊ နိုင်ငံတော်အစိုးရဘို့က၊ သာသနာတော်ကြီး ကို ပစ္စယာနုဂ္ဂဟလှူဒါန်းခြင်းဖြင့် မည်မျှတိုးတက်အောင်မြင်လာတယ်ဆိုဘာ ဆရာတော်များနှင့်တကွ တိုင်းသူပြည်သားများ၊ သိရှိတော်မူကြရန်လျှောက်ထားရခြင်းဖြစ်ပါတယ်ဘုရား။

ဆက်လက်လျှောက်ထားလိုဒါကတော့ ပရိယတ္တိသာသနာတော်ကြီး၏ အခြေခံဖြစ်တဲ့၊ ငွေရည်နံ့စာမေးပွဲကြီး အကြောင်း၊ နှင့်ပတ်သက်၍၊ ၎င်းစာပြန်ပွဲကြီး ကို ''လွတ်လပ်သောပြည်ထောင်စု မြန်မာနိုင်ငံတော်ဂုဏ်'' ဖြစ် လာပြီး နောက်၊ ဘုရားတပည့်တော်တို့ ဖ-ဆ-ပ-လ= အစိုးရလက်ထက်မှာ ၁၉၄၇-၄၈ ခုနှစ် ယဉ်-လတ်-ကြီး-စာပြေ ပုဂ္ဂိုလ်ပေါင်း၊ ၂၄၅၂-အောင်မြင်သူ ၈၇၀-လှူ ဒါန်းထောက်ပံ့ငွေ ၁၃၃၀၀၀-ကျပ်၊၁၉၄၇-၄၈-ခုနှစ်၊စာပြေပုဂ္ဂိုလ်ပေါင်း ၃၂၅၈-အောင်မြင် သူ ၁၅၀၃ ပါး၊ လှူဒါန်းထောက်ပံ့ငွေပေါင်း ၁၃၃၀၀၀-ကျပ်၊

၁၉၄၈-၄၉ ခုနှစ်၊ စာပြေသူပုဂ္ဂိုလ်ပေါင်း ၂၇၄၁- အောင်မြင် သူ ပေါင်း



## ပါဠိတက္ကသိုလ်စာချတန်းတွင် အမှတ်အများဆုံးနှင့် အောင်မြင်တော်မူသော ရန်ကုန်မြို့မှ (ဦးဣန္ဒကကိုယ်တော်)

၁၂၈၄ ပါး၊ လှူ ဒါန်း၊ ထောက် ပံ့ ငွေပေါင်း ၂၀၀၀၀ိ။

၁၉၄၉-၅၀ ခုနှစ်၊ စာပြေသူပုဂ္ဂိုလ်ပေါင်း ၃၂၀၃-အောင်မြင်သူ ၁၂၄၁-လှူဒါန်းထောက်ပံ့ငွေ ၂၆၀၀၁၀ ကျပ်။

၁၉၅၁-ခုနှစ်၊ စာ ပြေ သူ ပုဂ္ဂိုလ်ပေါင်း၊ ၄၈၃၄-အောင်မြင်သူ ၂၀၁၅-လှူဒါန်း၊ထောက်ပံ့ငွေ ၃၀၀၀၀၀-ကျပ်။

၁၉၅၂-ခုနှစ်၊ စာ ပြန်ပွဲဖြေ ဆိုသူ ၆၆၈၅-အောင်မြင်သူ-၃၃၆၄ ပါး၊လှူဒါန်းထောက်ပံ့ ငွေ ၄၆၀၀၅၀-ကျပ်၊

၁၉၅၃-ခုနှစ်၊ စာ ပြန် ပွဲဖြေ ဆို သူ ၇၉၁၇ အောင်မြင်သူ ၃၆၅၂ ပါး၊လှူဒါန်းထောက်ပံ့ငွေ ၅၀၀၀၀၀-ကျပ်ဖြစ်ပါတယ်ဘုရား၊

လျှောက်ထားပြီးခဲ့တဲ့အတိုင်း၊ သာသနာတော်နဲ့စပ်လျဉ်းတဲ့ ပဋ္ဌမပြန် စာပြန်ပွဲမှာလဲ တနှစ်ထက်တနှစ် စာဖြေသံဃာတော်များတိုးတက်များပြားလာတဲ့ အတွက်၊ ပစ္စယာနုဂ္ဂဟ ဆုဆန်တော်ငွေပေါင်း၊-၅၀၀၀၀၀-ငါးသိန်းထိတိုးတက်လှူဒါန်းခဲ့ပါတယ်။ ပါဠိဘာသာ ပညာရေးအဖွဲ့နှင့် ပဋ္ဌမပြန်အက်ဥပဒေကို လဲ ဘုရားတပည့်တော်လက်ထက်မှာ ပြဋ္ဌာန်းအတည်ပြုပြီးဖြစ်ခဲ့ပါတယ်။ ယခုလို လှူဒါန်းပူဇော်နိုင်ခြင်းသည်၊ ပရိယတ္တိသာသနာတော်တိုးတက်စည်ပင် ရေး အ တွက် နိုင်ငံတော်အစိုးရရဲ့ အောင်မြင်မှု တ ရပ်ဖြစ်ပါကြောင်းကို သာသနာရေးဝန်ကြီးအနေဖြင့်တပည့်တော် ဂုဏ် ယူ လျှောက်ထားရခြင်းဖြစ်ပါတယ်။

ယခုအခွင့်သင့်သဘင်ကြီး၊တွင် ကြွရောက်တော်မူလာကြတဲ့ ဆ ရာ တော် သံ ဃာတော်အရှင်မြတ်များ-ပါဠိတက္ကသိုလ် ဗဟိုအဖွဲ့ဝင်ဆရာတော်ကြီးများ မူလပရိယတ္တိ သာသနဝန်ထမ်း၊ စမ္ပာစရိယစာချ ဆရာတော်ကြီး များကို ဖူးတွေ့ရတဲ့ အခါ နှင့် ဘွဲ့တံဆိပ်တော်တို့အလှူခံရတဲ့ သာသနာ့ သီရိပဝရ စမ္ပာစရိယ—စမ္ပာစရိယ သိရောမဏိ-ပုဂ္ဂိုလ်ကျော်တွေကို ဖူးတွေ့ရတဲ့အခါမှာ၊ ဘုရားတပည့်တော်သည် ပဋ္ဌမသင်္ဂါယနာတင်စဉ်အခါမှာ၊ရှင်မဟာကဿပ မထေရ်ကြီး-အရှင်အနန္ဒာ။ အရှင်ဥပါလိ-မထေရ်ကြီးများက၊ သ င်္ဂါယနာတင်ပွဲသို့ဝင်နှဲအားဂုံပြန်တော် မူကြတဲ့၊ ထေရဝါဒ ဘာဏက-သင်္ဂီတိကာရကရဟန္တာမထေရ်မြတ်ငါးရာရွေးချယ် စိစစ်ပြီးသင်္ဂါယနာတင်ခဲ့တဲ့ ပုဂ္ဂိုလ် တွေ ဟာ ယခုလိုဘဲ-ဟိုခေတ်-တိုအခါနဲ့ ရွေးချယ်ခဲ့မှာဘဲလို့ ဆရာတော်များ၊ စမ္ပာ စရိယ ဘွဲ့ခံ သံဃာတော်များကိုနှိုင်းယှဉ်ပြီးကြည်ညိုမိပါတယ်။ သာသနာရေးဝန်ကြီး အနေနှင့် လေးစားဦးညွှတ်မိပါတယ်။ ဥပသကာအနေနှင့်အလေးဂါရဝများ ဖြစ် ပွားမိတဲ့အပြင်၊ ပဋ္ဌမသင်္ဂါယနာ တင်ခေတ်ကြီးကိုပြန်ပြောင်းသတိရပြီးတော့ ဝမ်းမြောက်ဝမ်းသာကြည်ညိုလို့မဆုံး ဖြစ်ပါတယ်ဘုရား။

အခုလိုအခွင့်အခါကောင်းကြုံတဲ့ အခါ၊ စမ္ပာစရိယဘွဲ့တံဆိပ်တော်အ လှူခံရတဲ့ သံဃာတော် အရှင်မြတ်တို့ အတွက်လဲ တပည့်တော်လျှောက်ထား လိုပါသေးတယ်ဘုရား။ အရှင်ဘုရား များ ဟာ သောတုဇန စာသင်သံဃာမျိုး အ ဖြစ်မှ၊ နိုင်ငံတော်အစိုးရတို့ရဲ့ စမ္ပာစရိယ ဘွဲ့တံဆိပ်တော်အလှူခံရတဲ့ သာသနဝန်ထမ်းပုဂ္ဂိုလ်ထူးတွေဖြစ်ခဲ့ကြပါတယ်၊ သာသနာတော်အတွင်းမှာ တင်း နေ တဲ့ အခါ၊ နိဿည်းဆရာတော်၊ ဥပဇ္ဈာယ် ဆ ရာတော်ကြီးတွေထံမှ နည်း နာနယ ခံယူပြီးတော့၊ စိန့်သိက္ခာပုဒ် တော် ကို လေးစားခြင်း စ ပေဒ့ချ ဂန္ထဓုရ ဝိပဿနာဓုရ ကိုဖြည့်ဆွမ်းခြင်း။ သာသနာတော်ကြီးပွားရေးကို ကိုယ်တိုင် ဆောင် ရွက် ခြင်း၊ လူတကာတို့၏ သဒ္ဓါတရား တိုးပွား ကြည်ညိုခြင်းကိုခံယူနိုင်ခြင်း စသဖြင့်။ ဘုရားတပည့်တော်နောက်က လျှောက်ထားပြီးဖြစ်တဲ့ နိုင်ငံတော်အစိုးရတို့ ပါဠိတက္ကသိုလ်ကျောင်းအုပ် ကထိက ဆရာတော် စမ္ပာစရိယစာချဆရာတော် နိုင်ငံတော်အစိုးရဗုဒ္ဓသာသနအဖွဲ့ ကြီး၏ဆဋ္ဌသင်္ဂီတိ ပိဋကဘာဏကဆရာတော်နိုင်ငံတော်အစိုးရ၏ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရဆရာတော် နိုင်ငံတော် အစိုးရတို့၏ အဘိဓဇ မဟာရဋ္ဌဂုရုဘွဲ့တံဆိပ်တော်ရ ဆရာတော်ဆိုတဲ့ နိုင်ငံတော်အစိုးရတို့ရဲ့မှိုမိုအားထားရာ သာသနဝင် ဆရာတော်ကြီးတွေဖြစ်တော်မူကြပြီးတော့ အရှင်မဟာ ကဿပအရှင်အာနန္ဒာ၊ အရှင်ဥပါလိ–မထေရ်မြတ်ကြီးတို့ကဲ့သို့ အကျင့်သိက္ခာငြိမ်ပတ္တိ ဂုဏ်အားဖြင့်၎င်း၊ ပိဋကတ်တော် ၎ န္တမုဂုဏ်အား ဖြင့် ၎င်း။ ဝိနယရေ ဝိ့ စွယ ဝိဉ်၊ ဂုဏ် အား ဖြင့် ၎င်း။ အနာဂါတ် သာသနာတော်ကြီးကို စောင့်ရှောက် ဦးစီးတော်မူကြမဲ့ ထေရဝံသ သာသနပါလ-သာသနဝံသ-သာသနရက္ခက-နိကာယပါရဂူ ပုဂ္ဂိုလ် ထူးကြီးတွေဖြစ်အောင် ကြိုးစားတော်မူကြပါမည့်အကြောင်း၊ ပြည်ထောင်စုမြန်မာ နိုင်ငံတော်အစိုးရတို့၏ကိုယ်စား၊ သာသန ဒါယကာလူတုရဲ့ ကိုယ်စား သာသနာရေးဝန်ကြီးအနေဖြင့်ရှိသေလေး၊ မြတ်စွာ ဦးညွှတ်လျှောက်ထားခဲ့ပါတယ်ဘုရား၊

)သာသနာတော် သက္ကရာဇ် ၂၄၉၇–ခုနှစ်၊ကောဇာသက္ကရာဇ် ၁၃၁၅–ခုနှစ်)]

.....o.....

## သိဟိုဠ်ကျွန်းမှ ဘုရားရှင်ဓါတ်တော်

သိဟိုဠ်ကျွန်းအစိုးရနှင့် တိုင်းသူပြည်သားအပေါင်းတို့ ပါဝင်ဖွဲ့စည်းထားသော ဆဋ္ဌသံဂါယနာ ကျညီထောက်ပံ့ရေးအဖွဲ့မှ ခုတိယအကြိမ် ပင်္ဂုပဒိုဝိသောဓက ဆရာတော်များအဖြစ် ရွေးချယ်စေလွှတ်အပ်သော ဆရာတော်ကြီး သုံးပါး အပါအဝင် အမရပူရဂိုဏ်းနာယက ဆရာတော်အရှင်သောမါလောကမဟာထေရ်မြတ်သည် ဆရာစဉ် အဆက်ဆက်မှ ခံယူရရှိထားသော ဗုဒ္ဓမြတ်စွာ ဓါတ်တော်မြတ်ကို မြန်မာနိုင်ငံတော်သူ နိုင်ငံတော်သားများ ကြည်ညို ကိုးကွယ်နိုင်ကြစေရန်အလို့ငှါ ကန္ဒီမြို့ စွယ်တော်တိုက် ပုံသဏ္ဌာန် ပြုလုပ်ထားသော ကြိန်ကလာပ် တွင် သိဟိုဠ်ကျွန်း ပုံသဏ္ဌာန် ပြုလုပ်အပ်သော ငွေကလာပ်ကိုတင်၍ ထိုငွေကလာပ်ပေါ်တွင်မှရွှေသားအစစ်ဖြင့် ပြုလုပ်အပ်သော ဓာတ်ကြုတ်ဖြင့် ထည့်သွင်း၍ မြန်မာပြည်သို့ယူဆောင်ခဲ့လေသည်ထိုဓါတ်တော်မြတ်ကိုသာသနာရေးဝန်ကြီးအား အခမ်း အနားဖြင့် ပေးအပ်ပြီးသည့်အခါ ကမ္ဘာ့ေစေတီတော်တွင် တည်ထားကိုးကွယ်မည်ဖြစ်ပါကြောင်း။

( ယခင်အမှတ် ၈ စာစောင်တွင်ဘာ ကျယ်ပေါ်ပြပြီးဖြစ်ပါကြောင်း )

..........

# နှတ်လ သဘင်–ဖျင်လည်း ရှိထပ်

## လှေသင်းဝန်မင်းဦးချိန်ရေးသားချက်

### ဓနုရာသီ

ဓနု ရာသီဟု ခေါ်ဝေါ် ရေးသားကြသည်မှာ ရာဇမဏ္ဍက်ကျမ်း ရာသီဘိဓါန်တွင် သဏ္ဍောဓနုရာသီ၊ ဓနု ဓနုရာသီ၊ ကောဒဏ္ဍော ဓနုရာသီ၊ စာပေါ် ဓနုရာသီ၊ တောက်ဒ်းတာ ဓနုရာသီ ဟူ၍ ပရိယာယ် ၅ ပါး ပြသည်။ ထို ၅ ပါးကား၊ လေးဟော ပရိယာယ်ယူမှတ်ရမည်။

ဇောတိသဏ္ဍ ဝေဒ ကျမ်းကြီးတွင်လည်း ''ဓနု၊ ဓနုရာသီသည်၊ စာပနရော၊ ဓ ၅. ထ က် ဝ တ် ကား၊ သေ၊ ဇ္ဈ သော ယောကျ်ားသဏ္ဍာန်ရှိ၏၊အသွင်ဃံနား၊ နောက်ထက်ဝက်ကား၊ မြင်းခြေသဏ္ဍာန်ရှိ၏''ဟူ၍ဆိုသည်။ ထိုကြောင့်၊မြို့ဟာဖ်ကျမ်းတွင်၊ ဒွေဓေဟရာသီဟူ၍၊ နှုံး၊ လု ၂ ပါးကိုခွဲလျက် အမည်သမုတ်ကုန်သည်။ မြန်မာဘာသာ၊ ဓနုရာသီ ခေါ်ဝေါ်သည်မှာ၊ ကန္တာဦးကာလ ခေါ်ခေါ် ကြသော မူလဘာသာအတိုင်းပင်တည်း၊

ထိုရာသီကား၊လေးစွဲသောယောကျ်ားတို့ ကြိုက်နှစ်သက်သော ရာသီ၊ ထို ယောကျ်ားနှင့်တူသော အဆင်း ရှိသော ရာသီဆိုလိုသည်။

### နတ်ပူဇော်သောလ

ထိုရာသီမှာ၊ မိဂသီ နက္ခတ်နှင့် ယှဉ်၍ လပြည့်သောကြောင့် မိဂသီရဟူ၍ သဒ္ဒါကျမ်း၊ အဘိဓါန် ကျမ်းတို့တွင် ဆိုသည်။ ထိုရာသီကို နတ်တော်လ မြန်မာဘာသာ ခေါ်ဝေါ်သည်မှာ၊ ရာဇ မဏ္ဍက်ကျမ်း၊ နက္ခတ္တပုဏ္ဏမာအဆိုင်းတွင်၊ တနင်္ဂနွေပြိုဟ်မြို့သ္ဘ တည်စဉ်၊ ကြတ္တိကာ နက္ခတ်၌ နတ်ပူဇော် ရသော အကြောင်းကို ဆိုသည်။ ဟိတ ကာရိကျမ်း ယတ်ာတွင်လည်း ''ခေါ်ဇာနေမင်း၊ မြို့သ္ဘ ချင်း၍ ထွန်းလင်းတိထိ၊ ပုဏ္ဏဒီဝယ်၊ ရောဟဏီမည်သာ၊ ကြတ္တိကာနက္ခတ်၊ ကြုံလတ်သည်ရာ၊ ညဉ့်အခါတွင်၊ မဟာပိန္နဲ နတ်ခွဲသဘင်၊ စီစဉ်ကျင်းပ၊ ပူဇော်ကြဟု၊ တမူဒီပါ၊ တိုင်းသာ ကြီးကျယ်၊ မြန်ရပ်ထယ်၌၊ ကုံးသွယ်ယတ်ာ၊ ကောင်းကျိုးပါရှိ၊ ဒေဝါဒေဝ၊ ဆုကြီးရဟု၊ သိမ် နတ်သံ ကြွေးစေသော''ဟူ၍စပ်ဆိုသည်။

မြို့သ္ဘ ရာသီတွင်၊ တနင်္ဂနွေ ရပ်စဉ်၊ နတ်တော် လပြည့် ဆိုခဲ့ သည်မှာ၊ ဒီဝါကရေ၊ တနင်္ဂနွေသည်၊ မကာရဋ္ဌိတော၊ မကာရ ရာသီ၌တည်သည်ရှိသော်၊ မဃော ဇ၀၊ တပို့တွဲ လပြည့် သည်သာလျှင်၊ မာဃံ၊ မာဃံ မည်၏။ ရာဇမဏ္ဍက်ကျမ်း ဇုဒ္ဓသမတွဲတွင်ဆိုသည်။ နယဂ္ဂါဟကိုထောက်၍ သိယေ။

ထို့ကြောင့် ထိုနတ်တော် လကား၊ ကန္တာဦးကာလ နတ်ပူဇော် ပသကြသည်ကိုစွဲ၍ နတ်တော်လဟု မြန်မာ ဘာသာ ခေါ်ဝေါ်ကြသည်ယူရမည်။

### နတ်နှင့်တော်

နတ်ဟူသော မြန်မာဘာသာ စကားမှာ၊ နာထသဒ္ဒါတွင် တန်းခွန် တင်သော ကြောင့် နတ်ဖြစ်သည်။ အနက်ကား၊ ကိုးကွယ်ရာ ဆိုလိုသည် ယူရမည်။ ရှေးပညာရှိတို့ရေးထားသော စကားဟောင်းလင်္ကာတွင် ''အိုးကြီးခါမြား၊ တော်ကားအရှင်၊ ကန်တွင်မြည်ရှန်း၊ ပထုန်းပလု'' ဟူ၍၎င်း၊ ပါရမီတော် ခန်းတွင်၊ ''ရမ်းပြည်၊ ထွေးဆေါ်၊ ကျွန်တော်သို့၊ ထိုရော်အခါ'' ဟူ၍၎င်း၊ ''ယသောရော၊ အမရာဒေဝီ၊ ကိန္နရီ၊ သမ္မုလ၊ တော်လေးဝ'' ဆိုကြသောစကား၊ နန်းတော်အိမ်ဘော်မှ စ၍ဘော်ဆိုသမျှမှာ၊အရှင်အစိုး၊အမြတ်ချည်းယူရမည်နတ်တော်လမှာ၊ အရှင်နတ်မင်းလဟု အဓိပ္ပါယ်ယူရမည်။

### ဖျင်ထပ်ရာလ

သာစွလေချီ ၁၂ ရာသီ လူးတာတွင် ''သင်ပွင့်ပေါ်၊ သနတ်တော်ကား၊ ပူဇော်ကြီးစွာ၊ မင်းဆရာတို့၊ မဟာပိန္နဲ၊ ရှေ့တွဲ့ကြည်ငင်''ဟု စပ်ဆိုသည်။ ဇေယရက္ခမိတ်ဆို၊ ခုနစ်ခွေလျှင်ချီရတု၊ စုလစ်ရွှေဝဉ်ချီ ပုဒ်ဘွင်။ ''ရံဝန်း ဆိုင်းဆိုင်း၊ စစ်ကိုင်း ပင်းယ၊ သာမော လှ၏၊ နတ်လသဘင်၊ ဖျင်လည်းရှိထပ်၊ ဘွဲတပ်ခည်ပေး၊ ဆိုရေးထိုက်ဘက်၊ စွယ်ရှက်ခေါင်ခေါင်၊ ဆင်ပြောင်ရည်ရွှ၊ နန်းရတုကို၊ ဇမ္ဗူသခင်၊မရှင်တင့်တောင်း၊ရန်ညောင်းပယ်နွဲ၊ သိကြားစံသို့၊ မင်းဝံရွှေတောင်၊ မြိုရန် အောင်သည်၊ သာခေါင် မကျွန်း၊ လှည့်လော''ဟူ၍ စပ်ဆိုသည်။

ဖျင်လည်း ရုံထပ်မှာ၊ ရှေး–မင်းတို့လက်ထက် နတ်ဘော်လ ရောက်လျှင် အခါနေ့ရက်ရွေး၍၊မင်းနှင့်တကွ မှူးတော်မတ်တော်တို့ အင်္ကျီဖျင်ထပ်၍ ဝတ်ဆင်ကြမြတည်း။ထို့ကြောင့် သက္ကရာဇ် ၈၃၄ ခု၊ စီရင်သည့် ပြည်စုန် မော်ကွန်းဘွင်၊ 'မြသည်အလို၊ မိဂသိရဟုမြင့်ခိုရ်တောင်ခွန်း၊ နေခြည်ထွန်းသား၊ လဝန်းပေါ်ထွက်၊ ဆဲ့တရက်မှ၊ သန့်သက် ကောင်းကင်၊ စည်းလာ်တင်ဟု၊ သဘင်ပွဲကြီး၊ ဖျင်ထပ်ပြီးဆော်'ဟူ၍စပ်လျှင်ဆောင်းမှူး၊ ရှင်ထွေးညို စပ်ဆိုသည်။

အင်္ကျီကိုယ် ဖျင်ဟူ၍ သူဟောင်းတို့ ရှေးအခါ ခေါ်ဝေါ်ကုန်သည်။ ထို့ကြောင့် ပုဂံရာဇဝင်တွင် နရသီဟပတေ့ တရုတ်ပြေးမင်း ဟသာတ မြို့သို့ ဆိုက်ရောက်သောကာလ၊ ဟင်းခွက် ၃၀၀ မရလျှင်ဖျင်လက်နုံး၊ ရှိုင်တော်မမူသည်။နရပတိစည်သူမင်းကြီး၊ ရွှေကြက်ယက်ဘုရားတွင် မိဋ္ဌာန်၍ ဖျင်ဘော်လွှမ်းသောကော်ဇော်လျှ၍ ခံဘော်မူသည်ဟုဆိုသည်။ရတနာပူရ အဝမြို့တွင်၊ ထုပါရုံ ဒါယကာ နရပတိကြီးလက်ထက် တပြက်သာအရပ်၌ဖျင်တော်ထပ်၍ နေတော် မူကြိုက်ဘွင် တရုတ်တို့ ရောက်လာကြောင်းကိုရေးသည်။

အနောက် ဘက်လွှန် မင်းတရား လက်ထက်ပြည်မြို့ကိုမင်းပြုသောရှင်စာ၊ ကြိုမယားနှင့် တကွ မိုးကောင်းသို့ ပို့သည်တွင် စဉ့်ကူးသို့ရောက်လျှင် ပြည်မြို့နှင့်တူသည်ဟုဖျင်လက်ပုံ၊ရှိုင်သောဟူ၏ ဆိုသည်။

ပါရမီ ဘော် ခန်း၊ ဖျို့ လ က် ၁ တွင် ''အင်္ကျီတုရင် သင်တိုင်း၊ဖျင်ကို''ဟု အစပ်ရှိသည်၊ မဃ္ဃစိုးဖျို့တွင်''အင်ပြည့်အညီ၊ အင်္ကျီ ဖျင်ကောင်း၊ ဥဒေါင်းစွန်တောင်''ဟု စပ်ဆိုသည်၊ ဘုံခန်းတွင်လည်း ''ဖျင်လက်ဘင်၍၊ လှတင့်မင်းစေ ဝင်စေသော''ဟု စပ်ဆိုသည်။ 'သမားကောင်းလျှင် လက်သုံးကိုင်ကာ၊ ရှေ့နေကောင်းလျှင် ဖျင်လက်ပင့်ကာ' ပုံပမာ ဆိုရိုးရှိသည်များနှင့် ထောက်ချင့်၍ ဆင်ခြင်၊ သဘော မဟုတ်လျှင် ပြင်တော်မူကြ စေသတည်း။

### မဟာဂိရိကိုပူဇော်သောလ

တကြောင်းမှာလည်း ပုဂံရာဇဝင် ရွှေစည်းခုံသမိုင်း ၂ မော်တွင် သာသနာ ဘော် ၈၈၈ ခုနှစ်၊သက္ကရာဇ် ၂၆၆ တွင် မင်းပြုသော သဉ္စလည် ကြောင် မင်း လက်ထက် ရောဝဘီမြစ်ညာတကောင်းမြို့မှ မဟာဂီရိ နတ်မောင်နှမ ၂ ယောက် လာ၍နတ်တော်လရောက်လျှင်ကျွဲဖြူ၊ နွားဖြူ၊ဆိတ်ဖြူကြက်ဖြူသေရက်စားပွဲနှင့်မင်း မိဘုရားစသော မှူးမတ်ဗိုလ်ပါပြည်သူ လူအပေါင်းတို့ပုပ္ပါးတောင်သို့တက်၍ပူဇော် ပသကုန်သည်၊နတ်မင်း ၂ ပါးလည်းနှစ်လိုဝမ်းသာစွာ စကားပြောဟောသောဟူ၏။ ထိုမင်းလက်ထက်မှစ၍၊ ပုဂံမင်းအဆက်ဆက် ပုပ္ပါး တောင်သို့ တက်၍ နှစ်စဉ် မပြတ် ပူဇော်ပသရိုးတည်း။ ထို့ကြောင့် မြန်မာဘာသာ နတ်တော်လ ခေါ်ဝေါ်ကြသည်ဟူ၍လည်းယူရန်ရှိသည်။ ဟံသာဝတီ ဆင်ဖြူ များရှင် မင်တရားကြီး သားတော် ၅ ဆူဒါယကာ သား ၉၂၂ ခု၊ နတ်တော် လပြည့် တနင်္ဂနွေနေ့ဘွား မဟာဥပရာဇ် နေချင်းတွင် 'ဥါဒသရ၊ ဆဲ့နှစ်လာယ်၊ ဆေဝနတ်များ၊ ပျော်ပါ်ကဲဆား၊ လွှန်ရှင်ပြ၍၊ နတ်လတွင်ရှင့်' ဟူ၍ ဘလုပ်မြိုတေး သဲ်ယာ စပ်ဆိုသည်။

ထိုနတ်ဘော်လတွင် နတ်မင်း နတ်သွီးတို့ ဆင်မြင်းယဉ် သံလျှင်း စီးပြီးလျှင်၊ ဥယဉ် ပန်းမန် ဘောဇတောင် လှည့်ပတ်မြဲ ဟူ၍ လူကြီး သူမတို့ ပြောဆို ကြသော စကားလည်းရှိသည်။

### သဉ္စလည်ကြောင်ခေါ်ပုံ

သဉ္စလည်ကြောင် မင်းဟု ခေါ်ဝေါ်သည့်စကားမှာ အိမ်နိမ့်စံဝဉ် မင်းသား အဖြစ်နှင့် သဉ္စလည်ကြောင်ရွာကို စားသောကြောင့် ဝေါဟာရဘွင်သည်၊ စဉ့်ကူးမင်း၊ ဘောင်းကားမင်း၊ ပြည်မင်းခေါ်ဆိုသကဲ့သို့ ယူမှတ်ရမည်၊ ထိုသဉ္စလည်ကြောင်ရွာကား၊ တောင်တွင်းကြီးမြို့စီရင်စုနယ်အတွင်း၊ မြို့အနောက်မြောက်ယွန်းတွင်ရှိသည်။ ယခုအခါ အိမ်ခြေလူနေမရှိ ဘုရားပုထိုးဟောင်း ကျောင်းယားဟောင်းနှင့် ရွာဆိုးကုန်း ဝှန်းဆိုးတော မှသာရှိသတည်း။

### သဒ္ဒါကစား၍ကြံလျှင်

ထိုနတ်ဘော်လကို ပဿာခေန သီတလဘာဝေန၊ နတော အဝနတော ဝပုကာယော၊ ဗ္ဗောတိနဘော၊ ငံပြို့ဟ် ကြိုသော်သင့်လျော်ချာ၏။ အနက်ကား၊ ပဿာရေန၊ အမြားအားဖြင့်။ သီတလဘာဝေန၊ ချမ်းသေည်၏ အဖြစ်ကြောင့်။ နတော အဝနတော၊ အလွန်ကွေ့ဘွန်သော ဝပုကာယော၊ ကိုယ်သည်၊ ဗွေ့၊ ဤလဥ်။ အတ္တ၀၊ ရှိ၏။ ဇုတိတဿ၊ ထို့ကြောင့်။ နဘော၊ နံဘောမည်၏။ နဘောပင်ကာလ ရှည်ကြာ၍ နဘောဖြစ်သည် ဟူလို။ ထိုစကားမှာ၊ ကမ္ဘာဘန်းဆာ ရာဇမဏ္ဍက်ကျမ်း၊ဟိဘကာရိကျမ်း၊ ရာဇဝင်စာဘမ်းများနှင့်ဆန့်ကျင်သည်၊ ပညာရှိဘို့နှလုံးသို့ မထိ၊ ပညာရှိဘို့မနှစ်သက်ရာ ပညာပွါး၍ စကားဖြစ်ရုံမျှ႐ှိ၏ဟုမှတ်ရမည်၊

.....o.....



စာဆိုတော် မြဝတီမင်းကြီး ဦးစ အနိစ္စရောက်သောအနှစ်တရာ ပြည့်အထိမ်းအမှတ်ပွဲတွင် မြဝတီမဂ္ဂဇင်းအဖွဲ့မှ ပိဋကဘာသာ ပြန် အယ်ဒီတာချုပ် ဆရာလင်းအမှူးရှိသော စာဆိုတော်ကြီးများအား ပူဇော်နေစဉ်။

# နိုင်ငံခြားသာသနာပြု လုပ်ငန်းများ

## ဗီယက်နမ်မှသာသနာပြု ကိုယ်တော်ကလေး

ဗီယက်နမ်ပြည် ဆိုင်ဂုံမြို့ ဗုဒ္ဓဘာသာအဖွဲ့ ထေရဝါဒ ဘိက္ခုအသင်း သရှက်ရှိဘသည်၊ ဗီယက်နမ်ပြည်သည် မဟာယာန ဗုဒ္ဓဘာသာ ထွန်းကားနေသော တိုင်းပြည်ဖြစ်သဖြင့်၊ ထေရဝါဒ ဗုဒ္ဓဘာသာဝင်များမှာ ဇေတဝန ဝိဟာရကျောင်း တကျောင်းလောက်သာရှိလျက် ကိုးကွယ်ဆည်းကပ်သူ ပုဂ္ဂိုလ်များမှာလည်း အတော်ပင်နည်းပါးသေးသဖြင့်၊ ထေရဝါဒ ဗုဒ္ဓဘာသာ ထွန်းကားနိုင်ရန် အလို့ငှါ၊ ၎င်းမှဒုတိယ ဝိဇ္ဇာလယ မဟာနာယကဆရာတော် အသျှင်ကေလာသ ကြွရောက်စဉ်အခါက တိုက်တွန်းတော်မူခဲ့ခြင်းကြောင့် ပရိယတ္တိ ပဋိပတ္တိများကို အားထုတ်ရန် မြန်မာ နိုင်ငံသို့ ကြွလာလိမ့်မည် ဖြစ်ကြောင်း၊ အဆိုပါ အသျှင် ပံသရက္ခိတသည် ကမ္ဘောဒီးယား သာသနာပိုင် ဆရာတော်ဘုရားကြီးထံတွင် ရဟန်းခံလျက် ပရိယတ္တိများကို လေ့လာခဲ့ဘူးသည့်ပြင်၊ ပါဠိဘာသာနှင့်အင်္ဂလိပ်ဘာသာ စာပေများကို တတ်ကျွမ်းတော်မူလေသည်၊ မြန်မာနိုင်ငံသို့လာရောက်၍ အသက်အရွယ်အားဖြင့် ၃၀ ကျော်မျှရှိပြီးလျှင် သာသနာပြုရန် စိတ်အား အလွန်ထက်သန်သည့် ဆရာတော်ဖြစ်သောကြောင့် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ ထိုဆရာတော်ထံ မြန်မာနိုင်ငံသို့ ကြွရောက်၍ မည်မျှကြာရှည်အောင် ပရိယတ္တိ ပဋိပတ္တိများကို လေ့လာလိုသည်၊ မည်သည့် အချိန် ကာလလောက်တွင် မြန်မာနိုင်ငံသို့ ကြွရောက်လိုသည်၊ ကုန်ကျမည့်စရိတ်များကို မည်သူကကျခံမည် စသောအကြောင်းများကို စာရေး၍ မေးမြန်း လျှောက်ထားရန်နှင့် ပြန်စာရရှိသောအခါ၌၊ထိုကိစ္စကိုပြန်လည် စဉ်းစားရန် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ သဘော တူညီ လိုက်ကြပြီ ဖြစ်ကြောင်း။

## အင်းဓမ္မသင် B.S.C ကိုယ်တော်ကလေး

သီဟိုဠ်ကျွန်းမှကြွရောက်လာ၍ဤအဖွဲ့မှ ပဏ္ဍိတဒါယကာအဖြစ် ခံယူထားသော အရှင်ဗုဒ္ဓရက္ခိတသည် ရန်ကုန်မြို့ပဋ္ဌာန်းကျောင်းတိုက်တွင် ပဋ္ဌာန်း၊ တရားတော်များ သင်ကြား လေ့လာတော် မူခဲ့လေသည်။ ထိုအရှင်ဗုဒ္ဓ ရက္ခိတသည်၊ ကာလကတ္တား ယူနီဗာစီတီမှ အထက်တန်း ပညာရပ်များကိုသင်ယူတတ်မြောက်လာသည့် ပုဂ္ဂိုလ်ဖြစ်သည့်ပြင် သာသနာ့ရိပ်သာတွင် တရားအားထုတ်ပြီးဖြစ်၍ ပရိယတ္တိ ပဋိပတ္တိများ တတ်မြောက် ကျွမ်းကျင် လာသောအခါ၊ မိမိအား ဤအဖွဲ့ကြီးမှ လိုရာတွင်အသုံးပြုနိုင်သည်ဟု ကတိပြုထားသည်ကတကြောင်း။ ထိုပုဂ္ဂိုလ် မန္တလေးမြို့သို့ကြွရောက်၍ ပရိယတ္တိများကို လေ့လာသင်ယူနိုင်ရေးအတွက် နေရာ ထိုင်ခင်း အစရှိသည်တို့ကို မှုတ အဆင်ပြေအောင် စီစဉ်ဆောင်ရွက်ပေးပါမည်ဟု ဝိဇ္ဇာလင်္ကာရဆရာတော် အသျှင် ဦးဝိသုဒ္ဓ၏ မိန့်ကြားချက်အရ ထိုအရှင်ဗုဒ္ဓရက္ခိတသည်၊မန္တလေးသို့ကြွရောက်ရာ၌ အဖွဲ့မှခရီးစရိတ်ထောက်ပံ့ရန်နှင့် မန္တလေးမြို့တွင် ပရိယတ္တိများ လေ့လာသင်ယူနေစဉ်အတွင်း၊ဤအဖွဲ့မှထောက်ပံ့မှု ပစ္စည်းလေးပါး အတွက် တလလျှင် ၆၀ိ-ကျ ဆက်လက်ထောက်ပံ့လှူဒါန်းရန် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီးမှ သဘောတူဆုံးဖြတ်လိုက်ကြကြောင်း။

## စင်္ကာပူတွင် ဘုရားကျောင်းဆောက်လုပ်ရေး

စင်္ကာပူမြို့ ကင်တာလမ်း ဗုဒ္ဓဘာသာ ကျောင်းတော် ဘဏ္ဍာတော်ထိန်းကြီး ဦးကျော်ဝေါင်ထံမှ ဗုဒ္ဓရုပ်ပွားတော်အတွက် ကျောင်းတော်ဆောက်လုပ်ရန်နှင့် မြေနေရာဝယ်ယူရန်ဤအဖွဲ့ကြီးမှ အလှူငွေ ထောက်ပံ့ လှူဒါန်းပါမည့် အကြောင်း မေတ္တာရပ်ခံသည့်ကိစ္စကို စဉ်းစားကြပြီးလျှင် ဗုဒ္ဓသာသနာ အဖွဲ့ကြီးသည် ဆဋ္ဌသင်္ဂါယနာတင်ကိစ္စကြီးအတွက် အထူးလုံးပန်း ဆောင်ရွက် နေရသောကြောင့်၊ ဦးကျော်ဝေါင်မေတ္တာရပ်ခံသည့်အတိုင်း ထောက်ပံ့လှူဒါန်းခြင်းမပြုနိုင်ပါ။ သို့ရာတွင် စင်္ကာပူမြို့ကင်တာလမ်း ဗုဒ္ဓဘာသာ ကျောင်းတော်ကြီး ဆောက်လုပ်နိုင်ရေးတွင် မြန်မာနိုင်ငံတော်နှင့် ကမ္ဘာပေါ်ရှိ ဗုဒ္ဓဘာသာဝင်များက အလှူငွေများထည့်ဝင်လှူဒါန်းနိုင်စေရန်အတွက် ဤအဖွဲ့မှ လစဉ်ထုတ်ဝေသည့် သံဃါယနာ (အင်္ဂလိပ် မြန်မာ) စာစောင်များ၌ ထည့်သွင်းဖော်ပြ၍ မေတ္တာရပ်ခံရန် နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့ကြီးမှသဘောတူညီလိုက်ကြကြောင်း။

## ဖင်လန်ပြည်ဗုဒ္ဓသာသနာပြုကိစ္စ

ဖင်လန်ပြည် ဗုဒ္ဓဘာသာ အသင်း ဥက္ကဋ္ဌ မစ္စတာနေဘတ်ထံ၊ ဘိက္ခုများ ဘာပြန်ရေးသားသော ဗုဒ္ဓဘာသာ အမေးအဖြေစာအုပ်ကို ဆွီဒင်ဘာသာသို့ပြန်ဆိုပြီးလျှင် ဆွီဒင်ပြည်နှင့် နော်ဝေပြည်များတွင် ရောင်းချဖြန့်ဖြူးရန်အတွက် ကုန်ကျမည့်ငွေပေါင်း ၂၅၀ိ-ကို ဤအဖွဲ့ကြီးမှ ထောက်ပံ့လှူဒါန်းပါရန် မစ္စတာနေဘတ် မေတ္တာရပ်ခံလေသည်။ ထိုကိစ္စနှင့် ပတ်သက်၍ နော်ဝေပြည်နှင့် ဆွီဒင်ပြည်တို့သည် လွတ်လပ်စွာ ကိုးကွယ် ခွင့်ကို လွန်ခဲ့သော ဘာနှစ်ခန့်ကမှ ရရှိကြသဖြင့် ထိုနိုင်ငံများတွင် ဗုဒ္ဓဘာသာ မျိုးစေ့ ချလိုက်ပေါက လွန်စွာ ထွန်းကားနိုင်မည့် မျှော်လင့်ဘွယ်ရှိသည့်အကြောင်း၊ ဤအဖွဲ့ကြီးမှ ထောက်ပံ့လိုက်သည့်ငွေကို နောင်အခါတွင် ဗုဒ္ဓဘာသာ ကျမ်းစာအုပ်များ အငွေ့သဖြင့် မှန်မှန်ပြန်ပို့နိုင်ရန်အတွက်၊ ငွေပင်-ငွေရင်းမပျက်သည့် ရန်ပုံငွေ တခုအဖြစ် တည်ရှိသွားမည်ဟု ပါဝင်သည့်က တကြောင်း။ ထို့ပြင် ကွင်းစ်လင်း (Queensland) တက္ကသိုလ်ပါမောက္ခ မစ္စတာ ဟင်ဆင် ( Mr. Hansson ) သည် မြန်မာပြည်သို့မကြာမီ လာရောက်ပြီးလျှင် ဗုဒ္ဓဘာသာဝင်ဖြစ်သည့်အတိုင်း ပရိယတ္တိ ပဋိပတ္တိများကို လက်တွေ့ တလမျှလေ့လာပြီးနောက် မိမိ၏ ဇာတိ ဖြစ်သော ဆွီဒင်နိုင်ငံသို့ ပြန်လည်၍ ဗုဒ္ဓဘာသာ ထွန်းကားရန် ဆောင်ရွက်မည့်ပုဂ္ဂိုလ်ဖြစ်သည်ဟု သိရကြ၍ ထိုပုဂ္ဂိုလ်ပြန်လည် ရောက်ရှိသောအခါ ဗုဒ္ဓဘာသာ ထွန်းကားရန်ဆောင်ရွက်ရာတွင် ယခုထောက်ပံ့လိုက်သောငွေသည် အထူး အကျိုးရှိလိမ့်မည်ဟု ယုံကြည်သည်ကတကြောင်း ထိုအကြောင်းကြောင်းတို့ကြောင့်၊ မေတ္တာရပ်ခံ တောင်းဆိုသည့်အတိုင်း ငွေပေါင်း ၂၅၀ိ-ကို ဤအဖွဲ့ကြီးမှ ထောက်ပံ့လှူဒါန်းရန်သဘောတူဆုံးဖြတ်လိုက်ကြကြောင်း၊ ထိုသို့ သဘောတူညီကြသည့် အကြောင်းနှင့် ငွေကိုမည်သည့်အခါတွင် မည်သို့ပို့ရမည်၊ စာအုပ်များကို မည်သည့် အခါတွင် ပုံနှိပ်မည်၊ ရေးနှုန်းမည်မျှထားရှိမည်။ မည်ရွှေမည်မျှ ရောင်းချပြီးသည် စသည်တို့ကို အခါအားလျော်စွာ ဤအဖွဲ့ကြီးသို့ အစီရင်ခံစာပေးပို့ရန် စသည်တို့ကို မစ္စတာ နေဘတ်ထံသို့ အကြောင်းပြန်ကြားရန်နှင့် မစ္စတာနေဘတ်ထံမှ ပြန်စာရရှိသည့် အခါတွင် မေတ္တာရပ်ခံ တောင်းဆိုသည့် ငွေကိုပေးပို့ရန် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးမှ သဘောတူညီကြသည်။

## မဒရတ်မြို့အတွက်ဆင်းတုတော်

အိန္ဒိယပြည် မဒရတ်မြို့ဟောင်းမဟာဗောဓိအသင်း နာယကဆရာတော် ဦးသုမင်္ဂလထံမှ မြတ်စွာဘုရားဆင်းတုတော်လှူဒါန်းရန်မေတ္တာရပ်ခံချက်နှင့်ပတ်သက်၍ (၁၆-၉-၅၃) နေ့ ဓမ္မဒူတဝိဇ္ဇာလယ အဖွဲ့ငယ် အစည်းအဝေးအမှတ်စဉ် ၁၉ ဆုံးဖြတ်ချက်အရ ပြန်လည်လျှောက်ထားသည့်အတိုင်း အလိုရှိသော ဆင်းတုတော်၏ အရွယ်အစား၊ ဘုရားခန်းနှင့် ခေါင်းလောင်းစင်တခု ဆောက်လုပ်ရန် အတွက် ကုန်ကျမည့်ငွေ ၂၀၀ိ ကိုးထောက်ပံ့ လှူဒါန်းရန် မေတ္တာရပ်ခံသည့်ကိစ္စကို စဉ်းစားကြပြီးလျှင်၊ဤအဖွဲ့ကြီးသည် ဆဋ္ဌသံဃါယနာတင်ကိစ္စကို အထူးဝါယမစိုက် ထုတ်နေရသောကြောင်းဆရာတော်မေတ္တာရပ်ခံသည့်အတိုင်း လှူဒါန်းနိုင်သဖြင့်၊ ထိုသို့ဆင်းတုတော် ခေါင်းလောင်းတခု ပူဇော်နိုင်ရေးနှင့် ဘုရားခန်းနှင့် ခေါင်းလောင်းစင် ဆောက်လုပ်ရေးတို့အတွက် မြန်မာနိုင်ငံတော်ရှိ ပြည်သူပြည်သားများက အလှူငွေထည့်ဝင်လှူဒါန်းလိုက လှူဒါန်းနိုင်စေရန်၊ဤအဖွဲ့မှလစဉ်ထုတ်ဝေနေသည့်သံဃါယနာ (အင်္ဂလိပ်-မြန်မာ) စာစောင်များ၌ ထည့်သွင်းဖော်ပြပေးရန် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့မှ သဘော တူညီကြကြောင်း။ (အကယ်၍ ဒါယကာမ ပေါ်ပေါက်လျှင် ဆင်းတုတော် တဆူကို ဤအဖွဲ့က လှူဒါန်းရန် သဘော တူညီကြသည်)။

## ဗုဒ္ဓနေ့သတ်မှတ်ပုံကွဲလွဲချက်များ

ပလေဘင်မြို့ မစ္စတာ ဆုဂျင်နှင့် ဦးဆုဂိထံမှဗုဒ္ဓသာသနာ့သက္ကရာဇ်ကွဲပြားခြားနားခြင်းကို အကြောင်းပြု၍ ဘာသာရေးနေ့များ တပြည်နှင့်တပြည် ကွဲပြားခြားနားနေခြင်းကို မည်သည့် နေ့ရက်က မှန်ကြောင်း ကျမ်းဂန်အကိုးအကားများနှင့်သုတေသနပြုလုပ်ပေးပါမည့်အကြောင်း မေတ္တာရပ်ခံချက်အရ (၂၀-၈-၅၃) နေ့ဖြန့်ချိရေး အဖွဲ့ငယ် အစည်းအဝေး အမှတ်စဉ် ၃၂ မှ အလောင်းတော် ဖွါးမြင်တော်မူသော နေ့၊ ဘုရား ဖြစ်တော်မူသောနေ့၊ ပရိနိဗ္ဗာန်စံ သုတော်မူသောနေ့များ၏ ခုနှစ်သက္ကရာဇ်များကို ဗုဒ္ဓဘာသာ ကျမ်းဂန် ပေများထဲမှ အထောက်အထား အကိုးအကား ခိုင်လုံစွာပြ၍ ဖြေရှင်းပေးသနားပါမည့်အကြောင်းနှင့် ဆဋ္ဌသင်္ဂါယနာ ဝန်ဆောင်သံဃာအဖွဲ့ဝင် ဆရာတော်ကြီးများထံ လျှောက်ထားရန် ဆုံးဖြတ်ချက် လျှောက်ထားခဲ့ရာ ဝန်ဆောင် သံဃာအဖွဲ့ ဘုရားကြီးအနောက်ရမ်းဆရာတော်နှင့် မင်းကွန်း ဆရာတော်ကပါ ထောက်ခံသဘောတူထားသော ဗုဒ္ဓနေ့ဆုံးဖြတ်စာနှင့် ဝန်ဆောင် သံဃာအဖွဲ့ဝင် စံကျောင်းဆရာတော်ထံမှ ဗုဒ္ဓနေ့ ဆုံးဖြတ်စာများကိုဘတ်ရှုကြားနာကြပြီး လျှင် ထိုဆရာတော်ကြီးများ၏ အဆုံးအဖြတ် ပြဿဝါဒ များကို မိတ္တူကူး၍ ဗုဒ္ဓဝင်မှာနည်းရင်း၊ သာသနာ့ရောင်ခြည် အယ်ဒီတာထံသို့ရင်း၊ အခြားသော ကျမ်းဂန်အကိုး အကားများနှင့် တိုက်ဆိုင် ညှိနှိုင်း၍မှတ်ချက်များနှင့်တကွ ရယူပြီးနောက်၊ထိုကိစ္စကိုဆက်လက်စဉ်းစားရန် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ဖြန့်ချိရေး အဖွဲ့ငယ်မှ သဘောတူ ကြကြောင်း။

## အိန္ဒိယသို့ဗုဒ္ဓဘာသာ စာစောင်များလှူရန်

အိန္ဒိယပြည် မိဂဒါဝုန် ဆရာတော် ဦးကိတ္တိမာထံမှ အိန္ဒိယပြည်ရှိဗုဒ္ဓဘာသာ

( စာမျက်နှာ ၁၅ သို့ကြည့်ပါ )

# သုတ်သင်ပြီးခုဒ္ဒကနိကာယ်ပါဠိတော်

## ကျမ်းအမှတ်စဉ်(၃၀)ဝိမာနဝတ္ထု

### နတ်မောက်မြို့ ပါဠိဝိသောဓကဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးကိတ္တိ | | မူလမွှာစရိယ | မြို့မတိုက် | နတ်မောက် |
| ၂ | ဦးသုမိယ | | ။ | ရှောက်ဆိပ်ပင်တိုက် | ။ |
| ၃ | ဦးနန္ဒမာလာ | | ။ | ဗိုလ်ရာတိုက် | ။ |
| ၄ | ဦးကေသဝါဘိဝံသ | | စေတီယင်္ဂဏမွှာစရိယ | ဘုရားကြီးတိုက် | ။ |
| ၅ | ဦးရေဝတ | | မူလမွှာစရိယ | တမာပင်ကျောင်း | ။ |
| ၆ | ဦးကောဝိဒ | | ။ | မြို့မတိုက် | ။ |
| ၇ | ဦးဝိမိယ | | ။ | ဘုရားကြီးတိုက် | ။ |
| ၈ | ဦးလာဘ | | ။ | ရှောက်ဆိပ်ပင်တိုက် | ။ |

## ကျမ်းအမှတ်စဉ်(၃၁)ပေတဝတ္ထု

### တောင်တွင်းကြီးမြို့ ပါဠိဝိသောဓက ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးကေသရ | | မူလမွှာစရိယ | မင်္ဂလာဇေယျကျောင်း | တောင်တွင်းကြီး |
| ၂ | ဦးခန္တိပါလ | ၃၄ | ။ | လောကမှန်ကူကျောင်း | ။ |
| ၃ | ဦးသုမိယ | | ။ | ကံပေါ်ကျောင်း | ။ |
| ၄ | ဦးခေမိန္ဒ | | ။ | အာသောကရုံကျောင်း | ။ |
| ၅ | ဦးဓမ္မပါလ | | ။ | မိုးကောင်းကျောင်း | ။ |
| ၆ | ဦးရာဇိန္ဒ | | ။ | သီရိမင်္ဂလာကျောင်း | ။ |
| ၇ | ဦးကောဏ္ဍည | | သာသနဇောတိကပဝရ | ရွှေမောဓောတိုက် | ။ |
| ၈ | ဦးဇာဂရ | ၃၀ | မူလမွှာစရိယ | ပွယ်တော်စဉ်တိုက် | ။ |
| ၉ | ဦးဥတ္တမ | | ။ | နတ်မိုကျောင်း | |

## ကျမ်းအမှတ်စဉ်(၃၂)ထေရဂါထာ

### ဟသ်ာတမြို့(၁) ပါဠိဝိသောဓက ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးနန္ဒ | ၄၀ | | မြစ်ကွေးကျောင်း | ဟသ်ာတ |
| ၂ | ဦးကုဝေရ | ၃၁ | မူလမွှာစရိယ | ရတနာဓိမာန်ကျောင်း | ။ |
| ၃ | ဦးသောဘဏ | ၃၉ | ။ | သပြေပင်ကျောင်း | ။ |
| ၄ | ဦးပဏ္ဍိတ | ၃၁ | ။ | အတွင်းပဏ္ဍမြား | ။ |
| ၅ | ဦးကလျာဏ | ၃၀ | ။ | ပိုးစာတောကျောင်း | ။ |
| ၆ | ဦးသံဝရ | ၃၄ | ။ | ရွှေကျောင်းတိုက် | ။ |
| ၇ | ဦးတေဇိန္ဒ | ၂၉ | ။ | မြစ်ကွေးကျောင်း | ။ |
| ၈ | ဦးအရိယဝံသ | ၂၂ | အဓိုးရမွှာစရိယ | ပိုးစာတောကျောင်း | ။ |
| ၉ | ဦးတိက္ခ | ၁၇ | ။ | ။ | ။ |
| ၁၀ | ဦးဂန္ဓသာရ | ၁၅ | ။ | ရှေကြည်ဘုံကံသစ် | ။ |
| ၁၁ | ဦးပညာဝန္တ | ၁၅ | မူလမွှာစရိယ | ။ | ။ |

### ဟသ်ာတမြို့(၂) ပါဠိဝိသောဓက ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးဝိသုဒ္ဓ | ၄၄ | မူလမွှာစရိယ | အတွင်းပဏ္ဍမြားတိုက် | ဟသ်ာတ |
| ၂ | ဦးနန္ဒိယ | ၄၀ | ။ | မြစ်ကွေးကျောင်း | ။ |
| ၃ | ဦးရေဝတ | ၃၄ | ။ | ရကျောင်းသစ်(ပဲကြီးကွန်း) | ။ |
| ၄ | ဦးစန္ဒ | ၄၀ | ။ | ရွှေကျောင်းတိုက် | ။ |
| ၅ | ဦးအာစရ | ၃၅ | ။ | မြစ်ကွေးကျောင်း | ။ |
| ၆ | ဦးဣန္ဒာဘာသ | ၃၂ | ။ | ငါးဖယ်ထု(မြောက်) | ။ |
| ၇ | ဦးဉာဏဝံသ | ၁၆ | ။ | ဘုရားငါးဆူကျောင်း | ။ |
| ၈ | ဦးဝိလာသ | ၂၅ | ။ | မြစ်ကွေးကျောင်း | ။ |
| ၉ | ဦးခေမိန္ဒ | ၂၁ | အဓိုးရမွှာစရိယ | ပိုးစာတောကျောင်း | ။ |
| ၁၀ | ဦးဝိဇ္ဇောဒယ | ၉ | ပဌမကျော် | သပြေပင်ကျောင်း | ။ |

# ကျမ်းအမှတ်စဉ်(၃၃)ထေရီဂါထာ

## မြန်အောင် ပါဠိဝိသောဓက ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးမာဃိန္ဒ | ၃၄ | မူလဓမ္မာစရိယ | မုံရွာကျောင်းတိုက် | မြန်အောင် |
| ၂ | ဦးဥာဏဝံသ | ၃၄ | ။ | ကြာနီကန်ကျောင်း | ။ |
| ၃ | ဦးဝါသဝ | ၃၁ | ။ | နန်းကျောင်း | ။ |
| ၄ | ဦးလာဘ | ၃၀ | ။ | ယွန်းကျောင်း | ။ |
| ၅ | ဦးနာယက | ၃၀ | ။ | ထွေ့ဝန်တိုက် | ။ |
| ၆ | ဦးသာသန | ၂၉ | ။ | နန္ဒာတိုက် | ။ |
| ၇ | ဦးသုစရိတဓမ္မ | ၂၉ | ။ | ရွှေကျောင်းတိုက် | ။ |
| ၈ | ဦးကဝိန္ဒ | ၂၇ | ။ | မဟာဓမ္မိကာရာမ | ။ |
| ၉ | ဦးပညာ | ၂၂ | ။ | အင်းဝကျောင်း | ။ |
| ၁၀ | ဦးကောဏ္ဍည | ၂၂ | ။ | မင်္ဂလာကန်ဦးကျောင်း | ။ |
| ၁၁ | ဦးဇောတိက | ၁၅ | ။ | ။ | ။ |

## ဓနုဖြူ ပါဠိဝိသောဓက ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးစန္ဒသိရီ | ၃၂ | မူလဓမ္မာစရိယ | သဒ္ဓမ္မဇောတိကာရာမ | ဓနုဖြူ |
| ၂ | ဦးပုညိန္ဒ | ၂၆ | သာသနဓဇသိရီပဝရ | ။ | ။ |
| ၃ | ဦးအဂ္ဂဓမ္မာလင်္ကာရ | ၂၁ | ။ | ။ | ။ |
| ၄ | ဦးသုမင်္ဂလ | ၂၉ | မူလဓမ္မာစရိယ | ဓမ္မာရုံကျောင်း | ညောင်ချောင်း |
| ၅ | ဦးဓမ္မရံသီ | ၃၇ | ။ | လယ်ပြင်ကျောင်း(သံကြီး) | ဓနုဖြူ |

# ကျမ်းအမှတ်စဉ်{၃၄} ပါဠိဇာတ်

## မန္တလေးမြို့ ဒက္ခိဏာရာမ ပါဠိဝိသောဓက ဆရာတော်များ(၁)

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးသောဘန | ၃၀ | မူလဓမ္မာစရိယ | တောင်ထီးလင်း | မန္တလေး |
| ၂ | ဦးနန္ဒိသေန | ၃၄ | ။ | မဟာနန္ဒိသေနာရာမ | ။ |
| ၃ | ဦးမေဓိဿရ | ၂၅ | အဘိုးရဓမ္မာစရိယ | မိုးဘောတိုက် | ။ |
| ၄ | ဦးအာစရ | ၂၂ | ပရိယတ္တိဓမ္မာစရိယ | ဇီးဘနီတိုက် | ။ |
| ၅ | ဦးသုန္ဒရ | ၂၈ | မူလဓမ္မာစရိယ | ဓမ္မိကာရာမ | ။ |
| ၆ | ဦးဝရ | ၉ | အဘိုးရဓမ္မာစရိယ | ။ | ။ |
| ၇ | ဦးစက္ကိန္ဒာဝရိယ | ၁၄ | | မဟာနန္ဒိသေနာရာမ | ။ |

## မန္တလေးမြို့ ဒက္ခိဏာရာမ ပါဠိဝိသောဓက ဆရာတော်များ(၂)

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးသီလဝံသ | ၃၄ | မူလဓမ္မာစရိယ | ဘုရားကြီးတိုက် | မန္တလေး |
| ၂ | ဦးဥက္ကံသ | ၂၉ | ။ | မြင်းဝန်တိုက် | ။ |
| ၃ | ဦးသုရိယ | ၁၉ | ပရိယတ္တိဓမ္မာစရိယ | တောင်ထီးလင်းတိုက် | ။ |
| ၄ | ဦးပုညာနန္ဒ | ၁၄ | ။ | ။ | ။ |
| ၅ | ဦးသံဝရ | ၁၁ | အဘိုးရဓမ္မာစရိယ | ။ | ။ |
| ၆ | ဦးသာသန | ၁၀ | ပရိယတ္တိဓမ္မာစရိယ | မြင်းဝန်တိုက် | ။ |
| ၇ | ဦးကောဝိဒ | ၁၃ | အဘိုးရဓမ္မာစရိယ | ဘုရားကြီးတိုက် | ။ |

## မန္တလေးမြို့ ဒက္ခိဏာရာမ ပါဠိဝိသောဓက ဆရာတော်များ(၃)

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးအာရိယဝံသ | ၃၂ | မူလဓမ္မာစရိယ | ထန္တာထာကျောင်း | မန္တလေး |
| ၂ | ဦးဥက္ကံသ | ၂၆ | ။ | အမရပူရကျောင်း | ။ |
| ၃ | ဦးပညာဇောတ | ၂၅ | ပရိယတ္တိဓမ္မာစရိယ | တရားမင်းကျောင်း | ။ |
| ၄ | ဦးမေဓိယ | ၂၂ | ။ | နယားကျောင်း | ။ |
| ၅ | ဦးသီလာနန္ဒ | ၆ | သာသနဓဇသိရီပဝရ | ဒေါနခြံအုတ်ကျောင်း | ။ |
| ၆ | ဦးခန္တိဓမ္မ | ၃၅ | မူလဓမ္မာစရိယ | ဦးခန္တီလေးကျောင်း | ။ |
| ၇ | ဦးသာသနဝရ | ၁၀ | ပရိယတ္တိဓမ္မာစရိယ | သာသနာ့ဇောတိကာရုံ | ။ |

# မဟာနိပါတ် အထက် {၅} ဇာတ်

## ပဲခူးမြို့ သုဓမ္မာ ပါဠိဝိသောဓက ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးဥာဏာလင်္ကာရ | ၄၄ | မူလဓမ္မာစရိယ | ရွာသင်ကျောင်းတိုက် | ပဲခူး |
| ၂ | ဦးဝဏ္ဏိန္ဒ | ၄၀ | ။ | ဝိပဿနာကျောင်း | ။ |
| ၃ | ဦးဣန္ဒာစာရ | ၃၆ | ။ | မြို့မစာသင်တိုက် | ။ |
| ၄ | ဦးသုမန | ၄၁ | ။ | ဓမ္မိကာရာမတိုက် | ။ |
| ၅ | ဦးဓမ္မပိယ | ၃၀ | ။ | ကြေးနီကန်ကျောင်း | ။ |

( စာမျက်နှာ ၁၇ သို့ကြည့်ပါ )

# နိဒ္ဒေသအဋ္ဌကထာကျမ်းမြူ

# အရှင်ဥပသေနအကြောင်း

ရေးသူ–မောင်

## နိဒ္ဒေသပါဠိတော်

ခုဒ္ဒကနိကာယ် ၁၉ ကျမ်းဘို့တွင် တကျမ်းအပါအဝင်ဖြစ်သော၊ မဟာနိဒ္ဒေသပါဠိတော်ကား ပညာတေဇ်ရတနာရေးစစ်သူကြီးဖြစ်တော်မူသော အရှင်သာရိပုတြာ ဟောကြားတော်မူသည့် ပါဠိတော် ဖြစ်ပေသည်။

ဗုဒ္ဓရှင်တော်ဘုရားသည်၊ အကျဉ်းအားဖြင့် ဟောကြားတော်မူအပ်သော သုတ္တာ ဒေသနာ ချက် ဓမ္မစက်ကို အရှင်သာရိပုတြာ ကိုယ်တော်မြတ်ကြီးက အကျယ်တဝင့် ခွဲခြမ်း ဝေဖန်လျက် ဟောကြားတော်မူအပ်သော ပါဠိတော်ကြီး ဖြစ်လေသည်။ ထို့ကြောင့်မဟာနိဒ္ဒေသအဋ္ဌကထာကျမ်းဦး၌

> ယံ နိဒ္ဒေသံ ဟိ ယော ဂုဏ္ဍ မဇ္ဈ စက္ခု ဝိဘာဝေ၊ သာရိပုတ္တော မဟာပညော၊ သဒ္ဓမ္မကပ္ပ ဓဇ နိဒ္ဓသော၊ ဓမ္မစက္ခု ဝိဘာဝေ တွာ၊ မဟာနိဒ္ဒေသမဗြဝိ၊ ဝါဒ္ဓေါ ဝိသိဋ္ဌော နိဒ္ဒေသော၊ တံ နာမ ဝိဿသိတော။

ဟု ဖော်ပြတော်မူလေသည်။

## သီဟိုဠ်ဆရာတော်

ထိုမဟာနိဒ္ဒေသ အဋ္ဌကထာကို ရေးသားတော်မူသော ပုဂ္ဂိုလ်ကား၊ သီဟိုဠ်ကျွန်း၊ အနုရာဓမြို့တော်၏ တောင်ဘက်ရှိ မဟာဝိဟာရ ကျောင်းတိုက်မှ အရှင်ဥပသေနမထေရ်မြတ်ကြီးဖြစ်ကြောင်းကိုင်း၊ အနုရာဓမြို့ပေါဠလာနဝိယမင်းနန်းစံတော်မူ၍ သုံးနှစ်အကြာတွင် ရေးသားစီရင်၍ ပြီးကြောင်းကိုင်း၊ သာသနာ လင်္ကာရ ကျမ်း၌ ဖော်ပြထားလေသည်။ (ဤတွင် မောဂ္ဂလာနဝိယမင်း နန်းစံ၍ ၃ နှစ်အကြာတွင်ရေးသား၍ ပြီးစီးသည် ဟူသောစကားကို ယခုလက်ရှိ မြန်မာမူ မဟာနိဒ္ဒေသ အဋ္ဌကထာများ၌ ပါဝင်သည်ကို ကျွန်ုပ်တို့မတွေ့ရပေ)။ အဋ္ဌကထာ၏အမည်မှာ သဒ္ဓမ္မပဇ္ဇောတိက အဋ္ဌကထာဟု ဖြစ်လေသည်။

## အရှင်ဒေဝ တောင်းပန်ချက်ကြောင့်

ထို့ပြင် အရှင် မဟာဥပသေနသည်၊ ဤမဟာနိဒ္ဒေသ အဋ္ဌကထာကို အရှင်ဒေဝမထေရ် တောင်းပန် သောကြောင့် ရေးသားရခြင်း ဖြစ်ကြောင်းကိုင်း၊ မဟာဝိဟာရဝါသီအရှင်မြတ်တို့၏အဆက်ဆက်မှ ဆောင်ယူခဲ့သော အဆုံးအဖြတ်များကို အမှီပြုလျက် ယူသင့်သည်ကိုယူပြီးလျှင် ရေးသားရခြင်းဖြစ်ကြောင်းကိုင်း၊ ရှေးဟောင်း အဋ္ဌကထာများမှသင့်လျော်သည့်အချက်များကို ထုတ်ဆောင် ယူငင်လျက် ရေးသားရခြင်းဖြစ်ကြောင်းကိုင်း၊

> ခမာ ဒယာဒိ ယုတ္တေန၊ ယုတ္တ မုတ္တာဒိ ဝါဒိနာ၊ မဟာသတ္တေန ဓီမတာ၊ ဒေဝေန အဘိယာစိတော၊ မဟာဝိဟာရ ဝါသီနံ၊ သဏ္ဌာယ ပဒ္ဓ ဝါဒိတ္တော၊ ဂဏှာ ဂဏှာ တိ ပုဗ္ဗ ဂဏှ ပုဗ္ဗာ ပုဗ္ဗ မဟာဖလံ၊ အပြိ စ မဟာသတ္တ နိဒ္ဒ သယမယ သက္ကစ္စ၊ အနာမယ သန္တော သမယံ ပရဋ္ဌ၊ ပုဗ္ဗော ပဒေသ ဋ္ဌကထာနယည္စ၊ ယထာနုရူပံ ဥပသံဟရန္တော–။

ဟု ကျမ်းဦး၌ ကိုယ်တော်တိုင် ဖော်ပြတော်မူခဲ့လေသည်။

## မဟာ-နှင့်-စူဠ

မဟာနိဒ္ဒေသပါဠိတော်မှာ၊ အဋ္ဌကဝဂ်ပါရာယနဝဂ်ဟု၊ ဝဂ်ကြီးနှစ်မျိုး (အစုကြီးနှစ်မျိုး) ရှိလေသည်။ အဋ္ဌကဝဂ်၌ သုတ်ပေါင်း ၁၆ သုတ်မျှ ပါရှိလေသည်။ ပါရာယနဝဂ်၌လည်း သုတ်ပေါင်း ၁၆ သုတ်အပြင် ခဂ္ဂဝိသာဏသုတ်တော်ကြီးလည်း တွဲဖက်ပါရှိလေသည်။ အဋ္ဌကဝဂ်ကိုမဟာနိဒ္ဒေသပါဠိတော်ဟု ခေါ်ဆို တတ်ကြပြီးလျှင် ပါရာယနဝဂ်ကိုကား၊ စူဠနိဒ္ဒေသပါဠိတော်ဟု ခေါ်ဆိုလေ့ရှိကြကုန်၏။

အရှင် ဥပသေနသည်ကား နှစ်ကျမ်းစလုံးကိုပေါင်းစပ်၍ မဟာနိဒ္ဒေသ အဋ္ဌကထာ ဟူသောအနေဖြင့်သာဖွင့်ဆိုရေးသားခဲ့ဟန်တူလေသည်။ ထို့ကြောင့် မဟာနိဒ္ဒေသအဋ္ဌကထာ၏အစ၌ ကျမ်းဦးဂါထာများကို တွေ့ရှိရသော်လည်းသည်။ နိဂုံးဂါထာများ၊ ကိုမူမတွေ့ရချေ။ စူဠနိဒ္ဒေသ အဋ္ဌကထာ၌ကား၊ ကျမ်းဦးဂါထာများ မပါရှိဘဲ၊ နိဂုံးဂါထာများကိုသာလျှင် တွေ့ရ လေသည်။ စူဠနိဒ္ဒေသ အဋ္ဌကထာ စာအုပ်၏ နိဂုံး၌လည်း (သုဝိဘတ္တော မဟာနိဒ္ဒေသော၊ တာသဿ ဝဏ္ဏနာ)ဟု တွေ့ရပေသည်။

မှတ်ချက်။ ။အကယ်၍ ယခုစာအုပ်အဖြစ် ရိုက်နှိပ်သောမြန်မာမူများ၌မပါသော်လည်း၊ ရှေးကမြန်မာမူများ၌ငင်း၊ နိုင်ငံခြားမူများ၌ငင်း ပါမည် မပါမည်ကိုကား ယခုဤစာရေးနေချိန်အထိ မစစ်ဆေးရသေးသဖြင့်အတိအကျမရေးလိုက်ပေ။ စူဠနိဒ္ဒေသ အဋ္ဌကထာ၏ နိဂုံး၌ (သုဝိဘတ္တော မဟာနိဒ္ဒေသော) ဟူသောစကားကို ထောက်ထားခြင်း အားဖြင့် နှစ်ကျမ်းကို တကျမ်းတည်းကဲ့သို့သဘောထားလျက် ဖွင့်ဆိုတော်မူခဲ့ခြင်းဖြစ်မည်ဟု ယူဆရန် ပိုမို ခိုင်လုံ လျက်ရှိပေ၏၊ ထို့ပြင် စူဠနိဒ္ဒေသပါဠိတော်ကိုလည်း (သုဂတပုတ္တံ နံ အဓိပ္ပါတိဘူတေန) ဟူသော စကားနှင့်အညီ ရှင်သာရိပုတြာ ဖွင့်ဆိုဟောကြားတော်မူခြင်းဖြစ်ကြောင်း သိသာသပေရာ၊ အထက်ပါအယူအဆကို ပို၍ တက်ခိုင်လုံစေနိုင်သည့်အချက်ပင် ဖြစ်သည် ဟု ထင်မှတ်မိပေသည်။



ဆဋ္ဌသံဂါယနာ လိုဏ်ဂူတော်ကြီးအတွင်း၌ တစ်ဆင့်ရှိ အတွက် ဓမ္မာစကြာစက်ဝိုင်းကို သစ်သားတွင် ထွင်းလုပ်နေပုံ။



သာသနာရေးဝန်ကြီး ဦးဝင်း၊ ရွှေနေချုပ်ကြီး ဦးချန်ထွန်းနှင့် သီဟိုဠ်သံအမတ်ကြီးတို့ သီဟိုဠ်မှ ကြွမြန်းလာမည့် ဓါတ်တော်ကို ကြိုဆိုနေကြစဉ်



ယိုးဒယားပြည်မှ ကြွလာသော ပါဠိဝိသောဓက ဆရာတော် ၂-ပါး

## သီရိသင်္ဃ ဗောဓိမင်းလက်ထက်

စူဠနိဒ္ဒေသ အဋ္ဌကထာနိဂုံး၌၊ မဟာနိဒ္ဒေသ၏အဖွင့်ကို ရှေးအဋ္ဌကထာများမှ သင့်လျော်မည့်အချက်များအကိုမှီပြု၍ရေးသားရခြင်းဖြစ်ကြောင်း၊ အနုရာဓမြို့တော်၏တောင်ဘက်၌ မဟာဝိဟာရကျောင်းတိုက်ကြီးတည်ရှိကြောင်း၊ မဟာထူပကြီး (စေတီတော်ကြီး) ရှိကြောင်း၊ ထိုစေတီတော်ကြီး၏ အနောက်ဘက်၌ အရိပ်-ရေ တံတိုင်းတို့ဖြင့်ပြည့်စုံစွာ တန်ဆာဆင်အပ်သော ပရိဝုဏ်ဘွဲ့ရှိကြောင်း။ ထိုပရိဝုဏ်၌ သီတင်းသုံးတော်မူသည့် ဥပသေန အရှင်မြတ်သည်၊ သဒ္ဓမ္မပဇ္ဇောတိက အမည်ရှိသော ဤအဋ္ဌကထာကို သီရိသင်္ဃဗောဓိမင်းနန်းစံတော်မူ၍ ၂၆ နှစ်သို့အရောက်တွင် ရေးသားပြီးစီးကြောင်း စသည်ဖြင့် အသေအချာ အတိအကျ ဖော်ပြတော်မူခဲ့လေသည်။

.....○.....

# ဆဋ္ဌ သံဂါယနာ အဆောက်အဦများ

( ဓါတ်ပုံသတင်းများ )



ဆောက်လုပ်နေဆဲ ဆဋ္ဌသံဂါယနာလိုဏ်ဂူကြီး၊ တောင်ဘက်မှ ကြည့်ရှုမြင်ရပုံ။



လိုဏ်ဂူကြီး၏ အနောက်မျက်နှာဘက်တွင် ကျေ… တောင်ကြီးသဖွယ် ပြုလုပ်နေပုံ။



လိုဏ်ဂူကြီးအတွင်းမှ ဥမင်လမ်းမကြီး။



အလုပ်သမားများတောင်ဘက်မှလုပ်…



အတွင်းသို့ဝင်ရောက်ပါက သံဃာတော်များ သီတင်းသုံးရန် အဆင့်များကို တွေ့မြင်ရပုံ။



အတွင်းဘက်တနေရာသို့ လှည့်၍ ကြည့်ရှုပါက ဤသို့လျှင် တွေမြင်ကြရမည်ဖြစ်၏။



သံဃါယနာတင်သံဃာတော်များ သီတင်းသုံးရန်အာဂန္တုကကျောင်းဆောင်အပြီးသတ်ခါနီးပုံ။



အခြားသော အာဂန္တုကကျောင်းတဆောင်မှာလည်း အပြီးသတ်ကာနီးနေပြီဖြစ်ကြောင်း။



အခြားတဘက်မှလည်း ဤသို့လုပ်နေကြ၏။



လိုဏ်ဂူကြီးအတွင်းမှတိုင်ကြီးများ

# နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့၏ စတုတ္ထ-ခြောက်လပတ်-ညီလာခံ

နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီး၏ စတုတ္ထ အကြိမ်မြောက် ခြောက်လပတ်ညီလာခံ အစည်းအဝေးကြီးကို ၁၃၁၅ ခု တန်ဆောင်မုန်းလဆုတ် ၄ရက် ၁၅ရက် (၅–၁၂–၅၃) (၆–၁၂–၅၃) နေ့များ၌ ကုတ်ကိုင်း သာသနာ့ရိပ်သာအဖွဲ့တည် ရာဌာန၌ ကျင်းပရာ နိုင်ငံတော်ဗုဒ္ဓသာသနာ အဖွဲ့၏ ဩဝါဒစရိယ ဖြစ်တော်မူသော ဆရာတော်ကြီး [၉] ပါးသည်လည်း ပင့်လျှောက်ချက် အရ ညီလာခံ စတင်ဖွင့်လှစ်သည့် အခမ်းအနားသို့ ကြွရောက်ချီး မြှင့်တော်မူကြလေသည်။

## ညီလာခံသို့တက်ရောက်သည့် ဌာနမှူးဆောင်အဖွဲ့ဝင်များ

(၁) သတိုးသီရိသုဓမ္မ ဆာဦးသွင် (ဥက္ကဋ္ဌ)။ (၂) သတိုးသီရိသုဓမ္မ ဦးသိမ်းမောင် (ဒုတိယဥက္ကဋ္ဌ)။ (၃) တရားဝန်ကြီး ဦးအုံးဖေ။ (၄) မဟာသီရိသုဓမ္မ ဦးမြ (ဟင်္သာတ)။ (၅) စည်သူ ဦးစံညွန့်။ (၆) စည်သူ ဦးဘခင်။ (၇) ဦးဘတင် (ချပ်သင်း)။ (၈) စကားတော်ဘွားကြီး၊ (၉) ဦးကြီးဖေ (သာသနာ့ ညွှန်ကြားရေးဝန်)။ (၁၀) ဦးထွန်းအောင် [စစ်တွေ]။ (၁၁) ဦးဘိုးမြ (ရန်ကုန်)။ (၁၂) ဦးစင် ရှိန်၊ (၁၃) ဦးဘဇေ (ကယား)။ (၁၄) ဦးစံညွန့် (ကရင် ပြည်နယ်ခွဲ)။ (၁၅) ဦးမောင်မောင်ကလေး (မန္တလေး)၊ (၁၆)ဦးစံရှိ ၎င်း။ (၁၇) ဦးသိန်းအောင် ၎င်း။ (၁၈) ဦးတင်အောင် ၎င်း။ (၁၉) ဦးမြင့်ဟန် ၎င်း၊ (၂၀)ဦးစံသိန်း [ပင်လယ်ရေကြောင်း သယ်ယူပို့ဆောင်ရေး ဌာန ဥက္ကဋ္ဌ]။ (၂၁) သတိုးမဟာသရေစည်သူ ဦးချန်ထွန်း [အကျိုးဆောင် စာချီ]၊ (၂၂) ဦးဘဆွေ [အကျိုးဆောင် စာချီ]။



နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ၂-နှစ်ပြည့် ခြောက်လပတ် စတုတ္ထအကြိမ်မြောက် ညီလာခံသဘင်ကို ကျင်းပနေစဉ် တွေ့မြင်ရပုံ။

## ညီလာခံသို့တက်ရောက်သည့် ဒေသကိုယ်စားလှယ်များ

(၁)ဦးကျွန်းကျော် (မြင်းခြံ)၊ (၂) ဦးသူငယ် (အင်းစိန်)။ (၃) ဦးဘဘွား (ပြည်) (၄) ဦးကျော်ဇော (မန္တလေး) (၅) ဦးဥာဏ်ကြီး [ကျောက်ဆည်] (၆)ဦးကျော်ငြိမ်း [ဇီးကုန်း] ။ (၇) ဦးမြဦး [ရမည်းသင်း]၊ (၈) ဦးမောင်သာ (ပုသိမ်)၊ (၉) ဦးလှသွင် (မအူပင်) (၁၀) ဦးဘတင် (ဖျာပုံ)။ (၁၁) ဦးမောင် (မြောင်းမြ)။ (၁၂) ဦးသက်ရှည် (အာလံ)။ (၁၃) ဦးပန် (မင်းဘူး)။ (၁၄) လယ်တီ ဦးလှမောင် [သထုံ] [၁၅] ဦးဘိုးစံ (ကျိုက္ကမီ)၊ (၁၆) ဦးဖကြီ (ထားဝယ်)။ (၁၇) ဦးဘိုးလွင် (မြိတ်)၊ (၁၈) ဦးဘိုးလူ (ကျောက်ဖြူ) (၁၉) ဦးအောင်ထွန်း (သံတွဲ) (၂၀) ဆရာညို (ရွှေဘို)။ (၂၁)ဦးဆင့်(မုံရွာ) (၂၂)ဦးညို(လင်ခေး-ရှမ်းပြည်) (၂၃) ဦးဘရင် (ကလော)။ (၂၄) စဝ်ဆိုင်ဖ (ညောင်ရွှေ)၊ (၂၅) ဦးမောင်မောင် (သီပေါ)။ (၂၆) စောနွဲ့အောင် (မြစ်ကြီးနား) (၂၇)ဦးလှတင် (ဗိုလ်တောင်း) (၂၈) စောသာဇင် (ကျိုက္ကမီ) [၂၉] ဦးညွှန့် (တောင်ငူ) (၃၀) ဦးဘညို (ဟင်္သာတ)။

စာမျက်နှာ ၁၇ သို့ဆက်ကြည့်ပါ။



ညီလာခံသဘင်တွင် နိုင်ငံတော် အုပ်ချုပ်ရေးအရာရှိ(၃)က ၂-နှစ်အတွင်း ပြီးမြောက်အောင် မြင်ခဲ့သော သာသနာရေး လုပ်ငန်းများကို အသေးစိတ် အစီရင်ခံနေစဉ်။



ညီလာခံတွင် ပခုက္ကူမြို့ မျက်မမြင်ကျောင်းအုပ် ဆရာတော်က ပိဋကတ်တော်များကို ကိုယ်စားလှယ်တော်များရှေ့တွင် မျက်မမြင်ကျောင်းသားတဦးအား အဘတ်ခိုင်းနေစဉ်။

# ဆဋ္ဌသံဂါယနာလိုက်ဂူကြီးအတွက် ကုသိုလ်ပါဝင်ကြသူများ

ဖြတ်ပိုင်းအမှတ် ၁-မှ အဆက်

၇၆၊ မန္တလေးမြို့ စစ်ကိုင်းရပ် အငြိမ်းစား သစ်တော ဝန်ထောက် ဦးမောင်မောင်ကျော် K.S.M,A.T.M ဒေါ်နှင်းကြည် ၇ဝိ။

၇၇၊ မန္တလေးမြို့ စစ်ကိုင်းတန်းရပ် ဦးကံဦး-သို့၊ မသိန်းမြ ၂ဝိ။

၇၈၊ မန္တလေးမြို့ စစ်ကိုင်း တန်းရပ် မယ်ညွန့် ၁ဝိ။

၇၉၊ ထားဝယ်မြို့ ကြက် စား မြင် ရပ် ဦးဘို၊သောင်-မမြသင် ၃ဝိ၊

၈ဝ၊ ရှမ်းပြည် တောင်ပိုင်း အောင်ပန်းမြို့ ကုန်သည် ဦးအို၊ ဒေါ်စောညွှာ ၂ဝိ၊

၈၁၊ ရှမ်းပြည်တောင်ပိုင်း အောင်ပန်းမြို့ မောင်ကောင်းဖေ၏ ကုလီအဖွဲ့ သားများ ၂ဝိ၊

၈၂၊ စစ်တွေမြို့ မောင်၊တော စာရေး ကိုညိုသာအောင် ၁ဝိ။

၈၃၊ ညောင်တုန်းမြို့ သွားစိုက် ဆရာ ဦးမောင်မြင့်-ဒေါ်ဖွါးသင် ၁ဝဝိ၊

၈၄၊ ပုဇွန်လာမြို့ အစိုးရ တန်းမြင့် ကျောင်း ဗုဒ္ဓဘာသာအသင်း ဥက္ကဋ္ဌ ဦးမောင်မောင် ၁၅ဝိ၊

၈၅၊ မုံရွာမြို့ ကုန်သည် ဒေါ်မနှင့်သားသမီးများ ၅ဝိ၊

၈၆၊ သုံး ခွ ရွာ ဗိုလ်း ထောင့် ကန်သူကြီး ကတော် ဟောင်း ဒေါ်ကြီမယ် ၁၅ဝိ၊

၈၇၊ သုံးဆယ်မြို့ ဦးပု၊ ဒေါ်စိန် ၁ဝဝိ၊

၈၈၊ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ချုပ်နှင့် ဘာသာပြန်ဌာန၊ ပုံနှိပ်ဌာန၊ ဗုဒ္ဓဝင်ဌာန(ဒုတိယအကြိမ်)၃၇၅ိ-၇၅ ပြား။

၈၉၊ ညောင်တုန်းမြို့ အစိုးရ အထက်တန်းကျောင်းဆရာ ဦးကိုကိုကြီး ၂၃ဝိ။

၉ဝ၊ မေမြို့နယ် စည်းတော အုပ် ဦးစိုးမြင့် ၂ဝိ။

၉၁၊(ပယ်ဖျက်ခြင်း ခံရသောအမှတ်)။

၉၂၊ မြိုးမြို့ အင်္ဂလိပ် ပညာသင်ဆရာ မောင်လှအောင် ဝိ။

၉၃၊ မန္တလေးမြို့ ဗမာ့ရေတပ်မတော် သေနတ်ကိုင် တပ်ရင်း (၁) အရာရှိ အရာခံ၊ တပ်ကြပ် နှင့် တပ်သားများ၊ ၄၂၄ိ။

### ကျောက်တန်းမြို့ ပါဠိဝိသောဓက ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဦးကုဏ္ဍလ | ၃၂ | မူလမွှာစရိယ | အာသောကရာမတိုက် | ကျောက်တန်းမြို့ |
| ၂ | ဦးပဏ္ဍိတ | ၂၅ | ။ | ။ | ။ |
| ၃ | ဦးပဏ္ဍဝံသ | ၂၁ | အစိုးရမွှာစရိယ | ။ | ။ |
| ၄ | ဦးဓမ္မာဝံသ | ၃၀ | သကျသီဟမွှာစရိယ | ဝေနေယျသုခကျောင်း | ။ |
| ၅ | ဦးစက္ကိန္ဒ | ၃၇ | မူလမွှာစရိယ | ဖရိယတ္တိကျောင်း | ။ |
| ၆ | ဦးအာစာရ | ၃၃ | ။ | အာသောကရာမတိုက် | ။ |
| ၇ | ဦးဥာဏဝံသ | ၃၅ | ။ | မှဆိုးဆိပ်ရွာကျောင်း | ။ |
| ၈ | ဦးသုစိတ္တရ | ၃၂ | ။ | သိုးဘားရွာကျောင်း | ။ |
| ၉ | ဦးယုဂန္ဓရ | ၄၈ | ။ | ဓေယျာပူရတိုက် | ။ |
| ၁၀ | ဦးဥတ္တမ | ၂၆ | ။ | မင်းကျောင်းတိုက် | ။ |
| ၁၁ | ဦးကုမာရ | ၃၄ | ။ | ဥက္ကဋ္ဌကျောင်း | ။ |
| ၁၂ | ဦးနန္ဒ | ၂၂ | ။ | ဇွဲဘာကုန်းတန်းကျောင်းရွာ | ။ |

## မဟာနိပါတ် အောက်{၅}ကျမ်း ဇာတ်

### ဟံသာဝတီ-ခရမ်း ပါဠိဝိသောဓက ဆရာတော်များ

| | | | | | |
|---|---|---|---|---|---|
| ၁ | ဦးစက္ကိန္ဒ | ၃၅ | မူလမွှာစရိယ | ကိုင်းဘုန်းကျောင်း | ခရမ်း |
| ၂ | ဦးတေဇ | ၂၂ | သီရိပဝရမွှာစရိယ | ။ | ။ |
| ၃ | ဦးသုဒဿန | ၃၃ | မူလမွှာစရိယ | ။ | ။ |
| ၄ | ဦးဥာဏောဘာသ | ၃၄ | ။ | ။ | ။ |
| ၅ | ဦးမာဃိန္ဒ | ၆ | သီရိပဝရမွှာစရိယ | ။ | ။ |

ယခင်အပတ်မှအဆက်။

## ကျမ်းအမှတ်စဉ်{၂၄}အဘိဓမ္မပိဋက ပဋ္ဌာန{ပဌမ}

### မုံရွာမြို့ ပါဠိဝိသောဓက ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် | ခရိုင် |
|---|---|---|---|---|---|---|
| ၁ | ဦးနန္ဒိယ | ၄၃ | မူလမမွှာစရိယ | မောင်းဆောင် | မုံရွာ | မုံရွာ |
| ၂ | ဦးအဂ္ဂဝံသ | ၃၇ | မူထစာချ | ရေဒိန်မြောက်ကျောင်း | ။ | ။ |
| ၃ | ဦးပဏ္ဍိတ | ၂၅ | ။ | အရှေ့လေးထပ် | ။ | ။ |
| ၄ | ဦးအာစာရ | ၅၁ | ။ | သာသနာ့ဇောတိက | ဆားလင်း | ။ |
| ၅ | ဦးကလျာဏ | ၅၂ | ။ | နိဗ္ဗာန်ဆိပ်ဦး | ။ | ။ |
| ၆ | ဦးရက္ခိတ | ၃၂ | ။ | ဓမ္မိကာရာမ | ။ | ။ |
| ၇ | ဦးဥာဏိက | ၂၄ | ။ | အဘိနဝါရာမ | ။ | ။ |
| ၈ | ဦးပဏ္ဍိတ | ၅၂ | ။ | ပေပင်ကန်တိုက် | ။ | ။ |
| ၉ | ဦးညြဘာသ | ၄၀ | ။ | မင်္ဂလာစံကျောင်း | ။ | ။ |
| ၁၀ | ဦးအာဒိစ္စ | ၃၅ | | ရွှေပါးဆောင် | ။ | ။ |
| ၁၁ | ဦးပဏ္ဍိစ္စ | ၂၇ | အစိုးရပဌမကြီး | မဟာဗောဓိဝေရန် | ရင်းမာပင် | ။ |
| ၁၂ | ဦးဇာနေယျ | ၃၇ | မူလစာချ | မာလိန် | မုံရွာ | ။ |
| ၁၃ | ဦးသူရိယ | ၄၇ | ။ | ကျောက်စရစ်ပုံ | ။ | ။ |
| ၁၄ | ဦးတေဇိန္ဒ | ၃၀ | ။ | အောင်မြေရွှေဘုန် | ဆားလင်း | ။ |
| ၁၅ | ဦးဇောတ | ၅၇ | ။ | အုဋ္ဌကျောင်း | ရင်းမာပင် | ။ |
| ၁၆ | ဦးဇောတိက | ၁၉ | ။ | ရွှေစည်းခုံတိုက် | မုံရွာ | ။ |
| ၁၇ | ဦးဇာဂရ | ၂၇ | | ကျည်းပင်ကွင်း | ဆားလင်း | ။ |

၉၄၊ ရန်ကုန်မြို့ ဗဟန်းရပ် မြန်မာသွားစိုက်ဆရာကြီး ဦးထောင်ဖိုလ် ၅ဝိ။

၉၅၊ မန္တလေးမြို့ ဗိုလ်ချုပ်လမ်း ဆန်စက်နှင့်ဆီစက်ပိုင် ဦးဘဲခ၊ ဒေါ်မယ်သွီး မစိန်ရီ ၈၀၀၀ိ အနက်မှ(ပထမအကြိမ်) ၂၀၀ိ။

၉၆၊ မန္တလေးမြို့ ဝါးတန်းရှေ့ လဘက်ပွဲစားကြီး ဦးဘိုးထွေး၊ ဒေါ်တင်ဦး၊ သွီးတင်တင်လှ၊ မြင့်မြင့်ဌွေး ၈၀၀ိ အနက်မှ (ပထမအကြိမ်) ၂၁၀ိ

၉၇၊ မန္တလေးမြို့ ဝါးတန်းရှေ့လဘက်ပွဲစားကြီး၊ ဦးဘိုးနီ၊ ဒေါ်သန့်နွယ် သားသွီးများ ၄၅၀ိ အနက်မှ(ပထမအကြိမ်) ၂၀၀ိ

၉၈၊ ရန်ကုန်မြို့ အငြိမ်းစားသမဝါယမဝန် ဦးဘတင် ဘီအေ–၃ဝိ၊

၉၉၊ မန္တလေး တောင်ပြင် အငြိမ်းစားဝန်ထောက် ဦးမောင်မောင်ကလေး အေ–တီ–အမ် ၁ဝိ၊

၁၀၀၊ ဖားအံမြို့နယ် ခဲဘောက်ရွာ ဦးလှမင်းဖေ၊ ဦးစံသင်း၊ ဦးတက်တိုး၊ ဦးခွေး ၇၅ိ။

## ဖြတ်ပိုင်းစာအုပ် အမှတ် (၆)

၁၊ အင်းစိန် ပန္နက်ဆိတ်ကုန်း ဦးဘိုးမြင့်၊ ဒေါ်ငွေညွှန့် ၁ဝိ၊

၂၊ ရန်ကုန် ၂၂ လမ်း ကုန်သည် ဦးမောင်စိန်၊ ဒေါ်စိန်ကျင် သားသွီးများ ၁ဝိ၊

၃၊ ၊ ရေကျော်ဇေဗဝါလမ်း ဒေါ်သန်းကျင်–မောင်၊ မောင်ဟုန်စိန်၊ မောင်အောင်ကြည် မောင်နှမများ ၅ဝိ၊

၄၊ ပခုက္ကူ မြင်သာ ဆန်တန်းရပ် ဦးဘသန်း ၁ဝိ၊

၅၊ ၊ ၊ ဒေါ်လှကျွယ် ၁ဝိ၊

၆၊ အလုံ ဒေါ်သုစာရီ ၁ဝိ၊

၇၊ ဟင်္သာတ ညောင်ကုန်းရပ် မတင်အေး ၁ဝိ

၈၊ သုံးခွ ဦးနု သားသွီးများ၊ ၁ဝိ၊

၉၊ ရှမ်းပြည် မြောက်ပိုင်း သီပေါမြို့ အခွန်တော် လက်ထောက် အရာရှိ ဦးမြတ်အေး ၁ဝိ၊

၁၀၊ ဆဋ္ဌသံဂါယနာ လိုက်ဂူတည် ဆောက်ရေးအဖွဲ့ လခစားများ ၁၃၁ိ။

၁၁၊ ရန်ကုန်မြို့ ဦးဘိုးစိန်၊ ဒေါ်ဘွား သားသွီးများ ၁ဝိ၊

၁၂၊ ကြည့်မြင်တိုင် မကြီးကြီး လမ်း ကိုပွါး–မသိန်းကျင် ၂ိ၊

၁၃၊ ရန်ကုန် ၁၀ လမ်း ဆန်ကုန်သည် ဦးလှမောင်–ဒေါ်ငြိမ်းခ ၁၅ဝိ၊

၁၄၊ မကွေး–မကွေးဆရာတော် ၁ဝိ။

၁၅၊ ရန်ကုန် ၁၄ လမ်း ဦးလှဖေ–ဒေါ်အေးညွှန့်သားများ ၂ဝိ၊

၁၆၊ ရန်ကုန်၁၄လမ်း ဦးအောင်သိန်း၊ မမြစ် သားမောင်ထွန်းရီ ၁၁ိ။

၁၇၊ ရန်ကုန် အလုံ နှော်မံလမ်း ဒေါ်ခင် သားသွီးများ ၇၆ိ။

၁၈၊ ကြည့်မြင်တိုင် သာရလမ်း ဦးငြိမ်း ဒေါ်စိန် သားသွီးများ။ ၅ိ၊

၁၉။ မြင်းခြံခရိုင် တလိုင်းရပ်၊ ရွာသစ်ကျောင်း မသင်မတင်၊မောင်သာအောင် ၂ိ။

၂၀၊ ရန်ကုန် ရေတာရှည်လမ်း ဦးထွန်းတင်–မြမြယဉ် သားသွီးများ ၂၀ိ၊

၂၁၊ ကျိုက်လတ် ဒေါ်စိန် ၂၀ိ၊

၂၂၊ ၃ ဗွာ လစ် ရေး ဟောင်း လမ်း ကုန်သည် ဦးသော့နှင့်သွီးများ၊ ၃၀ိ။

၂၃၊ ညောင်တုန်းကွန်းဆိပ်ရပ်၊ ဦးသငယ် ၅ိ၊

၂၄၊ ဗဟန်း ၁ လမ်း သီလရှင် ဒေါ်မေခရီနှင့် တူမသန္တ၊ မစီဝ ၅ိ၊

၂၅၊ ဗဟန်း ၁ လမ်း သီလရှင် မနန္ဒသိင်္ဂီ၊ မငွေဝတီ၊ မသုနန္ဒီ၊ မသိမ်တီ၊ မပညာဝတီ ၅ိ။

၂၆၊ ။ ၊မဓမ္မာရီ၊ မပညာနန္ဒီ၊ ဒေါ်နန္ဒ ၃ိ၊

၂၇၊ ၊ ၊မကုသလစာရီ၊ မမြသဉ်၊ မဖြူ ၁ိ ၊

၂၈၊ ရေခြံ အဘယ ဆေးဆိုင် ကိုသာရှင်၊ မပု ၃၀ိ။

၂၉၊ ကာမဟ် သစ်ကုန်သည် ဦးရှင်၊ ဒေါ်ခွန်းညိုမရင်ရင်သားသွီးများ ၁၅၀ိ၊

၃၀၊ လိုက်ဂူတည်ဆောက်ရေးအဖွဲ့ ဘိလပ်မြေ ကိုးဒေါင် အလုပ်သမားများ ၃၄ ၊

၃၁၊ ၊ စက်နှင့် လျှပ်စစ် အလုပ်သမားများ ၁၀၇ိ၊

၃၂၊ ၊ အီးအိုနှင့် အင်ဂျင်နီယာ ဦးသန်းဖေ ၈ိ၊

၃၃၊ ၊ ဦးဝင်းဆွေ (အေ–အီ) ၆ိ၊

၃၄၊ ၊ ဦးသင့် (အေ–အီ) ၆ိ၊

၃၅၊ ၊ ဦးတင်မောင်ကြီး အေ အီ ၆ိ၊

၃၆၊ မကွေးမြို့ ဘိုးဘိုးရပ် ကုန်သည် ဦးဘိုးတန်၊ ဒေါ်ရွှေနု–သွီးမခင်မြင့် ၂၅ဝိ။

၃၇၊ ပိန်းဇလုတ် ဒေါ်ညွှန့်ရီ သားသွီးများ ၁၀ိ၊

၃၈၊ ပျော်ဘွယ် ဦးချို၊ ဒေါ်ညှာနှင့် ရန်ကုန်မြို့ ဝတ်လုံတော်ရ ဦးဘိုးအေး–ဒေါ်မြသိန်း–နှမဒေါ်ရောက်တို့က ၉၀၀ိ

၃၉၊ သီပေါမြို့ မြို့ပိုင် (လမ်း ပန်းအဆောက်အဦအရာရှိ)ဦးထွန်း ၁၀၀ိ။

၄၀၊ သကုန်းမြို့ ဘီအိုစီလမ်း မောင်ရွှေလုံ အကြည် ၂၀ိ။

၄၁၊ စစ်ကွင်း လမ်းဗိုလ် အိုဘာစီယာ မောင်စံ ၆ိ။

၄၂၊ မန္တလေးမြို့ ဗိုလ်စိုးမြင့်၊ ကြည်ကြည်သစ် ၅ိ၊

၄၃၊ ရန်ကုန်မြို့ အတွင်းဝန်များရုံး ကိုယ်ရံတော်များ စောင့်ရှောက်ရေးအဖွဲ့ ၅၀၀ိ။

၄၄ ကလေးမြို့ ကုန်သည်ကြီး ဦးစော ၂၅ိ၊

၄၅၊ ရန်ကုန်မြို့ ကီလီလမ်းအငြိမ်းစား ဦးကြင်လှိုင်၊ ဒေါ်စိန်ရင် ၇၆ိ၊

၄၆၊ လိုက်ဂူကြီး နေ့စား အလုပ်သမားများ ၃၇၅ိ၊

၄၇၊ ရန်ကုန် ဆေးရုံကြီး အတွင်းလက်သမား ဆရာ ဦး ကောင်း ငြိမ်း မထွေးစိန် သားသွီးများ ၁၅၀ိ၊

၄၈၊ ရွှေတောင်တန်းထိပ်ဝ ဒါလံဟို ဇ လမ်း သက်နီး ကုန်သည်ကြီး ဦးစံထွန်း၊ ဒေါ်ရှင်သားသွီးများ ၆၀၀ိ။

၄၉၊ သခိုင်းဘူတာရုံလမ်း ရှုဝံကြယ် ဆေးပြင်းလိပ်အလုပ်သမားများ ၃၀၀ိ။

၅၀၊ သခိုင်း ဘူတာရုံလမ်း ရှုဝံကြယ် ဆေးပြင်းလိပ်ရုံပိုင်ရှင် ၃ဝိ၊

၅၁၊ ကြခင်းမြို့ မီးသတ်အစည်းအရုံးခွဲ ဒုတိယတာဝန်ခံမှူး ဦးတင်မှ တဆင့် ဦးဆိုင်ယူ၊ ဒေါ်မမလေး အမိဒေါ်ရှင် တူမများ ၅၀၀ိ၊

၅၂၊ သဏ္ဍုတွင်းဝန်ကြီးဌာနနှင့်လက်အောက်ခံဌာနများ ၄၁၃ိ။

၅၃၊ ဗိဋကမြန်မာပြန်ဌာန ပါဠိဆရာ ဆရာတင်၊ မြင့်မြင့်သားသွီးများ ၁၀ိ၊

၅၄ မကွေး ဒီစတြိတ် သစ်ရာကောက်ရွာ ဦးကျော်မြ၊ ဒေါ်အုန်းမေ သားသွီးများ ၁၅၀ိ၊

၅၅၊ မကွေးဒီစတြိတ် သစ်ရာကောက်ရွာ ဦးထွန်းဝင်း၊ ဒေါ်ငွေဟန် သားကိုပြား ၂၀ိ၊

၅၆၊ မကွေးဒီစတြိတ် သစ်ရာကောက်ရွာ ဦးပေလုံး၊ သွီးမကြည်၊ မမြင့် ၂၀ိ။

၅၇၊ မကွေး ဒီစတြိတ် မင်းဘူန်း ရွာ၊ စောင်းကန် ကိုဘချည်၊ မသိန်းမိ သားသွီးများ ၁၀ိ၊

၅၈၊ မကွေး ဒီစတြိတ် မင်းဘူန်း ရွာ၊ စောင်းကန် ဦးညှာ၊ မတင့်သွီးမသန်းခင် ၁ဝိ၊

၅၉၊ ပုသိမ်ကျောင်းကုန်း ဒေါ်စောမြ သားသွီးတစု ၁၀ိ၊

၆၀၊ မြောင်းမြ ခရိုင် အိမ်မဲမြို့ ဒေါ်စောမေ ၂၀ိ၊

၆၁၊ မြောင်းမြခရိုင်အိမ်မဲမြို့ ဦးဘိုးဝင်း မောင်မြ၊ ဒေါ်အေး ၁၈ိ၊

၆၂၊ မင်းလှ ဦးထွန်းစံ ၁၀ိ၊

၆၃၊ ရေကျိုးကိုဟေးရာ၊ဒေါ်ငွေ ၁၀ိ၊

၆၄၊ ရန်ကုန်ကုတ်ကိုင်၊ မောင်စိန်ထွန်း၊ မမြခ ၅ိ၊

၆၅၊ ရန်ကုန် ၃၇ လမ်း အောင်ဇွေ သိန်းထိဆိုင်ရှင် ဒေါ်ဖိ ၁၀၁ိ၊

၆၆၊ ၊ ဗောဓိကုန်းမအုန်းကြည် ၂ိ၊

၆၇၊ ရန်ကုန် ကံဘဲ့ ကျောက်ကုန်း ဦးလှကြီး၊ ဦးတင် အိမ်သားများ ၅ိ၊

၆၈၊ ရန်ကုန် ၃၇ လမ်း ဒေါ်မိ ၂၅ိ၊

၆၉၊ ပုခုဒီစတြိတ် ပဲခွဆိကုန်း မရွှန်း ၁၀ိ၊

၇၀၊ ရွှေတောင် ဒေါ်ဖွား ၁၀ိ၊

၇၁၊ ပိန်းဇလုပ် မောင်တင် အောင် မကျင်မွေး ၁၅၀ိ၊

၇၂၊ နတ်မောက်မြို့ ခလေး ပြုစုရေးဌာန မအေးမေ ၁၅ိ။

၇၃၊ ပုသိမ် ပုတေးအင်ဖေ:ဖြူ ထိပ်ရွာ မောင်လှတင် မစိန်ပိုင်၊ ၈ိ၊

၇၄၊ ကြည့်မြင်တိုင် ဦးသိန်းဖေ ဒေါ်ခင်နွဲ့ ၅၃ိ၊

၇၅၊ မေမြို့ ဒေါ်ညွှန့် သားသွီး တစု ၁ဝိ။

၇၆၊ မန္တလေး မော်တော်စတိုး ဦးဘသေါ်၊ ဒေါ်သန့်သန်း ၄၅၀ိ၊

၇၇၊ ရန်ကုန်ပန်းဆိုးတန်း မောင်ဝံဝင်း မခင်တုတ် ၂၀ိ၊

၇၈၊ ရန်ကုန် ဗားကရာ တိုက်နယ် ဖဆပလအဖွဲ့ ဦးဘိုးမှီ ငွေဖလား ၄ လုံး၊

၇၉၊ ရန် ကုန် မင်း မ နိုင် ကွက် သစ် ကိုသိန်းမောင် ၂ိ။

၈၀၊ ၊ ၊ မောင်ခင်လှိုင်

၈၁၊ ဟင်္သာတကိုအောင်သန်းမအေး ၅ိ၊

၈၂၊ ပုသိန် မောင်ခင်မောင်၊မခင်ဂျမ်း ၂ိ၊

၈၃၊ ဘိုကလေး မောင် တင် မောင် မစိန် ၁၀ိ

၈၄၊ အင်းစိန်အပိုင် တံတားကြီး ရွာ ပေန်းဆိ ၅ိ၊

၈၅၊ အင်းစိန် အပိုင် တံတားကြီးရွာ ဦးမိုးနီ၊ ဒေါ်သက်ပုံသားသွီးများ ၅ိ။

၈၆ အင်းစိန် အပိုင် တံတားကြီးရွာ ကိုကုလားကြီး မသိန်းရွှေ ၃ိ၊

၈၇၊ ကြည့်မြင်တိုင်ဆင်မလိုက် မအုန်းယဉ် သားသွီးများ ၅ိ၊

၈၈၊ မဂ်လာဒုံ မောင်သူတင် မတင်ရီ ၂၀ိ၊

၈၉၊ ရန်ကုန်ကျောက်မြောင်း အောင်ဓမ္မာရုံလမ်း ကိုထွန်း၊ မအေးမှု ၈ိ၊

၉၀၊ ဗားကရာတိုက်နယ် ဖဆပလအဖွဲ့ ၃၀၀ိ၊

၉၁၊ ရန်ကုန် လှည်းတန်း ဦးဘသော် ဒေါ်အေးသားသွီးများ ၁၀၀ိ၊

၉၂၊ အင်းစိန် မောင်သန်းစိန် မညွှန့်ရီ သားသွီးများ ၂၀ိ၊

၉၃၊ ကြည့်မြင်တိုင် ကလာကာတန်း ဒေါ်ငြိမ်းကျွယ် သားသွီးများနှင့် အလုပ်သမားများ ၁၅၀ိ၊

၉၄၊ ရန်ကုန် လှည်းတန်း ဦးဘသော် ဒေါ်အေး သားသွီးများ ၂၀ိ၊

၉၅၊ ကြည့် မြင် တိုင် ဗား က ရာ ရွှေတောင်တိုက်သစ်ကျောင်း၊ဦးသာဂရ ၂ိ၊

၉၆၊ ကန်တော်ကလေးမောင်လှသိန်း ၅ိ၊

၉၇၊ ရေနံချောင်း ဦးအေး၊ ဒေါ်ကုလားမ သားသွီးများ၊ ၁၅ဝိ၊

၉၈၊ ရေနံချောင်းမြောက်ရပ် ဦးကျော်ကြီး၊ မချစ် သားသွီးများ ၁၅ဝိ၊

၉၉၊ ရန်ကုန် ၁၂ လမ်း ကိုပို၊ ဒေါ်ကြည် သားသွီးများ ၆၀ိ၊

၁၀၀၊ ကြည့် မြင် တိုင် ဓာတဝန်လမ်း ဖို့ ဇာဘော်လီ မောင်ကျွယ်၊ မြမြ သားသွီးများ ၁၀၅ိ၊

၁၀၁၊ ဝါးခယ်မရွာသစ် ဦးစံကွန်း ဒေါ်အုန်းကျင် ၂ဝိ၊

(ဆက်လက်ဖော်ပြပါဦးမည်)

..... .....

( စာမျက်နှာ ၆ မှ အဆက် )

ဋ္ဌာနလေးခု (1) Buddha Vihara,Risaldar Park,Lucknow, U.P.,India,(2) Boudh Man-dir, D.64/135, Vidyapith Road, Banaras,U.P.,India, (3) Buddha Vihara, Reading Road, New Delhi, (4) Sri-man Seth Jugal Kishor Birla,Birla House,Albuquerque Road, New Deihi တွင် ၎င်းအဖွဲ့မှထုတ်ဝေသော စာစောင်များပေးပို့ လှူဒါန်းသင့်သည်ဟု အကြံပေးသည့်ကိစ္စကို စဉ်းစားကြပြီးလျှင် သုံးလတကြိမ်ထုတ် ဓမ္မဒေါက်ခြည်(အင်္ဂလိပ်) သာသနာ့ရောင်ခြည်(မြန်မာ) သံဃာ့သာသနာ စာစောင်များကို ထုတ်ဝေသည့်အခါတိုင်း ပေးပို့လှူဒါန်းရန် သဘောတူ ဗုဒ္ဓသာသနာအဖွဲ့မှ ဆုံးဖြတ်လိုက်ကြကြောင်း။

## ကမ္ဗောဒီးယားသို့ ကြွမည့် ဦးခေမာစာရ

ကမ္ဗောဒီးယားပြည်သို့ သာသနာပြုရန် ကိစ္စအတွက် ကြွရောက်မည့် ဓမ္မဒူတ ဝိဇ္ဇာလယ ဒုတိယ နာယက ဆရာတော် အရှင်ခေမာစာရ၏ လေကြောင်းခရီးစရိတ်ကို ၎င်းအဖွဲ့မှ ခေတ္တ စိုက်ထုတ်၍ ပေးရန်ဟူသော ကိစ္စကို စဉ်းစားကြပြီးလျှင် သက်ဆိုင်ရာ လေကြောင်းဌာနများတွင် ၎င်းအဖွဲ့မှ ထောက်ခံပါလျှင် လေကြောင်းခကို အကြွေးရနိုင်သည့်အတိုင်း အရှင်ခေမာစာရအတွက်ထိုလေကြောင်းခကို အကြွေးယူပေးရန်နှင့် ကျသင့်သည့် ငွေဘီ(လ်)များကို ဆရာတော် အရှင်ခေမာစာရအားဆက်ကပ်လိုက်ပြီးနောက် ကမ္ဗောဒီးယားသို့ ရောက်သည့် အခါ၌ အရှင် ခေမာစာရအား သာသနာ ပြုရန်အတွက် ပင့်ဆောင်သည့် သူများက ရှင်းလင်းပေးရန် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ သဘောတူ ဆုံးဖြတ် ကြကြောင်း။

## သီဟိုဠ်မှတဆင့် ဖြန့်ဖြူးလိုပါသည်

သီဟိုဠ်ကျွန်း မစ္စတာ ပန်နိဒုံ ထံမှ လူအများ သိနားလည် လွယ်မည့် ဗုဒ္ဓဘာသာ စာအုပ်စာစောင်များကို နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီးမှ ပေးပို့ပါက ကမ္ဘာအနှံ့ပို့ရဝ်သို့ ဖြန့်ဝေပေးပါမည်ဟူသောကိစ္စကို စဉ်းစားကြပြီးလျှင် ထိုကိစ္စသည် ဆောင်ရွက်သင့်သောကိစ္စဖြစ်သည့်အတွက် ''အခြေခံ ဗုဒ္ဓဘာသာ တရား''တွင် ကာလာမသုတ် ထုတ်နုတ်ချက်ကိုပါ ပါစေ၍ အယ်ဒီတာ ဦးအုန်းခိုင်က စာမူတခုပြုလုပ်၍ နောက်တကြိမ် အစည်းအဝေးတွင်တင်ပြရန် ဗုဒ္ဓသာသနာအဖွဲ့ ဖြန့်ချိရေးအဖွဲ့ခွဲမှ တာဝန် လွှဲအပ်ကြကြောင်း။

## သံဃနာအတွက်လာမည့် ဓါတ်ပုံဆရာ

မစ္စတာ ရှောင်ချိုရှားပါးအား သံဃနာတင်ပွဲတွင် လာရောက်၍ အခမ်းအနားများကို ဓါတ်ပုံရိုက်ခြင်း၊ ဗုဒ္ဓဘာသာနှင့် သက်ဆိုင်ရာ လုပ်ငန်းများ ကိစ္စများကို ဓါတ်ပုံရိုက်ခြင်းများကို ပြုလုပ်ပြီးလျှင် ဂျာမဏီ ပြည်နှင့် ဥရောပဘက်၌ ဗုဒ္ဓသာသနာပြန့်ပွားနိုင်အတွက် သတင်းစာမဂ္ဂဇင်းစသည်တို့တွင် အသုံးပြုနိုင်ရန် မြန်မာပြည်သို့ လာရောက်ခွင့်ပြုစေလိုကြောင်း ဂျာမန် ဘုန်းတော်ကြီး အရှင် ဉာဏပုဏ္ဏိက ထံမှ မေတ္တာရပ်ခံသည့် စာကိုဖတ်ရှု စဉ်းစားကြပြီးလျှင်၊ ထိုပုဂ္ဂိုလ်သည် တကယ်ပင်သာသနာပြန့်ပွါးအောင် ဆောင်ရွက်လိုသောဆန္ဒ ရှိသည့်အပြင်၊ ဆောင်ရွက်နိုင်မည့် သတ္တိများနှင့် ပြည့်စုံကြောင်းကို အရှင်ဉာဏတိလောက ဆရာတော်နှင့် သီဟိုဠ်ကျွန်း၊ ဓမ္မဒူတဝိဇ္ဇာလယအဖွဲ့ တို့မှ ထောက်ခံ ထားသော ပုဂ္ဂိုလ် ဖြစ်သဖြင့် မြန်မာ နိုင်ငံတော်သို့ လာရောက်လျှင်နိုင်ငံတွင်းဝင်ခွင့်လက်မှတ် ရရှိရန်နှင့်ရောက်ရှိသောအခါတွင် ဓါတ်ပုံရိုက်ကူးခွင့်ပြုရန် အတွက် ဗုဒ္ဓသာသနာအဖွဲ့မှထောက်ခံရန်သဘောတူညီကြ၍ ထိုပုဂ္ဂိုလ်နိုင်ငံတွင်းသို့ ဝင်ခွင့် လက်မှတ် ရရှိရေးအတွက် နိုင်ငံခြားရေး ရုံးသို့ မေတ္တာရပ်ခံရာတွင် ထိုပုဂ္ဂိုလ်အတွက် အခြားတစုံတရာကန့်ကွက်ချက်မရှိပါက လျင်မြန်နိုင်သမျှ လျင်မြန်စွာ ဝင်ခွင့် လက်မှတ် ထုတ်ပေးဘို့ မေတ္တာရပ်ခံရန် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှ သဘောတူညီဆုံးဖြတ်လိုက်ကြကြောင်း၊

## ဦးသေဋ္ဌိလ ဩစတြေလီယားသို့ကြွမည်

နယူးဆောက်သ်ဝေး New South-Wales ဗုဒ္ဓဘာသာ အသင်း ဥက္ကဋ္ဌထံမှ ဆရာတော် ဦးသေဋ္ဌိလ ကြွရောက်၍ သာသနာပြုရန်သဘောတူပြုကြားသည့် စာကိုဖတ်ရှုစဉ်းစားကြပြီးလျှင်၊ ဆရာတော် ဦးသေဋ္ဌိလသည်၊ ယခု လာမည့် ဧပြီလ ၁၁ ရက်နေ့လောက်တွင် မြန်မာပြည်မှ ဩစတြေးလီးယား ပြည်သို့ ကြွရောက်၍ တလလောက်သီတင်းသုံးလျက် သာသနာပြုပြီးနောက် မေလတွင် မြန်မာနိုင်ငံသို့ ပြန်လည်နိုင်ကြောင်းကို အဓိနန္ဒ သဖြင့် ဆရာတော်သာသနာပြု ကြွရောက် နိုင်ရေး အတွက် သီတင်းသုံးနေ ထိုင်မှုများ တရားပွဲများအစစ အရာရာကြိုတင် စီမံနိုင်ရန် နယူးဆောက်ဝေးသို့ အကြောင်းကြားရန်၊ ထို့ပြင် ဆရာတော်သည် ဩစတြေးလီးယားပြည်၌ ရှိနေခိုက် ကွင်းစလင်း ပြည်နယ် Queensland နှင့် ဗိတိုးရီးယား Victoria ပြည်နယ်များသို့ကြွရောက်ပြီး တရားဟောပြော သာသနာပြုနိုင်ရန် ကိစ္စအတွက် ထိုပြည်နယ်များတွင် ရှိသည့် ဗုဒ္ဓဘာသာ အသင်းအဖွဲ့များ၏ ခေါင်းဆောင်များထံသို့ကြိုတင်စီမံမှုများပြုလုပ်ထားနိုင်ရန် အယ်ဒီတာ ဦးအုန်းခိုင်အား တာဝန် လွှဲအပ် ကြကြောင်း၊ ထို့ပြင် ဆရာတော်အတွက်မြန်မာပြည်မှ ဩစတြေလီးယားပြည်၊ ဆစ်ဒနီမြို့သို့ လေကြောင်းခရီး အသွား အပြန် ခရီးအတွက် ငွေ-၃၁၃၇ နှင့်အသွေ့ထွေအသုံးစရိတ် ၁၀၀ိ တို့ကို နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးမှ ကျခံရန်သဘောတူညီကြကြောင်း။

(မှတ်ချက်။ ဩစတြေလီးယားပြည်တွင် နေထိုင်စားသောက သွားလာ စရိတ်စသည်များကို အဆိုပါ ဗုဒ္ဓဘာသာ အဖွဲ့က တာဝန်ယူသည့်အပြင် ထိုအဖွဲ့ ဥက္ကဋ္ဌကလည်း မိမိကိုယ်တိုင် တာဝန်ယူကြောင်း ထိုစာတွင်ပ ရှိသည်ကို မှတ်တမ်းတင်ရန်၊ ထို့ပြင် ပြည်နယ်အခြား တခုသို့ သွားရောက်သည့် စရိတ်ကိုလည်း သက်ဆိုင်ရာဗုဒ္ဓဘာသာအဖွဲ့များကသာ ကျခံနိုင်ရန် အတွက် အယ်ဒီတာ ဦးအုန်းခိုင်က အဆိုအစဉ် ပြုလုပ်ရန် ဖြစ်လေသည် )

ရှမ်းပြည် တောင်ပိုင်း အောင်ပန်းမြို့ ဝေါနင်းမြို့စားကြီး၏ သား စဝ်ရွှေမိုး ရေးသားသော (၁) သာသနာ့အခြေခံ အလင်းရောင်ကျမ်း၊ ( ) သာသနာ့ အခြေခံနောက်ဆက်တွဲနှင့် (၃) ဘာသာ သာသနာ အလင်းရောင်ကျမ်း၊ စသော စာအုပ်သုံးမျိုးတို့တွင် အာဝဇ္ဇနိယပရိယာယ်ဖြစ်သည့် ဆရာတော်ကြီး များအား ထိခိုက် ပုတ်ခတ်ရာ ရောက်သည့် အရေးအသားများပါရှိသည်ဟု တိုင်ကြားချက်များအရ ၎င်းစာအုပ် များ၌ ပါသော အချက်အလက်များသည်အာဝဇ္ဇနိယပရိယာယ်ပုဂ္ဂိုလ်ကြီး များအား ထိခိုက် မထိခိုက်၊ ထိခိုက်ပါလျှင် မည်သို့မည်ပုံအရေးယူ ဆောင်ရွက်သင့်ကြောင်းကို သုံးသပ်ပေးရန် နိုင်ငံတော် သံဃာ့ရေးရာ ဆရာတော်ကြီးများထံသို့ ပေးပို့ ဆက်ကပ်၍ သုံးသပ်နာယက၏ အဖွဲ့ကြီးအား သာသနာပြု ဌာန အယ်ဒီတာချုပ် အဂ္ဂမဟာပဏ္ဍိတ ဆရာတော်ထံသို့ ပေးပို့၍ ထင်မြင်ချက်ကိုတောင်းယူရန် ဗုဒ္ဓသာသနာအဖွဲ့မှ သဘောတူဆုံးဖြတ်ကြကြောင်း။

.....o.....



နိုင်ငံခြားဗုဒ္ဓသာသနာကောင်စီအသီးသီးမှမြန်မာနိုင်ငံတော်သို့ ပရိယတ္တိသင်ကြား ဆည်းပူးရန်အတွက် စေလွှတ်လိုက်သော ရဟန်းတော်များ(ဝဲမှယာသို့ထိုင်လျက်) မြန်မာရဟန်းတော် (မျက်မှန်နှင့်)အင်္ဂလန်မှအရှင်ကေလာနန္ဒ(ပါဠိဝိသနာ) (ရပ်တော်မူလျက်) ကမ္ဗောဒီးယားမှ အရှင်ဝိမလဉာဏ(မြန်မာ,ပါဠိ,အင်္ဂလိပ်)ယိုးဒယားမှ အရှင်အဇ္ဇာရ (အင်္ဂလိပ်, မြန်မာ,ပါဠိ)

# အာပတ်ကိုယ်နှင့်မသေရအောင်

## (တတိယနံ့မော်ဆရာတော်ရေးသည်)

သီလ စင်ကြယ်သော ပုဂ္ဂိုလ်သည် မိမိ သီလ စင်ကြယ်သည်ကိုစွဲ၍ သေခါနီး ကာလနိုက်၊ နှလုံးသာရွှင်ခြင်း၊ အဝိပ္ပဋိသာရီဖြစ်သည်။ သီလ မစင်ကြယ်သော ပုဂ္ဂိုလ်သည် မိမိသီလမစင်ကြယ်သည်ကို စွဲ၍ သေခါနီးကာလနိုက် နှလုံးမသာ မရွှင်ခြင်း၊ ဝိပ္ပဋိသာရီဖြစ်သည်။ ထိုစိတ်ဖြင့်စုတေသည်၏အဆုံးနိုက် နိရယဂတိ, ပေတဂတိအားဖြင့် နှစ်ပါးသောဂတိတို့တွင်၊ တပါးပါးသော ဂတိသို့ လားရသည်ဟု ဟောတော် မူချေသည်။ ထို့ကြောင့် အာပတ်ကိုယ်နှင့် မသေရအောင် အားထုတ်ရာသည်။

### ရှင်းလင်းချက်

အကြင် ရဟန်းသည် သံဃာဒိသိသ် အာပတ်ရှိလျက်၊ ထိုသံဃာဒိသိသ် အာပတ်ကို ဝုဋ္ဌာနကံ မပြုရသေး၊ ထုလ္လစ္စည်းစသော လဟုက အာပတ်ရှိလျက်၊ ထိုလဟုကအာပတ်ကို ဒေသနာကံ မပြုရသေး၊ ပဝါရိုက် သင့်လျက်၊ ထိုပဝါရိုက်ကို ပဝါရိုက်အလျှောက်ကံ မပြုရသေး။ ထိုရဟန်းသည် အာပတ်ကိုယ်နှင့် သေသည်မည်၏။ ကံအလျှောက်ပြုပြီးမှသေမူကား အာပတ်ကိုယ်နှင့်မသေသည်မည်၏။

ပဝါရိုက်သင့်သောသူသည် ငါရဟန်းမဟုတ်ဟုဝန့်ခံခြင်း၊သာမဏေဘုံသိဘင်းသည်ဘုံနိုက်တည်ခြင်းသည် ပဝါရိုက်အလျှောက်ကံပြုသည်မည်၏။

### သတိရှိကြစေ

ယင်းသို့လျှက် ယခုအခါ ရဟန်းသေလျှင် ရွှေမည်မျှကျန်သည်၊ ငွေမည်မျှကျန်သည် ဟုသည်များသည် အာပတ်ကိုယ်နှင့်သေသည်မည်၏၊အဘယ်ကြောင့်ဟူမူ ရွှေငွေသည် နိဿဂ္ဂိယဝတ္ထုဖြစ်၍ စွန့်ပြီးမှ ဒေသနာကံကိုပြုသော်သာ၊ထိုအာပတ်စင်၏။ မစွန့်ဘဲ ဒေသနာကံပြုသော်၊ ထိုအာပတ်မှမထသောကြောင့်တည်း၊သတိရှိကြစေ။

### ဆရာမြတ်တို့ကား

ဆရာမြတ်တို့ကား၊ သတိ သမ္ပဇဉ် ကြောင့် သင့်ရာသောအာပတ်လည်း အများပင်ရှိချေသည်။ နှိသျှည်းကင်း၍ နေထိုက်သော အင်္ဂါပါးပါးနှင့် မပြည့်စုံဘဲ နိသျှည်း ကင်း၍ နေမိသော အာပတ်၊ ဥပဇ္ဈာယ် ပြုထိုက် ပရိသတ် မွေးထိုက်သော အင်္ဂါငါးပါးနှင့် မပြည့်စုံဘဲသူကို ဥပဇ္ဈာယ်ပြု၍ ပဉ္စင်းခံမိသူကို ဥပဇ္ဈာယ်ပြု၍ သာမဏေပြုမိသော အာပတ်၊ ဥပဇ္ဈာယ်ပြု၍ နိသျှည်းပြု၍ ပရိသတ်မွေးသောအာပတ်လည်းအများပင်ရှိချေသည်၊ ထိုအာပတ်များကို အာဝိကရဏကံ,ဒေသနာကံကို မပြုဘဲ သေသော်၊ အကျိုး မနည်းလေပြီသောဟု သေခါနီး ကာလ၌ သိက္ခာကိုစွန့်၍ လွန်တော်မူကုန်၏။

မန်လည် ဆရာတော်၊ [ကုန်းဘောင်ခေတ်–မန်လည်ဆရာတော်ကိုဆိုလိုသည်။ အယ်ဒီတာ] ရွှေဘောင်ဆရာတော်ဘုရားတို့လည်း သိက္ခာကိုစွန့်၍ လွန်တော်မူကုန်သောဟူ၏၊ ရွှေစေတီဆရာတော်ဘုရားကြီးကား၊မလွန်မီခုနှစ်ရက်ကပင်သိက္ခာကိုစွန့်သောဟူ၏။ မင်းရွာ ဆရာတော်ဘုရားကြီးကား၊အယုတ်သဖြင့် ဒေသနာကံကိုမျှမပြု၊ မုန်တော ဆရာတော်ဟောသည် မဟာသတိပဋ္ဌာနသုတ်ကိုနာလျက် လွန်တော်မူသော ဟူ၏။ ဤဆရာတော်ဘုရားကြီးသည် နေပူမိုယ်းရွာ ဘိနုဝ်မစီးထီးမဆောင်းသောဟူ၏။

ဗားကရာဆရာတော်ကား၊ မင်းကျောင်း ရာဇဝတ်တော်နှင့် အဖြူဝတ်နေရသည်တွင် မမာမကျန်း ရှိသည်နှင့် ငါသည်အနာမှ ထမည် မဟုတ်ပြီဟု သိက္ခာကိုစွန့်သော်၊ ထိုအနာမှထပြန်၍ မင်းကျောင်း ရာဇဝတ်အသိမ်းတွင်သိက္ခာကိုသစ်ယူရပြန်သောဟူသည်။

(ဤစကားများသည် အတတ် မသိချေ၊သုတပုဒ္ဓမျှသာ)။



မော်လမြိုင်တောင်ပေါက်ဆရာတော်၏ ဈာပနတွင် လူမျိုးစုလွှတ်တော်နာယကကြီးနှင့်ဇနီးတို့အား စိန်ဝေလျှံမဏ္ဍပ်တွင် ခမ်းနားစွာဧည့်ခံကြစဉ်။

### သင်ထိုက်သည့်စာပေများ

ဤနိုက် ဗုဒ္ဓဂုဏ်နှင့် ပြည့်စုံသော ပုဂ္ဂိုလ်၊ ပဋိဗလ ဂုဏ်နှင့် ပြည့်စုံသော ပုဂ္ဂိုလ်၊ ဆယ်ဝါရပြီးသောပုဂ္ဂိုလ်သာ၊ သူ့ကို ဥပဇ္ဈာယ်ပြု၍ပဉ္စင်းခံရသည်–သာမဏေ ပြုရသည်၊ နိသျှည်း ပေးရသည်။ သာမဏေ အလုပ်အကျွေးကိုခံရသည်၊ ဗုဒ္ဓဂုဏ်နှင့် မပြည့်စုံ၊ ပဋိဗလဂုဏ်နှင့်မပြည့်စုံ၊ဆယ်ဝါမရလျှင် သူ့ကို ဥပဇ္ဈာယ်ပြု၍ ပဉ္စင်းမခံရ၊သာမဏေမပြုရ၊နိသျှည်းမပေးရ၊ သာမဏေအလုပ်အကျွေးကိုမခံရ၊ ထိုတွင် ဗုဒ္ဓဂုဏ်ကား ပရိသတ် အလုပ်အကျွေးကို ခံရသော ဗဟုသုတနှင့် ပြည့်စုံသောဂုဏ်ဘည်း၊ ထိုစကားမှန်၏။ ပရိသတ်အလုပ်အကျွေးကို ခံရသော ရဟန်းသည် ယုတ်စွ အဆုံး အချင်းချင်း ရောရှက်ခြင်း၊ကင်းသောဝိနည်းပိဋကတ်၌ သူ့ကိုဆုံးမခြင်းငှါဥဘတောဝိဘင်းကျမ်းကိုသေ့လာရသည်။ နှုတ်တက် သည်ကို ပြုရမည်။ မတတ်နိုင်သော နိသျှည်းဆရာသည် သုံးချောက်သောဝိဘင်းဆောင် ရဟန်းတို့နှင့်အတူနေ၍ တယောက်မေ့လျှင် တယောက်မေးခြင်းငှါ ခံ့သည်ကိုပြု၍နေရမည်၊ကမ္မာကမ္မဝိနစ္ဆယကို သင်ရမည်။ မဟာဝါ စူဠဝါနိုက် လာသော ဝတ်ကြီးဝတ်ငယ်ကို သင်ရမည်။ မစွမ်းနိုင်လျှင် သုတ်နိုက် ဒီဃနိကာယ်ဝယ် သုတ်မဟာဝါကို သင်ရမည်။ မဇ္ဈိမ နိကာယ်ဝယ် မူလပဏ္ဏာသကိုသင်ရမည်။ သံယုတ္တ နိကာယ်ဝယ် မဟာဝဂ်မှအောက်ဖြစ်သော သဂါထာဝဂ် နိဒါနဝဂ် ခန္ဓဝဂ်တို့ကိုသင်ရမည်။ ထိုသုံးဝဂ်ကိုမသင်လျှင်၊ မဟာဝဂ်ကိုသော်လည်းသင်ရမည်။ အင်္ဂုတ္တိုရ နိကာယ်ဝယ် ထက်ဝက်ပိုင်း၌ အောက်ပိုင်းကိုသော်၎င်း၊အထက်ပိုင်းကိုသော်၎င်း သင်ရမည်။ မတတ် နိုင်သော် တိကနိပါတ်မှစ၍ သင်ရမည်။ ဇာတ်နှစ်ဆယ့်တကျမ်းကို အဋ္ဌကထာနှင့်တကွ သင်ရမည်။ ထိုအောက်ယုတ်မှုအစ်၊ ဓမ္မပဒကို ဝတ္ထုနှင့်တကွ သင်ရမည်။ ဥဒါန်း, ဣတိဝုတ်,သုတ္တနိပါတ်,ဝိမာနဝတ္ထု,ပေတဝတ္ထု, ထေရဂါထာ, ထေရီဂါထာ, နိဒ္ဒေသ,ပဋိသမ္ဘိဒါ,အပဒါန်, ဗုဒ္ဓဝင်, စရိယာပိဋကကိုလည်း၊ ဝတ္ထုနှင့် တကွ သင်ရမည်။ အဘိဓမ္မာနိုက်ကား၊ တချို့ကို သင်အပ်၏ဟုမဆိုဖြစ်၍ အလုံးစုံ ခုနစ်ကျမ်းလုံးကိုပင် သင်ရမည်၊ သို့မှပရိသတ်အလုပ်အကျွေးကို ခံရာသော ဗဟုသုတဖြစ်သော ဗုဒ္ဓဂုဏ်နှင့်ပြည့်စုံသည်၊ ထိုဗုဒ္ဓဂုဏ်နှင့်ပြည့်စုံမှ သူ့ကို ဥပဇ္ဈာယ်ပြု၍ ပဉ္စင်းခံရသည်။ ဥပဇ္ဈာယ်ပြု၍ သာမဏေပြုရသည်၊ နိသျှည်းပေးရသည်။ ဥပဇ္ဈာယ်အနေဖြင့်နေ၍ သာမဏေအလုပ်အကျွေးကိုခံရသည်၊အလွယ်မမှတ်ကြနှင့်။

### ပရိသတ်မမွေးသင့်

အကြင် ပုဂ္ဂိုလ်အား အဋ္ဌကထာနှင့်တကွသောဝိနည်း ပိဋကတ်သည်လည်းကောင်း၊ အဋ္ဌကထာနှင့်တကွသော အဘိဓမ္မာ ပိဋကတ် သည်လည်းကောင်း၊ သုတ်နိုက်ဆိုအပ်ပြီးသော အပြားရှိသော ကျမ်းသည်၎င်း မရှိ၊ ထိုပုဂ္ဂိုလ်အား ပရိသတ်ကို လုပ်ကျွေး စေခြင်းငှါ မရ၊ ဥပဇ္ဈာယ်မပြုရ၊နိသျှည်းမပေးရ၊သာမဏေအလုပ်အကျွေးကို ဥပဇ္ဈာယ်အနေဖြင့်မခံရ၊ အကြင် ရဟန်းသည်ကား သုတ္တပိဋကတ်မှ၎င်း၊ ဝိနည်း ပိဋကတ်မှ၎င်း ဆိုအပ်ပြီးသော အပြားရှိသောကျမ်းကိုသင်၏၊ ဤရဟန်းသည်သာ ပရိသတ်အလုပ်အကျွေးကို ခံရသော ဗဟုသုတ ရဟန်းမည်သည်သာလျှင်ဖြစ်၏။ အရပ်မျက်နှာတို့၏ ဂဏာစရိယ ဂဏပါမောက္ခ ဖြစ်၏။ အလိုရှိရာသွားရ၏၊ပရိသတ်ကိုလုပ်ကျွေးစေခြင်းငှါရ၏။ ဤရဟန်းကိုသာ ဤအရာမှ ဗုဒ္ဓရဟန်းဟုသိပါလေ။ ထိုဆိုဆိုအပ်ပြီးသော ကျမ်းတို့မှ ပေါ်သည်ရသည်ကိုပြု၍ မူလပဏ္ဏာသ ကျမ်းမှသင်လျှင်ဆောင်လျှင် ဗုဒ္ဓဂုဏ်နှင့်ပြည့်စုံသည်သောမေးသည်ကိုမအပ်ချေဟု ကုရုန္ဒီအဋ္ဌကထာပယ်ချက်ပါချေသည်။ သည်များကိုထောက် ရှု၍ ရှေးဆရာမြတ် တို့သည် ပရိသတ် မွေးထိုက်သော ဥပဇ္ဈာယ်ပြုထိုက် နိသျှည်းပေးထိုက်သော အင်္ဂါ၏ ခဲသည်၏အဖြစ်နိုက်အလွယ်သမှု ပြုမိသော ကံကြောင့် သင့်သောအာပတ်ကိုယ်နှင့်သေသော် အကျိုး မနည်းလေပြီ သောဟု သိက္ခာကိုစွန့်၍လွန်တော်မူသောဟူသည်။

..........



အမျိုးသားစီမံကိန်းနှင့် သာသနာရေးဝန်ကြီးအဖွဲ့သားများ မော်လမြိုင်–တောင်ပေါက်ဆရာတော်ဘုရား၏ ဈာပနတွင် သက်နီးပဒေသာဖြင့်ပူဇော်ကြစဉ်။

(စာမျက်နှာ ၁၂ မှ အဆက်)

ညီလာခံသို့ မတက်ရောက်နိုင်သည့်အတွက် ခွင့်ပန်ကြားသည့် အမှုဆောင်အဖွဲ့ဝင်များနှင့် ဒေသကိုယ်စားလှယ်များ။

(၁) သာသနာရေးဝန်ကြီး ဦးဝင်း၊ (၂) ဦးစံဖေ (ရန်ကုန်)၊ (၃) ဦးခင်မောင်ကြီး၊ (ပဲခူး)။

## ပဌမနေ့ နံနက်ပိုင်း

ပဌမနေ့ နံနက် ၈ နာရီ အချိန်တွင် ဦးဇန်-ဒေါ်ရင် ဓမ္မာရုံကြီး အတွင်း၌ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီး၏ ဩဝါဒါစရိယ ဆရာတော်ကြီး ၉ ပါးတို့၏ ရှေ့တော်မှောက်၌ ကိုယ်စားလှယ်လူကြီးများသည် ငြိမ်သက်စွာ ဆည်းကပ်၍နေကြပြီးနောက် အကျိုးဆောင်စာချီ (သာသနာရေးဌာန အထူး အရာရှိ) ဦးဗဆွေက အောက်ပါ ဇယမင်္ဂလာ ဂါထာတော်ကို ရွတ်ဆိုကာ အခမ်းအနားကိုစတင်ဖွင့်လှစ်လိုက်လေသည်။

## ဇယမင်္ဂလာဂါထာတော်

ဇယာသနာ ဂတာဗောဓိံ၊
ဇေတွာ မာရံ မဟာဗလံ၊
ဇယန္တိ ဇယံ တထာ၊
သော အဟံ ဝိဇယော ဟောမိ။

ဇယာသနေ-ဗိုဓိပလ္လင်ပေါ်၌၊ ခေါင်းတမွတ်မြင့် ချွဲဆွတ်ပယ်ရှား၊ ရန်ကို တားသည့်၊ ပတ္တမြားရောင်ထင်၊ အောင်ပလ္လင်၌၊ ဇယာ ရိယာ-အောင်တံခွန်မြင့်၊ အောင်ထီးဖွင့်၍၊ အောင်သင့်သသူ၊ မာရ်ငါးဆူဘိုကို၊ ဇယ်ဘော ပါရမီဆယ်ကွင်း၊ အောင်းမြနန်း၍၊ အောင် ခြင်းအောင်ဘွဲ၊ အောင်ဘမ္ဗာသို့ ရောက်တော်မူပြီးအသော၊ ဒုယိဗ္ဗာ၊ အောင်ဘောရိဆော်၊ အောင်မောင်း ကျော်၍၊ အောင်ခေတ်မှမ္မ၊ ငါးမာရ်နှိုင်၊ အောင်ကဲကျူးလွန်၊ အောင်အမွန်ဖြင့် အောင်တံခွန်ဖြဲတော်မူထသော၊ ဇယားရီဗိမြို့ပွားဝ၊ စည်ထင်ရှား၊ ငါးမာရ်အောင်သူ၊ သဟဿူဘိုင်၊ ဇယ်တုသော့ အောင်ဒေသျာဖွဲ့ အောင်ခြင်း၊ ဂုဏ်ဖြင့်၊ ပုံသဒိသု၊ တူခြင်းကြီး တုးတော်မူအသော သောဝိနာ ထိုဒါးမာရ်ဆယ်ဖြုတ် ဘုရားရှင် ကိုယ်တော်မြတ်သည်၊ နော အဟံ ဗုဒ္ဓဘာသာ သမ္မာန္တယ်ဝင် သူတော်စင်တို့၏လို အင်ကိုရွယ်၊ ကိုယ်စားသည်ဟု မြန်နယ်ထင်ရှား၊ နိုင်ငံတော် ဗုဒ္ဓ သာသနာအဖွဲ့သား တို့အား၊ ဇယ၊ သမ္ဗောဓိ၊ သိရိမင်္ဂလာ၊ အောင်ချမ်းသာကို၊ ဒေတု ဂရုဏာရှေ့ထား၊ မေတ္တာပွားလျက်၊ သနားဘယ်မတော် မူပါစေသတည်း။

## မင်္ဂလသုတ်၊ မေတ္တသုတ်

ထို့နောက် ဓေဝသာဂရ သိမ်ကျွန်း ဆရာတော်ဘုရားကြီးက၊ ငါးပါး သီလကိုချီးမြှင့်တော်မူပြီး လျှင်၊ မင်္ဂလသုတ်၊ မေတ္တသုတ်ပရိတ်တော်များဖြင့်ရွတ်ဆို ချီးမြှင့်တော်မူကြလေသည်။

# ဝေဠုဝန် ဆရာတော်၏ဩဝါဒ

ပရိတ်တော်များ ရွတ်ဆိုချီးမြှင့်တော်မူပြီးနောက် ကိုယ်စားလှယ် တော်ကြီးများ၏ မေတ္တာရပ်ခံချက်အရ ဩဝါဒါစရိယ ဆရာတော်ကြီးများ၏ ကိုယ်စား မဟာနေ၊ ဝေဠုဝန်ဆရာတော်ဘုရားကြီးက အောက်ပါအတိုင်း သာရဏီယ ဓမ္မကထာ ဩဝါဒ ဒေသနာကို ချီးမြှင့်တော်မူသေသည်။

ယခုဩဝါဒါစရိယ ဆရာတော်ဘုရားကြီးများထံ၌ ဩဝါဒခံယူကြသော ဗုဒ္ဓသာသနာအဖွဲ့ဝင်အားလုံး ဒါယကာကြီးများသည် မြတ်စွာဘုရား အဆူဆူ တို့၏ ဩဝါဒမိန့်ကြားတော်မူခဲ့သည့်အရာကို ဦးတည်လိုက်နာကြးစလိုသည်။ ဘုရားရှင်တို့သည်၊

သဗ္ဗပါပဿ အကရဏံ၊
ကုသလဿ ဥပသမ္ပဒါ၊
သစိတ္တ ပရိယောဒါပနံ၊
ဧတံ ဗုဒ္ဓါန သာသနံ။

ဟူ၍ဩဝါဒမိန့်ကြားတော်မူကြသည်။ သဗ္ဗပါပဿ- အလုံးစုံသော အကုသိုလ်ဟူသမျှကို၊ အကရဏံ-မပြုမကျင့်ရခြင်းလည်း၊ ကုသလဿ-ကုသိုလ် ဟူသမျှကို ဥပသမ္ပဒါ-ပြည့်စုံစေခြင်းလည်း၊ သစိတ္တ ပရိယောဒါပနံ မိမိစိတ်ကို ဖြူစင်စေခြင်းလည်း၊ ဧတံ-ဤသုံးပါးသောတရားသည်၊ ဗုဒ္ဓါနံ-အဆူဆူသောဘုရားရှင်တို့၏၊ သာသနံ-အဆုံးအမဖြစ်သော သာသနာတော်ပေတည်း။

ဤသို့ဘုရားကိုယ်တော်မြတ်များဟောကြားတော်မူသော ဩဝါဒဒေသနာတော်နှင့်အညီ ယခုအားလုံးသော အဖွဲ့ဝင်လူကြီးများဘို့သည် ကိုယ်စီကိုယ်ငှအကုသိုလ်ကိုမဖြစ်အောင်ရှောင်ခြင်း၊ ကုသိုလ် တရားဘက်ပွားများအောင်ပြုလုပ်ခြင်း၊ မိမိစိတ်ကိုကောင်းစွာဖြူစင်စေခြင်း၊ ဤတရားသုံးပါးတို့နှင့်ညီညွတ်နိုင်သမျှ ညီညွတ်လေအောင် သတိတရားထား၍ နေထိုင်ကြကုန်ရာသည်။ လူကြီးမင်းတို့သည် ရခဲသောလူ့ဘဝကို ရလာကြပြီ၊ ကြုံကြိုက်ခဲသော ဗုဒ္ဓသာသနာ ခေါ်ကြီးနှင့် ကြုံကြိုက်ရခြင်း၊ ထို့မှမက ယခု အခါတွင် အလွန် ထိုက်တန်ကြသော သာသနာပြု ဗုဒ္ဓသာသနာအဖွဲ့ကြီးတွင် ကိုယ်ထိလက်ရောက် သာသနာပြုလုပ်ငန်းကြီးကိုပါဝင်၍ဆောင်ရွက်ရသော ဗုဒ္ဓသာသနာ အဖွဲ့ဝင်ဘို့မှာ၊ မိမိကိုယ်ကို မိမိတန်ဘိုးသိကြဘို့အလွန်ကောင်းသော ရာထူးကြီးနှင့် နေကြသည့်အခါ၊ ရန်ကုန်မြို့ပေါ်ဘွင်နေထိုင်ကြသော၊ ဒါယကာတို့ကလည်း ပတ်ဝန်းကျင်သူများတို့၏ အပေါ်၌ငါသည်သူများနှင့်မတူ၊ ငါလိုလူ ငါဘဲရှိတယ်ဟူ၍ မိမိကိုယ်ကို မိမိ ဘန်ဘိုးသိပြီးလျှင်၊ အနေအထိုင် အပြောအဆိုစသည်တို့၌ ပတ်ဝန်းကျင်အပေါ် ကြည်ညိုဘွယ် ဆောင်အောင်နေထိုင်ရမည်။ အပြောအဆို အနေအထိုင် မကောင်းခဲ့သော်၊ မိမိ ဂုဏ်သိက္ခာလျော့ကျ၍ သာသနာ ပြုလုပ်ငန်းကြီးကိုပါထိခိုက်စရာအကြောင်း ရှိသည်။

ဒေသ ကိုယ်စားလှယ်တို့ကလည်းရန်ကုန်မြို့ကြီးကိုရောက်၍ မြင်စရာ ကြားစရာ ဗဟုသုတတို့ကို ယူသွားပြီး မိမိနေရာဒေသသို့ရောက်သောအခါမြင်အကြားကိုဝါဒမဖြန့်ကြဘဲ ငါသည် ရှေးကနှင့်မတူ သာသနာပြုလုပ်ငန်းကြီးကို ထိထိရောက်ရောက်လုပ်ကိုင် ဆောင်ရွက်နိုင်သော၊ ဗုဒ္ဓသာသနာနုဂ္ဂဟဝင် ငါဖြစ်လာပါပေါ့ကလားဟု ရှေးကငါမဟုတ်၊ သာသနာ့အလုပ်ကိုလုပ်သော ငါဟူ၍၊ မိမိကိုယ်ကို မိမိဘန်ဘိုးထားပြီးလျှင်၊ မိမိ ဒေသပတ်ဝန်းကျင်က ကြည်ညိုဘွယ်ကိုဆောင်၍ နေထိုင်ဘိုကောင်းသည်။ သာသနာပြုရာထူးကို လက်ခံကြသောအဖွဲ့ဝင်နှင့်သမျှတို့မှာ ဥပမာအားဖြင့်ဆိုသည်ရှိသော်၊ ဆေးသကာသူဌေးလောင်းသည်ရာထူးချီးမြှင့်ရန် မင်းကြီးကခေါ်သောအခါ လမ်းခရီးအကြား၌ မြောင်းတို့ ကျင်းတို့ ချောက်တို့ကို တွေ့သောအခါခုန်၍ လွှား၍ကြည်ညိုဘွယ်မရှိ မင်းကြီးထံ သို့ သွားသည်။ မင်းကြီးကအကြီးဆုံးသော်သူဌေးကြီးရာထူးကိုပေးလိုက်သောအခါ၊ ရှေးကကဲ့သို့ခုန်သွားခြင်း၊ ပြေးအားခြင်းစသော အမူအရာများမရှိတော့ဘဲနှင့်ငါသည် ရှေးကနှင့်မတူ သူဌေးကြီး ဖြစ်လာပါပေါ့ကလားဟု မိမိကိုယ်ကို မိမိတန်ဘိုးသိသောအားဖြင့်၊ ဖူးမြှော်သဘာရန်နှင့် ပြန်၍သွားသည့်ကိုမင်းကြီးကမြင်သောအခါ၊အသင်သည် ငါထံသို့လာစဥ်အခါက မြောင်း၊ တျင်း၊ ချောက် စသည်တို့ကို တွေ့သောအခါ၊ ခုန်လွှား၍ ပေါ့ပါးစွာ သင်လာခဲ့သည်။ ယခုပြန်သောအခါ နန်စရာရှိ၍လည်း သင်မခုန်၊ လွှားရာရှိ၍လည်း သင်မလွှား၊ ဖူးမြှော်သဘာရန်နှင့်သွားခြင်းသည် အဘယ်နည်းဟု မင်းကြီးကမေးသော အခါ၊ အရှင်မင်းကြီး၊ ရှေးသာမညလူအဖြစ်ဖြင့် အရှင်မင်းကြီးထံသို့လာခဲ့ရပါသည်။ ယခုနန်းတော်ကပြန်သောအခါ၊ အရှင်မင်းကြီးက သူဌေးကြီးရာထူးဂုဏ်ကို ချီးမြှင့်လိုက်သဖြင့်၊ ငါသည် ရှေးကနှင့်မတူ ယခုကစ၍ သူဌေးကြီးဖြစ်သွားပြီ၊ မိမိကိုယ်ကို မိမိသူဌေးရာထူးနှင့်သော တန်ဘိုးကိုသိသဖြင့် ရာထူးဂုဏ်ကို ငဲ့ပြီးလျှင်၊ ဖူးမြှော်သဘာရန်နှင့်ပြန်ရပါသည်ဟု မင်းကြီးအားလျှောက်ထားသော ဆေးသကာ သူဌေး၏ပုံဆုံးကို နှလုံးသွင်းကြပြီးလျှင် ဗုဒ္ဓသာသနာအဖွဲ့ဝင် သာသနာပြု ဒါယကာတို့သည်၊ ရှေးကငါမဟုတ်၊ သာသနာ့အလုပ်ကိုလုပ်သော ငါတို့ပါတကား၊ ဟူ၍ မိမိကိုယ်ကို မိမိသတိတရား ထားကြပြီးလျှင်၊ အဆူဆူသော ဘုရားတို့၏ ဩဝါဒမိန့်ခွန်းတော်အတိုင်း လိုက်နာနိုင်သမျှ လိုက်နာကြပြီးလျှင်၊ သာသနာ့အလုပ်ကို အားထုတ်၍လုပ်ကြပါမည့် အကြောင်း ဩဝါဒ ဒေသနာစကားမြွက်ကြား လိုက်သည်။

## တတိသဗ္ဗာဆိုကြခြင်း

ထို့နောက်အကျိုးဆောင်စာချီ ၂ ကကြွရောက်လာကြသော ကိုယ်စားလှယ်တော်ကြီးများ၏စာရင်းကို ဖတ်ကြားပြီးနောက် ကိုယ်စားလှယ် တော်များသည်၊ ဩဝါဒါစရိယဆရာတော်ကြီးများ၏ ရှေ့၌ ကတိသစ္စာဆိုကြလေသည်။

# ဥက္ကဌကြီးမိန့်ခွန်း

ထို့နောက် ဦးဇန်-ဒေါ်ရင် ဓမ္မာရုံမှ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ရုံးခန်းမကြီးသို့ရွှေ့ပြောင်းကာ ညီလာခံကိုဆက်လက်ကျင်းပရာတွင် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ-ဆာ-ဦးသွင်က အောက်ပါအတိုင်း၊ နှုတ်ဆက်မိန့်ခွန်းစကားပြောကြားလေသည်။

လူကြီးမင်းများအား ယခုကဲ့သို့ကျန်းကျန်းမာမာ ချမ်းချမ်းသာသာနဲ့ တွေ့ဆုံရသည့်အတွက် အလွန် တရာမှ ဝမ်းမြောက်လှပါသည်။

လူကြီးမင်းများအား နှုတ်ခွန်းဆက်အားဖြင့် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီး၏ လုပ်ငန်းဆောင်တာ အဝဝတို့တက်အောင်မြင်ပုံဘို့ကို အနည်းငယ်ပြောကြားလိုတာက၊ နိုင်ငံတော် ဝန်ကြီးချုပ်အမှူးပြု၍ နိုင်ငံတော်အစိုးအဖွဲ့၏ မေတ္တာရပ်ခံလွှဲအပ်ချက်အရ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီးက ဆဋ္ဌသင်္ဂါယနာတင် အထမြောက်ရေး ကိစ္စဘာဝန်ကြီးကို အင်တိုက်အားတိုက် ဆောင်ရွက်ထားခဲ့သည်မှာ အချိန်မှီပြီးစီးအောင်မြင်ပါတော့မည်။

ဆဋ္ဌသင်္ဂါယနာတင် ဆိုင်ရာကိစ္စရပ်များကို အချိန်မှီပြီးစီးစေရန်အတွက် အလုပ်တာဝန်များမှာ—

၁။ ပိဋကပါဠိတော်များအချိန်မှီသုဒ္ဓိသင်ပုံနှိပ်ပြီးစီးရေး။

၂။ လိုက်ဂူတော်ကြီးနှင့်တကွ ဆဋ္ဌသင်္ဂါယနာတင် ဆိုင်ရာအဆောက်အဦများအချိန်မှီဆောက်လုပ်ပြီးစီးရေးတို့ပင် ဖြစ်ပါသည်။

## ပိဋကပါဠိတော်များ ပုံနှိပ်ရေး

ပိဋက ပါဠိတော်များ အချိန်မှီသုဒ္ဓိသင်ပုံနှိပ်ပြီးစီးရေးအတွက် ဆဋ္ဌသင်္ဂါယနာတင်ဩဝါဒါစရိယသံဃနာယကအဖွဲ့ကြီးသည်ဩဝါဒအရပိဋကပါဠိတော်များကို နိုင်ငံတော်အတွင်း၌ ထင်ရှားကျော်စော၍တိပိဋကဓရ၊ ဓိဒ္ဓ ဂန္ထကရဆောက ဖြစ်တော်မူကြသောဆရာတော်များပါဝင်သည့်ပါဠိဝိသောဓကအဖွဲ့(၁၁၅)ဖွဲ့ဘို့က သုဒ္ဓိသင်၍ရှင်း၊ဆဋ္ဌသင်္ဂါယနာဝန်ဆောင်သံဃအဖွဲ့ဝင်ဆရာတော်များက ရွေးချယ်တင်မြှောက်ထားသည့် ပါဠိဝိသောဓက အဖွဲ့ဝင် ဆရာတော်များက ထပ်မံတည်းဖြတ်၍ရှင်း၊ နောက်ဆုံးထေရဝါဒနိုင်ငံများမှ ပါဠိဝိသောဓက ဆရာတော် များက စုပေါင်းညှိနှိုင်းတည်းဖြတ်ပြီးသည်ကို ဆဋ္ဌသင်္ဂါယနာ ဝန်ဆောင် သံဃအဖွဲ့က လက်ခံ အတည်ပြု၍ရှင်း၊ အဆင့်အဆင့် ဆောင်ရွက်တော်မူကြရာ ယခုအချိန်တွင် နိုင်ငံတော်ဗုဒ္ဓ သာသနာအဖွဲ့၏ ပုံနှိပ်တိုက်၌ ဝိနည်း ပါဠိတော်ငါးကျမ်းကိုပင် စက်တင်ပုံနှိပ်နေပါပြီ။

## ပိဋက မြန်မာပြန်များ

ဤဆဋ္ဌသင်္ဂါယနာတင်တွင်ပင် ပါဠိတော်နှင့် တပါတည်း ပြင်ဆင်ရန်အတွက် နိကာယ်ငါးရပ် ပိဋက ပါဠိတော်များကို မြန်မာပြန်လာခဲ့ရာတွင်လည်း ယခုအခါ

ဒီဃနိကာယ်၊ မဇ္ဈိမနိကာယ်၊ သံယုတ္တနိကာယ်နှင့် အင်္ဂုတ္တရနိကာယ်ပါဠိတော်များအထိ အကြမ်းအားဖြင့်ပြီးစီးမည်ဖြစ်၍ ထိုဒို့ ကမ္ဘာမြန်မာပြန်များကို မြန်မာပဋိသောဓကအဖွဲ့ဝင်ဆရာတော်များက ထပ်မံသုတ်သင် တည်းဖြတ်လျက်ရှိပါသည်၊ ထိုပြင်တိပိဋကသာရနှင့် ပါဠိမြန်မာ အဘိဓါန် ကျမ်းတို့ကိုလည်း ဆက်လက်ပြုစုရန် သက်ဆိုင်ရာအဖွဲ့ခွဲများကိုပင်ဖွဲ့စည်းထားပြီးဖြစ်ပါသည်၊

## ဆဋ္ဌသင်္ဂါယနာ အဆောက်အဦများ

လိုဏ်ဂူတော်ကြီးနှင့်တကွ ဆဋ္ဌသင်္ဂါယနာနှင့်ဆိုင်ရာ အဆောက် အဦများ အချိန်မှီပြီးစီးရေးအတွက် ကိုလည်း [က] ဆဋ္ဌသင်္ဂါယနာ လိုဏ်ဂူ တည်ဆောက်ရေးအဖွဲ့နှင့် [ခ] လိုဏ်ဂူမှအပ သင်္ဂါယနာ အဆောက်အဦများ တည်ဆောက်ရေးအဖွဲ့တို့က နေ့ရောညပါ အင်တိုက်အားတိုက် တည်ဆောက်လျက်ရှိရာ အချို့အဆောက်အဦများမှာ အချောကိုင်လျက်ပင်ရှိနေပါပြီ၊

ဤသို့ဆဋ္ဌသင်္ဂါယနာဆိုင်ရာအဆောက်အဦများကို တည်ဆောက်ရာ၌ ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင်ရှေးအခါကာလ များက မကြုံစဘူး ထူးကဲသော (လုပ်အားအလှူများ)ကို တိုင်းသူပြည်သားတို့ကအင်တိုက် အားတိုက် တပျော်တပါးလှူဒါန်းကြသည့်အတွက် အလွန်ဘရာမှ ဝမ်းမြောက်အားရဘွယ်တွေ့ရှိရပါသည်၊

၎င်းအဆောက် အဦများ၏ တိုးတက်ပုံကို လူကြီးမင်းများ ကိုယ်တိုင် ရှုစားရသောအခါ သာ၍ပင်အံ့အားသင့်လောက်ဘွယ် တွေ့မြင်ရပါလိမ့်မည်။

## စာပြန်ပွဲများ

ထို့ပြင် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က၊
၁။ တိပိဋကဓရ ရွေးချယ်ပွဲ၊
၂။ အဘိဓမ္မာစာမေးပွဲ၊
၃။ အကျဉ်းထောင် ဗုဒ္ဓဘာသာသင်တန်းစာမေးပွဲများကိုနှစ်စဉ်ကျင်းပလာခဲ့ရာတွင် လာမည့် နတ်တော်လဆန်း ၁၄ ရက်နေ့တွင် စတင်ကျင်းပမည့် (၆) ကြိမ်မြောက်တိပိဋကဓရ ရွေးချယ်ပွဲကြီး၌ ဝင်ရောက်ပြန်ဆိုရေး လျှောက်ထားကြမည့် သာသနာ့ အာဇာနည်တို့ သည် (၁၁) ပါးအထိ များပြား တိုးတက်လာသည်ကို တွေ့ရပါသည်၊

အထူးကြည်ညို အားရဘွယ် ပြောကြားလိုသည်ကတော့ ဆဋ္ဌ သင်္ဂါယနာတင် ပွဲတော်ကြီးမတိုင်မှီ တိပိဋကဓရနှင့် တိပိဋကဓရ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တို့ကို (၆) ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲအပြီးမှာ ဖူးမျှော်ကြည်ညို ကြရတော့မည့်သတင်းကောင်းပင်ဖြစ်ပါသည်၊

အဘိဓမ္မာ စာမေးပွဲကိုလည်း လွန်ခဲ့သည့်နိဝင်ဘာလ ၂၈-၂၉-၃၀ ရက်နေ့များက ပြည်ထောင်စုမြန်မာနိုင်ငံတော်တဝှမ်းလုံးတွင် စာဖြေဌာနပေါင်း (၁၈၉) ဌာနတို့၌ ကျင်းပခဲ့ရာ ဝင်ရောက်ဖြေဆိုရန် စာရင်း သွင်းထား သူပေါင်း (၂၄၃၄၀) ယောက်အထိရှိခဲ့၍ တနှစ်ထက်တနှစ် အားရဘွယ် တိုးတက်ခဲ့ပါသည်၊

ဤအဘိဓမ္မာစာမေးပွဲသည် တိုင်းသူပြည်သားလူအများတို့၏ ကိုယ်ကျင့် တရား ကောင်းမွန်ရေးဘို့ကို တိုးတက်စေမည့် စာမေးပွဲဖြစ်ခြင်းကြောင့် သုံးဆင့်စလုံး အောင်မြင်သော ပုဂ္ဂိုလ်များအနက် အောင်မှတ်အများဆုံး ရရှိသော ပုဂ္ဂိုလ်အား မိမိကသတ်မှတ်ထားသော ဆုငွေ ၃၀၀ိ-နှင့် ၁၅၀ိ တန် ရွှေတံဆိပ်တခုကို (သတိုးသီရိသုဓမ္မဆာဦးသွင်ဆု) အမည်ဖြင့်ယခုနှစ်မှစ၍ နှစ်စဉ်နှစ်တိုင်းလှူဒါန်းရန်တာဝန်ယူထားပြီးဖြစ်ပါသည်၊

အကျဉ်းသားများ စာရိတ္တ ကောင်းမွန်ရေးနှင့် ဘာသာတရားကို လေးစားရှိသေ လာရေးအတွက် အကျဉ်းထောင် ဗုဒ္ဓဘာသာသင်တန်း စာမေးပွဲကိုလည်း သီတင်းကျွတ်လဆန်း ၃-၄-၅-၆ ရက်များကကျင်းပခဲ့ရာ ကောင်းစွာထမြောက် အောင်မြင်ခဲ့ပါသည်၊

ပဋိပတ္တိ သာသနာတော်ကိုအားပေးချီးမြှောက်သည့် အနေဖြင့် မြန်မာပြည်၌ ထင်ရှားသော ပဋိပတ္တိဌာနပေါင်း (၁၅၀) ကိုလည်း ထောက်ပံ့ခဲ့ပါသည်၊

## စာအုပ်များ ပုံနှိပ် ဖြန့်ဖြူးခြင်း

ထို့ပြင် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့က တိမ်မြုပ်နေသောကျမ်းများနှင့် ပရိယတ္တိ သာသနာတွင် အသုံးဝင်သော ကျမ်းများကို ရွေးချယ်၍ ပုံနှိပ်ခဲ့သည်မှာ ကောင်းစွာထမြောက်အောင်မြင်သည်ကို အစီရင်ခံစာ၌ တွေ့ရပေလိမ့်မည်၊

## စာစောင်များ ပုံနှိပ် ဖြန့်ဖြူးခြင်း

ဗုဒ္ဓသာသနာအဖွဲ့ အက်ဥပဒေပုဒ်မ ၁၈(ဈ)နှင့်အညီ သာသနာတော်ထွန်းကားပြန့်ပွားစေရန်အလို့ငှါ မြန်မာဘာသာဖြင့် သာသနာ့ရောင်ခြည် စာစောင်ကို ၃ လတကြိမ် သံဃါယနာစာစောင်ကို တလတကြိမ် ထုတ်ဝေလျက် ရှိပါသည်၊ ထို့ပြင်အင်္ဂလိပ်ဘာသာဖြင့် ဓမ္မရောင်ခြည် စာစောင်ကို သုံးလတကြိမ်၊ သင်္ဂါယနာစာစောင်ကိုတလတကြိမ်ထုတ်ဝေခဲ့ရာ ပြည်ထောင်စု သားများသာမက ကမ္ဘာ့အရပ်ရပ်ကပါ နှစ်သက်အားရကြ၍ စောင်ရေများ တလထက် တလတိုးတက်ပုံနှိပ်ခါ ထုတ်ဝေနေရပါသည်၊

## နိုင်ငံခြား သာသနာပြုရေး

နိုင်ငံခြား သာသနာ ပြုရေးအတွက် ဓမ္မဒူတ ဝိဇ္ဇာလယကျောင်းများ ဖွင့်လှစ်၍ ပညာရှင်များသင်ကြားပေးနေသည့်အပြင် ယိုးဒယားပြည်မှရဟန်းတော်ကိုရင်၊ ကမ္ဘောဒီးယားပြည်မှ ရဟန်းတော်များနှင့် သီလရှင်များ ကိုရင်၊ သီဟိုဠ်ကျွန်းမှ ရဟန်းတော်များ ကိုရင်၊ မြန်မာနိုင်ငံတော်၌ ပရိယတ်၊ ပဋိပတ် သင်ကြားစေလာနိုင်ရန် လစဉ်လှူဒါန်း ထောက်ပံ့လျက်ရှိသည့်အပြင် ဘယ်လ်ဂျီယံပြည် သာသနာပြုရေး၊ ဩစတေးလီးယားပြည် သာသနာပြုရေး၊ အိန္ဒိယပြည် သာသနာပြုရေး၊ အင်္ဂလန်ပြည် သာသနာပြုရေး အင်ဒိုနီးရှားပြည်သာသနာပြုရေးတို့ကိုလည်း ကြိုးပမ်းဆောင်ရွက်လျက်ရှိပါသည်၊

## ရာဇဝင်ထင်ရှားသော ဘုရားများ

ရာဇဝင်တွင် ထင်ရှားသော ရွှေမော်ဓော စေတီတော်ကြီး ၎င်း၊ ပဲခူးကလျာဏီသိမ်တော်ကြီးကို၎င်း၊ နိုင်ငံတော် အစိုးရ၏ ကိုယ်စား၊ ဤအဖွဲ့ကြီးကပင် ပြန်လည်တည်ဆောက်ရေး၌ ကြီးကြပ်ဆောင်ရွက်လာခဲ့ရာ ရွှေမော်ဓောစေတီတော်ကြီးမှာ ၁၃၁၅ ခုနှစ်၊ ဇန်နဝါရီလ ၄ ရက် လွတ်လပ်ရေးနေ့တွင် ငှက်ပျောဖူးအထိ အချောကိုင်ပြီးလိမ့်မည်ဟု ယုံကြည်ရပါသည်၊ ကလျာဏီသိမ်တော်ကြီးမှာလည်း ဆဋ္ဌ သင်္ဂါယနာတင်ပွဲအမှီ ပြီးစီးလိမ့်မည် ဟုသိရပေါသည်၊ ထို့ပြင် သံတွဲမြို့ဆံတော်ရှင်စေတီတော်ပြန်လည်တည်ဆောက်ရေး အတွက်လည်း ဤအဖွဲ့ကြီးက နိုင်ငံတော်ဝန်ကြီးချုပ်မှ တဆင့်ငွေတသိန်းလှူဒါန်းခဲ့ပါသည်၊

နောက်ဆုံး ပြောကြားလိုတာကတော့ ဆဋ္ဌ သင်္ဂါယနာတင် အလှူ တော်ငွေ ကောက်ခံရေး အဖွဲ့ အကြောင်း ဖြစ်ပါသည်၊ ၎င်းအဖွဲ့တွင်—

နိုင်ငံတော်သမ္မတကြီး၊
နိုင်ငံတော်ဝန်ကြီးချုပ်၊
နိုင်ငံတော်တရားဝန်ကြီးချုပ်၊
လူမျိုးစုလွှတ်တော် နာယကကြီး၊
ပြည်သူ့လွှတ်တော် ဥက္ကဋ္ဌကြီးတို့ ကိုယ်တိုင် နာယကကြီးများအဖြစ် ပါဝင်ကြပြီးလျှင် မိမိနှင့်တကွ ဗုဒ္ဓသာသနာအဖွဲ့ဝင်ရှစ်ဦး၊ အစိုးရအဖွဲ့မှ ဝန်ကြီး ၆ ဦး တရားလွှတ်တော်မှ ၁ ဦး၊ ဖ-ဆ-ပ-လ အဖွဲ့မှ ၄ ဦး၊ ပြည်နယ် ဥက္ကဋ္ဌ ၅ ဦး၊ မြို့တော်ဝန်၊ နိုင်ငံတော် ဝန်ကြီးချုပ်ကတော်နှင့် နိုင်ငံတော်တရားဝန်ကြီးချုပ်ကတော် ပေါင်း ပုဂ္ဂိုလ် ၇ ဦးတို့က အဖွဲ့ဝင်များအဖြစ် ပါဝင်ကြပါသည်၊

ထိုအဖွဲ့ကြီး၏ ရည်ရွယ်ချက်မှာ ဆဋ္ဌ သင်္ဂါယနာတင် ပွဲတော်ကြီးသည် လူထု သင်္ဂါယနာတင် ပွဲတော်ကြီးဖြစ်သည်အတိုင်း လူထုအားလုံးဘို့က စေတနာသဒ္ဓါ တရားအလျောက် နည်းများမဟူကသိလ် ပါဝင်နိုင်စေဟူသောရည်ရွယ်ချက်ပင်ဖြစ်ပါသည်၊ ဤအဖွဲ့၏ အလှူခံရေးလုပ်ငန်း ဖိုမိုထိရောက်စေရန်အလို့ငှါ ဤအဖွဲ့ကိုယ်စား နိုင်ငံတော်အစိုးရ အမှုထမ်း၊ စီမံကိန်းနှင့် သာသနာရေး ဝန်ကြီးဌာနက လက်ရှိဖွဲ့စည်းပြီးဖြစ်သော ပြည်တော်သာ အဖွဲ့အားလုံးသို့ အလှူငွေ ကောက်ခံပေးရန် မေတ္တာရပ်ခံထားပြီးဖြစ်ပါသည်၊

၎င်းပြည်တော်သာအဖွဲ့များကတိုင်း၊ ခရိုင်၊ မြို့နယ်၊ ကျေးရွာများအလိုက် ဆဋ္ဌ သင်္ဂါယနာတင် အလှူတော် ငွေများ ကောက်ခံ ဘော့မည်ဖြစ်ပါ၍ လှည်းနေ လှေအောင်း မြင်းဇောင်းမကျန် လူတိုင်း တရာလုံးက သဒ္ဓါတရားအလျောက် အလှူတော်ငွေများ ထည့်ဝင်နိုင်ကြမည်ဖြစ်ပါသည်၊

နိဂုံးချုပ်အားဖြင့် ပြောကြားလိုသည်မှာ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့၏လုပ်ငန်းရပ်ကို (၆) လအတွင်း အောင်မြင်ထမြောက်ခဲ့ပုံတို့ကို အစီရင်ခံစာတွင် အပြည့်အစုံဖေါ်ပြပြီးဖြစ်၍ လူကြီးမင်းများ ဘတ်ရှုကြားနာကြပြီးလျှင် ထိုလုပ်ငန်းရပ်များနှင့်စပ်လျဉ်း၍ အကြံကောင်း ဉာဏ်ကောင်းများလဲ ပေးနိုင်ကြပါသည်၊

လူကြီးမင်းတို့သည် ယနေ့ ကျန်းကျန်းမာမာနှင့် ဝမ်းမြောက် ဝမ်းသာစွာ ကြွရောက်လာနိုင်ကြသကဲ့သို့ လာမည့် (၆) လပတ်မကုန်မှီကျင်းပတော့မည် ဖြစ်သော ဆဋ္ဌသင်္ဂါယနာ မဟာဓမ္မသဘင်ပွဲတော်ကြီးကျင်းပသောအခါ၌လည်း ထေရဝါဒ နိုင်ငံအားလုံးရှိ ဗုဒ္ဓဘာသာဝင်လူထုကြီးများနှင့်အတူ ကျန်းကျန်းမာမာနှင့် ဝမ်းမြောက်စွာ ကြွလာနိုင်ကြပါစေသတည်း၊ ဟု ဆုတောင်းပါသတည်း။

ထို့နောက် တတိယ မြောက်ပတ်ညီလာခံမှတ်တမ်းကို ဖတ်ကြား၊ အတည်ပြုခြင်း၊ စတုတ္ထမြောက်လပတ်အစီရင်ခံစာကို ကြားနာခြင်းပြုကြလေသည်၊ နံနက် ၁၀ နာရီခွဲအချိန်တွင် ဩဝါဒါစရိယ ဆရာတော်များနှင့် ပရိုဗိသောကဆရာတော်များအား ဓမ္မာရုံကြီး၌ နေ့ဆွမ်း ဆက်ကပ်ကြပြီးလျှင် အဖွဲ့ဝင် ကိုယ်စားလှယ်များအား နံနက်စာဖြင့်ဧည့်ခံကျွေးမွေးကြကြောင်း၊

ထို့နောက် ညီလာခံကို ၁၂ နာရီတွင်ပြန်လည်ဖွင့်လှစ်ကာ ဒုတိယ ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ နိုင်ငံတော် တရားဝန်ကြီးချုပ် ဦးသိမ်းမောင်က ဥက္ကဋ္ဌအဖြစ်ဖြင့်၎င်း၊ သတိုးမဟာသရေစည်သူ နိုင်ငံတော်ရှေ့နေချုပ်ကြီး ဦးချန်ထွန်းက အကျိုးဆောင်အဖြစ်ဖြင့်၎င်း၊ဆောင်ရွက်ကြပြီးလျှင် မေးခွန်းနှင့်ဖြေကြားချက်များ အဆိုများ၊ တင်သွင်းချက်များကို ပြုလုပ်ကြလေရာ၊ ညနေ ၅ နာရီ အချိန်တွင် ပထမနေ့ညီလာခံကို ရုတ်သိမ်း လိုက်ကြကြောင်း၊

ဒုတိယနေ့၌ ၁၂ နာရီတွင် တော်ဖွင့်ကာ ညနေ ၅ နာရီ ခန့်တွင် ညီလာခံကြီးကို အောင်မြင်စွာ ပြီးဆုံး လိုက်ကြကြောင်း၊

## ဋီကာမြန်မာပြန်

မဟာဂန္ဓ ဆရာတော် ဦး ပဏ္ဍိတ ရွှေတသံ စက်ကိုင်းဝိသုဒ္ဓါရုံ – ဦး မဝေ၊ မြန်မာ အဘိဓါန် ဦးဩဘာသ တို့ကြီးမှူးသော အဖွဲ့သည် သုတ်သီလက္ခန်မြန်မာပြန်ကို ဝသုက်သင် တည်းဖြတ်ပြီးစီး၍ သုတ်မဟာဝါ မြန်မာပြန်ကို ဆက်လက်သုတ်သင် တည်းဖြတ်လျက် ရှိကြ၏၊

တောင်တွင်းကြီး ဦးဥက္ကဋ္ဌ၊ ပဏ္ဍာန်း ဦးဝိသုဒ္ဓ၊ ပျဉ်းမနား ဦးနေယျ၊ မလှိုင် ဦးစန္ဒဇောတိ၊ ရန်ကုန်၊ ရဟန်းပျို့ဦးဇောတိက ဦးပညာကိတ္တိတို့ ကြီးမှူးသော အဖွဲ့မှ ပါရာဇိကဏ်-မြန်မာပြန်ကို သုတ်သင်တည်းဖြတ်လျက်ရှိရာ ယခုအခါ တတိယ ပါရာဇိကဏ်အထိ ပြီးဆုံး သွားပြီ ဖြစ်ကြောင်း၊

# ဩဝါဒါစရိယသံဃနာယကအဖွဲ့

## နောက်ထပ်တိုးချဲ့တင်မြှောက်ခြင်း

ဒီဇင်ဘာလ ၂ ရက်နှင့် ၃ ရက်နေ့များတွင် ရန်ကုန်မြို့ သာသနာ့ရိပ်သာ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့, တည်ရာဌာန၌ ကျင်းပသော ဝန်ဆောင်သံဃအဖွဲ့, အစည်းအဝေးမှ နောက်ထပ် ဩဝါဒါစရိယ သံဃနာယကအဖွဲ့ဝင်များ အဖြစ်ဖြင့် အောက်ပါ ဆရာတော်ကြီးများကို ရွေးချယ်တင်မြှောက်တော်မူလိုက်ကြကြောင်း။

(၁) ဦးသောဘိတ ၄၃ ဂျစ်ဖ‌ကျောင်း စစ်တွေ။ (၂) ဦးဂုဏဝါ ၅၁ ယပ်လှဲကျောင်း ကျောက်ဖြူ။ (၃) ဦးသီလဝံသ ၄၅ သရက်ပင်ကွင်းကျောင်း သံတွဲ။ (၄) ဦးသောဘိတ ၄၈ ဆင်မင်းအိုင်ကျောင်း ခရမ်း-ဟံသာဝတီ (၅) ဦးအာစာရ ၁၁ သရက်တောကျောင်း တောင်ငူ [၆] ဦးပဏ္ဍိစ္စာဘိဝံသ ၄၆ ရွှေရေးဆောင်တိုက် ငါးသိုင်းချောင်းမြို့ ပုသိမ်။ (၇) ဦးနန္ဒမေဓ ၄၂ မြစ်ကြေ့ကျောင်းတိုက် ဟင်္သာတ။ (၈) ဦးသုန္ဒရ ၄၁ အလယ်တောရကျောင်း မြောင်းမြမြို့ [၉] ဦးတေဇဝံသ ၄၆ ဝေဠုဝန်ကျောင်း ညောင်တုံး-မအူပင်။ (၁၀) ဦးသူရိယ ၅၂ ဓမ္မမေဒနီကျောင်း သထုံမြို့ (၁၁) ဦးပဒုမ ၅၂ တောကျောင်းမြိတ်မြို့ (၁၂) ဦးအရိယာဘိဝံသ ၄၀ ဝဲကြီးတောင်ကျောင်း ထားဝယ်။ [၁၃] ဦးလက္ခဏ ၆၀ ကျွဲခြံကျောင်း သရက်။ (၁၄) ဦးစာရိန္ဒ ၅၀ အောင်မြေ သာယာသုခွေးတိုက် ရေစကြိုမြို့ ပခုက္ကူ။ [၁၅] ဦးဥတ္တမသာရ ၂၄ အောင်ချမ်းသာတိုက် ဖလမ်းမြို့ (၁၆) ဦးဝိလာသ ၆၁ ခေမာသိဒ်တိုက် မန္တလေး [၁၇] ဦးနန္ဒာဘိဝံသ ၅၆ နေနှားကျောင်း ကျောက်ဆည်။ (၁၈) ဦးရေဝတာဘိဝံသ ၄၈ ကွက်ငယ်ရွာ မိတ္ထီလာ။ (၁၉) ဦးကုသလ ၄၂ ရွှေကျင်ကျောင်း မြင်းခြံ။ (၂၀) ဦးကဝိန္ဒ ၅၅ လေသာတိုက် ရမည်းသင်း (၂၁) ဦးဒေဝိန္ဒ ၆၂ ပခန်းကျောင်းတိုက် ရွှေဘို။ (၂၂) ဦးပညာ ၅၂ အရှေ့ဗုဒ္ဓသာသယချောင် စစ်ကိုင်း။ (၂၃) ဦးဇမ္ဗူ ယ ၄၁ ရွှေစည်းခုံကျောင်း ထီးချိုင့်မြို့ ကသာ။ (၂၄) ဦးကောဏ္ဍည ၄၃ ကြည်ကုန်းရွာ ချောင်းဦးမြို့ အောက်ချင်းတွင်းခရိုင်၊ (၂၅) ဦးဝါသဝ ၄၁ သိမ်ကျောင်း ဗန်းမော်။ (၂၆) ဦးသုဝဏ္ဏာဘိဝံသ ဘန်ကောက်ကျောင်း ကျောက်မဲမြို့ ရှမ်းပြည်မြောက်ပိုင်း (၂၇) ဦးအာလောက မြို့သယ်မင်္ဂလာကျောင်းမြောက်သိန္နီမြို့၊ (၂၈) ဦးအာစရ ဗိုက်ား ချုပ်ကျောင်း ညောင်ရွှေ ရှမ်းပြည်တောင်ပိုင်း (၂၉) ဦးပညာဘောဂ၊ ယုံခပါင်ကျောင်း မိုင်းရှူးမြို့ [၃၀] ဦးကုမာရ ၅၈ ခရိမ်ကျောင်းတိုက် မော်လမြိုင်မြို့ ကျိုက္ခမီ။ [၃၁] ထန်းတောဆရာတော် ၃၀ ဖါးအံမြို့ ကရင်ပြည်နယ်။ (၃၂) ရေပူဆရာတော် ၄၀ လှိုင်းဘွဲ့မြို့ ကရင်ပြည်နယ်။ (၃၃) ၃၃ ဆူဆရာတော် ၃၅ ကော့ကရိတ် ကရင်ပြည်နယ်။ (၃၄) ရန်ကုန်မြို့ ကန်တော်ကလေးရပ် စစ်တကောင်း ဗုဒ္ဓဘာသာအသင်း ဆရာတော်ကြီး၊ (၃၅) အမျောက်ဆရာတော် ဦးအာစရ ရွှေဂုံတိုက် ရန်ကုန်မြို့။ (၃၆) မြို့လယ်ကျောင်း ဆရာတော် ဦးအာစိဏ္ဏ မအူပင် (၃၇) အလယ်တောရဆရာတော် ဦးရေဝတ ရန်ကုန်မြို့၊ (၃၈) ဒေယျာသိမ်ဆရာတော် ပျဉ်းမနားမြို့။ (၃၉) မြွန်တံဆာဆရာတော် သာသနာ့သောဘဏိကာရုံကျောင်း၊ (၄၀) အင်းစိန်ခရိုင် ထားပိန်ဇ‌ီးမြို့ကုန်းဆရာတော် ဦးနာဂိန္ဒ။ (၄၁) ဆရာတော်ဦးစာရိန္ဒ ဘုရားငါးဆူကျောင်း လက်ပံတန်း။ (၄၂) ဆရာတော် ဦးနာဂဝံသ စစ်ကဲကျောင်း စစ်တွေမြို့ (၄၃) မြို့ထောင့်ကျောင်း ဆရာတော် မြူးမြို့၊ (၄၄) မြို့ထောင့်ကျောင်း ဆရာတော် တောင်ငူမြို့ (၄၅) လေးထပ်ဆရာတော် ရွှေကျင်မြို့၊



မြောင်းမြမြို့ ကြေးသွန်းဘုရားကြီးတွင် နိုင်ငံတော်သမတကြီး ဖူးမြော်နေစဉ်



ဗာရာဏသီမြို့ ဆရာတော် ဦးနန္ဒဝံသ ကျောင်းတွင် သိမ်ဆောက်ရန်နိုင်ငံတော် တရားဝန်ကြီးချုပ် ဦးသိမ်းမောင် အုတ်မြစ် ချနေပုံ

## သံဃါယနာစာစောင်-ကဗျာပြိုင်ပွဲ စည်းကမ်းချက်များ

(၁) [နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့, လက်အောက်ခံ အမှုထမ်းများ မှတပါး] မည်သူမဆို ရေးသားပေးပို့နိုင်သည်။

(၂) ပြိုင်ပွဲဝင်ကဗျာများကို ၁၃၁၅-ခု၊ ပြာသိုလဆန်း ၇-ရက်မတိုင်မီ အရောက် အယ်ဒီတာထံသို့လိပ်တပ်၍ ပေးပို့ရမည်၊

(၃) ကဗျာများကို သံဃါယနာစာတည်းအဖွဲ့၏ ဆုံးဖြတ်ချက်အတိုင်း အတည်ဖြစ်စေရမည်။

(၄) တဦးလျှင် တပုဒ်သာ ရေးသားပေးပို့ရမည်၊

(၅) အရွေးခံရသောကဗျာများကို ၁၃၁၅-ခု၊ တပို့တွဲလထုတ် သံဃါယနာစာစောင်တွင် ဖေါ်ပြမည်။

(၆) ပြိုင်ပွဲဝင်သူ၏ ပြိုင်ပွဲဝင်ကဗျာမှာ ကိုယ်တိုင်ရေးသားသည့်ကဗျာများသာဖြစ်ရမည်။ [အခြားသူ တဦးတယောက်၏ အရေးအသားဖြစ်လျက်၊ အမည်လွှဲပြောင်း၍ပြိုင်သူဖြစ်ကြောင်း သိခဲ့လျှင် ဆုပေးမည်မဟုတ်]။

(၇) ယခုအပတ်တွင် ၈၀ ပေါ်တောထပ်ကဗျာမျိုးဖြင့်(ဆဋ္ဌသံဃါယနာပွဲတော်ကြီးကိုဝင်ရောက်အားပေးသင့်ကြောင်း၊)ဖွဲ့နွဲ့ရေးသားရန်။

(၈) ဆု-သုံးဆုထား၍ ပထမဆု-၁၀၀ိ၊ ဒုတိယဆု-၇၅ိ၊ တတိယဆု ၅၀ိ ကျပ်ပေးမည်။



သာသနာ့ရိပ်သာအတွင်း၌ရှိ ဦးဖန်-ခေါ်ရင် ဓမ္မာရုံ၌ ၆-ကြိမ်မြောက် တိပိဋကဓရ ရွေးပွဲမဟာသဘင်ကို ဖွင့်လှစ်နေစဉ် တွေ့မြင်ရပုံ။

# ၆-ကြိမ်မြောက် တိပိဋကဓရ ဖွင့်ပွဲ

## နိုင်ငံတော်သမတကြီး ကိုယ်တိုင်ကြွရောက်ဖွင့်လှစ်တော်မူပြီးလျှင် သာသနာရေးဝန်ကြီး ဦးဝင်းက ဓမ္မပူဇာ မင်္ဂလာနှင့်ပတ်သက်သည့်ကိစ္စများကို မှတ်သားဖွယ် လျှောက်ထားခြင်း။

နိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့ ကိုယ်စား ဗုဒ္ဓသာသနာ့ နုဂ္ဂဟ အဖွဲ့က ရွေးချယ်သော သာသနာ့ ဒါယကာ မဟာ ဗိမ္ဗိသာရမင်းဘောင်း မင်းမြတ်ကို ထုံးကို နှလုံးသွင်းကြလျက်။ ဇ ဥ ဂါယနာတင်ပွဲကြီးကိုစည်သန့်ရော့ကော (၂၁၁၂၊ ၅၃) နံနက် ၈ နာရီ ၃၃ မိနစ်အချိန်တွင် ရန်ကုန်မြို့ ကုလားကိုင်းဘာသာဝိတ်တိုးသိမ်းသာ သာသနာ့ရိပ်သာ ဦးဖန်-ဒေါ်ရှင် မွေ့ ရုံကြီး၌ ၆ ကြိမ်မြောက် တိပိဋကဓရ စာပြန်ပွဲကြီးအတွက် ဖွင့်ပွဲအခမ်းအနားကို နိုင်ငံတော် သမတကြီးဒေါက်တာ ဘဦးကိုယ်တိုင်ဖွင့်လှစ်ပေးကြောင်း

ထိုတိပိဋကဓရ ရွေးချယ်ပွဲ အခမ်းအနားသို့ ဆရာတော်၊ သံဃာတော် များ၊ နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု၊ ဝန်ကြီးချုပ်ကတော် ဒေါ်မြရီ၊ လူမျိုးစုလွှတ်တော်နာယကကြီး စဝ်ရွှေသိုက်နှင့် မဟာဒေဝီ၊ သာသနာရေးဝန်ကြီး ဦးဝင်း-ဇနီး ဒေါ်မြမြဝင်း၊ တရားဝန်ကြီး ဦးခံမောင်၊ နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့ ဥက္ကဋ္ဌကြီး သတိုးသီရိ သုဓမ္မ ဆာ-ဦးသွင်၊ နိုင်ငံတော်ရှေ့နေချုပ်ကြီး သတိုးမဟာ သရေ စည်သူ ဦးချန်ထွန်း၊ ပါလီမန်အတွင်းဝန် သီရိပျံချီ ဦးသန်းစိန်၊ သတိုးမဟာ သရေစည်သူ ဦးဘဂျမ်း၊ သာသနာရေး အသင်း အဖွဲ့များမှ ကိုယ်စားလှယ်များ၊ နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့ဝင်များ၊ ဗုဒ္ဓသာသနာ့နုဂ္ဂဟအဖွဲ့ဝင်များနှင့် သီလရှင်များ တက်ရောက်ကြသဖြင့်၊ အထူးပင် စည်ကားလှကြောင်း။

နိုင်ငံတော်သမတကြီး သည်၊ သမတအတွင်းဝန်၊ ဦးပါစိန်၊ အိမ်တော်ဝန် ဦးဘိုးရင်၊ ထက်သောက်အိမ်တော်ဝန် ဦးကြည်၊ ကိုယ်ရံတော် ဗိုလ်ကြီး များဖြစ်ကြသော ဗိုလ်ကြီး ဘောသိန်းနှင့် ဗိုလ်ကြီး ကျော်မြင့်တို့ခြံရံလျက် သာသနာ့ရိပ်သာ [illegible] မဏ္ဍပ်သို့ဆိုက်ရောက်သည့်အခါ အသင့်ကြိုဆိုနေသော နိုင်ငံတော်ဗုဒ္ဓ သာသနာ့အဖွဲ့ ဥက္ကဋ္ဌ သတိုးသီရိသုဓမ္မ ဆာ-ဦးသွင်အား သမတကြီး၏ အတွင်းဝန်ဦးပါစိန်က၊ နိုင်ငံတော် သမတကြီးနှင့် မိတ်ဆက်ပေးကြောင်း။ ၎င်းနောက် သာသနာရေးဝန်ကြီး ဦးဝင်းက တဖန်နိုင်ငံတော်သမတကြီးအား ၆ ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲစီစဉ်ရေးကော်မီတီ လူကြီးများနှင့် မိတ်ဆက်ပေးပြီးနောက် နိုင်ငံတော် သမတကြီးအားသီးသန့် ခင်းကျင်းထားသောနေရာသို့ ဆောင်ကြဉ်းသွားကြောင်း။

ဆက်လက်၍ သီရိပျံချီ ဦးစိန်းမောင်က သံဃာတော်အရှင်မြတ်များအား ပင့်ဆောင်လာရာ၊ နိုင်ငံတော် သမတကြီး နှင့်တကွ ၆ ကြိမ်မြောက် တိပိဋကဓရရွေးချယ်ပွဲ စီစဉ်ရေးကော်မီတီတို့က ကြိုဆိုကြကြောင်း၊ ၆-ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲမင်္ဂလာအခမ်းအနား၌ အခမ်းအနားမှူးအဖြစ် မင်္ဂလာ ဦးအောင်မြင့်က ဆောင်ရွက်လျက်၊ ပဌမဦးစွာ သာသနာရေးဌာန အတွင်းရေးမှူး ဦးဇော်ဆွေက သာသနာ့ဘောင် နတ်မင်းကြီးများအား ပင့်ဖိတ်ကြောင်း၊

### ဝန်ကြီးဦးဝင်း၏မိန့်ခွန်း

ထို့နောက် ခြောက်ထပ်ကြီး ဆရာတော်ထံမှ ငါးပါးသီလခံယူဆောက်တည်ကြပြီး သံဃာတော်အရှင်မြတ် များ ထံမှ ပရိတ်တော်နာယူကြလျက်၊ တိပိဋကဓရ ရွေးချယ်ပွဲ စီစဉ်ရေးကော်မီတီ၏ ကိုယ်စား သာသနာရေးဝန်ကြီး ဦးဝင်းက နှုတ်ခွန်းဆက်စကားမိန့်ကြားရာတွင် "ယနေ့ ဤတိပိဋကဓရ ရွေးချယ်ပွဲ၏ ဖွင့်ပွဲသို့ ကြွရောက်ခြင်းတော်မူသော ဆရာတော် အရှင်သူမြတ်များနှင့် စာပြန်ပွဲဝင် သာသနာ့ အာဇာနည် အရှင်သူမြတ်များအား ဖူးမြော်ရသဖြင့်၎င်း၊ နှစ်စဉ်ဤဖွင့်ပွဲသို့ ကြွရောက်ချီးမြှင့်သော နိုင်ငံတော် သမတကြီးအား၎င်း၊ အခြား သာသနာ ရေးခေါင်းဆောင် ပုဂ္ဂိုလ်ကြီးများအား၎င်း၊ ဝမ်းမြောက်ကျေးဇူးတင် ပါကြောင်း ကို ဧည့်ခံကော်မီတီကိုယ်စား လျှောက်ထား ပြောကြားလိုပါတယ်။ အထူးသဖြင့် ကြွရောက်လာကြတဲ့ ဥပါသကာ၊ ဥပါသိကာများသည် တရားတော်ပူဇော်ခြင်း ဆိုတဲ့ ဓမ္မပူဇာမင်္ဂလာနှင့် ပြည့်စုံ ကြောင်း ကို ဝတ္ထုသာဓကတခုကိုထုတ်၍ ပြောဆိုလိုပါတယ်။ မြတ်စွာဘုရား လက်ထက် က ပုဏ္ဏားကြီးတယောက်သည်၊ မည်ကဲ့သို့ ပူဇော်လျှင် ဓမ္မပူဇာဖြစ်ပါသလဲဘုရားဟု မြတ်စွာဘုရားအား လျှောက် ထား ရာ ဗဟုသုတနှင့်ပြည့်စုံသော ပုဂ္ဂိုလ်အား ပူဇော်ခြင်းသည်၊ ဓမ္မပူဇာမည်ကြောင်း မိန့်တော်မူတယ်။ အဘယ် ပုဂ္ဂိုလ်သည် ဗဟုသုတနှင့် ပြည့်စုံပါသလဲ ဟု လျှောက်ထားရာ သံဃာတော်များအား သွား၍လျှောက် ထားမေးမြန်းလေဟု အမိန့်ရှိချက်အရမေးမြန်းရာ၊ ဗဟုသုတဟူသည် ပိဋကသုံးပုံဆောင် ပုဂ္ဂိုလ်ပေးတည်း၊ ထို ပုဂ္ဂိုလ်သည်၊ အရှင်အာနန္ဒာပင် ဖြစ်ပေသည်ဟု သံဃာများမိန့်ဆိုချက်အရအရှင် အာနန္ဒာ အား သွားရောက် ဖူး မြော် ပြီး သင်္ကန်းဖြင့်ပူဇော်ပါတယ်၊ အရှင်အာနန္ဒာ ကလဲ ပညာအရာတွင် ဧတဒဂ်ထားရ သည့် ဓမ္မသေနာပတိ ဘွဲ့ထူးရ အရှင် သာရိပုတ္တရာအား၊ ထိုသင်္ကန်းကို တဖန် လှူဒါန်းသောအားဖြင့်၊ ဓမ္မပူဇာမင်္ဂလာ ခံယူလိုက်ပြန်ပါတယ်။ တဖန်အရှင် သာရိ ပုတ္တရာကလဲ အလုံးစုံအကြွင်းမရှိသိတော် မူသောကြောင့်၊ သဗ္ဗညုဖြစ်တဲ့ မြတ်စွာ ဘုရားအား ထိုသင်္ကန်းကို လှူသောအား ဖြင့် ဓမ္မပူဇာ မင်္ဂလာကိုခံယူ လိုက်ပြန်ပါ တယ်၊ အဲသည်တုံးသင်္ကန်းကို ထောက် ထား၍၊ ယနေ့ ကြွရောက်လာကြသော သူတော်စင်အပေါင်းတို့သည်၊ ပိဋကပါဠိ တော်များကို ဆောင်သည့် သာသနာ့ အာဇာနည် အရှင်မြတ်ပါ၊ အား ဖူး မြော်ကန်တော့ရခြင်းဆိုတဲ့ ဓမ္မပူဇာ မင်္ဂ လာနှင့်ပြည့်စုံကြပြီဖြစ်ကြပါတယ်၊ နောင် သာသနာရေးဆိုင်ရာ အခမ်းအနားများ ကိုလဲအားတက်သရော ထမ်းရွက်ကြပါ ရန်နိဂုံးချုပ်ပြောကြားပါတယ်" စသည် ဖြင့် သာသနာရေးဝန်ကြီး ဦးဝင်း က လျှောက်ထားမိန့်ကြားသွားကြောင်း၊

### သမတကြီးကဖွင့်လှစ်ပုံ

၎င်းနောက် နိုင်ငံတော် ဗုဒ္ဓသာသနာ့ အဖွဲ့ ဦးသိန်းလွင်က ကော်ပိုဒ်ရတုဖြင့်၊ တိ ပိဋကဓရ ရွေးချယ်ပွဲ အခမ်းအနားကို ဖွင့် လှစ်ပေးပါရန်၊ နိုင်ငံတော် သမတကြီး အားတောင်းပန်သဖြင့်၊ နိုင်ငံတော်သမတ ကြီးသည် တိပိဋကဓရ ရွေးချယ်ပွဲ မင်္ဂ လာအခမ်း အနားကို ဖွင့် လှစ် လိုက် ကြောင်း။ တိပိဋကဓရ ရွေးချယ်ပွဲမင်္ဂလာ အခမ်းအနားဖွင့်လှစ်ရာ၌၊ နိုင်ငံတော် သမတကြီးကမိန့်ခွန်းမြွက်ကြားကြောင်း။

၎င်းနောက် သာသနာတော်ချီးမြှောက် ရေးကိစ္စနှင့်ပတ်သက်၍၊ နာယကအဖွဲ့ ဥက္ကဋ္ဌ အဂ္ဂမဟာပဏ္ဍိတ ဘုရားကြီး ဆရာတော်၏ ဩဝါဒမိန့်ခွန်းကို နာယူ ကြလျက်၊ ရဋ္ဌသာယ ဦး သောင်း က— ဓမ္မာသနပလ္လင်တော်များနှင့် ကန္တာဇော် ထီးတော်များကို အတိသေ က မန္တာန် တော်ဖြင့် ဘိသိက်သွန်းကာ ဓမ္မာစရိယ ဦးတင်မြင့်က ရွေးချယ်ပွဲဝင် ဝါးခယ်မ မြို့ အရှင်ကလျာဏ၊ ကျိုက်ထိုမြို့ အရှင်သာ ဂရ၊ ရွှေကျင်မြို့ အရှင်ဇနကာဘိဝံသ၊ မင်းကွန်းမြို့ အရှင် ဝိစိတ္တသာရာဘိဝံသ၊ မန္တလေးမြို့ အရှင်သောဘိတ၊ သနပ်ပင်မြို့ အရှင်နာဂိန္ဒ တို့အား ဓမ္မာသနပလ္လင်တော်သို့ ကြွရောက် တော်မူပါမည့်အကြောင်း၊ အဘိယာစက ဂါထာဖြင့် ပင့်လျှောက် ၍၊ စာ စောင် အယ်ဒီတာ ဦးမာဃက မင်္ဂလာ သြဘာ စာဘတ်ကြားပြီး၊ ပိဋကဘာသာပြန်ဌာန မှ ဦးကျင်မောင်ကမင်္ဂလာရတုပိုဒ်ဖတ် ကြားကြောင်း၊ ထို့နောက် နိုင်ငံတော် ဗုဒ္ဓ သာသနာ့အဖွဲ့ ဥက္ကဋ္ဌကြီးသတိုးသီရိသုဓမ္မ ဆာ—ဦးသွင်က ဆရာတော် သံဃာတော် တို့နှင့် နိုင်ငံတော်သမတကြီး အမှူးရှိ သော ပရိသတ်တို့အား ကျေးဇူး တင် ကြောင်း၊ နိဂုံးချုပ်စကားပြောကြား လျက်၊ ဆရာ တော်သံဃာတော် အရှင်မြတ်များသည်၊ စံကျောင်းတော်သို့ပြန်လည် ကြွသွား ပြီး နောက်၊ နိုင်ငံတော် သမတကြီးနှင့် အခြား ဧည့်များသည် အိမ်တော်သို့ပြန်လည် ကြွ သွားကြကြောင်း။ ၎င်းနောက် ဧည့်သည် တော်များအား ဧည့်ခံ ကျွေးမွေးကြောင်း။



ခြောက်ကြိမ်မြောက် တိပိဋကဓရ ရွေးပွဲတွင် ဝင်ရောက်ပြန်ဆို ရေးဖြေတော်မူကြမည့် သာသနာ့အာဇာနည်အရှင် ၆-ပါး။

နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့မှထုတ်ဝေသည်။ တယ်လီဖုန်း-မြောက်(၃၉၂)၊ သာသနာ့ရိပ်သာ၊ ကုဘ်ကိုင်း၊ ရန်ကုန်မြို့။
တလတကြိမ်ထုတ်ဝေသည်၊ စောင်ရေ ၁၀၀၀၀၊ အယ်ဒီတာ ဦးသာတင်။

[illegible] ပုံနှိပ်တိုက်တွင် ရိုက်နှိပ်သည်။



# သံဂါယနာ

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှလစဉ်ထုတ်ဝေသည်။ ၁၃၁၅-ခု၊ပြာသိုလ်လ၊ အတွဲ-၁၊အမှတ်-၁၀၊(တစောင်-၂၅-ပြား)

ဓမ္မဘဏ္ဍာဂါရိက— ပိဋက သူရဲကောင်းကြီး ဖြစ်တော်မူသော
(အရှင်ဝိစိတ္တသာရာဘိဝံသ)ပုံတော်



၁၃၁၅-ခု ပြာသိုလ်လ၊ အတွဲ၁၊ အမှတ်-၁၀

# လောကီသုတော်ကောင်းတရား

ဗုဒ္ဓရှင်တော်ဘုရား ပေါ်ထွန်းတော်မမူမီကပင်''သနန္တန''ခေါ် ရှေးကပေါ်နေနှင့်သော တရားပေါင်းအများပင်ရှိကြလေကုန်၏၊ ထိုသနန္တနတရားတို့တွင် သူတော်ကောင်းတရားများသာရှိ၍သူယုတ်မာတရားများမရှိဟု မယူဆအပ်ပေ၊ သူယုတ်မာနှင့် စပ်ဆိုင်သော တရားများသာရှိ၍ သူတော်ကောင်းတို့နှင့် စပ်ဆိုင်သော တရားတို့မရှိဟု မယူဆအပ်ပေ၊ တရားကောင်းတရားဆိုး နှစ်မျိုးလုံးပင်ရှိခဲ့ကြပေသည်၊

စင်စစ်အားဖြင့် ဗုဒ္ဓရှင်တော်မြတ် ဘုရားပွင့်တော်မမူမီကပင် လောကီသဿဒမှုခေါ် လောကီသူတော်ကောင်းတရားတို့လည်း အများအပြားပင်ရှိခဲ့ကြလေသည်၊

ဗုဒ္ဓရှင်တော်ဘုရား ထင်ရှားစွာ ပွင့်တော်မူလာသောအခါ၌လည်း ထိုလောကီသူတော်ကောင်းတရားတို့တွင် ကောင်းမွန်မှန်ကန်သော တရားများကို ပစ်ပယ်တော်မမူရုံမျှမက၊ သက်ခံ၍ ထပ်မံဟောကြားတော်မူသည်များကိုပင် တွေ့ရလေသည်။ (ဥပမာ) ငါးပါးသီလကို ဗုဒ္ဓရှင်တော်ဘုရား ပွင့်တော်မမူမီ အခါကပင်၊ ကောင်းသောတရား- မြတ်သောတရားဟု သမုတ်ခဲ့ကြရုံမျှမက လိုက်နာကျင့်သုံးသူတို့လည်းအများအပြားပင်ရှိခဲ့ကြလေကုန်၏ ထို့ကြောင့် ငါးပါးသီလကို ဓမ္မတာသီလဟူ၍ငင်း၊ နိစ္စသီလဟူ၍ငင်း၊ နိယာမသီလဟူ၍ငင်း ခေါ်ဆိုလေ့ရှိကြပေကုန်သည်၊

ငါးပါးသီလ၏ သရုပ် သဘောကို ကြည့်မည်ဆိုပါက၊ မည်သည့်ပုဂ္ဂိုလ် မည်သည့်ဘာသာဝါဒကမျှ ပစ်ပယ်သင့်သော အချက်မျိုး၊ ကန့်ကွက်သင့်သောအချက်မျိုးကို တွေ့ရလိမ့်မည်မဟုတ်ချေ၊ အကယ်၍ ပုဂ္ဂိုလ်တဦးဦး (သို့မဟုတ်) ဘာသာဝါဒတခုခုက ငါးပါးသီလကို ပစ်ပယ်ခဲ့မည်ဆိုပါလျှင် (ကန့်ကွက်ခဲ့မည်ဆိုပါလျှင် ဆန့်ကျင်ခဲ့မည်ဆိုပါလျှင်) ထိုပုဂ္ဂိုလ်သည်၎င်း၊ ထိုဘာသာသည်၎င်း၊ ပုဂ္ဂိုလ်ကောင်း ပုဂ္ဂိုလ်မြတ်၊ ဘာသာကောင်း - ဘာသာမြတ်အဖြစ်သို့ မည်သည့်နည်းနှင့်မျှ ရောက်နိုင်ဘွယ်ရာအကြောင်းမရှိချေ၊

ငါးပါးသီလကို ဗုဒ္ဓဘာသာအနေနှင့်ဖြစ်စေ၊ ခရစ်ယာန်ဘာသာအနေနှင့်ဖြစ်စေ။ အစ္စလာမ်ဘာသာအနေနှင့်ဖြစ်စေ ဗြဟ္မဏဘာသာအနေနှင့်ဖြစ်စေ၊ (ဘာသာဟူသမျှကို ပစ်ပယ်သည့် ပုဂ္ဂိုလ်အနေနှင့် ဖြစ်စေ) မည်သည့်အနေနှင့်ကြည့်ကြည့်၊ ကံ၊ ကံ၏အကျိုးများကို အပထား၍ပင်။ လောကီသူတော်ကောင်းတရားအပေါင်းတို့တွင် အရေးအကြီးဆုံးဖြစ်သော ကိုယ်ချင်းစာတရားအပေါ်၌မည်မျှ အမှီပြုနေသည့် တရားများဖြစ်ကြောင်းကို တွေ့မြင်ကြရပေလိမ့်မည် (ကမ္မဿကတာဉာဏ်ရင့်သန်ရေးကို နောက်တပတ်ကရေးခဲ့ပြီ) ထို့ကြောင့် လောကီသူတော်ကောင်းတရားအပေါင်းတို့တွင်ငါးပါးသီလမှာ အလွန်ပင် သေးသေးစားစား၊ လိုက်နာကျင့်သုံးသင့်သော တရားဟောင်းကြီး (တရားရိုးကြီး) ဖြစ်သည့်အတိုင်း၊ လောကီရေးအားဖြင့် မည်သည့်ပုဂ္ဂိုလ်ကိုမဆို - မည်သည့်အဖွဲ့အစည်းကိုမဆို မည်သည့်လူမျိုးကိုမဆို အဆိုးအကောင်း ခွဲခြားသိသာရန်၊ ငါးပါးသီလနှင့် ခိုင်တိုင်းတာ၍ကြည့်ခြင်းအားဖြင့် အမှားကို ဆုံးဖြတ်မိလိမ့်မည်မဟုတ်ချေ။

ငါးပါးသီလတို့တွင် ပါဏာတိပါတကံမှ ကျဉ်ရှောင်ရေးနှင့် ပတ်သက်၍ အတန်ငယ်ဖေါ်ပြလိုပေသည်။ ပါဏာတိပါတကံဆိုသည်မှာ အချို့ဘာသာများနှင့် အချို့သူတို့၏သဘောထားများကဲ့သို့လူသားအချင်းချင်း၏အသက်ကိုသေအောင်သတ်မှသာလျှင် ထိုက်သောကံမျိုးမဟုတ်ချေ၊ သက်ရှိသိုက မည်သည့်သတ္တဝါကိုမဆို သတ်ဖြတ်ခဲ့ပါလျှင် ပါဏာတိပါတကံထိုက်သည်သာလျှင် ဖြစ်လေသည်။ ဗုဒ္ဓဘာသာစာပေများ၌-

(၁) သူ၏အသက်လည်းဖြစ်စေ၊
(၂) သတ်လိုသော စိတ်လည်းရှိသည်ဖြစ်စေ၊
(၃) သတ်လည်းသတ်စေ၊
(၄) သေလည်းသေစေ၊

ဟူသော အင်္ဂါလေးချက်နှင့်ညီလျှင် ပါဏာတိပါတကံ ထိုက်သည် သာဖြစ်ကြောင်း ပြဆိုကြလေသည်၊ လူကိုသတ်ခြင်း၊ တိရစ္ဆာန်ကိုသတ်ခြင်း (တိရစ္ဆာန်တို့တွင်လည်း) ဆင်ကိုသတ်ခြင်း။ ပရွက်ဆိတ်ကိုသတ်ခြင်းတို့မှာ အယုတ်၊ အမြတ်၊ လုလ္လပယောဂ စသည်တို့ကိုလိုက်၍ အပြစ်ဒီရီကြီးမှု-ငယ်မှုသာလျှင် ကွာခြားကြလေသည်၊

အထက်ပါစကားအရ၊ ဗုဒ္ဓဘာသာအဆိုအလာများကို အပထား၍ ကိုယ်ချင်းစာတရားတခုကိုပင် အခြေခံလျက် စဉ်းစားမည်ဆိုပါက ရှောင်ကျဉ်သင့်သော တရားဖြစ်သလော မရှောင်ကျဉ်သင့်သောတရားဖြစ်သလောဆိုသည်ကို အလွယ်တကူနှင့်ပင် ခွဲခြားနိုင်လိမ့်မည်ကေန်တည်း၊

ထို့ကြောင့်ကိုယ်ချင်းစာတရား၏ မွန်မြတ်ပုံကိုရင်း။ ကိုယ်ချင်းစာတရားကို အခြေခံ၍ တည်ဆောက်အပ်သော ငါးပါးသီလတော် မြတ်ကို၎င်း။ အခြားကောင်းမွန် မြင့်မြတ်သည့် လောကီသူတော်ကောင်းတရားများကို၎င်း။ လောက၌သူတော်ကောင်းဖြစ်ရန် ရောက်လိုသူတိုင်း ဤနည်းအတိုင်း မြဲမြဲလိုက်နာကျင့်သုံးသင့်လှပါသတည်း၊

.....၁.....



ရွှေမော်ဓော စေတီတော်ကြီး အပြီးသတ်ပြုမြင်ရပုံ။



မုံရွာမြို့ မိုးညှင်းတောရအဝင်တွင် တွေ့မြင်ရသော ဆင်ရုပ်ကြီးများ။



ဆဋ္ဌသံဂါယနာသဘင်ကို အကျွင်းမဲ့ထောက်ခံသော ဟင်္သာတမြို့သံဃမဟာအစည်းအဝေးကျင်းပစဉ်။

# ပဋ္ဌိသမ္ဘိဒါမဂ်အဋ္ဌကထာဆရာ
# အရှင်မဟာအဘိဓါနအဋ္ဌုပ္ပတ္တိ

ရေးသူ–မာဃ

## အရှင်သာရိပုတြာဟောသည်

ခုဒ္ဒကနိကာယ်အင် ပဋိသမ္ဘိဒါမဂ် ပါဠိတော်မှာ၊ဗုဒ္ဓရှင်တော်ဘုရား၏ အလိုတော်အတိုင်း၊အရှင်သာရိပုတြာထေရ်မြတ်ကြီး ဟောကြားတော် မူအပ်သော ပါဠိတော်ဖြစ်ပေသည်၊ ထို့ကြောင့်–

ယော သော သုဝတ သုတာနံ၊
အဓိပတိ ဘူတေန ဘူတ ဟိတ
ရတိနာ၊
ထေရေန ထိရ ဂုဏာဝဘာ၊
ဝုတ္တော ပဋိသမ္ဘိဒါမဂ္ဂေါ၊

ဟု ပဋိသမ္ဘိဒါမဂ်အဋ္ဌကထာ နိဂုံး၌ မိန့်ဆိုတော်မူလေသည်၊

## အရှင်မဟာအဘိဓါန

အဆိုပါပဋိသမ္ဘိဒါမဂ် ပါဠိတော်၏ အဖွင့်အဋ္ဌကထာကိုသီဟိုဠ်ကျွန်း အနုရာဓပြုတော်၏တောင်ဘက်ရှိ၊ မဟာဝိဟာရကျောင်းတိုက်ကြီး၌သီတင်းသုံးစံနေတော်မူသော အရှင်မဟာအဘိဓါန မထေရ်မြတ်ကြီးရေးသားပြုစုတော်မူကြောင်း သိရလေသည်၊ အရှင်မဟာအဘိဓါနကိုပင် အရှင်မဟာနာမဟူသော အမည်ဖြင့် သာသနာထက်ရ စာတမ်း၌ ခေါ်ဝေါ်သုံးစွဲထားသည်ကို တွေ့ရပြန်လေသည်၊ စင်စစ်အားဖြင့် ထိုအမည်နှစ်မျိုးဘို့မှာ အနက်အဓိပ္ပါယ် အတူတူပင်ဖြစ်လေသည်၊ အဘိဓါနကို မြန်မာပြန်လျှင်(အမည်)ဟု အဓိပ္ပါယ်ရလေသည်၊ နာမကို မြန်မာပြန်လျှင်လည်း(အမည်)ဟုပင် အဓိပ္ပါယ်ရလေသည်၊ပဒုမုတ္တရဘုရားကို ဇလဇုတ္တရ ဘုရားဟု ပရိယာယ်တူလဲလှယ် ခေါ်ဝေါ်သကဲ့သို့ပင်တည်း။

## သဒ္ဒါတူ,အနက်တူများ

အရှင်မဟာအဘိဓါနမှာ အရှင်မဟာဇာနသာသ၊အရှင်မဟာဝုဒ္ဓဒတ္တ၊ အရှင်မဓမ္မပါလ၊အရှင်ဥပသေန စသည်တို့ကဲ့သို့ပင် မဟာဝိဟာရကျောင်းတိုက်မှ ထေရဝါဒဂိုဏ်းဝင်ဖြစ်ကြောင်းကိုလည်းကောင်း၊ အထူးသဖြင့် အရှင်ဥပသေနနှင့် အစီအစဉ် အရေးအသားများတူမျှသည်ကိုလည်း တွေ့ရလေသည်။(ဥပမာ)ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာ၌ အပနေတွါဒအရ ဒေသနာသာကို ဖွင့်ရာတွင်–

ဒေသနာသာနမေ ကေသတ ဝေါ ဟာရ ကုသလာဘာ၊

ဟု တွေ့ရလေသည်၊အရှင်မဟာ ဗုဒ္ဓဒေါသာ၏ဝိသုဒ္ဓိမဂ်အဋ္ဌကထာသမ္မောအဋ္ဌကထာများ၌လည်း အလျှင်ကပင် ထိုစကားနှင့်တထပ်တည်း ဖွင့်ရှိထားနှင့်သည်များကို တွေ့ရလေသည်၊ ထို့ပြင်ပဋိသမ္ဘိဒါမဂ်အဋ္ဌကထာ မဟာဝဂ္ဂဥာဏကထာတွင် သစ္စာအဖွင့်များ၊ အဘိညာဉ်အဖွင့်များမှာ ရှင်မဟာဗုဒ္ဓဃောသ၏ အဋ္ဌကထာများနှင့် သဒ္ဒါအားဖြင့်၎င်း၊ အနက်အားဖြင့်၎င်း၊လုံးဝနီးနီး တူ၍ နေသည်များကို တွေ့ရလေသည်၊ ထို့ကြောင့် (၁)အရှင်မဟာဗုဒ္ဓဃောသ ကြည့်ရှုကိုးကားသည့် အဋ္ဌကထာများနှင့် အရှင်မဟာဘိဓါနကြည့်ရှုကိုးကားသည့် အဋ္ဌကထာများမှာ အတူတူပင်ဖြစ်သည်ဟူ၍၎င်း(၂)အရှင်မဟာဘိဓါန ကိုးကားရာ ကျမ်းဘို့တွင်–

''ပုဗ္ဗဋ္ဌကထာနယံ တထွာ ယုတ္တိ နိဿာယမယာရစ္ဆ''

ဟူသော နိဂုံးစကားနှင့်အညီ ရှေးဟောင်းပဋိသမ္ဘိဒါမဂ်အဋ္ဌကထာကို မှီငြမ်းပြုသည်မှာ ကေန်ဖြစ်သော်လည်း၊အရှင်မဟာဗုဒ္ဓဃောသ၏ အဋ္ဌကထာများကိုလည်း မှီငြမ်းပြုလိမ့်မည်ဟူ၍၎င်းယူဆဘွယ်ရှိလေသည်။

## တပါးထည်းရေးရေ့လား?!

အထူးသဖြင့် အရှင်မဟာဥပသေနနှင့် အစီအစဉ်အရေးအသားများတူမျှသည်ကို တွေ့ရသည်ဟု ဆိုခဲ့၍အရှင်မဟာဥပသေန၏ နိဒ္ဒေသ အဋ္ဌကထာကျမ်းဦးတွင် (ပါဠေါ်–ဝိသိဋ္ဌေါ်–နိဒ္ဒေသာ–တန္တံမဝိသေသံတော၀)ဟုပါလေသည်၊ ပဋိသမ္ဘိဒါမဂ်ကျမ်းဦး၌လည်း (ပါဠေါ် ဝိသိဋ္ဌေါ် ပဋိသမ္ဘိဒါနံ၊ တန္တံမဝိသေသိတော၀)ဟု တပါးထည်း ရေးလေရေ့သလား ဟု ထင်ရလောက်အောင်ပင်အသွားချင်း တူလှသည်ကို တွေ့ရပေသည်။စင်စစ်ကား ပုဂ္ဂိုလ်နှစ်ဦး ဖြစ်လေသည်၊

ပဋိသမ္ဘိဒါမဂ်အဋ္ဌကထာ၏အမည်ကိုလည်း၊ သဒ္ဓမ္မပကာသိနီ အဋ္ဌကထာဟူ၍ မှည့်တော်မူလေသည်၊ နန်းမတော်ခန် ဦးရန်၏ပိဋကသမိုင်းတွင်–

ပုဂံမြို့ တံကန်ခြောင်းရတနာ ဗိမာန်ကျောင်း ကျောက်စာတွင် ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာကို၊ မာရာင်အဋ္ဌကထာဟု ကျောက် ရေးဆရာတို့ရေးသည်၊

ဟု တွေ့ရလေသည်၊

## အရှင်သိဒ္ဓတ္ထ

သာရတ္ထသင်္ဂဟ အဋ္ဌကထာဆရာ၊အရှင်သိဒ္ဓတ္ထမှာ မဟာဝိဟာရဝါသီကျောင်းတိုက်နေ၊ ပဒမ္မပင်္ဂိုဇ်ကိုယ်နှင့် ဋီကာများကို ပြုစုတော်မူသည့် အရှင်ဗုဒ္ဓပီယ၏ တပည့်ဖြစ်လေသည်။

သာရတ္ထသင်္ဂဟ အဋ္ဌကထာဟူသော အမည်နှင့်အညီ၊ထိုအရှင်၏အဋ္ဌကထါမှာလည်း၊အရှင်မဟာဗုဒ္ဓဃောသ၊ အရှင်ဓမ္မပါလ၊အရှင်ဗုဒ္ဓဒတ္တ စသည်တို့၏အဋ္ဌကထာများမှ ကောင်းနိုးရာရာကိုထုတ်နှုတ်ထားသည့် အဋ္ဌကထာဖြစ်လေသည်၊

....၀....

# ဗိုလ်တထောင်စေတီ ထီးတင်ပွဲ



ဒီဇင်ဘာလ(၂၉)ရက်နေ့က ဗိုလ်တထောင်စေတီတော် တတိယဆင့် ထီးတင်ပွဲအခမ်းအနားကို ဝန်ကြီးချုပ်ဦးစိုးလျက် ကျင်းပနေစဉ်။

# နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ ၁၃၁၅–ခုနှစ် အကျဉ်းထောင်ဗုဒ္ဓဘာသာစာမေးပွဲ

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏ ဒုတိယအကြိမ်မြောက်အကျဉ်းထောင်ဗုဒ္ဓဘာသာ သင်တန်း၊ စာမေးပွဲကို ၁၃၁၅-ခု၊ သီတင်းကျွတ် လဆန်း ၃-၄-၅-၆ (၁၉၅၃-ခု၊ အောက်တိုဘာလ ၂၆–၂၇–၂၈–၂၉)ရက်များတွင် အကျဉ်းထောင်ပေါင်း(၂၉)ထောင်တို့၌ကျင်းပခဲ့သေသည်၊

ယခင်နှစ်ကလည်း အကျဉ်းထောင်ပေါင်း(၂၉)ထောင်တွင် စာမေးပွဲကျင်းပခဲ့လေသည် ထိုကျင်းပခဲ့သော (၂၉)ထောင်အနက်၊အင်းစိန်တွဲဘက် ထောင်မှ စာရင်း မတင်သွင်းခဲ့သောကြောင့်၎င်း၊ ဝဲခူးထောင်မှ စာမေးပွဲကျင်းပနိုင်ရန် ဝင်သူဦးရေမပြည့်သောကြောင့်၎င်း၊ယခုနှစ်တွင် ထိုအကျဉ်းထောင်နှစ်ခု၌ စာမေးပွဲ မကျင်းပခဲ့ရပေ၊ ထို့ပြင် အကျဉ်းထောင် ဗုဒ္ဓဘာသာသင်တန်း၊စာမေးပွဲ မေးခွန်းများကို အမှုရုံးနှင့်အကျဉ်းဌာန မင်းကြီးရုံးမှတဆင့် ဆိုင်ရာထောင်များသို့ကြိုတင်ပေးပို့ခဲ့သော်လည်း၊စာတိုက်ဌာန၏ ချို့ယွင်းချက်ကြောင့် ကသာထောင်သို့ အချိန်မှီမရောက်ရှိသဖြင့် ကသာထောင်တွင် ယခုနှစ်စာမေးပွဲကျင်းပရန် စီစဉ်ထားပါလျက် မကျင်းပဖြစ်ခဲ့ပေ။

ယခင်နှစ်က စာမေးပွဲ မကျင်းပဖြစ်ခဲ့သော (၁)မြင်းခြံ (၂)ပုဂံညောင်ဦး၊ (၃)ကျောက်ဖြူ (၄)မိုးကုတ်(၅)ဗျာပုံ(၆)သံတွဲ ထောင်များအနက် (၁)မြင်းခြံ(၂)ပုဂံညောင်ဦး [၃] ကျောက်ဖြူထောင်တို့တွင် ယခုနှစ် ကျင်းပနိုင်ခဲ့လေသည်၊

ယခုနှစ်တွင် အဆိုပါအကျဉ်းထောင်ပေါင်း(၂၉)ထောင်၌စုစုပေါင်း(၆၅၇)ဦးဖြေဆိုကြလေသည်။ ထို[၆၅၇]ဦးတို့ကို ဖြေဆိုကြသည့်အဆင့်အလိုက် ခွဲခြားသောအခါ၊

ပဌမဆင့်တွင်[၄၇၅]ဦး ဖြေဆိုကြရာ[၄၀၈]ဦး အောင်မြင်သဖြင့်၊ ရာခိုင်နှုန်း(၈၅.၈၉)ဖြစ်လေသည်၊

ဒုတိယဆင့်တွင်(၄၅၀)ဦး ဖြေဆိုကြရာ၊(၂၃၉)ဦး အောင်မြင်သဖြင့် ရာခိုင်နှုန်း(၅၃.၁၁)ဖြစ်လေသည်၊

တတိယဆင့်တွင်(၄၀၂)ဦးဖြေဆိုကြရာ(၃၂၆)ဦး အောင်မြင်သဖြင့် ရာခိုင်နှုန်း(၈၁.၀၉)ဖြစ်လေသည်။

စတုတ္ထဆင့်တွင် (၂၇၉)ဦး ဖြေဆိုကြရာ(၂၀၆)ဦး အောင်မြင်သဖြင့်၊ ရာခိုင်နှုန်း(၇၃.၈၃)ဖြစ်လေသည်၊

ယခုနှစ်စာမေးပွဲတွင် လေးဆင့်စလုံးဝင်ရောက်ဖြေဆို အောင်မြင်ကြသူများမှာ [၀၁]ဦးဖြစ်၍ယမန်နှစ်ကဆက်အောင် သူဦးရေပိုမိုလာကြောင်း။

....၀....

# ပေါ်သီ – ပြော်သီ – ပြာသိုလ်

## ★ လှေသင်းဝန်မင်း ဦးချိန်ရေးသားချက် ★

### ပရိယာယ် ၄-ပုဒ်

မကာရရာသီဟု ခေါ်ဝေါ်ရေးသားကြသည်မှာ၊ ရာဇမတ္တဏ်ကျမ်း ရာသီဘိဓါနအပိုင်းတွင် အာကောဓကေချော၊ မကာရရာသီ၊မဓဂါ၊မကါရရာသီ၊မဂါမျှောမကါရရာသီမ ဂျောကေါရရာသီဟူ၍ပရိယာယ် ၄-ပုဒ်ပြသည်။ (အချို့သောမူမှာ အာတေဒေချောဟု ရှိ၏၊ပါဠိမျက်)

### သမင်နှင့်မကန်း

ထို ၄-ပုဒ်ကားမကန်းပရိယာယ်တည်း၊မဂရာသီရုပ်မကာရရာသီ အရုပ်ကား၊ ပုဗ္ဗေ ရှေ့ ထက်ဝက်၌ကား မိဂသ၊သမင်မျက်နှာရှိ၏။ အပ ရှေ့၊ နောက် ထက်ဝက် ကား၊ မ ကာ ချော၊ မကန်းရှိ၏ ဆိုသည်၊ ဇောတိတတ္တကျမ်းတွင် မကာချော မကာရ ရာသီကား၊ မြိဂါသျ၊ သမင်မျက်နှာ သဏ္ဍာန်ရှိ၏–ဟူ၍ ဆိုသည်။

### ဆိတ်မင်းပုံလော

မကန်းဆိုသည်မှာ မဂရပုဒ်တွင် ရအက္ခရာမှာတံခွန်တင်၍ မြန်မာဘာသာမကန်းဖြစ်သည်၊မဂရ၊မကရ၊ ဂငယ်၊ကကြီး ၂-ထွေရှိသည်မှာ ဒေါဿသုတ်တွင် ကုလပကော၊ ကုလုပဝါနှင့်ထောက် မဂရကိုစွဲ၍၊ အာသရနှင့်မြန်မာဘာသာ မကာရ ခေါ်ဝေါ်သည်။ အနောက်ကိုင်းပြည်၊ အင်္ဂလိပ်-ပြင်သစ်လူမျိုးတို့မှာ ဆိတ်မင်းအရုပ်ခေါ်ဆိုသည်၊ ကမ္ဘာ့မြေလုံးပုံမှာလည်း၊ ဆိတ်သဏ္ဍာန် ဦးချိုနှင့်ပင် ရေးသည်။

မကာရရာသီမှာ၊ခရေ–သာ၊ မကန်းနှင့်တူသော ရာသီ၊ မကန်းဘို့ နှစ်သက်သော ရာသီဆိုလိုသည်။

### ပါးစပ်ကိုဖွင့်နေတတ်သည်

ပြာဏိဘက္ကနေ့ မုခံကိရတိတိ မကရး၊ အာဒိနာဇလ မနုသျ ဒ သာ၊ဟူ၍ အမရကောသ ဒီပဏီတွင်ပြသည်။ အဘိဓာန်ဋီကာမှာလည်း ဤနည်းတူင် လာသည်၊ (အနက်ကား) ပြာဏိဘကသနေ၊ သတ္တဝါတို့ကို ဘမ်းခြင်း- စားခြင်းငှါ၊ မုခ်၊ ခံတွင်းကို၊ ကိရတိ ဖြန့်ဘတ် ဖွင့်တတ်၏။ ဣတိတသ္မာ၊ ထို့ကြောင့် မကရး မကရမည်၏၊အာဒိနာ၊အာဒိသဒ္ဒါဖြင့်၊ဇလမနုသျာဒသ၊ ရေသူ ရေလူ စသည်တို့ကို၊ အာချ၊ဟောအပ်၏။ (ဤကားအနက်၊)

### ရေသူဆိုသည်ကား

ထိုမကာရ သဒ္ဒါကား၊ ရေသူကိုလည်းဟောအ်သိလေ။ချ၊သူဘောင်းတို့ ရေသူရုပ် ထုလုပ် ရေးသားသည်ကား၊ အမရကောသ ကျမ်း ဒီပဏီ များနှင့် အလွန်ညီညွတ်သည်။သင်္ဘောသူကြီးသာရကျစ်၊ ဘင်္ဂလား မဒရပ်သို့ သင်္ဘော လွှင့်သွားကူးသန်းသည့်ကာလ၊ သင်္ဘောအနီးတွင် ရေသူပေါ်သည်ကိုမြင်သည်။ ထိုရေသူမှာ ချောက်ချက်နှာနှင့်တူသော မျက်နှာရှိသည်ဟု ပြောဆိုဘူးသည်။ ထို့ကြောင့် ရေသူရှိကြောင်းကိုမှချသိမှတ်ရမည်။

### ဖုသျှနက္ခတ်နှင့်

ထိုမကာရ ရာသီမှာ၊ ဖုသျှနက္ခတ်နှင့် ယှဉ်၍လပြည့်သောကြောင့် ဖုဿဟုသဒ္ဒါကျမ်း အဘိဓာန် ကျမ်းတို့တွင် ဆိုသည်။ ဝိဂြိုဟ် ပြုသော်၊ ‘‘ဖုဿနက္ခတ္တေနနိယုတ္တောမာသော ဖုဿမာသော’’ ဟု ဝိဂြိုဟ်ပြုရာ၏။ ဖုဿနက္ခတ္တေန၊ ဖုသျှနက္ခတ်နှင့်၊နိယုတ္တော၊ယှဉ်သောမာသော၊ လတည်း၊ ဖုဿမာသော၊ ဖုသျှနက္ခတ်နှင့် ယှဉ်သော ပြာသိုလ။ (ဤ ကား၊အနက်။)

(စာမျက်နှာ ၁၈-သို့ ဆက်ကြည့်ပါ)

# ● ၁၃၁၅ ခုပဌမပြန်စာမေးပွဲ ●

## မဟာနှင့် စူဠဘွဲ့နှင်းသဘင်

နိုင်ငံတော် နာယက ဆရာတော်များ၊ အဖွဲ့နှင့်ပါဠိပညာရေးအဖွဲ့ ကြီးမှူးကျင်းပသော ၁၃၁၅-ခု (၁၉၅၃) ခုနှစ်၊ ပါဠိပဌမပြန်စာမေးပွဲတွင်–

၁၉၅၃–ခု နှစ်၊ ပဌမကျော်နှင့်ကျန် ၃-ပါးတို့အား နိုင်ငံတော် သမ္မတကြီး ကိုယ်တော်ဘိုင် အောင်သက်မှတ် ဆက်ကပ်သည့်မဟာဘွဲ့နှင်းသဘင်ကို ၁၃၁၅ ခု၊ နတ်တော် လပြည့်ကျော် ၈ ရက် ၁၇၃ ပါး၊ပဌမငယ်တန်းအောင် ၂၉၄– ပါးတို့၏စူဠဘွဲ့နှင်းသဘင်ကို၊ ၁၃၁၅–ခု နတ်တော်လပည့်ကျော် ၉ ရက် (၃၀–၁၂–၅၃) ဗုဒ္ဓဟူးနေ့–နေ့လည် (၁၂) နာရီ အချိန်မှ စတင်၍ရင်း၊ ရန်ကုန်မြို့၊ မြို့တော်ခန်းမကြီး၌ကျင်းပခဲ့လေသည်။

### ပါဠိပညာရေးအဖွဲ့ဝင်များ။

(၁) နိုင်ငံတော် ရာထူး ခန့် အဖွဲ့။ ကိုယ်စားလှယ် မဟာသီရိသုဓမ္မ ဦးလွန်းဘော်။ (၂) နိုင်ငံတော် ဘဏ္ဍာရေးဝန်ကြီးဌာန ကိုယ်စားလှယ် ဦးပန်းခမောင် သုဓမ္မဝတီ တိုက် အုပ်။ (၃) နိုင်ငံတော်သာသနာရေး ဝန်ကြီးဌာန ကိုယ် စား လှယ် လက်ထောက် သာ သနဍ္ဍန် ဒေးဝန်ဦးစိုးမြင့်။ (၄) နိုင်ငံတော်ပညာမင်းကြီး ကိုယ်စါးလှယ်ပညာဝန် ဦးကြင်ပု။ (၅) ရန်ကုန်တက္ကသိုလ် ပါဠိ ဌာန ကိုယ်စားလှယ်၊ ပါဠိဌာနမှူး ဦးအောင်သန်း။ (၆) နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့။ ကိုယ် စား လှယ်၊ ဦး ဆိုင် ကျော် အုပ်ချုပ်ရေးအရာရှိ [၃]။ (၇) ရန်ကုန်မြို့ ပဌမပြန် ဆွမ်းကျွေးအသင်း ကိုယ်စားလှယ် ဦး အုန်းသန်း အငြိမ်းစား ဝိသုကာ အင်ဂျင်နီယာ။ (၈) မန္တလေးမြို့ ပဌမပြန် ဆွမ်းကျွေးအသင်း ကိုယ်စားလှယ် ဦးဝံရီ၊ ဆန်စက်နှင့် ဆီစက် များ ပိုင် ရှင်။ (၉) မုံရွာမြို့ပဌမပြန် ဆွမ်း ကျွေး အသင်း ကိုယ်စားလှယ်၊ သိမ်ရိပ်ချီ ဦးဘတင်၊ အငြိမ်းစားခရိုင်ဝန်၊ (၁၀) ရေနံချောင်းမြို့ ပဌမပြန် ဆွမ်းကျွေး အသင်း ကိုယ်စားလှယ် ဦးနိုင်၊ တွင်း စား ကြီး။ (၁၁) စစ်ကိုင်းမြို့ပဌမပြန် ဆွမ်းကျွေး အသင်း ကိုယ်စားလှယ် ဦးကိုကြီး၊ထုံးမိုင်ရှင်၊ (၁၂) မိတ္ထီလာမြို့ ပဌမ ပြန် ဆွမ်းကျွေးအသင်း ကိုယ်စားလှယ် ဦးစိုးမြင့် (ပဌမကြီးအောင်)။ (၁၃) ရန်ကုန်မြို့၊ စေတိယင်္ဂဏ ပရိယတ္တိအသင်း ကိုယ်စားလှယ်ဦးထွန်းဖေ၊မြေပိုင်ရှင်၊ (၁၄) မန္တလေးမြို့ ပရိယတ္တိ သာသနဟိတ အသင်း၊ကိုယ်စား လှယ်ဦးမောင်ကြီး။ (၁၅) သထုံမြို့၊ သုဝဏ္ဏဘူမိ ပရိယတ္တိ အသင်း ကိုယ် စား လှယ် လ ယ် တီ ဦး လှ တင်၊ (၁၆) ညောင်တုံးမြို့-မြန်မာနိုင်ငံလုံးဆိုင်ရာသုဓမ္မာပရိယတ္တိ စာမေးပွဲအသင်းကိုယ်စားလှယ်၊ ဦးသက်ရှင်။ (၁၇) မော်လမြိုင်မြို့၊ပရိယတ္တိသဒ္ဓမ္မပါလအသင်း ကိုယ်စားလှယ်၊ဦးပန်းညွှာ၊ ကျောင်းဆရာကြီး။ (၁၈) နိုင်ငံတော် သမ္မတခန့် မှန်ဦးဘိုးကျေး၊ အငြိမ်းစားခရိုင်ဝန်။ (၁၉) နိုင်ငံတော်သမ္မတခန့်ဦးအုန်းဟန်၊ ဦးဘထွန်း။ ဘီ–အေ–ဒီ–တီ အုပ်ချုပ်ရေးမှူး၊

(၂၈ - ၁၂ - ၅၃) အင်္ဂါနေ့ နေ့မွန်းလွဲ ၂ နာရီတိတိအချိန်၌ စတင်၍ရင်း။ သာသနာရေးဌာန ဝန်ကြီး၊ ကိုယ်စား၊ ပါလီမန် အတွင်းဝန်သိရိပျံချီ ဦးသန်းစိန်က ဆက်ကပ်သည့် ရန်ကုန်မြို့ ပဌမပြန် စာဖြေဌာနမှ၊ ပဌမကြီး တန်း အောင် ၁၄၂ပါး၊ပဌမလတ်တန်း အောင်



ဆုနှင်းသဘင် အခမ်းအနား
သံဃာတော်များနှင့် ပရိသတ်များ။



အမှတ်အများဆုံးဖြင့် အောင်သည့်
ရှင်ဓမ္မာနန္ဒအားသမ္မတကြီးကဆုကပ်နေပုံ



မြို့တော်ခန်းမကြီးတွင် ကျင်းပသော စူဠဘွဲ့နှင်းသဘင်အခမ်းအနားသို့ တက်ရောက်သည့် ဆုရသော သံဃာတော်များနှင့်သီလရှင်များ။



ပဌမကြီးတန် တွင် အမှတ်အများဆုံးဖြင့် အောင်မြင်သော မဏ္ဍသိင်္ဂီအား သမ္မတကြီးက ဆုချီးမြှင့်နေစဉ်၊

## ဆဋ္ဌသံဂါယနာလိုဏ်ဂူကြီးအတွက်၊

# ကုသိုလ်ပါဝင်ကြသူများ

### ဖြတ်ပိုင်းစာအုပ် အမှတ် (၇)

၁။ ကမာရွတ် ရန်ကုန်မြို့ ဦးခိုးမင်း၊ ဦးပေါ်-ဒေါ်ညွန့် ၆-ကျပ်၊
၂။ မော်လမြိုင်မြို့-လမ်းပန်း အဆောင် အညီဌာနမြို့နယ်၊ အင်ဂျင်နီယာ ဦးစောတင် ၄၅ိ။
၃။ ဖျာပုံအပိုင်ဒေးဒရဲအနောက်တိုး ရွာ ဒေါ်ဖွါးညို ၁ိ၊
၄။ ဖျာပုံအပိုင် ဒေးဒရဲအနောက်တိုး ရွာ၊ ဒေါ်ဖွါးသက် ၁ိ။
၅။ စစ်ကိုင်း ဒေါ်မြတင်၊၁ိ။
၆။ စစ်ကိုင်း ပွဲစား ဦးညိုတုတ်-ဇနီး ဒေါ်ပုံ ၁ိ။
၇။ မော်လမြိုင်မြို့ ဦးဘိုးမင်း – ဇ နီး မအုံးစိန် သားသမီးတစု ၁ိ။
၈။ မော်လမြိုင်မြို့ မအေးတင် ိ။
၉။ ဝါးခယ်မ အပိုင် ရွာသစ်ရွာ ဦးစံကွန်း–ဇနီး–ဒေါ်အုံးကျင် ၅ိ။
၁၀။ ရန်ကုန် ငွတ်ဘလစ် ဦးသော ၅ိ။
၁၁။ ရန်ကုန်မြို့ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ ဒိုဒိုကရေစီ ဒေသန္တရ အုပ်ချုပ်ရေး ဝန်ကြီးဌာန (ဒုတိယအရစ် အလှူငွေ) ၃၆ိ။
၁၂။ မေမြို့ ကိုလှမြင့်-မမြခင် ၂ိ၊
၁၃။ ရန်ကုန် ကွယ်လွန်သူ ပြန်ကြားရေးဝန်ကြီး ဒီးဒုတ် ဦးဘချိုအား ရည်စူး၍၊ ဇနီး – ဒေါ်လှမေနှင့် သားသမီးများ ၅ဝိ
၁၄။ ရန်ကုန်မြို့ ဦးသာဇံ–ဒေါ်အေးမြ၊ သမီး မခင်သန်း ၆-ကျပ်။
၁၅။ ရန်ကုန်ဗဟန်း၊မယူပနှင့်မဖေမာရီ ၇ိ။
၁၆။ ကြံခင်းမြို့ မီးသတ်အစည်းအရုံး ဒုတာဝန်ခံဗိုလ် မောင်ဘင် ၃ဝိ။
၁၇။ ဖြူးမြို့ မီးသတ် ဥက္ကဋ္ဌ မောင်အောင်သိန်း-မမြမြ၊ ကွယ်လွန်သူ မိဘများအား ရည်စူး၍ ၅ိ၊
၁၈။ ဖြူးမြို့ မီးသတ် ဥက္ကဋ္ဌ မောင်အောင်သိန်း-မမြမြ ၅ိ၊
၁၉။ အိမ်မဲမြို့ မောင်မြဖေ – မသန်းမြ ၁ိ။
၂၀။ အိမ်မဲမြို့ ဦးဘိုးထွေး – ဒေါ်မယ်တင် သားသမီးတစု ၅ိ၊
၂၁။ အိမ်မဲမြို့ ဦးဘိုးခွေး – ဒေါ်ညီမ သားသမီးတစု ၅ိ၊
၂၂။ အိမ်မဲမြို့ မအေးရှင် ိ၊
၂၃။ ပြည်မြို့ လမ်းဗိုလ် ဦးအေးမောင် ဒေါ်မြမေ ၅ိ၊
၂၄။ သုံးခွ မောင်ထွန်းကြည် ၂ိ။
၂၅။ သုံးခွ မောင်လှရွှေ ၂ိ။
၂၆။ ကြည့်မြင်တိုင် မောင်ရှင် ဇနီး မမြကြည် ၂ိ။
၂၇။ ကြည့်မြင်တိုင် ဦးဘမောင်–ဒေါ်မြကြည်သမီးမတင်ရီမစမ်းနွဲ့၁၅ိ
၂၈။ ကြည့်မြင်တိုင်ဦးထပ်-ဒေါ်ကျော့ သမီး မလှခင် ၁၅ိ။
၂၉။ ကြည့်မြင်တိုင် ဦးလှမောင်-ဒေါ်ကုလားမ ၁ိ၊
၃၀။ ဝါးခယ်မဦးအောင်တင်မသန်း၊ရင် ငွေလက်ပတ်နာရီကြုတ် တ လုံးနှင့် ၄-ပဲ။
၃၁။ ကြည့်မြင်တိုင် ကုန်သည် ဦးဘိုးသီး–ဒေါ်စိန် ၅ိ။
၃၂။ မအူပင်အပိုင် ရွှေတောင်မှော် ဦးအေးမောင် ိ
၃၃။ ကြည့်မြင်တိုင် ပင်စင် အငြိမ်းစား ဦးထွန်းတင်ဒေါ်မယ်ဥဏ်သားများ ၂ိ။
၃၄။ မော်လမြိုင်လက်ထောက်ရေတိုင်း အရာရှိ ဦးအေးလှိုင်နှင့် ဇနီး ၂ိ။
၃၅။ မော်လမြိုင်မြို့မမေသွင်နှင့်အစု၅ိ
၃၆။ ချောင်းဆုံမြို့ ကမ်ရိုက်ရွာ မကျင်စိန် သမီး ဘေဘီညွန့် သားမောင်တင်ဦး ၅ိ၊
၃၇။ ကျောင်းကုန်းမြို့အပိုင် အပင်နှစ်ဆယ်ရွာ ဦးဘိုးခက် သားသမီးတစု ၅ိ။
၃၈။ ကျောင်းကုန်းမြို့အပိုင် ငါးတဲစုရွာ ကိုလှခင်။ ကိုသာရ။ ကိုမြင့်၊ ကိုရွှေ။ ကိုခွေး ၅ိ၊



မိုးကောင်းမြို့ အဘိဓမ္မာစာမေးပွဲသင်တန်းပြ ဆရာတော်နှင့်သင် တန်းသူများကို တွေ့မြင်ရပုံ။

၃၉။ မယ်ဇလီကုန်းမြို့ ဒေါ်သက်ထွေး သမီး မခင်လှ ၄ိ။
၄၀။ မယ်ဇလီ ကုန်းမြို့ ဒေါ်အေးစိန် သမီး တွတ်နီ ၂ိ၊
၄၁။ ရွှေတောင် ဒေါ်ကုမာရီ ညီမ-မစိန်း–မလှကြည် ၅ိ၊
၄၂။ ရွှေတောင် ဒေါ်အေးခင် ၂ိ။
၄၃။ ရန်ကုန် ဒေါ်ဆယ် မိသားတစု ၁၅ိ။
၄၄။ ပဲခူး ဒေါ်အေးမြ ၅ိ။
၄၅။ ရေနံချောင်းမြို့ ဦး ထွန်း နောင်–ဒေါ်ထွေး ညီမ ဒေါ် မမ လေး–ဒေါ်လှရှင် ၁၀၀ိ။
၄၆။ ရေနံချောင်းမြို့ ဒေါ်လှရှင် ဆေးလိပ်ခုံပိုင်ရှင်နှင့် အလုပ် သမားများ ၃ဝိ။
၄၇။ ဓော်လမြိုင် ဦးလှမောင် ၃ိ။
၄၈။ မန္တလေးဈေးချို ငါးတန်းရပ် ဦးကောင်းနှင့် နှစ်မများ ဒေါ်ခစောတင်။ ဒေါ်စောရင်နှင့်တူ တူမများ ၁၅၀ိ။
၄၉။ ကြည်မြင်တိုင် ကိုထွန်းရော် ဇနီး ၅–ကျပ်၊
၅၀။ ဥက္ကံမြို့ ကိုအေး– မအေး ညွန့်။ ကျောက်ကုန်းတကုန်းမွေ ၂ိ။
၅၁။ ဥက္ကံ ဒေါ်ခွန်း–မအေးမှိ ကျောက်ကုန်းတကုန်း ငွေ ၂ိ၊
၅၂။ ညောင်တုံး အပိုင် မဲဇလီရွာကြီး၊ ကိုသိန်း-မမှိ ၂ိ၊
၅၃ ကြည့်မြင်တိုင်ပန်းပင်ကြီးတန်း၊ဆေးလိပ်ခုံပိုင်ရှင် ဒေါ်စု ၁၆ိ။
၅၄။ ကျောက်တော် ကုန်သည် ဦးသာကြိုင်သာညို ၁ိ၊
၅၅။ ရန်ကုန်တာမွေ ကုန်သည် မောင်အေး။ မတင်။ မကြီး ၂ိ။
၅၆။ ကြည့်မြင်တိုင် ကုန်သည် ဒေါ်သိန်းခင် သားသမီးတစု ၄ိ၊
၅၇။ ကြည့်မြင်တိုင် ကုန်သည် ဒေါ်သိန်းခင် သားသမီးတစု ၃ိ၊
၅၈။ ပဲခူးကုန်သည် ကိုချစ်ခင်–မခင်ပု သား မောင်သန်းဦး၊ မောင်မြင့်ဦး ၁ိ။
၅၉။ ပြည်ထောင်စု မြန် မာ နိုင်ငံ တော် အစိုးရ ယဉ်ကျေးမှုဝန်ကြီး ဌာနနှင့် လက်အောက်ခံ ဌာနများမှ ဇူလိုင်လအတွက် ၃၉ိ၊
၆၀။ သီပေါမြို့ ကုန်သည် ဦးစိ ၁ိ၊
၆၁။ သီပေါမြို့ ကုန်သည် [illegible]သန်း မောင်–မနန်းအုံ ၁ိ၊
၆၂။ သီပေါမြို့ ကုန်သည် ဦးထွန်း–ဒေါ်ဥ ၂ိ၊
၆၃။ လှည်းကူးမြို့အပိုင် သုံးခွရွာ ဦးမောင်ကျယ် ၁၅ိ၊
၆၄။ ရှမ်းပြည်မြောက်ပိုင်း မိုင်းရယ်မြို့ တရားအမတ် ဦးနန္ဒိယနှင့် ဇနီး အိမ်သားတစု ၁၅ိ။
၆၅။ ပခုက္ကူမြို့ နှန်သိုက်ရပ် ကျောင်းအမကြီး ဒေါ်အေးညိမ်း ၂ိ။
၆၆။ ပခုက္ကူ N.O.C.ကိုယ်စားလည် မလှမင်းနှင့် မလှမေ ၁၆ိ။
၆၇။ ပခုက္ကူမြို့ ကျောင်းအမကြီး၊ ဒေါ်အေးညိမ်း ကွယ်လွန်သူ သမီး မသိန်းအတွက် ၁၅ိ၊
၆၈။ ပခုက္ကူမြို့ စွန်သိုက်ရပ် ရဲအုပ်မောင်သောင်းစိန် ဆရာမ မလှမင်း ၁ဝိ၊
၆၉။ ပခုက္ကူမြို့စွန်သိုက်ရပ် ဆန် ကုန်သည် မဘင့် ၅ိ။
၇၀။ ပခုက္ကူမြို့ အထည်သည် ဒေါ်နှမ်းအေး ၅ိ၊
၇၁။ ပခုက္ကူမြို့ ကုန်သည် ဒေါ်ရင်–ဒေါ်မိ ၅ိ၊
၇၂။ ပခုက္ကူမြို့ သီလရှင် ဒေါ်စိတ္တ ၅ိ၊
၇၃။ မော်လမြိုင် ဦးဘသောင်း ၅ိ၊
၇၄။ မန္တလေးမြို့ ကျောက်သွေးတန်းရောင်စုံ စာပုံနှိပ်တိုက်ပိုင်ရှင် ဦးသန်းမောင်–ဒေါ်စိန်စိန် ၁ိ။
၇၅။ ရန်ကုန် ၁၂–လမ်း၊ မစမ်း ၅ိ။
၇၆။ ရန်ကုန် မြို့သုံး ရတနာ ရွှေဆိုင်ရှင် ကိုတင်ဝင်း -မသိန်းတင် သမီး ခင်မာဝင်၊ ၁၅ိ၊
၇၇။ ရန်ကုန် နှင်းဆီကုန်း ဓေမာရီ၁၅ိ
၇၈။ ရန်ကုန်နှင်းဆီကုန်းမနှင်းဆီ၁၅ိ။
၇၉။ ရန်ကုန် အလုံရပ် ဦးတင့်ခွေကြီး မှူးဘော၊ အလုံဆင်မင်း ကွက်သစ်လမ်းဘေးဈေးဆိုင်များ အဖွဲ့ ၁၅ိ။

[ဆက်လက်ဖေါ်ပြပါဦးမည်]



လင်းခေးမြို့ ပဋ္ဌိပတ္တိဌာနရှိဆောက်လုပ်နေဆဲ မဏ္ဍပ်ကြီးကို တွေ့မြင်ရပုံ။

# ပိဋကသုံးရပ်ကောင်းကြီးများ ပေါ်ပြီ

သန္တါလည်းပေါ် ၊ဉာဏ်လည်းမြော်လျက်၊အဖော်ဝတ–ဒုလ္လဘကို၊အရတော်လေ၊ကြိုရပေ–ဟု
မိုး မြေတုန်နန်နဲ့၊ကျွန်းလုံးလန့်မျှ၊တအံ့တသြ၊သူငါပြော၍၊ထောမနာ ရေးသွင်းလျက်၊
သြဘာပေးခြင်းကြီး ပေးလောက်ပါပေသည်တကား။

## တိပိဋကဓရ ရွေးချယ်ရေး အဖွဲ့မှ ထုတ်ပြန်သည့် အောင်စာရင်း

၆–ကြိမ်မြောက် တိပိဋကဓရရွေးချယ်ပွဲကြီးကို၁၃၁၅–ခုနှစ်၊နတ်တော်လဆန်း (၁၃)ရက် (၂၀–၁၂–၅၃) နေ့တွင် နိုင်ငံတော်သမ္မတကြီး ကိုယ်တိုင်ကြွရောက် ဖွင့်လှစ်ကျင်းပခဲ့ရာ၊ ၁၃၁၅–ခုနှစ် ပြာသိုလ်လဆန်း (၁၁) ရက်နေ့ (၁၄–၁–၅၄)နေ့တွင် အာဂုံပြန်ဆိုပွဲ သဘောရေးဖြေပွဲ ၂–ရပ်လုံး ပြီးစီးသွားပြီဖြစ်ကြောင်း။

ထိုတိပိဋကဓရ ရွေးချယ်ပွဲကြီးတွင် ဝင်ရောက်ပြန်ဆိုရေးဖြေတော်မူကြသော သာသနာ့အာဇာနည် ၆–ပါးရှိသည့်အနက် အောင်မြင်တော်မူကြသော ဆရာတော်များမှာ အောက်ပါအတိုင်း ဖြစ်ကြောင်း၊

### ဒီဃနိကာယဘာဏကအောင်

စစ်ကိုင်းမြို့ မင်းကွန်းမဟ္ဂနာဒတိုက်၊ ဆရာတော်အရှင် ဝိစိတ္တသာရာဘိဝံသသည်၊ ၆ ကြိမ်မြောက် ကျင်းပအပ်သော တိပိဋကဓရရွေးချယ်ပွဲကြီး၏ အာဂုံပြန်ဆိုပွဲတွင် စာမျက်နှာ (၉၁၄)ရှိ ဒီဃနိကာယ်သုံးကျမ်းကို အထောက်အမလွတ် ကင်း၍ သန့်ရှင်းစွာ ပြန်ဆိုတော်မူနိုင်သည့်အပြင်၊သဘောရေးဖြေပွဲတွင်လည်း၊ သီလက္ခန္ဓဝဂ်၌ အောင်မှတ် ၉၃–မှတ် မဟာဝဂ်၌ ၉၇ မှတ်၊ ပါထိကဝဂ်၌ အောင်မှတ် ၉၇–မှတ် ရရှိအောင်မြင် တော်မူသည့်အတွက်၊ ဂုဏ်ထူးနှစ်ဆင့်ပါသော ဗုဒ္ဓသာသနဒီပိဋက ဒီဃဘာဏက မဟာ ဒီဃနိကာယကောဝိဒ ဘွဲ့ပုံ လက်မှတ်တံဆိပ်တော်ကို ရရှိတော်မူမည်။

### တိပိဋကဓရအောင်

စစ်ကိုင်းမြို့ မင်းကွန်း၊ မဟ္ဂနာဒတိုက် ဆရာတော် အရှင် ဝိစိတ္တသာရာဘိဝံသသည် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ကိုယ်စား၊ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့က ကျင်းပပြုလုပ်ခဲ့သော တိပိဋကဓရ ရွေးချယ်ပွဲကြီးတွင် ၁၃၁၂–ခုနှစ်က၊ဝိနယ ပိဋက အာဂုံသဘောရေးဖြေနှစ်ရပ်လုံး၌ ဂုဏ်ထူးနှစ်ဆင့်နှင့်အောင်မြင်တော်မူခဲ့၍ငင်း။ ၁၃၁၃–ခုနှစ်က အဘိဓမ္မာပိဋကပထမပိုင်း အာဂုံသဘောရေးဖြေနှစ်ရပ်လုံး၌ဂုဏ်ထူးနှစ်ဆင့်နှင့် အောင်မြင်တော်မူခဲ့၍ငင်း။ ၁၃၁၄–ခုနှစ်က၊အဘိဓမ္မာပိဋက ဒုတိယပိုင်းအာဂုံသဘော ရေးဖြေနှစ်ရပ်လုံး၌ ဂုဏ်ထူးနှစ်ဆင့်နှင့် အောင်မြင်တော်မူခဲ့၍



တိပိဋကဓရ ရွေးချယ်ပွဲတွင်အုပ်ချုပ်ကြီး၊ကြပ်တော်မူသော နာယကဆရာတော်ကြီးများ

ငင်း။ ၁၃၁၅–ခုနှစ်တွင်လည်း၊ သုတ္တန်ပိဋကသင်ရိုး ဒီဃနိကာယ် ၃–ကျမ်းကို အာဂုံသဘောရေး နှစ်ရပ်လုံး၌ ဂုဏ်ထူးနှစ်ဆင့်နှင့် အောင်မြင်တော်မူ၍ငင်း။ တိပိဋကဓရ ရွေးချယ်ပွဲ စည်းမျဉ်းဥပဒေ အပိုဒ် (၃၀) အရ သင်ရိုးပိဋကသုံးပုံလုံးတွင်ဂုဏ်ထူးနှစ်ဆင့်စီနှင့်အောင်မြင်တော်မူခဲ့သည့်အတွက် (ဗုဒ္ဓသာသနဝိသိဋ္ဌတိပိဋကဓရ မဟာ တိပိဋကကောဝိဒ) ဟူသော ဂုဏ်ထူးနှစ်ဆင့်ပါသည့် ဘွဲ့လက်မှတ်တံဆိပ်တော်ကို ရရှိတော်မူမည်၊

### အင်္ဂုတ္တရဘာဏကအောင်

မန္တလေးမြို့၊ မစိုးရိမ်၊ သာစည်းတိုက်၊ ရဟန်းဘုံမြင့်ကျောင်း၊ အရှင်သောဘိတသည်။ ၆–ကြိမ်မြောက်ကျင်းပအပ်သောတိပိဋကဓရရွေးချယ်ပွဲကြီး၏ အာဂုံပြန်ဆိုပွဲတွင် စာမျက်နှာ (၁၄၀၀)ရှိ အင်္ဂုတ္တရနိကာယ် ၁၁–ကျမ်းကို ပြန်ဆိုတော်မူနိုင်သည့်အပြင် သဘောရေးဖြေပွဲတွင်လည်း အင်္ဂုတ္တရနိကာယ်ပဌမအုပ် ၉၄–မှတ်၊ ဒုတိယအုပ် ၈၁–မှတ်၊ တတိယအုပ် ၇၅ မှတ် ရရှိအောင်မြင်တော်မူသည့်အတွက်၊ ဗုဒ္ဓသာသနအင်္ဂုတ္တရဘာဏက အင်္ဂုတ္တရနိကာယကောဝိဒ ဘွဲ့ပုံ လက်မှတ် တံဆိပ်တော်ကို ရရှိတော်မူမည်။



ပိဋကတော်ကို အာဂုံပြန်ဆိုတော်မူနေသော အာဇာနည်အရှင်မြတ်ထံပါး၊တွင် ဥက္ကဋ္ဌကြီးဆာဦးသွင်နှင့် လူမျိုးစု လွှတ်တော်နာယကကြီး၊စာနာလျက်ရှိစဉ်။

(ပုံ) ဦးကောဏ္ဍည
နာယကဆရာတော်
တိပိဋကဓရရွေးချယ်ရေးအဖွဲ့။
(ပုံ) ဦးသွင်
ဥက္ကဋ္ဌ
(ပုံ) မင်္ဂလာအောင်မြင့်
အကျိုးဆောင်
တိပိဋကဓရရွေးချယ်ရေးအဖွဲ့။

## အရှင်ဝိစိတ္တသာရ

### အတ္ထုပ္ပတ္တိအကျဉ်းချုပ်

မိဘနှင့်မူလဘွားရာဇာတိမှာမြင်းခြံမြို့ ကျည်းပင်ရွာ သူကြီးဦးဆံ၊သူကြီးကတော်ဒေါ်ဆင်တို့မှ ၁၂၇၃–ခုနှစ် တန်ဆောင်မုန်းလဆန်း(၁၂)ရက် ဗုဒ္ဓဟူးနေ့၊ နေ့ စက်နာရီ (၃)နာရီကျော် အချိန်တွင် မွေးဖွားတော်မူသည်၊

### မူလဆရာ

၅–နှစ်သားအရွယ်တွင် ကျည်းပင် ကျောင်းဆရာတော်အရှင်သာသနမထောင် မြတ်ထံ၌ ပညာသင်ကြားရန် မိဘတို့က အပ်နှံကြသည်။

### ရှင်သာမဏေပြုခြင်း

ရင်း၊ရွာအတိုး၊တော်သူ ဆရာကြီး ဦးချယ်။အဘွားဘော်သူ ဒေါ်အိုတို့က ဖွား ဦးစွာ (၆)နှစ်သားအရွယ်တွင် ရှင်ပြုစေ လာသဘင် ဆင်ယင်ပေးသည် အသက် (၇)နှစ်ရွယ်တွင် မြင်းခြံမြို့မင်းကျောင်းတိုက် စာချဆရာတော် ဦးသောဘိတထံ ဆည်းကပ်၍ နေ့ဝါ-ညဝါတို့ကို သင်ယူသည် (၁၀)နှစ်အရွယ်တွင်အမိဒေါ်ဆင်ကဆရာတော်ဦးသောဘိတကို ဥပဇ္ဈာယ် ပြု၍ ဒုတိယအကြိမ် ရှင်ပြုပေးသည်၊

### ဝိစိတ္တသာရ

သာမဏေငယ်၏ ဉာဏ်အမြင်ဆန်းကြယ်မှုကိုဖူးမြင်ရ၍ဘွဲ့အမည်ဝိစိတ္တသာရ ဟု ဘွဲ့ပေးတော်မူသည်၊

### ဝိနည်းစာပြန်ပွဲ

အသက်(၁၃)နှစ်တွင် မြင်းခြံမြို့နယ်လုံးဆိုင်ရာ သံဃာသာမဂ္ဂီအသင်းမှ ကျင်းပအပ်သော ဝိနည်းစာပြန်ပွဲဘွင်ဝင်ရောက်ပြန်ဆိုရာ ပဌမဆု၍ အောင်မြင်သည်။ အသက်(၁၄)နှစ်တွင်လည်း ၎င်းဝိနည်းစာပြန်ပွဲတွင် အောင်မြင်တော်မူပြန်သည်၊

### အစိုးရပဌမပြန်စာမေးပွဲ

(၁၅)နှစ်သားအရွယ်တွင် အစိုးရပဌမငယ်ကို အောင်မြင်ပြီးနောက်(၁၆) နှစ်သားအရွယ်တွင် ပဌမလတ်တန်းကို အောင်မြင်တော်မူသည်၊

### ရဟန်းအဖြစ်သို့ရောက်ခြင်း

၁၂၉၁–ခုနှစ်တွင်မင်းကွန်းမဟ္ဂနာဒ

ဆရာတော်ထံသို့ ပြောင်းရွှေ့၍ ပညာသင်ယူစဉ်၊ ၁၂၉၂–ခုနှစ် နှောင်းတန်ခူးလဆန်း(၆)ရက်နေ့တွင် ဓမ္မနာဒဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ငွေတောင်တောရ အဇ္ဈာသိမ်၌ ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

### ရဟန်းဒါယကာ ဒါယိကာမများ

မင်းကွန်းချောင်ဆရာကြီး ဒေါ်ဓမ္မစာရီအမှူးထား၍ သူဌေးကြီး ဆရာ–ဦးသုင် သူဌေးကတော် ဒေါ်သိမ်းတို့က ရဟန်းဒါယကာ ဒါယိကာမ အဖြစ်ခံယူတော်မူသည်။

### ပဌမကြီး

၁၂၉၃–ခုနှစ်၊နယုန်လတွင်ကျင်းပအပ်သော အစိုးရပဌမပြန်စာမေးပွဲ၌ပဌမကြီးတန်းကို ဝင်ရောက်ဖြေဆိုရာ အောင်မြင်၍ ရဟန်း၀ါ(၁)ဝါအရ၊၁၂၉၄–ခုနှစ်တွင် အိမ်ဘော်ရာအမျိုးသား စာပြန်ပွဲ၌ ပဌမကြီးတန်း အောင်မြင်တော်မူသည်။

### ပရိယတ္တိသာသနဟိတ

၁၂၉၅–ခုနှစ်တွင် မန္တလေးမြို့ ပရိယတ္တိသာသနဟိတ အသင်း၊စာချောက်မေးပွဲ၌ စာသင်တန်းအောင်မြင်၍ အစိုးရပဌမကြီးတန်း၌(*)ခရေပွင့် အမှတ်ပြ ပဌမကြီးအောင်မြင်ပြန်သည်။

### အစိုးရ ပဌမကျော်နှင့် ပရိယတ္တိသာသနဟိတ ဓမ္မာစရိယ

၁၂၉၆–ခုနှစ်တွင် ဝါတော်(၃)ဝါအရ၊မန္တလေးမြို့ ပရိယတ္တိသာသနဟိတ အသင်း စာချောက်မေးပွဲ၌ တနှစ်ထည်းဖြင့် စာချတန်း အဋ္ဌကထာကြီး (၃)ကျမ်း၌ ၎င်း၊အစိုးရ ပါဠိပဌမပြန် စာမေးပွဲတွင် ပဌမကျော်တန်း၌အောင်မြင်တော်မူသည်

### ဝဋံသကာ

ပရိယတ္တိသာသနဟိတအသင်း၊မှ အဋ္ဌကထာကြီး(၃)ကျမ်း တနှစ်ထည်းနှင့် အောင်မြင်သူ ရှေးကမရှိခဲ့ဘူး၍(ဝဋံသကာ)ဟူသောဘွဲ့ထူးကို အထူးတလည် မြှုလုပ်ဆက်ကပ်လှူဒါန်းသည်၊ထိုမှစ၍အရှင်ဝိစိတ္တသာရာဘိဝံသသည် စာချခြင်းကိစ္စ သံဃကံကြီးကံငယ်တို့ကို ဆောင်ရွက်ခြင်း ကိစ္စစသော သာသနာရေးကိစ္စတို့ဖြင့်သာ ကာလကို ကုန်စေတော်မူခဲ့သည်။

### အစိုးရစာချတန်း

၁၃၀၂–ခုနှစ်တွင်အစဆုံးကျင်းပသော အစိုးရစာချတန်းကို ဝင်ရောက်ဖြေဆိုရာ နှစ်ခြင်းဖွဲ့ (ဂုဏ်ထူးဖြင့်) အောင်မြင်၍ (သာသနဓဇ သိရီပဝရဓမ္မာစရိယ) ဘွဲ့တော်ကို ရရှိတော်မူခဲ့သည်။

### တိုက်အုပ်ဆရာတော်

ဓမ္မနာဒဆရာတော်ဒေဝနတ်ထံစံလွန်တော်မူပြီးနောက်၊၁၂၉၃–ခုနှစ် နတ်တော်လပြည့်ကျော်(၁)ရက်နေ့တွင် ဓမ္မနာဒ သာသနာပြုသံဃ အစည်းအဝေး၌ဓမ္မနာဒသာသနာကို အရှင်ဝိစိတ္တသာရအား ပြုစုရန် ဓမ္မနာဒကျောင်းတိုက်ကြီးကို လွှဲအပ်ခြင်းကို ခံယူရရှိတော်မူသည်။



တိပိဋကဓရ ရေးဖြေပွဲတွင် ဖြေဆိုတော်မူကြသော အရှင်များ နာယကဆရာတော်များနှင့် ပရိသတ်အချို့ကို တွေ့ရပုံ။

### ဝိသိဋ္ဌဝိနယဓရ မဟာဝိယနကောဝိဒဘွဲ့တံဆိပ်

၁၃၁၂–ခုနှစ်တွင် ကျင်းပ ပြီးစီးခဲ့သော ၁)ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲကြီး၌ ထူးထူးခြားခြား အံ့ဩထိုက်စွာ(ဝိနယပိဋက) ဝိနည်း၅ါးကျမ်း စာမျက်နှာ(၂၀၀၀)ခန့်ကို အာဂုံပြန်ဆိုပွဲတွင် အထောက်အမကင်းလွှတ်စွာနှင့် အောင်မြင်ခဲ့၍၎င်း၊ သဘောရေးဖြေပွဲတွင်လည်း ကျမ်းဆိုင်းမှာပင် အောင်မှတ် (၈၅) မှတ်အထက်ကျော်ကာ ရရှိအောင်မြင်တော်မူခဲ့၍၎င်း၊ ဝိသိဋ္ဌဝိနယဓရ မဟာဝိနယကောဝိဒ ဟူသော ဘွဲ့ပုံ လက်မှတ်တံဆိပ်တော် နိုင်ငံတော်သမတကြီးက ဆက်ကပ်အပ်သော ထီးဖြူတော်(၁)လက်တံဆိပ်ပါရှိသော သာသနအောင်လံတော် ရေကြောင်း,ကုန်းကြောင်း,သွားလာရေးအတွက် မီးသဘော်နှင့် မီးရထား (ပဌမတန်း)ပတ်(စ်)လက်မှတ်တို့ကိုရရှိတော်မူခဲ့လေသည်။

၁၃၁၃–ခုနှစ်တွင် ကျင်းပအပ်သော (၄)ကြိမ်မြောက် တိပိဋကိုဓရရွေးချယ်ပွဲ၌လည်း (က)အဘိဓမ္မာပိဋကပဌမပိုင်း။ (၅)ကျမ်း အာဂုံပြန်ဆိုပွဲတွင် စာမျက်နှာ(၁၁၀၀)ချတ်နှာကို အထောက်အမကင်းလွှတ်စွာပြန်ဆိုနိုင်ခဲ့၍ ဂုဏ်ထူးနှင့်တကွ အောင်မြင်ခဲ့သည့်အပြင် (ခ)သဘောရေးဖြေပွဲတွင်လည်း ရာခိုင်နှုန်းအောင်မှတ် (၉၄) မှတ် ရရှိတော်မူသောကြောင့် ဂုဏ်ထူးနှင့်တကွအောင်မြင်တော်မူသည်။

### ဝိသိဋ္ဌအာဘိဓမ္မိက မဟာအဘိဓမ္မကောဝိဒ

၁၃၁၄–ခုနှစ်တွင် ကျင်းပသော (၅) ကြိမ်မြောက် တိပိဋကဓရ ရွေးချယ်ပွဲ၌လည်း အဘိဓမ္မာပိဋက ဒုတိယပိုင်း၊(၂)ကျမ်းစာမျက်နှာ(၂၅၀၀)ခန့် အာဂုံပြန်ဆိုပွဲတွင်အထောက်အမကင်းလွှတ်စွာဖြင့် ပြန်ဆိုအောင်မြင်တော်မူသည့်အပြင် သဘောရေးဖြေပွဲတွင်လည်း ရာခိုင်နှုန်း(၈၉)မှတ်ရရှိ အောင်မြင်တော်မူသည့်အတွက် နိုင်ငံတော်သမတကြီးက ဆက်ကပ်လှူဒါန်းအပ်သော (ဝိသိဋ္ဌအာဘိဓမ္မိက မဟာအဘိဓမ္မကောဝိဒ)ဟူသော ဂုဏ်ထူးနှစ်ဆင့်ပါသည့် အောင်လက်မှတ်နှင့် တံဆိပ်တော်တို့ကို၎င်း။ ကနက္ကဒန်ထီးဖြူတော် နှစ်လက် တံဆိပ်ပါရှိသော သာသနအောင်လံတော်ကို၎င်း၊ရရှိတော်မူသည်။

### ဒီဃနိကာယဘာဏက

၁၃၁၅–ခုနှစ်(၆)ကြိမ်မြောက်ကျင်းပအပ်သော တိပိဋကဓရရွေးချယ်ပွဲကြီး၏ အာဂုံပြန်ဆိုပွဲတွင် စာမျက်နှာ(၆၆၄)ရှိ ဒီဃနိကာယ်သုံးကျမ်းကို အထောက်အမလွတ်ကင်း၍ သန့်ရှင်းစွာ ပြန်ဆိုတော်မူနိုင်သည့်အပြင်၊ သဘော ရေးဖြေပွဲတွင်လည်း၊သီလက္ခန္ဓဝဂ်၌အောင်မှတ်(၉၃)မှတ်၊မဟာဝဂ်၌(၉၇)မှတ်၊ပါထိယဝဂ်၌အောင်မှတ်(၉၇)မှတ် ရရှိအောင်မြင်တော်မူသည့်အတွက် ဂုဏ်ထူးနှစ်ဆင့်ပါသော (ဗုဒ္ဓသာသနဝိသိဋ္ဌဒီဃဘာဏက မဟာဒီဃနိကာယကောဝိဒ) ဘွဲ့ပုံ လက်မှတ်တံဆိပ်တော်ကိုရရှိတော်မူမည်။

### တိပိဋကဓရ

စစ်ကိုင်းမြို့ မင်းကွန်းဓမ္မနာဒတိုက် ဆရာတော်အရှင် ဝိစိတ္တသာရာဘိဝံသသည်၊ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ကိုယ်စား ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့က ကျင်းပပြုလုပ်ခဲ့သော တိပိဋကရွေးချယ်ပွဲကြီးတွင်၊ ၁၃၁၂–ခုနှစ်က ဝိနယပိဋက အာဂုံ သဘောရေးဖြေနှစ်လုံး၌ ဂုဏ်ထူးနှစ်ဆင့်နှင့် အောင်မြင်တော်မူခဲ့၍၎င်း၊ ၁၃၁၃–ခုနှစ်က အဘိဓမ္မာပိဋက ပဌမပိုင်း၊အာဂုံသဘောရေးဖြေ နှစ်ရပ်လုံး၌ဂုဏ်ထူးနှစ်ဆင့်နှင့်အောင်မြင်တော်မူခဲ့၍၎င်း။ ၁၃၁၄–ခုနှစ်က အဘိဓမ္မာပိဋက ဒုတိယပိုင်း အာဂုံ သဘောရေးဖြေနှစ်ရပ်လုံး၌ ဂုဏ်ထူးနှစ်ဆင့်နှင့် အောင်မြင်တော်မူခဲ့၍ ၎င်း။ ၁၃၁၅–ခုနှစ်တွင်လည်း သုတ္တန္တပိဋက သင်ရိုးဒီဃနိကာယ်သုံးကျမ်းကို အာဂုံ သဘောရေးဖြေနှစ်ရပ်လုံး၌ ဂုဏ်ထူးနှစ်ဆင့်နှင့်အောင်မြင်တော်မူ၍၎င်း။ တိပိဋကဓရရွေးချယ်ပွဲစည်းမျဉ်းဥပဒေ ပိုဒ်(၄၀)အရသင်ရိုးပိဋကသုံးပုံလုံးတွင် ဂုဏ်ထူးနှစ်ဆင့်စီနှင့်အောင်မြင်တော် မူခဲ့သည့်အတွက်(ဗုဒ္ဓသာသန ဝိသိဋ္ဌတိပိဋက ဓရ မဟာတိပိဋကကောဝိဒ)ဟူသော ဂုဏ်ထူးနှစ်ဆင့်ပါသည့် ဘွဲ့ပုံလက်မှတ်တံဆိပ်တော်ကိုရရှိတော်မူလေသည်။

### အင်္ဂုတ္တရဘာဏကအောင် အရှင်သောဘိတ

### အဌာ၊ပဌ္ဌိအကျဉ်းချုပ် မိဘနှင့်မူလမွေးဘွားရာ ဇာတိမှာ

ပခုက္ကူဒိစတြိတ်၊မြိုင်မြို့အပိုင် သံဘိုရွာမြေပိုင်ရှင် ဦးဘိုးခင် ဒေါ်မယ်သာတို့မှ ၁၂၇၆–ခုနှစ် ကဆုန်လပြည့်ကျော်(၇)ရက် သောကြာနေ့တွင် ဘွားမြင်သည်။

### မူလဆရာ

ခုနစ် နှစ်သားအရွယ်တွင် သံဘိုရွာမြောက်ကျောင်း ဦးပဏ္ဍဝံသထံ၌ ပညာသင်ကြားရန် မိဘတို့က အပ်နှံသည်။

(စာမျက်နှာ ၁၄ သို့ဆက်ကြည့်ပါ)



အရှင်ဝိစိတ္တသာရာဘိဝံသသည် လက်နှိပ်စက်ဖြင့် စာဖြေတော်မူနေသည်ကိုဖူးတွေ့ရပုံ

# ၁၃၁၅ ခုအဋ္ဌမဟာပဏ္ဍိတဘွဲ့ရ ဆရာတော်ကြောက်ပါး

## သီဟိုဠ်ကျွန်းမှ မြန်မာပြည်ရောက် ပါဠိဝိသောဓက ဆရာတော် အရှင်ဗုဒ္ဓဒတ္တပါတော်မူသည်။

## ဦးသောဘန

သပြေပင်ကျောင်းတိုက် ရွှေဂုရစ်–ဟင်္သာတမြို့

သက်တော် ၆၀ – သိက္ခာ ၄၁–ရှိ၍ ကိုယ်တိုင်ပြုခဲ့သည့် ကျမ်းများမှာ (၁) ဓမ္မပဒဇနစာတမ်း၊ (၂) သင်္ခနာဘိနန္ဒနကထာ (၃) သင်္ချာအနန္တဇနနီ၊ (၄) ကထိန် အမေး အဖြေ၊ (၅) ဝိဋ္ဌကာဂုဏ၊ (၆) သာသန ဝံ သ သခေ်ပ ကထာ၊ (၇) သာသနဝံ့သဒီပနီ၊ (၈) ဘဒ္ဒန္တရာဇညထေရုပ္ပတ္တိပါသာဏ သေဒါ၊ (၉) မဟာအတုတသာကျရံသီ စေတီယပါသာဏသေဒါ၊ (၁၀) ဆဲယာဒ်ိ အာဒိက္ခဏကထာ၊ (၁၁) ငြိမ်းပါဠိတ္တ ယောဇနာ၊ (၁၂) မင်္ဂလာသုတ် အနက် အဓိပ္ပါယ်၊ (၁၃) သန္ဓိ ဥဇလဝဏ္ဏနာ၊ (၁၄) အနုသန္ဓိ စကား ပြေ၊ (၁၅) အနုသန္ဓိ စကား ပြေ တမျိုး၊ (၁၆) အနုသန္ဓိ ငွင်မိ၊ (၁၇) အနုမကာ ရနဲ့စကားပြေ၊ (၁၈) အနုမကာရနဲ့ဝိဒိ (၁၉) မြန်မာပက္ခဒိန် အဓိအရင်း၊ (၂၀) သဒ္ဒါရာဇိင်ပြုပြင်ရေး၊ (၂၁)မဟာနာယကသဘင်စာတမ်း (၂၂) ဂဏာသမော ဓါနမဟာသံဃသမိတိ၊ (၂၃) ထေရမဒိ ယစာတမ်း၊ (၂၄) ကာဝေယျမဥ္ဇူသာ၊ (၂၅)ဗဟုဿုတမဉ္ဇူသာ၊ (၂၆)မ ကိသာရာမဂ္ဂ၊ (၂၇)အာ စ ရိယ ထောမနာ (၂၈) သော တ န ဂီ တိ၊ [၂၉] မင်္ဂလ ဂီ ဘိ၊ (၃၀) ဥဿဘာဇန ကဗျာ၊ (၃၁) သမုဒ္ဒဃ တ်ဘကဗျာ၊ (၃၂) အာစရိယပူဇနကဗျာ၊ (၃၃)မဟာနာယက ပူဇနကဗျာ၊ (၃၄) မင်္ဂလဏ္ဏဝိဘင်္ဂနီ ကဗျာ၊ (၃၅) ဝေဒ ယောဂီနီကဗျာ၊ (၃၆) အေးယဉ်တော် ကျူးချင်းကဗျာ၊ [၃၇] ကုန်းဘောင် ဆက် နန်း တွင်း ရေး အ မှာ ပုံ တို့ ဖြစ်လေသည်။

### ဆောင်ရွက်တော်မူချက်များ

မြန်မာနိုင်ငံတော် အနေ၏ ပဏ္ဍိတနိ တော်ဆက်အဖွဲ့၌၊ ဒုတိယဥက္ကဋ္ဌတာဝန် ကိုခံယူ၍ အဖိုးရ၏ ပဏ္ဍိတနိကိစ္စအဝဝ ကိုဆောင်ရွက်တော်မူသည်။

အစိုးရပါဠိ ဘာသာရေးအဖွဲ့၏ နာယက တာဝန်ကို ခံယူ၍၊ အဖိုးရ ငွေမပြန်ကိစ္စကို ၂–နှစ်ကျော်ဆောင်ရွက်တော်မူခဲ့သည်။

ဆဋ္ဌသင်္ဂါယနာတင်ဝန် ဆောင်သံဃ အဖွဲ့ဘာဝန်ကိုခံယူ၍ဆဋ္ဌသင်္ဂါယနာကိစ္စ များကို ဆောင်ရွက်တော်မူသည်။ ဆဋ္ဌ သင်္ဂါယနာတင် ပါဠိသော ဓကအဖွဲ့၌ပါ ဝင်၍၊ပါဠိဝိသောဓနကိစ္စကို ဆောင်ရွက် တော်မူသည်။

အခြား သာသနာရေး ကိစ္စအဝဝတို့ကို ဖွင်ရှိ အေးရှိသလောက် ဆောင်ရွက်တော် မူသည်။

## ဦးကောသလ္လ

မဝိုးရိမ်ကျောင်းတိုက်–ရန်ကုန်မြို့

သက်တော် ၆၁–သိက္ခာ ၄၁ ရှိ၍ ပြုစုသော ကျမ်းစာများမှာ – (၁) ဝစနတ္ထ ဇောတိ ဋီကာ နိဿ-ပ-(၂) ၎င်း-ဒု၊ (၃) သဒ္ဒတ္ထဘေဒစိန္တာအကောက် –ပ- (၄) ၎င်း-ဒု၊(၅) မာတိကာနယပဒေသ၊ (၆) အာချာတ ပဒမာလာ နယပဒေသ၊ (၇) ညဝါနယပဒေသ၊ (၈) နာမသုတ္တ-သိဂ်ါဖိနယပဒေသ၊ (၉) နာမပဒမာလာ နယပဒေသ ပ-(၁၀) ၎င်း-ဒု-(၁၁)၎င်း တတိယ- [၁၂] ၎င်းစတုတ္ထ (၁၃)၎င်း ပဉ္စမ၊

### ဆောင်ရွက်တော်မူချက်များ

ဆဋ္ဌသင်္ဂါယနာတင် ပွဲတော်ကြီးအ တွက် ပဌာန်းပါဠိတော် ပဌမ၊ဒုတိယ၊တ တိယ၊စာအုပ်များကိုမူလပါဠိဝိသောဓက အဖြစ်ဖြင့်၎င်း၊ ဝိနည်းပါရာဇိကဏ်ပါဠိ တော်နှင့်ပါစိတ်ပါဠိတော်များကိုပဋိဝိသော ဓက အဖြစ်ဖြင့်၎င်း စစ်ဆေး သုတ်သင် တော်မူ၍ မူလဗ္ဗော သာပါဠိတော်ကို၊အဋ္ဌ ကထာ ဋီကာများနှင့် တိုက်ဆိုင် ပြင်ဆင် တော်မူသည်။

အစိုးရပထမပြန်စာမေးပွဲ၊ ပထမကြီး တန်းနှင့် မန္တလေးမြို့ ဝရိယတ္တိသာသနာ ဟိတအမွာစရိယ ဇုက်ထူးများကို အောင် မြင်ရရှိဘူးသည့်အလျောက်၊ ယခုအခါ၊ ပါဠိတက္ကသိုလ် ကျောင်းအုပ် အဖြစ်ဖြင့် ၎င်း၊ ပါဠိ တက္ကသိုလ်ဗဟိုအ ဖွဲ့ဝင်နှင့် အမှု ဆောင်အဖွဲ့ဝင် အဖြစ်ဖြင့်၎င်း၊ သာသနာ တော်ကြီးကို အား ပေးလျက် ရှိတော်မူ လေသည်။

## ဦးပညာဘိဝံသ

သဉ္ဇမွေဇေတိကာရုံ ကျောင်း ဘုရား ကြီးတိုက်၊ပေါင်းတည်မြို့၊ သက်တော် ၇၅၊ သိက္ခာတော် ၆၅–ရှိ၍ ပြုစုသောကျမ်းများ မှာ [၁] ဓမ္မဝိဘာဂဝိဒီပကကျမ်း၊ (၂)– သာသနနဲ့ဘဒ္ဒရကျမ်းများဖြစ်လေသည်။

### ဆောင်ရွက်တော်မူချက်များ

တောင်တန်းသာသနာပြု ဗိုက်၊ပေါင်း စုံ မဟာသံဃအစည်းဝေးကြီး၌ သဘာ ပတိအဖြစ်ဆောင်ရွက်ခဲ့ခြင်း၊ ပေါင်းတည် မြို့နယ်အတွင်းရှိ သုဓမ္မာဗိုက်၊ဝင် သံဃာ တော်တို့၏ဦးစီးနာယက ဂိုဏ်းချုပ်အဖြစ် ဆောင်ရွက်ခြင်း၊စသည်တို့အပြင် သာသ နာတော်တွင်၊သာသနာဇောနည် ပုဂ္ဂိုလ် ထူး ပုဂ္ဂိုလ်မြတ်များ ပေါ်ထွက်ရန်၊ ကြိုး စားလာခဲ့သည့်အလျောက် ယခုအခါ၊မြို့ နယ်အသီးသီးတို့၌ အရေးပါအရာရောက် သော တပည့်များ ရှိလေသည်။

## ဆရာတော် ဦးသုရိယ

ဝမ္မးမဒနီကျောင်းတိုက်၊ ထုံ.မြို၊သက် တော် ၇၁–သိက္ခာ ၅၁–တော်ရှိ၍၊ ပြုစု

# စေတိယင်္ဂဏပရိယတ္တိအသင်း

## ၁၃၁၅ ခု၊စာမေးပွဲအောင်ပုဂ္ဂိုလ်များ

(၃၆)ကြိမ်မြောက် စာပြန်ပွဲကြီး၊ ကျင်းပနေပုံ

### သီးခြားစာချတန်း၊

၁၃၁၅–ခုနှစ်၊ နတ်တော်လဆုတ် ၁၁– ရက်မှဆုတ် ၁၅–ရက်အထိ (၅) ရက်တိုင် ၃၆–ကြိမ်မြောက် စာ လျှောက် မေး ခက်း ကျင်းပရာတွင်– ကြွင် ဖြေဆိုတော်မူကြ သည့် သဃ်ာတော်များအနက် သီးခြား စာချတန်း၌ ပြီးမြောက်အောင်မြင်တော်မူ ကြသည့် အရှင်မြတ်များမှာ–

ဘီလူးကျွန်း– ချောင်း ဆုံ–ကိုက်ဒိ၊ တောရမှ– ဦးပညိန္ဒာဘိဝံသ၊ ကြည့် မြင် တိုင်–မဟာရ. ဇိကာရုံကျောင်းတိုက်မှ အ ရှင် ဥာဏေ ဒယာဘိဝံသ၊ဝဲချမ်းမြို့ မြိမ စာ တိုက် ပါဠိသိပ္ပကျောင်းမှ–အရှင် ဥေယျ ဓမ္မာဘိဝံ သ၊ မန္တလေးမြို့ အရှေ့ အင်္ဂန်း တိုက်မှဦးအဋ္ဌဓမ္မာဘိဝံသ၊ ညောင်းတုံ မြို့ ရွှေဟင်း သ ဘောရ ပါဠိတက္ကသိုလ်မှ ဦး ဥုန္ဒ်ာသဘိဝံသ၊ မော်လမြိုင်မြို့ ၄်င်းခန် ကွင်း စံပျံကျောင်းမှ အရှင်ဂုဏိသရာဘိ

သောကျမ်းများမှာ – အဘိဓမ္မတ္ထသင်္ဂဟ ဝိနိစ္ဆယကျမ်းကြီးဖြစ်လေ၏၊

### ဆောင်ရွက်တော်မူချက်များ

သထုံမြို့ ဓမ္မးမဒနီစာသင်တိုက်ကြီးကို ၁၂၇၉–ခုနှစ်မှစ၍ တည်ထောင်ခဲ့ပြီး၊ သင် ယခုထိ၎င်းစာသင်တိုက်၌ စာသင်သား တပည့်ဦး.ရေ၊နှစ်စဉ် ၂၀၀–ခန့်ကိုလက္ခ ထားရှိ၍ ပရိယတ္တိဓမ္မကို ကြိုးပမ်း အား ထုတ်တော်မူလျက်ရှိသည်၊

၎င်းပြင်၊ ဆရာတော်ကြီး၏ ကြိုးပမ်း ချက်အရ၊ အောက်ပါအတိုင်း မြို့နယ်အ ရပ်ရပ်တို့တွင် စာ သင် တိုက ကြီး ပေါင်း (၈) တိုက်ပေါ်ပေါက်လျက် ရှိသ ည်၊

(၁) သထုံမြို့၊ သယ်ဝန်ကျော် ငံတိုက်၊ သံဃ ၅၀–ပ၊ (၂) ကျော့ဘနိတ်မြို့မဟာ ဝေဠိမဂုမ ကျောင်း၊ သံဃာ ၈–ခန့်၊

(စာမျက်နှာ ၁၂ သို့ဆက်ကြည့်ပါ)

ဝံသ၊ မော်လမြိုင်မြို့ မှော်လင့်ကျောင်း တိုက်မှဦးတေဇနိယာဘိဝံသ၊မန္တလေးမြို့– မဟာနန္ဒီသနာရာမတိုက်မှ ဦးကောဝိဒါ ဘိဝံသ၊

### သီးခြားစာသင်တန်း၊

ရန်ကုန်မြို့–သိမ်ကုန်း စမ္ပိကာရုံ ပါဠိ တက္ကသိုလ်မှ–ဦးဝိဗိတ္တာ ဓါရ၊ ရန်ကုန်မြို့– အလယ်တောရပါဠိ တက္ကသိုလ်မှ – အရှင် တေဇနိယ၊ မန္တလေးမြို့ ဇကုတိုက်မှ–အ ရှင်–ဝိနယာစာရ၊ မန္တလေးမြို့–မဟာဝိ သုဒ္ဓါရုံတိုက်မှ–ဥုးကောဏ္ဍည၊ ရန်ကုန် မြို့–မင်္ဂ လာရာမတိုက်မှ–အရှင်သောဘဏ၊ ရန်ကုန်မြို့ ဗါးကရာတော ့တိုက်မှ–အရှင် ဦးဝါယမိန္ဒ၊ ရန်ကုန်မြို့ အလယ်တောရ ပါဠိ တ က္က သိုလ် မှ – အရှင်ပညာမိဘ၊ ညောင်တုံးမြို့ ရွှေဟင်္သာတောရ ပါဠိတက္က သိုလ်မှ အရှင်ဥာဏိန္ဒာသဘ၊ မန္တလေးမြို့ ဘုရားကြီး တိုက် – ဆရာတော် ဦး ကုဏ် ကျောင်းမှ အရှင်နန္ဒဝံသ၊ ရန် ကုန် မြို့ ဗဟန်း ညောင်တုံးကျောင်း၊မှ–အရှင် တေ ဇနိယ၊ ရန်ကုန်မြို့ ဗ ဟန်း ညောင် တုံး ကျောင်းမှဦးသုန္ဒရ၊မန္တလေးမြို့–ဘုရား ကြီးတိုက် ဆရာတော် ဦးကုသ်ကျောင်းမှ အရှင် ဂုဏ၊

### ဒါယကာ

(၁)ရန်ကုန်မြို့ ဗဟန်း ရေတာရှည် လမ်းဟောင်းနေ ဥပသကာ ဦး ခင် မြင်၊ (၂)ရန်ကုန်မြို့ အလုံ ရေစာဘီလမ်းနေ ယာဝဇီဝ က ဥပါသိကာ ဒေါ် ကျင် လှိုင်၊ (၃)ရန်ကုန်မြို့၊အလုံးဆုဝတီလမ်းနေ ယာဝဇီဝ ဥ သိကာ ခကျင်ဟန်(၄)– ရန်ကုန်မြို့ အလုံ ဓာတုဓိလမ် နေ ယာ ဝဇီဝက ဥပါသိကာ ဒေါ်ကျင်းမွှေး၊

ဦး စင်းရှိန်

ပရိယတ္တိစာပေးလျှောက်.မေးပွဲအဖွဲ့ အကျိုးတော်ဆောင်ကြီး

—၀—

# ဗုဒ္ဓဘာသာများအတွက် အ

## ဗုဒ္ဓဂယာမြေနှင့်အဆောက်အဦများ ထိမ်းသိမ်းရေးဆိုင်ရာ ၉–ဦး ကော်မတီသို့
## မင်းတုန်းမင်းတြားကြီး၏ တိုက်ဇရပ်ကြီးနှင့် သီပေါမင်း၏ဇ



နိုင်ငံတော် တရားလွှတ်တော်ချုပ် တရားဝန်ကြီးချုပ် ပုံ

၁၉၅၃–ခု၊ ဒီဇင်ဘာလ–၁၉– ရက်နံနက် ၅–နာရီခန့်အချိန်တွင်၊ ကျွန်တော်၏ဇနီးဒေါ်စောတင်၊ တရားလွှတ်တော်ချုပ်အတွင်းဝန် ဦးဘသောင်းနှင့် ကျွန်တော်သည် ဂယာမြို့သို့ ကားကြွသွားမြို့မှ ဆိုက်ရောက်ကြရာ၊ မိးရထားဘူတာရုံတွင် အိန္ဒိယပြည်ရှိ မြန်မာသံအမတ်ကြီး မဟာသရေစည်သူ ဦးကြင်၊ဂယာမြို့ခရိုင် ရာဇဝတ်တရားသူကြီး၊ဂယာမြို့ ဘက်ကော်လိုက်တော်အရာရှိ၊ ရဲအရာရှိကြီးများနှင့် လွှတ်တော်ရှေ့နေကြီးများ လာရောက်ကြိုဆိုကြပါသည်။

၁၉၄၉–ခုနှစ်၊ဗိဟာအက်ဥပဒေ ပုဒ်မ (၃)အရ၊ ဂယာမြို့ခရိုင် ရာဇဝတ်တရား သူကြီးသည်၊ ထို အက်ဥပဒေအရ ဖွဲ့စည်းသော မဟာဗောဓိဆိုင်ရာ ကော်မတီ၏ ဥက္ကဋ္ဌ ဖြစ်ရန်ရှိသော်လည်း ယခုလက်ရှိ ခရိုင် ရာဇဝတ် တရားသူကြီးသည် ဟိန္ဒူဘာသာဝင် မဟုတ်သည့်အတွက် အဆိုပါပုဒ်မငယ်တွင်ပါရှိသော ခြွင်းချက်အရ ဗိဟာပြည်အစိုးရက ရာဘက်ကော်လိုက်တော်အရာရှိကို ဥက္ကဋ္ဌတင်မြှောက်၍ထားပါသည်။

မြန်မာသံအမတ်ကြီး မဟာသရေစည်သူ ဦးကြင်က ကျေးဇူးပြု၍ စီစဉ်ထားနှင့်သောကြောင့် ကျွန်တော်သည် မဟာဗောဓိစေတီအနီး၊ ကျွန်တော် တည်းခိုရာဗိုလ်တဲ၌ ထိုနေ့နံက် ၉–နာရီအချိန်အဆိုပါ ခရိုင်ရာဇဝတ် တရားသူကြီး၊ မဟာဗောဓိပင်ဆိုင်ရာ ကော်မတီ၏ ဥက္ကဋ္ဌ ရာဘက်ကော်လိုက်တော်အရာရှိ ထိုကော်မတီအဖွဲ့ဝင် အရှင်ဘိက္ခုဂ. သပ အစရှိသော ပုဂ္ဂိုလ်ကြီးများနှင့်တွေ့ဆုံ၍ မဟာဗောဓိစေတီတော်နှင့် စပ်ဆိုင်သော ကိစ္စများကို ဆွေးနွေးတိုင်ပင်ကြရပါသည်၊

## ၂ မဟာဗောဓိဆိုင်ရာကော်မတီအားလွှဲအပ်ရာတွင် ချန်၍ထားခဲ့သောအဆောက်အဦများ

သို့ တိုင်ပင်ကြသောအခါ၊ အဆိုပါအက်ဥပဒေပုဒ်မ ၃ (၁) အရ၊ ကော်မတီသို့ လွှဲအပ်ခဲ့သည့်အထဲတွင် မဟာဗောဓိ စေတီတော် ပရဝုဏ်အတွင်းရှိ အောက်ပါတို့ မပါဝင်ဘဲ မဟန့် အတွက်ချန်၍ ထားကြောင်းသိရပါသည်။

(၁) ၊မဟန့်၏ ဆမာဓိခေါ် အရိုး ၃-၃–။

(၂) ပဉ္စပန္ဒဝခေါ် ရုပ်ပွါးတော်များ တည်ရှိရာအုတ်တိုက်ခန်း၁–ခု

(၃) ၊အန္နပူရဏာ (လက်ချမိ) နတ်သမီး၏တိုက်ခမ်း။

(၄) ။ဗောဓိပင်၏ အနောက်ဘက် အစွန်အောက်ရှိ ဟုန်းနတ်ပူဇော်ရာဖြစ်သော ၂ တောင် ပတ်လည်ခန့်ရှိတွင်းငယ်။

ဆမာဓိ-၃–ခုနှင့်ပဉ္စပန္ဒဝ တိုက်ခန်း၊ အန္နပူရဏာတိုက်ခန်းတို့သည်၊ စေတီတော်အရှေ့ဘက်မုခ်ဝမှပရဝုဏ်အရှေ့ဘက်တံခါးသို့သွားရာလမ်း၏ မြောက်နှင့် တောင်ဘက်ဘေးတွင်အသီးသီးရှိကြသည်၊ မဟန့်၏ ဆမာဓိခေါ် အရိုးဂူသည်၊ ဘုရားပရဝုဏ်အတွင်း နေခံ့မှတည်ဆောက်သောဂူဖြစ်သော်လည်း၊၎င်းကိုချန်၍ထားခဲ့သည့်အတွက် များစွာ မကျေနပ်ဘွယ် မဟုတ်ကောမှု ပဉ္စပန္ဒဝခေါ် ရုပ်ပွားတော်များ တည်ရှိရာ တိုက်ခန်းနှင့် အန္နပူရဏာတိုက်ခန်းကို ချန်၍ထားခဲ့ခြင်းမှာ များစွာမကျေနပ်ဘွယ်ဖြစ်ပါသည်၊ စင်စစ်အားဖြင့်ပဉ္စပန္ဒဝခေါ်၍ထားသောရုပ်ပွားတော်များမှာပုဒ္ဓဘာသာဘုရား၏ရုပ်ပွားတော်များသာဖြစ်ကြပါသည်၊ အန္နပူရဏာတိုက်ခန်းရှိရုပ်ပွားတော်များမှာလည်း ဗုဒ္ဓဘာသာရုပ်ပွားတော်များ ဖြစ်ကြပါသည်။ မဟန့်ဆိုသည့်အတိုင်း၊ဟိန္ဒူရုပ်ပွားများမဟုတ်ကြပါ။

စေတီတော် ပုရဝုဏ် အပြင်ဘက်တွင် မြေလွှမ်းကလေးတခုမှသာခြားလျက်တည်ရှိသော တိုက်ဇရပ်မှာ သီဆပါဘုရင်လှူခဲ့သောဇရပ်ဖြစ်ပါလျက်၊ ၎င်းကိုမဟန့်အတွက် ချန်လှပ်၍ ထားကြောင်း သိရပါသည်၊၎င်းကို ချန်လှပ်၍ထားသည့်အတွက် အလွန်နှမြောစရာ ဝမ်းနည်းစရာ ဖြစ်၍နေပါသည်၊အရင်ကျွန်တော်ရောက်စဉ်က ထိုတိုက်ဇရပ်ကို ကုသိုလ်ဖြစ် ဆေးပေးရုံ အဖြစ်နှင့် အသုံးပြု၍နေခြင်းကိုတွေ့မြင်ခဲ့ရပါသည်။ ယခုမှာမူ၊ မဟန့်ကထိုတိုက်ဇရပ်ကို ရုံးတရုံးအား တိုက်လခနှင့်ငှားထား၍ ထိုတိုက်ဇရပ်မှာ ရုံးဖြစ်၍နေသည်ကိုတွေ့မြင်ရသည့်အတွက် ပိုပြီးနှမြောစရာ ဝမ်းနည်းစရာဖြစ်၍နေပါသည်၊

သည်မျှသာမကသေး၊ စေတီတော်ပရဝုဏ်အပြင်ဘက်ခပ်လှမ်းလှမ်းတွင်တည်ရှိ၍မဟန့်ကမိမိ၏အိမ်ဝင်းခြံအတွင်းသို့ကာ၍ယူထားသော မင်းတုန်းမင်းကြီး၏တိုက်ဇရပ်ကြီးမှာလည်း၊မူလအတိုင်း မရှိတော့ဘဲ ၎င်း၏နေရာတွင် မဟန့်၏ ဧည့်သည်တော်များတည်းခိုရန် အ ဆောက် အဦ ကြီး၊တခုဖြစ်၍နေကြောင်း၊ ထိုအဆောက်အဦနှင့် ၎င်း၏အိမ်အနီးအနားရှိ မင်းတုံးမင်းအလှူတော်ကျောက်စာများ ထားရှိရာ အုတ်ပြဿဒ်များကိုလည်း၊ မဟန့်အတွက် ချန်လှပ်၍ထားကြောင်း ဝမ်းနည်းဘွယ်ရာ ကြုံတွေ့မြင်ခဲ့ရပါသေးသည်။

အထက်တွင်ဖော်ပြခဲ့သည့်အတိုင်းမဟန့်အတွက် ချန်လှပ်၍ထားသောအဆောက်အဦများအနက် မဟန့်၏ ဆမာဓိခေါ် အရိုးဂူများမှတပါး၊အခြား အဆောက်အဦများကို မဟာဗောဓိဆိုင်ရာကော်မတီ၏ လက်သို့ရောက်အောင် ဗုဒ္ဓဘာသာဝင်များသည်ဆက်လက်၍ကြိုးစားအားထုတ်ကြဦးမှသင့်ပါလိမ့်မည်

## ၃-အတိုင်ပင်ခံအဖွဲ့ ဖွဲ့စည်းရေးနှင့်မြန်မာနိုင်ငံတော်

အက်ဥပဒေအပုဒ်မ ၁၅-မှာ ဗိဟာပြည်နယ်အစိုးရသည်၊ ကော်မတီအတွက် အတိုင်ပင်ခံအဖွဲ့တခုကို ဖွဲ့စည်းရမည်၊ထိုအဖွဲ့တွင် ဗုဒ္ဓဘာသာဝင်များက ပိုမိုများပြားစေရမည်၊ ဗုဒ္ဓဘာသာဝင်များသည်၊ အိန္ဒိယတိုင်းသားများဖြစ်ရန်မလိုဟု ပါရှိသည်၊သို့ရာတွင်၊ ထိုအစိုးရသည်၊ အတိုင်ပင်ခံအဖွဲ့ကိုယခုတိုင် မဖွဲ့စည်းရသေးချေ၊ မဟာ ဗောဓိဆိုင်ရာ ကော်မတီကလည်း အတိုင်ပင်ခံအဖွဲ့ ဖွဲ့စည်းရန်ကိစ္စမှာ အစိုးရ၏ ကိစ္စသာဖြစ်သည်ဟု ယူဆပြီးလျှင် စောင့်ဆိုင်း၍သာနေခဲ့သည်။

သို့အတွက် ကျွန်တော်က ကော်မတီအား အောက်ပါအတိုင်း အကြံဉာဏ်များပေးခဲ့ပါသည်။

(၁) အတိုင်ပင်ခံအဖွဲ့ ဖွဲ့စည်းဘို့ရာမှာနောက်ဆုံး၌ ဗိဟာပြည်နယ်အစိုးရကဖွဲ့စည်းရမည်မှန်သော်လည်း၊ ကော်မတီက စတင်ဆောင်ရွက်မှသာလျှင်ထိုကိစ္စသည် အမြန်ပြီးမြောက်လိမ့်မည်ဖြစ်ကြောင်း၊



ဗုဒ္ဓဂါယာစေတီတော်

(၂) ကော်မတီက စတင်ဆော
ရွက်ပြီး ပြည်နယ်အစိုးရအ
အကူ အညီများ ပေးရာတွ
အတိုင်ပင်ခံအဖွဲ့မှာ မြန်မ
ပြည်၊ သီဟိုဠ်ပြည်၊ ယိုးဒယ
ပြည်အစရှိသော ဗုဒ္ဓဘာသ
ဝင်နိုင်ငံများမှ ကိုယ်စားလှ
များ ပါဝင်အောင် သတိပြ
အကြံဉာဏ်ပေးသင့်ကြောင်
သို့မှသာလျှင်၊ ကော်မတီသ
အတိုင်ပင်ခံ အဖွဲ့ဝင် များမှ
ဆင့်ဗုဒ္ဓဘာသာဝင်နိုင်ငံအ
လုံးတို့၏ အကူအညီကို ရ
မည်ဖြစ်ကြောင်း၊သို့အကူ
ညီရမှလည်း မဟာဗောဓိ
တီတော်အတွက် ကော်မီ
ကဆောင်ရွက်ရမည့် ကိစ္စ
များ၊ မဟာဗောဓိ၏မြင့်မြ
ပုံမှုဇော်ခံထိုက် ပုံနှင့် လို
လျော် ဆီလျော်အောင် ဖြ
ကျယ်ခန်းနား စွာ အောင်
ထမြောက် နိုင် မည် ဖြ
ကြောင်း၊ သို့မဟုတ်က၊
မိတီ၏ လုပ်ငန်းဆောင်
များသည် တွင် တွင် ကျ
ကျယ် အောင်မြင် ထမြော
နိုင်မည်မဟုတ်ကြောင်း၊

ကော်မီတီ ဥက္ကဋ္ဌနှင့် ကော်မီ တီ
ပုဂ္ဂိုလ် များသည်၊ ကျွန်တော်၏ အ

# းကြီးလှသော ဗုဒ္ဓဂယာကို

## နှံ့တဦးထည်းပိုင်အဖြစ်မှ လွှဲအပ်ခဲ့ရာ၌ ကြွင်းကျန်ရစ်သော အဆောက်အဦတို့တွင် သည်တို့လည်း ပါဝင်နေသည်ကို ဝမ်းနည်းဘွယ်တွေ့ကြုံခဲ့ခြင်း။



### ၃်ကို ရိုက်ကူးထားသည့်ပုံ

ဥာဏ်ပေးချက်များကို သဘောတူညီကြပါသည်၊ ၎င်းတို့ကို ကော်မီတီ၏ စုံညီအစည်း အဝေးတွင် ဘင်ပြပြီး၊ အရေးယူဆောင်ရွက်မည်ဟုဝန်ခံလိုက်ကြပါသည်။

အတိုင်ပင်ခံအဖွဲ့ဘင်မြန်မာပြည်ထောင်စု နိုင်ငံဘော်မှ ကိုယ်စားလှယ် ပါဝင်ရဘို့ကိစ္စသည်၊ ယခုသောလေးဆယ် အရေးတကြီး ဆောင်ရွက်ရမည့်ကိစ္စ ဖြစ်ပါသည်၊ သို့ပါ၍ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီးက အမြန်စည်းဝေးဆုံးဖြတ်ပြီးလျှင်မဟာဗေါဓိဆိုင်ရာကော်မီတီထံသို့၎င်း၊ ဗိဟာပြည်နယ် အစိုးရထံသို့၎င်း မေတ္တာရပ်ခံစာများ ပေးပို့သင့်ပါသည်။

### ၄-ကျွန်တော်ပေးခဲ့သော အကြံဥာဏ်များ

ဆွေးနွေးပွဲတွင် ကော်မီတီ ဥက္ကဋ္ဌနှင့် ကော်မီတီဝင်များက၊ ယခုလောလော ဆယ် ဆောင်ရွက်ရန်လိုသည်ဟု တင်ပြသောကိစ္စမှာ၊ မုဒ္ဓလိန္ဒာကန်မြေ အပါအဝင် စေတီတော်ပရဝုဏ်ကို ထက်ဝန်းကျင်မှ အုတ်တံတိုင်း အကာ အရံပြုလုပ်ရန် ဖြစ်ပါသည်။

ဤကိစ္စနှင့်စပ်လျဉ်း၍ မြေပုံကိုကြည့်ရှုပြီးလျှင်၊ ကျွန်တော်က အောက်ပါအတိုင်း အကြံပေးခဲ့ပါသည်။

(၁) မုဒ္ဓလိန္ဒာကန်မြောက်ဘက်သို့ စေတော်အတွက် သက်သက် ပရဝုဏ်မှ ထွက်ရာလမ်း၏ ဝဲ နှင့်ယာမှာ တပါးသူများပိုင်မြေ များ ဝင် ၍ နေ သော ကြောင့်၊ ထိုလမ်းမှာ ကျဉ်းမြောင်းပြီး အုတ်နံရံကာရာတွင် ယခု မြေ ရှိသည့်အတိုင်း ကာ ရ လျှင်၊ သူ တ ပါး တို့ ၏ မြေ များ ကို ချန်လှပ်၍ဝင်တိုးထွက်ကာရမည်ဖြစ်သောကြောင့်၊ ပိုမိုကုန်ကျမည့်ငွေသည် ထိုမြေများကို အစိုးရအါးသိမ်းစေပြီးလျော်ကြေးပေးရသော ငွေထက်ပင် ပိုမို များပြား တန်ရာသောကြောင့်၊ စေတီတော်အတွက် သက်သက် ပရဝုဏ် နှင့်မုဒ္ဓလိန္ဒာကန်မြေကို ကာရံသော အုတ်တံတိုင်းမှာ အ ဝင် အ ထွက် မရှိ၊ တ ဖြောင့် တည်း လေးဒေါင့်ဖြစ်စေရန်၊ ဝင်၍နေသော သူတပါးပိုင် မြေများကိုသိမ်း၍ ကော်မီတီအား လွှဲအပ်ဘို့ မေတ္တာ ရပ်ခံရန်၊ လျော်ကြေးကိုမူကား ကော်မီကပင်ပေးရန်၊စေတီတော် မြေနှင့် မုဒ္ဓလိန္ဒာ ကန်မြေဆိုင်ရာမြေပုံကို ဤ အစီရင်ခံစာတွင် ပူးတွဲ၍ထားပါသည်၊ သိမ်းယူပေးစေရန် တောင်းဆိုရမည့်မြေများမှာ မြေကွက်အမှတ် ၉၄၉၊ ၉၅၀၊၁၀၇၂၊ ၁၁၈၃ နှင့် ၁၀၈၄ မှ တစိတ်တဒေသ ဖြစ်ပါသည်။

(၂) အစိုးရက အဆိုပါမြေများကို သိမ်း၍ လွှဲအပ်ပြီးသောအခါ လုပ်ရမည့် အုတ်တံတိုင်း အတွက်မှာ မည်ကဲ့သို့ ပြုလုပ်၍၊ တခန်းလျှင် မည်မျှကုန်ကျမည် ဖြစ်ကြောင်း တွက်ချက်၍ ခန့်မှန်းခြေကို ကျွန်တော့ထံပို့ ပါရန်၊ ဤကဲ့သို့အကြံပေးခဲ့သည်မှာ တခန်းစီ အတွက်ဆိုလျှင် ငွေမများလှ၍ လှူလိုသော ဒါယကာများ ပေါ်ပေါက်ဘို့ ပိုမိုလွယ်ကူလိမ့်မည်ဟု ကျွန်တော်သဘောရသောကြောင့် ဖြစ်ပါသည်၊

ထိုနောက် ဗုဒ္ဓဘာသာဝင် အများတို့ အကျိုးငှာ ကျွန်တော် အောက်ပါအကြံများကို ထပ်လောင်း၍ ပေးခဲ့ပါသည်၊

(၁) မဟာ ဗောဓိ စေတီတော်အတွင်းရှိ ဘုရား ရုပ်ပွားတော်များ၏ပလ္လင်တော်နှင့် နောက်ခံနံရံကို မွမ်းမံပြုပြင်ရန်၊

(၂) ထိုရုပ်ပွားတော်များ၏ ဂန္ဓကုဋီ ဘိုက်မှာ အခြားနံရံများနှင့် မျက်နှာကျက်ကိုရွှေပိန်းချရန်။

[၃] ထိုဂန္ဓကုဋီ တိုက် အခင်းမှာ ကျောက်ပြားခင်းရန်၊

(၄) စေတီတော်အပြင်ဘက်နံရံများ တွင် ရုပ်ပွားတော်များ၊ ရုပ်လုံးများ၊ ပန်းနွယ် ပန်းခက်များ၊အချို့ နေရာမှာမရှိတော့ တချို့နေရာမှာကျိုးပဲ့ ပျက်စီး၍နေရာ၊ ၎င်းတို့ကို မူလပုံအတိုင်းဖြစ်အောင် ပြင်ဆင်မွမ်းမံရန်။

(၅) သို့ပြင်ဆင် မွမ်းမံရန် အတွက် ပုံများနှင့် ခန့်မှန်းခြေ များ ထုတ်ရန်၊

(၆) ၎င်းတို့ကို ပြင်ဆင် မွမ်းမံ၍ပြီး သောအခါစေတီတော်၏ထိပ် များရှိပန်းအိုးပုံသဏ္ဌာန်စိန်ဖူး တော်ကြီးကို ရွှေချရန်။

(၇) စိန်ဖူးတော်မှတပါး ကျန် စေ တီတော်တဆူလုံးကို ဆေးအဝါရောင်သုတ်ရန်၊ သို့ ဆေး သုတ်ရာတွင် ရုပ်ပွားတော်များ ရုပ်လုံးများနှင့် ပန်းနွယ် ပန်းခက်များ ထင်ရှား ပေါ်လွင် စေရန် အောက်ခံကို ဆေး ရောင်တမျိုး၊ ၎င်းတို့ကိုဆေး ရောင်တမျိုးခွဲခြား၍သုတ်ရန်၊

ကော်မီတီဥက္ကဋ္ဌနှင့် ကော်မတီဝင်များသည်၊ ကျွန်တော်၏အကြံပေးချက်များကို လက်ခံကြပြီးလျှင် ၎င်းတို့ကို စဉ်းစားရန် ကော်မီတီအစည်းအဝေးတခုကို ယခု ဇန်နဝါရီလအတွင်း၌ ကျင်းပပါမည်ဟူ၍ ၎င်း၊ ကော်မီတီအစည်းအဝေးက သူတို့ယုံကြည် မျှော်လင့်သည့်အတိုင်း ကျွန်တော်၏ အကြံဥာဏ်ပေးချက်များကို လက်ခံလျှင်၊ လိုအပ်သောပုံများနှင့် ခန့်မှန်းခြေများကိုပြုလုပ်ပြီး ကျွန်တော်ထံ ပို့ကြပါမည်ဟူ၍၎င်း ဝန်ခံကြပါသည်၊

ကျွန်တော်သည်၊ အထက်တွင်ဖေါ်ပြခဲ့သည့်အတိုင်း အကြံဥာဏ်များ ပေးခဲ့သည်မှာ-မဟာဗေါဓိဆိုင်ရာကိစ္စများတွင် ဗုဒ္ဓဘာသာဝင်များ ဩဇာ ရှိလာပြီဖြစ်ကြောင်း ထင်ရှားသောအခါ၊ အထက်တွင်ဖေါ်ပြခဲ့သောကိစ္စများအတွက် လှူဒါန်း ပူဇော်လိုကြသော စေဘနာ သဒ္ဓါ တရားရှင်များ၊ လွယ်လွယ်နှင့် ထွက်ပေါ်လာလိမ့်မည်ဟု ယုံကြည်စိတ်ချရသောကြောင့်ဖြစ်ပါသည်၊ယခုပင် မြန်မာပြည်မှ

**နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၊ ဒုတိယဥက္ကဋ္ဌ - တရားဝန်ကြီးချုပ်ဦးသိမ်းမောင် နယူးဒေလီမြို့- အပြည်ပြည်ဆိုင်ရာ တရားဥပဒေ ညီလာခံသို့ တက်ရောက်ရင်း ဘုရားဖူးလှည့်လည်ရာမှ တွေ့ကြုံခဲ့ရပုံများကို နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့သို့ အစီရင်ခံချက်။**

စေတနာရှင်တဦးသည်၊ မဟာဗောဓိ စေတီတော်နှင့် ပရဝုဏ်တွင် ဓါတ်မီး ပူဇော်ရန်အတွက် အလှူငွေတသိန်းခွဲအထိ လှူမည်ဟု ဆိုသဖြင့်၊အလျှင်ကလို ကိစ္စအတွက် ငွေလေးသောင်းလှူရန် ဂတိထားပြီးဖြစ်သော သီဟိုဠ်ကျွန်းသူ ဒါယိကာမ တဦးနှင့် အပြိုင်အဆိုင် ဖြစ်၍နေကြောင်း ကျွန်တော်ကြားသိရပါသည်၊ သည်မျှသာမကသေး၊ စေတီတော် ပရဝုဏ်အတွင်းရှိ ရတနာဃရ ရွှေအိမ်တော်ကိုလည်း၊ ငွေနှစ်သောင်းမှ နှစ်သောင်းငါးထောင်အထိ အကုန်ခံ၍ ပြင်ဆင်မွမ်းမံလိုသော မြန်မာဒါယကာတဦး ပေါ်ပေါက်၍ နေပြီဖြစ်ကြောင်း ကျွန်တော်ကြားသိရပါသည်၊

### ၅-နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီးကို နေရာထားကြရန်

ဤနေရာ၌ စကားအလျဉ်းသင့်သောကြောင့် ထည့်သွင်းဖေါ်ပြလိုသည်မှာ ယခုအခါ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့သည် မဟာဗောဓိ အတွက် အတိုင်ပင်ခံ အဖွဲ့ကို မြန်မာကိုယ်စားလှယ်ပါဝင်ရရေးအတွက် မဟာဗောဓိဆိုင်ရာကော်မတီနှင့် ဗိဟာပြည်နယ် အစိုးရထံ မေတ္တာရပ်ခံတောင်းဆိုရဦးမည်ဖြစ်ခြင်းတို့သည် မြန်မာပြည်ကရင်း၊ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးကရင်း၊ ပိုမိုလေးစားနေရာထားကြစေရန် မဟာဗောဓိစေတီတော်သို့မြောက်မြောက်မြားမြား လှူဒါန်းပူဇော်လိုကြသောမြန်မာနိုင်ငံတော်သား၊ မြန်မာနိုင်ငံဘော်သူများသည်၊နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီးကို နေရာထားကြပြီးလျှင်၊ ထိုအဖွဲ့မှတဆင့် သာလျှင်လှူဒါန်းကြဘို့သင့်ပေသည်။နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ကြီးကလည်း ထိုသူတို့၏ သဒ္ဓါတရားကို စောင့်ရှောက်သောအားဖြင့်၎င်းသူတို့၏အလှူများ အထမြောက်အောင် ကူညီ ဆောင်ရွက် သင့်ပေသည်။

## ၆-မဟာဗောဓိ ကော်မီတီ နည်းဥပဒေများ ပြုလုပ်ရေး

ဒ ကဲဥပဒေ-၁၇–အရ၊ ကော်မီတီသည် ပြည်နယ်အစိုးရ၏ အခွင့်အမိန့်ကို ကြိုတင်ခံယူပြီးလျှင် နည်းဥပဒေများ၊ ပြုလုပ်နိုင်သောကြောင့် အရှင်ဘိက္ခုကဿပက ကော်မီတီအစည်းအဝေးတွင် တင်ပြရန် နည်းဥပဒေအကြမ်းများကို ရေးသား စီစဉ်၍ထားပါသည်၊ ၎င်းတို့၏ မိတ္တူတစောင်ကိုလည်း အရှင် ဘိက္ခုကဿပက ကျွန်တော့အား ပေးလိုက်၍ ကျွန်တော်သည် ၎င်းတို့ကိုလေ့လာ၍နေပါသည်။

## ၇-မဟာဗောဓိကော်မီတီတွင် အပြောင်းအလွဲများ ပြုလုပ်ရေး

မဟာဗောဓိဆိုင်ရာ ကော်မီတီမှာ အစည်းအဝေးတကြိမ်သာလုပ်ခဲ့ပြီး နောက်ထပ်မစည်းမဝေးသေးဘဲ ကြာကြာခဲ့ခြင်းနှင့်စပ်လျဉ်း၍ ကျွန်တော်ကမေးမြန်းစုံစမ်းရာ ခရိုင်ရာဇဝတ်တရားသူကြီးနှင့် ကော်မီတီအဖွဲ့ ဥက္ကဋ္ဌတို့ကဆယ်ကျော်ရှိ ကော်မီတီဝင်တဦးလည်းဖြစ် အတွင်းရေးမှူး တဦးလည်းဖြစ်သော ပုဂ္ဂိုလ်ကြီးသည် မူလက ဂယာမြို့တွင် အမြဲနေထိုင်ခဲ့သူ ဖြစ်သော်လည်း ယခု အိန္ဒိယပြည် အထက် လွှတ်တော်အမတ်ဖြစ်ပြီး နယူးဒေလီမြို့သို့ ပြောင်းရွှေ့၍နေ လိုက်သော ကြောင့် တကြောင်း၊ ကော်မီတီ အဖွဲ့ဝင် လူကြီးများသည် ရှင်ဝေးနေများ၊ ဖြစ်ကြ သည့်အတွက် ဘကြောင်း ဖြစ်ပါသည်ဟု ရှင်းလင်းပြောပြကြပြီးလျှင် အတွင်းရေးမှူး၏နေရာ ကွင်းလျှင်၊ အခြားလူကြီးတဦးအားနေရာတွင်၎င်း၊လူသစ်များကိုခန့်ထားဘို့စီစဉ်ပါမည်ဟု ကျွန်တော်အားပြောကြားလိုက်ကြပါသည်။

## ၈-စေတီတော် လှိုဏ်ဂူမကြီးအတွင်း ရှိ ဟိန္ဒူဘုရား ပုံတော်များ

အစည်းအဝေး ပြီးသည့်နောက်မှ စေတီတော်လှိုဏ်ဂူမကြီး အတွင်းရှိမြတ်စွာဘုရား၏ ရုပ်ပွားတော် ငံနှင့်ယာဘက်တွင် ဟိန္ဒူ ဘုရား ရုပ်ထု အချို့ကို တွေ့မြင်သဖြင့် ၎င်းဘုံကိုးသင့်လျော်ရာ ဟိန္ဒူဘုရားများနှင့် သက်ဆိုင်သော အဆောက်အဦးများသို့ ရွှေ့ပြောင်း ထား စေ ရန် သင့် မည် ဖြစ်ကြောင်း၊ ကျွန်တော် ထပ်ခသောင်း၍ အကြံပေး ဥာဏ်ပေးခဲ့ပါသည်။

ဤစကားစပ်၌၊ မဟာ ဗောဓိ စေ တီတော်နှင့်စပ်လျဉ်း ၍ ဟိန္ဒူ ဘာ သာ များအောက်ပါအချက်အလက်ဘို့ကို သဘောပေါက်ကြဘို့ ရှေးကြီးပါသည်။ ယခု မဟာ ဗောဓိ စေတီတော်ကိုဗုဒ္ဓဘာသာဝင်များနှင့် ဟိန္ဒူ ဘာသာဝင်များ ပါဝင်သော ကော်မီတီ ကထိန်းသိမ်းစောင့်ရှောက်ကြသည်မှာ အခြားကြောင့်မဟုတ်၊ ဘုရားစေတီတော်ကို ဟိန္ဒူဘုန်းတော်ကြီး မဟန့်အစဉ်အဆက် ကသာ့နှစ်ပေါင်းများစွာ အုပ်ချုပ်၍လာသည့်အတွက်တကြောင်း၊ ဟိန္ဒူဘာသာဝင်များကလည်း၊ ဂေါတမမြတ်စွာဘုရားသည် သူတို့၏ဝိဿနိုးဘုရား၏ဝင်စား၍ဖြစ်ကြောင်း၊ ယုံကြည်ကိုးကွယ်ကြသည့်အတွက် တကြောင်း ကြောင့်သာ ဖြစ်သည်။ သို့အတွက် မဟာဗောဓိစေတီတော်မှာ ဟိန္ဒူ ဘာသာ ဝင်များ သည် ဂေါတမမြတ်စွာဘုရားကိုသာလျှင် ဟိန္ဒူဘုရားတဆူအနေနှင့် ကိုးကွယ်နိုင်ကြသည်။ ထိုစေတီတော်သည် အခြား ဟိန္ဒူဘုရားများကို ကိုးကွယ်ရာနေရာမဟုတ်ချေ။

အထက်တွင်ဖေါ်ပြခဲ့သော အချက်အလက်များကို မဟာဗောဓိဆိုင်ရာ ကော်မီတီအဖွဲ့ဝင်များနှင့်ဟိန္ဒူဘာသာဝင်များ သဘောပေါက်ကြမှသာလျှင် မဟာဗောဓိ စေတီတော်တွင် စီမံခန့်ခွဲရာ၌၎င်း၊ ကိုးကွယ်ပူဇော်ကြရာ၌၎င်း၊ ဗုဒ္ဓဘာသာဝင်များနှင့် ဟိန္ဒူဘာသာဝင်တို့ အဆင်ပြေပြေ ညီညီညွတ်ညွတ် ဖြစ်နိုင်ကြပေလိမ့်မည်။ ဟိန္ဒူဘာသာဝင်များသည် မဟာဗောဓိစေတီတော်၌ဂေါတမမြတ်စွာ ဘုရားကိုဟိန္ဒူဘုရားအနေဖြင့် ကိုးကွယ်ခွင့်ရခြင်းကို အကြောင်းပြုပြီးအခြားဟိန္ဒူဘုရားများကိုလည်း ထိုစေတီတော်အတွင်း ကိုးကွယ်ရန် ထားရှိစေလိုကြလျှင် အက်ဥပဒေ၏မူလ ရည်ရွယ်ချက်နှင့် ဆန့်ကျင်လိမ့်မည်။ ကော်မီတီ၏ စီမံခန့်ခွဲမှု ဟိန္ဒူဘာသာဝင်များနှင့် ဗုဒ္ဓဘာသာဝင်များ၏ ကိုးကွယ်ပူဇော်မှုများသည်သည်၊ အများမကျေမနပ် ဖြစ်လောက်အောင် အဆင်မပြေဘဲရှိလိမ့်မည်။

## ၉-မဟန္တ၏ဝင်းအတွင်းသို့ ရောက်နေသောမြတ်စွာဘုရား၏ရုပ်ပွားတော်များ

အစည်းအဝေးပြုလုပ်သော နေ့ ညနေတွင် ကျွန်တော်တို့သည်မဟန္တ၏ကျောင်းတိုက်သို့သွားကြရာ၊ မဟန္တနှင့် သူ၏လူများက နှုတ်ဆက်ကြိုဆို၍ ဧည့်ခံကြပါသည်။ ထိုနောက် သူ၏ လူ ဘယောက်က သူ့ဝင်းအတွင်းရှိ အဆောက်အဦများကို ကျွန်တော်တို့အားလိုက်လန်ပြသပါသည်၊ သို့ ပြသရာတွင် ဟိန္ဒူဘုရား "ရှိဘ"၏ လိင်ဂနုများတည်ရှိရာရရုဏ် အတွင်းသို့ ရောက်၍သွားသောအခါ၊ ထိုလိင်ဂများ အပြင်ဘက် သံမံတလင်းအခင်းပေါ်တွင် ပစ်၍ထားသော မြတ်စွာဘုရား၏ရုပ်ပွားတော် ၂–ဆူကိုတွေ့မြင်ရပါသည်၊ နှစ်ဆူစလုံးမှာ ဥာဏ်တော် ၂-တောင် တောင်ဆုပ်ခန့်ရှိ မြဗိမ်းရောင်ရုပ်ပွားတော် ဖြစ်ပါသည်။ ကျန်တဆူမှာ – အလွန် သပ္ပါယ်သော တင်ပလ္လင်ခွေ ရုပ်ပွားတော်ဖြစ်ပါသည်၊ ကျန်တဆူမှာ–မော်လမြိုင် ကျိုက်မရောမြို့ ခုံပေါ်တွင် ထိုင်နေသည့် ရုပ်ပွားတော်သဏ္ဌာန်ကဲ့သို့ဖြစ်ပါသည်။ အောက်ခြေမှာသာ အနည်ငယ် ပွန်းပဲ့၍နေပါသည်၊ ထိုရုပ်ပွားတော်များကို မဟန္တ ရှိရှိသေသေ မသားလေး စားစား၊ ကိုးကွယ်၍မထားကြောင်းမှာ၊ ထို ရုပ်ပွားတော်များကို ဂူများ အပြင်ဘက် သံမံတလင် အခင်းပေါ်တွင်ပစ်၍ထားခြင်းက ထင်ရှားပြသလျက်ရှိပါသည်၊ သို့ပါ၍ ထိုရုပ်ပွားတော်များကို မဟန္တထံမှအလှူခံ၍ဖြစ်စေ၊ အလှူခံ၍ မရနိုင်ပါက ဝယ်ယူ၍ဖြစ်စေ၊ မဟာဗောဓိ စေတီတော်တွင် ထားရန် ကျွန်တော်အကြံဥာဏ်ပေးခဲ့ပါသေးသည်။

## ၁၀–မဟာဗောဓိ အသင်းနှင့် ကျွန်တော်၏ အကြံဥာဏ်ပေး ချက်များ

အထက်တွင် ဖေါ်ပြခဲ့သော အစည်းအဝေးမှာဂယာမြို့မှသတင်းထောက်များ တက်ရောက်ခဲ့ကြ၍ ကျွန်တော်၏ အကြံဥာဏ်ပေးချက်အချို့သတင်းစာများတွင် ပါရှိသည်။

၄၉၅၃–ခုနှစ်၊ ဒီဇင်ဘာလ ၂၁–ရက်နေ့ ညနေ ၅–နာရီအချိန်၊ဂယာမြို့ရှိ ရှေ့နေများ အသင်းကြီးက ကျွန်တော့အား ဂုဏ်ပြုသော ဧည့်ခံပွဲတရပ်ကျင်းပ၍၊ကျွန်တော်ကထိုလဘက်ရည်ပွဲတွင် ကျွန်တော် ပေးခဲ့သော အကြံဥာဏ်များကို အကျဉ်းချုပ်အားဖြင့် ပြောပြခဲ့ပါသေးသည်၊ ထို နောက် ၁၉၅၄–ခုနှစ်၊ဇန်နဝါရီလ ၅–ရက်နေ့ ညနေ ၅–နာရီ ခွဲအချိန်၊ ကာလကတ္တားမြို့ မဟာဗောဓိအသင်းဘိုက်၌ထို အသင်းကကြိုမှူး၍ကျင်းပသောကျွန်တော်အားဂုဏ်ပြုဧည့်ခံသော အစည်းအဝေးမှာ ကျွန်တော်သည် ဤအစီရင်ခံစာတွင် ပါရှိသော အကြံဥာဏ်ပေးချက် အားလုံးကို ပြောကြားအစီရင်ခံခဲ့ပါသည်။ သို့အစီရင်ခံခဲ့သည်မှာ၊ မဟာဗောဓိအသင်းသည်၊ မဟာဗောဓိစေတီတော်ဆိုင်ရာ ကိစ္စများမှာ စိတ်ပါဝင်စားစွာ ဆောင်ရွက်ခဲ့သော အသင်းဖြစ်သည့်အပြင်၊ ထိုအသင်း၏အတွင်းရေးမှူးချုပ် – ရှရီဒေဝပိယ ဝါလိစင်ဟာ – သည် မဟာဗောဓိဆိုင်ရာ ကော်မီတီတွင်ပါဝင်သော ပုဂ္ဂိုလ်ကြီးတဦး ဖြစ်သောကြောင့်ဖြစ်ပါသည်။ ထိုပုဂ္ဂိုလ်ကြီးသည်၊ ကျွန်တော်၏အကြံဥာဏ်ပေးချက်များကို များစွာနှစ်သက်၍ ကော်မီတီအစည်းအဝေး တွင် ၎င်းတို့ အား လုံး ကို ထောက်ခံပါမည်ဟု ကျွန်တော်အားကတိထားလိုက်ပါသည်။

## ၁၁-မဟာဗောဓိရှိ မြန်မာ ဘုန်းကြီးကျောင်း

မဟာဗောဓိစေတီတော်အနီးတွင် ဘုရားဖူးများတည်းခိုရန် အစိုးရ မိုသ်တဲ၊ မဟာဗောဓိအသင်း၏ တိဘက်ဘုန်းကြီးကျောင်း၊ တိဘက်ဇရပ် တရုပ်ဘုန်းကြီးကျောင်း၊သူဌေးဘိရလာဆောက်လုပ်လှူဒါန်း သော အ ဆောက် အဦနှင့်၊ မြန်မာ ဘုန်းကြီးကျောင်းဘကျောင်း ဖြစ်ပါသည်။

မြန်မာ ဘုန်းကြီးကျောင်းမှာ မဟာဗောဓိစေတီတော်၏ရက်မှ ခပ်လှမ်းလှမ်းတွင်တည်ရှိပါသည်။ ထိုကျောင်းသည်မှိုင်းကျော် မြန်မာ ခေါင်းဆောင်ကြီးဘကြီးတဖော်၏မြေပေါ်တွင် အခြားအလှူရှင်များဆောက်လုပ် ထားသောကျောင်း၊ ဖြစ်ပါသည်၊ ထိုကျောင်းမှာ နှစ်ထပ်တိုက်ဖြစ်သော်လည်း အပေါ်ထပ်မှာ အပြီးမသတ်သေးပါ။ သို့ အပြီး မသတ်သေးဘဲရှိနေရခြင်းမှာ၊ အဝကျွန်းမှ အလှူရှင် တဦးက အလှူငွေ ငါးထောင် ကျောင်းထိုင်ဘုန်းတော်ကြီးထံ ပေးပို့ လှူဒါန်းလိုပါလျက် ပါကစ္စတန်အစိုးရက ထိုငွေများကို ပေးပို့ရန် အခွင့် မပြုခဲ့သည့် အတွက်ဖြစ်

## (စာမျက်နှာ ၉ မှအဆက်)

(၃) သထုံမြို့၊ အာဝါဗွာရာမကျောင်းတိုက်၊သံဃာ ၅၀–ခန့်၊(၄) သထုံခရိုင်ကတွန်ရွာ၊ ရတနာမာန်အောင် ကျောင်းတိုက်၊သံဃာ ၅၀–ခန့်၊(၅)ထားဝယ်မြို့ဝေဠသိတာရာမကျောင်းတိုက်၊သံဃာ ၁၅၀–ခန့်၊(၆) စစ်ကိုင်းခရဦးတိုက်သစ်၊ ပဋိတဏ္ဍသိလ်ဝင်ကျောင်းတိုက်၊ သံဃာ ၅၀–ခန့်၊ [၇] မော်လမြိုင်မြို့၊ ဒိုင်းဝန်ကွင်း၊ အရှေ့ ဂန္ဓဂေါ ကျောင်း တိုက်၊ ၅၀–ပါး၊ (၈) သထုံမြို့၊ သုခမ္မဝတီကျောင်းတိုက်၊

## ဆရာတော်ဦးသုဝဏ္ဏ

မောင်းတောင်ကျောင်း၊နိုဗြဲကုန်၊ ပုသိမ်မြို့၊ သက်တော် ၇၂-သိက္ခာတော် ၅၃-ရှိ၍ ပြုစုသောကျမ်းစာများမှာ

[၁] သုဒ္ဓမ္မဝ္ဂဒီပနီကျမ်း၊ (၂) ပဋ္ဌာဗာတပစ္စယဝိနိစ္ဆယ ဒီပကာသနီကျမ်း၊ [၃] ဗုဒ္ဓဂုဏဒီပနီကျမ်း၊ [၄] ပါဠိဝတ်ဒီပကာကျမ်းများ၊ဖြစ်လေသည်၊

## ဆောင်ရွက်တော်မူချက်များ

ပုသိမ်မြို့တွင်၊ပါဠိပထမပြန် စာမေးပွဲစာစြေဌာနဖြစ်မြောက်ရေးကို၊ ၁၉၁၁–နှစ်မှစ၍၊ ၊စတင် တည်ထောင်ခဲ့သည်၊ အောက်မြန်မာပြည် ရွှေကျင်ဂိုဏ်း လုံးဆိုင်ရာ၊ဝိနည်းဓိုရ် ဆရာတော်အဖြစ်ဖြင့်၎င်း၊ ပုသိမ်နယ ဂိုဏ်းပေါင်းစုံ မဟာသံဃာအဖွဲ့၏ ဥက္ကဋ္ဌ အဖြစ်ဖြင့်၎င်း၊ သာသနာတော်အရေးအားပေးလျက်ရှိသည်၊

ထိုကဲ့သို့ သာသနာတော်အရေးအားပေးသဖြင့် ထင်ရှားကျော်ကြားသော ဆရာတော်ကြီးတပါး ဖြစ်သည့် အလျောက် ၁၉၃၅–ခုနှစ်အတွင်း၊ မြန်မာပြည် ဘုရင်ခံမင်းမြတ်၏ ဂုဏ်ထူးဆောင် လက်မှတ်နှင့် ပိုးသ ယံ းကိုင် ပြန်မာပြည် မီးရထားအခမဲ့ စီးခွင့်ကိုရင်းရရှိခဲ့သည်၊

... ၀ ...

ကြောင်း ကျောင်းနှင့် ဘုန်းတော်ကြီးက မိန့်ကြားတော်မူလိုက် သည်၊ သို့နှင့် ကျွန်တော်ရန်ကုန်မြို့သို့ ပြန် ရောက် ပြီး သည့်နောက်၊ ဘဏ်းဘ သေနှင့် တွေ့ဆုံ၍မေးမြန်းစုံစမ်းရာ၊ဘကြီးဘဖေ ထိုကျောင်းကြီးကိုလူပုံအတိုင်း၊သာမဟုတ်ဘဲ ပိုမိုကျယ်ဝန်းအောင် ဘုံ၍ပြီးမ်းတွေ့နည်းကပင်လျှင် ဆက်လက်ဆောက်လုပ်သွားတော့မည်ဖြစ်ကြောင်း၊သို့ဆောက်လုပ်သွားရန် အင်ဂျင်နီယာကြီးဦးတင်နှင့် စီမံနိုင်းပြင်လျက်နေပြီ ဖြစ်ကြောင်း၊ကျွန်တော်အား ပြောကြားပါသည် သို့အတွက် ထိုတိုက်ကျောင်းကြီးသည် မကြာမြင့်မီမြန်မာပြည်က ဂုဏ်သူလောက်အောင်ကျယ်ကျယ်ပြန့်ပြန့် ထယ်ထယ်ဝါဝါနှင့် ပြီးမြောက်တော့မည်ဟုမျှော်လင့်ယုံကြည်ရပါသည်၊

ယခု ထိုကျောင်း၌ သီတင်း သုံး နေတော်မူသော ရဟန်းတော်မှာ ဝါတော် ၃၀–ရှိ၊ ဦးဥတ္တမ ဖြစ်ပါသည်၊ ထိုအရှင်မြတ်သည် ဗုဒ္ဓဂယာပြည်၌ သီတင်းသုံးတော်မူခဲ့သည်မှာ နှစ်ပေါင်း ၁၈-နှစ်ရှိပြီး ဖြစ်ရာ၊ ယခုကျောင်း၌ သီတင်းသုံး၍ခနေသည်မှာ ၅–နှစ်ခန့်ရှိပါပြီ၊

.... ၀ ....

# ဆယ်သက်မှာတခါမကြုံဘူးတဲ့ အလှူကြီး

## ငွေအပြည့်အစုံရှိပါတယ်၊ဒါပေမဲ့ ဆယ်သက်မှ တခါမကြုံဘူးတဲ့ ကိစ္စကြီးမှာ၊လှဲနေလှူအောင်း မြင်းစောင်းမကျန်၊ဆဋ္ဌသံဂါယနာတင်တဲ့၊သာသနာ့ဒါယကာတွေ ဖြစ်နိုင်ပါစေ၊ ဆိုတဲ့စေတနာနဲ့ အလှူခံနေပါပြီ စသည်ဖြင့် အမျိုးသားစီမံကိန်း ယဉ်ကျေးမှုနှင့်သာသနာရေးဌာနဝန်ကြီးဦးဝင်းက(၁၄၊၁၊၅၄) နေ့တွင် အသံလွှင့်ရုံမှ မိန့်ကြားခဲ့ပုံများ။ II

## ပြောပြချင်ပါတယ်

ဆဋ္ဌသံဂါယနာနဲ့ပတ်သက်ပြီး နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ဥက္ကဋ္ဌကြီးသတိုးသီရိသုဓမ္မ ဆာဦးသွင်ကလဲ၊သည် အသံလွှင့်ဌာနကနေပြီး အသံလွှင့်ခဲ့လှပါပြီ၊ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ အုပ်ချုပ်ရေးမှူးဦးစိန်းမောင် ကလဲ ဆဋ္ဌသံဂါယနာနှင့် ပတ်သက်ပြီး၊ ဘယ်လိုအခြေအနေရောက်ပြီ၊ ဘယ်လို အားထုတ်နေပါပြီဆိုတဲ့ ကိစ္စတွေကိုလဲ မကြာမကြာ တိုင်းပြည်ကိုတင်ပြခဲ့ပါတယ်၊အဲသည်းတော့ သံဂါယနာဖြစ်ပေါ်လာဖို့ သံဂါယနာကိုရှေးတုံးကဘယ်လိုတင်ခဲ့တယ်ဆိုတဲ့ ရာဇဝင်တွေကို ကျွန်တော်အကျယ်တဝင့်မပြောလိုတော့ပါဘူး၊ ဒါပေမဲ့ သာသနာရေးနဲ့ပတ်သက်ပြီ၊ ကျွန်တော်တို့ရဲ့ အတွင်းရေးကိစ္စကလေးတွေကို သဒ္ဓါတရားတိုးပွား ရေးကို ရှေ့ရှုပြီးတော့ တိုင်းပြည်ကို အနည်းငယ်ပြောပြဘို့ ကောင်းတယ်လို့ ကျွန်တော်ယူဆပါတယ်၊ သည် ဆဋ္ဌ သံဂါယနာတင်ဆိုတဲ့ အကြံအစည် ဖြစ်ပေါ်လာတဲ့ အကြောင်းကလေးကို ပထမ ကျွန်တော် ပြောချင်ပါတယ်။

## စုပြီး တိုင်ပင်ကြတယ်

လွန်ခဲ့တဲ့ ငါးနှစ်သောက်က၊ သာသနာ့ရိပ်သာဆိုတာမပေါ်သေးပါဘူးခင်ဗျား၊ ရန်ကုန်မြို့မှာ ပဋိပတ္တိ ထွန်းကားဘို့ဆိုပြီး၊ အကျော်အမော် ဆရာတော်တွေကိုပင့်ပြီး ဝိပဿနာသင်နိုင်ဘို့၊ ရန်ကုန်မြို့မှာ သာသနာ့ရိပ်သာလုပ်မဲ့ သတိုးသီရိသုဓမ္မဆာဦးသွင်ရဲ့ မြေနေရာပေါ်မှာ၊နိုင်ငံတော်ဝန်ကြီးချုပ်ရယ်၊ကျွန်တော်ရယ်၊ ဟသ်ာတဦးမှဲရယ်၊သည့်ပြင်သာသနာတော်ကိုကြည်ညိုတဲ့ပုဂ္ဂိုလ်တွေရယ် စုပြီးတိုင်ပင်ဆွေးနွေးကြတဲ့အခါမှာ၊သည့်သံဂါယနာတင်ဘို့ဆိုတဲ့ ကိစ္စဟာ ပေါ်လာပါတယ်။

## ပေါ်တဲ့အကြံက

ဟိုအခါတုံးက ကျွန်တော်တို့ဘာလုပ်ကြမလဲလို့ စဉ်းစားလိုက်တော့၊လွတ်လပ်ရေးလဲရပြီသမ္မတ္တိစက်ဆိုတဲ့စကားလို သာသနာတော်နှင့် ပတ်သက်ပြီး စက်လေးပါးနှင့်ပြည့်စုံတဲ့အခြေအနေကိုလဲရောက်နေပြီ သာသနာတော်အတွက် ထူးထူးကဲကဲ မြင့်မြတ်ရင်ကောင်းမှာဘဲလို့ အကြံအစည်ပေါ်လာခဲ့ကြပါတယ်၊

## အချိန်တော်ပြီ

ယခုတွင်က ကျွန်တော် အစီရင်ခံခဲ့တဲ့အတိုင်း၊ (၁) သမ္မတ္တိစက်ဆိုတဲ့အစုနမျိုးနှင့်လဲ ဆိုက်ရောက်နေတယ် ဆိုရာမှာ၊ မြတ်စွာဘုရားရဲ့ သာသနာတော်ဟာ အနှစ်-၂၅၀၀-ပြည့်ဘို့ (ဟိုအခါတုံးက) လေး ငါးနှစ်သောက်သာလိုတော့တယ်၊ အဲသည်တော့ သာသနာတဝက် မင်းကောင်းတဆက် ဆိုသလို၊ သည်လိုအခါကြီးမှာ သာသနာတော်နေလို လလိုထွန်းလင်းပြီးနေအောင်ကြီးကျယ်မွန်မြတ်တဲ့အလုပ်တွေ လုပ်ရရင်ကောင်းမှာဘဲဆိုတဲ့အကြောင်းကတချက်၊ (၂)ဒုတိယအချက်ကဘါလဲဆိုးတော့၊ကျွန်တော်တို့စိတ်ထဲမှာ အဲသည်တုံးက၊ သာသနာတော်ကို ကြည်ကြည်ညိုညို-လေး လေး စား စား-ထူးထူးခြားခြား ပြုပြင်ချင်တဲ့စိတ်မျိုးတွေ ဖြစ်ပေါ်နေခြင်းဖြစ်ပါတယ်၊ (၃)တတိယအချက်က မြတ်စွာဘုရားသခင် လက်ထက်တော်မှာလို သာသနာတော်ထွန်းလင်းပြီးနေလေတော့ ဝိသာခါ အနာထပိဏ် တို့လို သာသနာကို တကယ်ကြည်ညိုပြီး သာသနာကို ပစ္စည်းလေးပါးနှင့်တာယ်ကို ထောက်ပံ့ဆောင်ရွက်နေတဲ့ ပုဂ္ဂိုလ်တွေလဲ အများအပြား ပေါ်ပေါက်နေတဲ့ ခေတ်ကြီးလို့ဆိုရလောက်အောင် အခြေအနေကလဲသနေပါတယ်၊ ဒါတွင်မကသေးပါဘူး၊ မြတ်စွာဘုရားရဲ့ ပါဠိတော် (စကားတော်လို့ဆိုရတဲ့) ပုဒ် ပါဌ်အက္ခရာတွေဟာလဲ အင်္ဂလိပ် အစိုးရလက်ထက်ကစပြီး၊သာသနာတော်ကို ကြည်ရှုစောင့်ရှောက်မဲ့ ပုဂ္ဂိုလ်မရှိလေတော့ ကမောက်ကမဖြစ်ပြီး၊ စာပုံနှိပ်တဲ့ နေရာတွေမှာလဲ အက္ခရာပုဒ်-ပါဌ်တွေ မှားချင်တိုင်း မှား၊ ကျကျန်ရစ်ခဲ့တာတွေလဲအများကြီးပါဘဲ၊ နောက်ပြီး စာပုံနှိပ်တိုက်တွေက နိုင်ငံခြားသားတွေပိုင်တဲ့ပုံနှိပ်တိုက်တွေက များလေတော့ သူတို့နှိပ်ချင်ရာတွေနှိပ် (နောက်) တကယ့်စာပြင်ဆရာတွေ-ပိဋကဆရာတွေအတွက် ကျကျနန ပညာရှိတဲ့ပုဂ္ဂိုလ်တွေကိုမငှါးနိုင်ဘဲ လခကလေးနဲ့နဲ့ပါးပါးပေးပြီး ဖြစ်ကတတ်ဆန်းထွက်ပေါ်လာတဲ့ စာအုပ်တွေဟာ သာသနာတော်အတွက် တကယ်ကို မကောင်းကျိုးပေးတော့မှာဘဲ၊ သာသနာတော်ပျက်စီးရာပျက်စီးကြောင်းတွေဘဲလို့ယူဆပြီး၊မြတ်စွာဘုရားရဲ့ ပိဋကတော်ကို အက္ခရာ ပုဒ်-ပါဌ် မှန်ကန်အောင်အမြန်ဆုံး၊ ပြန်လည်စစ်ဆေးဘို့အချိန်တော်ပြီလို့ ကျွန်တော်တို့ယူဆခဲ့ကြပါတယ်၊ ဒါကြောင့် ယခုတွင်က ကျွန်တော် ပြောခဲ့တဲ့အတိုင်း၊သမ္မတ္တိစက်ထေးပါးလိုဘဲ သာသနာတော် တဝက် ကျိုးပြီ၊ တကယ့်ကိုသာသနာတော်ရဲ့အရောင်အဝါ ပြန်သည်ထွန်းကားရလိမ့်မယ်၊ နောက်ပြီး ဝိသာခါဘို့ အနာထပိဏ်တို့လိုသာသနာတော်ကို တကယ်ကြည်ညိုတဲ့ ပုဂ္ဂိုလ်တွေပေါ်ပေါက်လာတဲ့အချိန်၊တိုင်းပြည်ကိုအုပ်ချုပ်တဲ့ အစိုးရကလဲ နိုင်ငံတော် ဝန်ကြီးချုပ်အမှူးရှိတဲ့ သာသနာတော်ကို ကြည်ညိုတဲ့ပုဂ္ဂိုလ်တွေချည်းပါဝင်နေတဲ့ အစိုးရ၊အဲသည်လိုလက်ထက်မျိုးမှာမှယခုလိုဘ ကယ်ကြီးကျယ်တဲ့လုပ်ငန်းကြီးကိုမလုပ်နိုင်ခဲ့လို့ရှိလျှင်၊ နောင် ဘယ်လို အချိန်အခါမျိုးမှာလုပ်မလဲဆိုတာ တွေးမိကြပါတယ်၊

## ကြိခံ့စရာမရှိတဲ့အကြံ

သည်ကိစ္စနှင့်ပတ်သက်လို့ ကောင်းတဲ့အချက်ကယခုအစိုးရလက်ထက်မှာ လူထုက ထောက်ခံအားပေးပြီး လွှတ်တော်နှစ်ရပ်စလုံးမှာ တိုင်းပြည်ပြုလွှတ်တော်ကစပြီး ပါလီမန်လက်ထက်မှာအထိ အမတ်မင်းတွေဟာ သာသနာတော်အတွက် ဆိုခဲ့လို့ရှိလျှင် ဒင်ပြည့်ကျော်ပြည့် သာသနာပြုမယ်ဆိုတဲ့စိတ်နှင့် ဘယ်လောက်ဘဲသုံးသုံး ပါလီမန်က အတည်ပြုမယ်၊ သဘောတူမယ်ဆိုတဲ့ အခြေအနေမျိုး ရှိနေတဲ့အတွက်ကြောင့်ကျွန်တော်တို့လဲကြံစည်ခံ့စရာမရှိတဲ့ အကြံအစည်ကြီးကို ကြံစည် ခဲ့ကြတာပါဘဲ၊

## သံဂါယနာငါးတန်

သည့်တော့ ဆဋ္ဌသံဂါယနာ တင်နှင့်ပတ်သက်ပြီးတော့ ပြောရမည်ဆိုလျှင် ယခု သာသနာတော်တလျှောက်မှာ ရှောက်ကြည့်မယ်ဆိုရင် သံဂါယနာ တင်ခဲ့တာဟာ ငါးကြိမ်နို့ပါပြီ၊ပဌမ မြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုပြီးတဲ့အခါမှာ အရှင်မဟာကဿပကြီးမှူးတဲ့ ရဟန္တာအရှင်မြတ် ငါးရာဟာ၊ရာဇဂြိုဟ်ပြည် သတ္တပဏ္ဏိဂူဟာ ခေါ်တဲ့ စရည်းပင်ပေါက်တဲ့ လိုဏ်ဂူကြီးမှာ အဇာတသတ်မင်း အကူအညီနှင့် ပြုလုပ်ခဲ့ကြပါတယ်။

(ဒုတိယသံဂါယနာဆိုရင်) ဝေသာလီပြည် ဝါဠုကာရုံ ကျောင်းတိုက်တော်ကြီးမှာ ကာလာသောကမင်း အကူအညီနှင့် အရှင်မဟာယသအမှူးရှိတဲ့ ရဟန္တာ ခုနစ်ရာတို့နှင့် တင်ခဲ့ကြပါတယ်၊

[တတိယ] သီရိမ္မသောကမင်းကြီး လက်ထက်တော်မှာ၊အရှင်မဟာ မောဂ္ဂလိပုတ္တတိဿ မထေရ်နှင့်တကွ ရဟန္တာ တထောင် အမှူးပြုပြီးတင်ခဲ့ကြပါဘယ်၊

(စတုတ္ထသံဂါယနာကိုတော့) သီဟိုဠ်ကျွန်း ဝဋ္ဋဂါမဏိမင်းအကူအညီနှင့် သီဟိုဠ်ကျွန်း မလယ ဇနပုဒ် အာလောက လိုဏ်ဂူကြီးမှာ အရှင်ဓမ္မ ရက္ခိတအမှူးရှိတဲ့ ရဟန္တာအရှင်မြတ်ငါးရာတို့ကြီးမှူးပြီးတင်ခဲ့ကြပါဘယ်၊အဲသည်အခါတုံးကမှပေထက် အက္ခရာတင်ခဲ့ကြပါတယ်။

နောက် ပဉ္စမ သံဂါယနာ ကိုတော့၊ ရတနာပုံနေပြည်တော် မန္တလေးမှာ မင်းတုန်းမင်းတရားကြီးထက်ထက်ဇာဂရာဘိဝံသ တိပိဋကဓရမဟာ ဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်တော်ရ ဆရာတော်ကြီး များကိုယ် ဘိုင်ကြီးမှူးပြီး ကျောက်ထက် အက္ခရာ တင်ခဲ့ကြပါတယ်။

## အားတက်မိပါတယ်

သည့်တော့ သာသနာတော် တလျှောက်လုံးမှာ ရှောက်ကြည့်မယ်ဆိုလို့ရှိရင် သံဂါယနာတင်ခဲ့တာဟာ ငါးကြိမ်ရှိပါပြီ၊ဒါပေမဲ့ လူဆုကတင်တဲ့ သံဂါယနာဟာ မရှိသေးပါဘူး၊ ယခု ခေတ်မှာ လူထုသမ္မတခေတ်လူထုအစိုးရတက်လာတဲ့အခါမှာ လူထုအကူအညီနဲ့ လူထုကသာသနာ့ဒါယကာအဖြစ်ခံယူပြီး တင်မဲ့အလှူတော်ကြီးမို့လို့ ကျွန်တော်တို့ အင်မတန် အားတက်မိပါတယ်။

## သစ္စာ မိဋ္ဌါန်ပြု

ဒါကြောင့် အဲသည်လိုသံဂါယနာတင်လိုတဲ့ မွန်မြတ်တဲ့ အကြံအစည်ကြီးကို ကြံစည်စိတ်ကူးမိတဲ့အခါမှာ၊ နိုင်ငံတော် ဝန်ကြီးချုပ် စိတ်ထဲမှာလဲ သူ့စိတ်ကူးနှင့်သူဘဲကျွန်တော့စိတ်ထဲမှာကျွန်တော့စိတ်ကူးနှင့်ကျွန်တော်ဘဲ သည်လိုကြီးကျယ်တဲ့လုပ်ငန်းကြီးမှာ အောင်မြင်နိုင် ပါ့မလားလို့ တွေးမိပါတယ်၊ဒါကြောင့် နေ့ရောညရော ကျွန်တော်တို့စိတ်ကူးပြီး ဟိုဟာစိတ်ကူး

သည်ဟာစိတ်ကူးနှင့်ဖြစ်မှဖြစ်ပါ့မလား– အောင်မြင်မှအောင်မြင်ပါ့မလားလို့တွေး မိကြပါတယ်၊ ခဝဲ့ခင်မေးစရာလဲမရှိဘူး၊ အဲ သည်တော့ ကျွန်တော်တို့ ဘာလုပ်ကြလဲ ဆိုရင် ကြံမိကြရာ ကြံစည်ပြီးတော့ ဥပုသ် သီတင်းရက်ရှည်စောင့် မြတ်စွာဘုရားရဲ့ ပဋ္ဌာန်းဒေသနာ တော်မြတ်ကို အ ရပ် ရှစ် မျက်နှာမှာရွတ် နေရာတကာသွားလေရာ လာလေရာမှာရွတ်ပြီ ဘော့မှ သစ္စာမိဋ္ဌာန် ပြုကြပါတယ်၊

## သစ္စာဓိဋ္ဌာန် ၃-ချက်

ဘယ်လိုကျွန်တော်တို့ သစ္စာဓိဋ္ဌာန်ပြု ကြပါသလဲဆိုတော့ တိုင်းပြည်က ကြည် ညိုစိတ်နဲ့အောင်လို့ ကျွန်တော်နဲ့ အဓိ ဋ္ဌာန်ချင်ပါတယ်၊ အဲ ဒါက ဘာလဲဆိုလျှင် (၁) ယခုအခါမှာ ကျွန်တော်တို့လုပ်ထုံးဟာ တကယ့်ကို သံဂါယန တင်နိုင်မယ် မတင် နိုင်ဘူးဆိုတဲ့ ကိစ္စအတွက် သံဂါယနာကို တကယ့်ကို အောင် အောင် မြင် မြင်နှင့် တင်နိုင်မဲ့ အညီအညွတ်ရှိတယ်၊ မရှိဘူး၊ သိ ချင်လို့၊ အဓိဋ္ဌာန်ပြုတာက ဘာလဲဆိုရင် (၁-အချက်ကတော့) ကျွန်တော်တို့ဟာ သံဂါယနာကို အောင်မြင်စွာတင်နိုင်လို့ ရှိလျှင် မြတ်စွာဘုရားရဲ့ ဓါတ်တော် စွယ် တော် ဆံတော်-အံတော် တွေဟာ ကုန် မြူးပြီးကြွ ရောက်ပါစေသားလို့ ဆိုပြီး သစ္စာ မိဋ္ဌာန်ပြုခဲ့ကြပါတယ်၊ (ဒုတိယ အချက် ကတော့ ဘာလဲဆိုလျှင်) မြတ်စွာဘုရား ရဲ့ ဓါတ်တော် မွေတော် တွေတင်မကဘူး၊ သံဂါယနာကို ဦးစီးတင်မဲ့ (မြတ်စွာဘု ရား၏သာဝကတော်တွေကိုအါဂုဏ်ဆောင် နိုင်မဲ့) ပုဂ္ဂိုလ် အာဇာနည်များ ပေါ် ပေါက်ပါစေသားလို့ ကျွန်တော်တို့အဓိ ဋ္ဌာန် ပြုခဲ့ကြပါတယ်၊ (တတိယအချက် က) မြတ်စွာဘုရားရဲ့ ပရိယတ္တိ သာသနာ တော်မှာ သမထဝိပဿနာလုပ်ငန်းကိုတ ကယ်တန်းအားထုတ်လို့ အထူးအထိ ရောက်တော်မူကြတဲ့ ရဟန္တာအရှင်သူမြတ် တွေ ပေါ်သလို ပုဂ္ဂိုလ်ကျော်တွေကို ဖူး တွေ့ရပါစေသားလို့ ဆုတောင်းခဲ့ပါတယ်၊ ဆုတောင်းခဲ့တဲ့ အတိုင်းပြည့်ခဲ့ပါပြီဆိုတာ တိုင်းပြည်က သိပြီးဖြစ်ကြပါတယ်။

## ဓါတ်တော်တွေ

ဘယ်လိုပြည့်ခဲ့သလဲဆိုရင်တစ်အချက် မှာ တိုင်းသူပြည်သားများ အားလုံးသိတဲ့ အတိုင်းပါဘဲ၊ မြန်မာပြည်တပြင်လုံးမှာ စွယ်တော် ဓါတ်တော် အံတော်ဆိုတာ ဘုရားမြတ်စွာဘုရားရှင်ရဲ့ သရီရဓါတ်တော် တွေဟာ ကွန့်မြူးပြီးတော့ ရန်ကုန်ကို ကြွလာတာဟာ အားလုံးသိကြတဲ့ အ တိုင်းပါဘဲ၊ နိုင်ငံတော် ဝန်ကြီးချုပ်က အိန္ဒိယပြည်က ဓါတ်တော် မွေတော်တွေ ပင့်လာပြီ သာသနာရေးဝန်ကြီးက ဘယ် အရပ်က ဓါတ်တော် မွေတော်တွေ ဘယ် အရပ်ကို ပင့်ဆောင်လာပြီ၊ အိန္ဒိယပြည် ကနေပြီး အဂ္ဂသာဝက အရှင်မြတ်နှစ်ပါး ရဲ့ ဓါတ်တော်များ ရန်ကုန်မြို့ ကြွလာ တယ်ဆိုတာတွေ ဟိုးလေးတကျော်ဖြစ်ပြီး တိုင်းပြည်က အုံးအုံးကျွက်ကျွက် ပူဇော် နိုင်တဲ့ အသိ ဖြစ်လာတယ်ဆိုတာ အား လုံးသိတဲ့ အတိုင်းပါဘဲ။

## ဝိဋ္ဌကအာဇာနည်

ဒုတိယအချက်ကတော့ တိပိဋကဓရ ပုဂ္ဂိုလ်ကျော် ပေါ်ထွက်ပါစေ ဆိုတဲ့ အ တိုင်း ယခုပေါ်ထွက်လာပါပြီ၊ မန္တလေးဆို လို့ရှိလျှင် နိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့က ကြီးမှူးပြီး ဆောင်ရွက်ခဲ့တဲ့ တိပိဋကဓရစာ မေးပွဲမှာ အာဇာနည်ပုဂ္ဂိုလ်ကျော် ပေါ် ထွက်လာပါပြီ၊ အရှင်ဝိစိတ္တသာရာဘိဝံသ ဆိုတဲ့ ပုဂ္ဂိုလ်ကျော်ဟာ ပိဋကသုံးပုံကို အာဂုံဆောင်နိုင်တဲ့ အပြင် သဘောရော နေရာဖြစ်ပါ အထူးအထိသို့ ရောက် အောင် ဖြန့်ဆိုနိုင်တဲ့အတွက်ကြောင့်လွန်ခဲ့ တဲ့ မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန်ပြုပြီးတဲ့ အနှစ်တထောင်၊ သာသနာတော် သက္က ရာဇ် အနှစ်တသောင်းနှစ်ထောင် တ ကြိမ်တခါဘူးမျှ မပေါ်ပေါက်ဘူးသေးတဲ့ အာဇာနည်ပုဂ္ဂိုလ်ကျော်ကြီးဖြစ်ပါတယ်၊ ဒါဟာအားတက်စရာပါဘဲ၊

## သမထ, ဝိပဿနာ

ဝိပဿနာကိုကျင့်သုံးပြီး ရဟန် ကိစ္စ ပြီးစီးတဲ့ အထွတ်အထိပ်သို့ ဆိုက်ရောက် သည့် ရဟန္တာ တွေ လူတွေ ပေါ်ထွက်ပါ စေသားဆိုတဲ့ တတိယအချက်ဟာ အား လုံးသိကြတဲ့အတိုင်းပါဘဲ၊ သတင်းစာထဲ မှာ ဘတ်ကြည့်ပါ၊ သမထဝိပဿနာမှာ ပေါက်မြောက်တဲ့ ပုဂ္ဂိုလ်ကျော်တွေကို တိုင်းသူပြည်သားများ ဖူးတွေ့ သန့်သ ဘောက်မှုတွေ နကြရပါပြီ၊ ကျွန်တော် တို့လဲ အကြိမ်ကြိမ်အဖန်ဖန် ဖူးတွေ့ခဲ့ရပါ တယ်၊ အဲသည်လိုကောင်းတဲ့ နိမိတ်တွေ ပေါ်ပေါက်လာတဲ့ အတွက်ကြောင့်ကျွန် တော်တို့ရဲ့ လုပ်ငန်းကြီးဟာ မြေကြီးကို လက်နှင့်ခတ်လျှင် လွဲချင်လွဲမယ်၊ ငါတို့ လုပ်တဲ့ လုပ်ငန်းကြီးဟာ ဘယ်တော့ မှ မလွဲဘူး တကယ်အောင်မြင်ရမယ်ဆိုပြီး ကျွန် တော်တို့ အင်မတန် အားတက်သ ရေဖြစ်လ ပါတယ်၊

## ဘယ်ရာဇဝင်မှာမှမရှိ

အဲဒါကြောင့် ကျွန်တော်တို့ လုပ်ရမဲ့ လုပ်ငန်းကြီးဟာ အောင်မြင်မှ ခေတ် အောင်မြင်မဲ့ အချိန်ဘဲဆိုပြီး သံဂါယနာ တင်မဲ့ ကိစ္စကို ပါလီမန်လွှတ်တော်နှစ်ရပ် မှာ တင်ပြီး ငွေတောင်းတဲ့ ကိစ္စမှာ ပါလီ မန်လွှတ်တော် နှစ်ရပ်စလုံးက သာဓုအနု မောဒနာပြီး သန်းငွေသိန်း ၈၅ငါးဆယ် ကျော်ကျော် ကျွန်တော်တို့ကို သုံးခွင့်ပြုပါ တယ်၊ ကမ္ဘာ့ရာဇဝင်တလျှောက်နှင့် ပါလီ မန်သမိုင်းတလျှောက်မှာ သာသနာရေး အတွက် ငွေသိန်းပေါင်း တရာငါးဆယ် ကျော် သိန်းပေါင်းနှစ်ရာသုံး ရမယ်သုံးစေ ဆိုပြီး သာဓုအနုမောဒနာပြုကာ ခွင့်ပြုခဲ့ တာ ဘယ်ရာဇဝင် ထဲ့ကမှမှာမှမရှိခဲ့ ပါဘူး၊

## ငွေရှိပါတယ်၊ သို့သော်

ကျွန်တော်တို့မှာ သံဂါယနာတင်ဘို့ ငွေအပြည့်အစုံရှိပါတယ်၊ သံဂါယနာတင် တဲ့ ကိစ္စနှင့်ပတ်သက်ပြီ အဆောက်အဦဆို တာဟာလဲ သေးငယ်တဲ့ အဆောက်အဦ တွေမဟုတ်ပါဘူး၊ သံဂါယနာ တင်မဲ့ လိုဏ်ဂူတော်ကြီးတွင်ဘဲ အင်မတန်အံ့သြ ဘွယ်ကောင်းအောင် ပြင်ဆင်ထားပါတယ်၊ နောက်ပြီး သံဃာတော်နှစ်သောင်းကျော် နှစ်သောင်းငါးရာ သီတင်းသုံး နေနိုင်မဲ့ အာဂန္တုကကျောင်းဆောင်ကြီးတွေ၊ သံ ဃာတော်များ နေထိုင် မကောင်းလို့ရှိ လျှင် ဆေးဝါးကုသဘို့ဆေးရုံ၊ ပိဋကတိုက် တော်ပိဋကပုံနှိပ်စက်ကြီးတွေ အဆင်သင့် ဆောက်လုပ်ပြီး၊ ကျွန်တော်တို့မှာ ပြည့် ပြည့်စုံစုံရှိပါတယ်။ ဒါပေမဲ့ တသက်မှ တ ခါလောက်မကဘူး၊ ခြောက်သက်မှတခါ လောက်၊ ဆယ်သက်မှတခါလောက် မကြုံ ဘူးတဲ့ လူထုက ဦးစီးပြီး တင်မဲ့ သံဂါယ နာတင် ကိစ္စကြီးမှာ လှဲနေလှေအောင်း မြင်းဇောင်းမကျန် တယောက်မကျန် အ လှူတော်ငွေ ပါဝင်နိုင်ပါစေ, ဆဋ္ဌသံဂါယ နာတင်တဲ့ သာသနာ့ဒါယကာ တွေဖြစ်နိုင် ကြပါစေဆိုတဲ့ စေတနာနှင့် မြန်မာပြည် တဝှမ်းလုံးရှိတဲ့ ကျေးရွာ ကလေးကမှ ကျန် အိမ်တိုင်းအိမ်တိုင်း တယောက် မ ကျန် တပြားဖြစ်စေ နှစ်ပြားဖြစ်စေ တတ် နိုင်သမျှ ပါကြပါ၊ ပါဝင်နိုင်ပါစေ ဆိုတဲ့ စေတနာနှင့် ကျွန်တော်တို့ အလှူငွေကောက် ခံနေပါပြီ၊

## လက်မလွှတ်ပါစေနှင့်

သည်နေ့အသံလွှင့်ပြီ ခဲ့လို့ရှိလျှင် နက် ဖြန်မနက် အရက်တက်ကစပြီး တပြည်လုံး မှာ အလှူ ငွေကောက်ခံ ကြပါတော့မယ်၊ သည်အခွင့် အရေးကို လက်မလွှတ်ပါစေ နှင့်လို့ ကျွန်တော် အကြံပေးခြင်းဖြစ်ပါ တယ်၊ အဲသည်တော့ ကျွန်တော်က နေပြီး သာသနာရေး ဝန်ကြီးအနေနှင့်တွင် မ ဟုတ်ဘူး အမျိုးသား ငါ်မင်္ဂနိုင်ငံအနေ နှင့်လဲ ပြည်တော်သားအဖွဲ့တွေကလဲ ကျွန် တော်က တက်ဘလမ်းကနေပြီး ကြည့် ရှုတဲ့ ဝန်ကြီးဖြစ်လို့ ပြည်တော်သာအ ဖွဲ့များက နေပြီး တိုင်းပြည်တော်သား၊ ခရိုင်ပြည်တော်သာ၊ မြို့နယ်ပြည်တော်သာ နေ ကျေးရွာ ပြည်တော်သာအဖွဲ့ အထိ၊ သည်ပြည်တော်သာအဖွဲ့တွေက သက်ဆိုင်ရာသာသနာရေးအဖွဲ့တွေ သာ သနာရေး ဘက်မှာတကယ်တန်းစေတနာ ရှိရှိနှင့် ပါဝင်ဆောင်ရွက်နေတဲ့ ပုဂ္ဂိုလ် တွေရဲ့ အကူအညီကိုယူပြီးတော့ ကျယ် ဝန်းတဲ့ ကော်မတီတရပ် ဖွဲ့စည်းပြီး အလှူ တော်ငွေကို တခဲနက်မကျန်ကောက်ခံ ပါလိမ့်မယ်၊ ဘယ်သူမျှ သည်အခွင့်အရေး ကို လက်မလွှတ်ပါစေနှင့် ဆဋ္ဌသံဂါယနာ ရဲ့ သာသနာ့ဒါယကာ အမွှေခံနိုင်ကြ ပါစေဆိုပြီးတော့ သည်နေ့အသံလွှင့်ပြီးခဲ့ လို့ရှိလျှင် နက်ဖြန်နံနက်ကို အလှူတော် ငွေကောက်ခံပါတော့မယ်၊ သည်အလှူ တော်ငွေပါဝင်တော်မူနိုင်ပါစေလို့ ကျွန် တော်နောက်ဆုံးအဓိဋ္ဌာန်ခံပါတယ်၊

အားလုံးသောတရားရှင်များ ကျန်းမာ ချမ်းသာတော်မူကြပါစေခင်ဗျား၊

—•o—

(စာမျက်နှာ ၈ မှအဆက်)

## ရှင်သာမဏေပြုခြင်း

၁၂၈၆–ခုနှစ်တွင် ဦးပဏ္ဍိဝံသထံ၌ပင် ရှင်သာမဏေ ဖြစ်သို့ ရောက်၍ မလုံ လောက်သောဟု ဟောတော်မူ သည့်အတိုင်း မဂ္ဂင်မရိ ဝိနိယပိဋကနှင့် စာ ပေများကြီးစားသည်ကို တွေ့မြင်ရသော ရဟန်းတော်တို့၏ စိတ်မှာ စာအုပ် သက်နှဲသည့် ချီးမြှောက်၍ ကြည်ညိုမှု ဖြင့် အမြဲကျင့်တယ်သောကြောင့်ရှင်သော ဘိတဲ့ ကို ဆရာတို့က ပေးအင်ကြသည်၊

## ရဟန်းအဖြစ်သို့ရောက်ခြင်း

၁၃၀၅–ခုနှစ် ဝါဆိုလဆန်း (၈) ရက် တောင်းနိုင် ဆရာတော် ဦးဥက္ကမာ ကို ဥပဇ္ဈာယ်ပြု၍ သံဃိုရွာ ခုဏ္ဍာသိမ်၌ ရဟန်းအဖြစ်သို့ရောက်သည်၊

## ရဟန်းဒါယကာ ဒါယိကာမများ

ပခုက္ကူမြို့ ဦးဝိုတ်မြင်မြ ဒေါ်ခင် သံဘိုရွာမြေပိုင်နှင့် ဒေါ်ရွှေနုဖြစ်သည်၊

## ပရိယတ္တိအခြေခံကို သင်ယူခဲ့ခြင်း

အရှင်သောဘိတသည်၊ ပခုက္ကူမြို့ မဟာဝိသုတာရာမတိုက်၊ မန္တလေးမြို့ အောင်မြေရွှေဘုံတိုက် စာ ညတို့၌ နေ ထိုင်ကာ ပရိယတ္တိအခြေခံကို ရှိအောင် သင်ယူခဲ့ပြီးနောက်၊ ၁၃၁၀-ပြည့်နှစ်တွင် နိုင်ငံတော်အစိုးရ ပထမပြန် စာမေးပွဲတွင် ပထမကြီးတန်း အောင်မြင်တော်မူသည်၊

၁၃၁၀–ခုနှစ်တွင် မန္တလေးမြို့ သာ သနဟိတ သာသနာ့ဟော်တော်ပြန်ပွဲ ရေး ဖြေပွဲ နှစ်ရပ်လုံး၌ အောင်မြင်တော်မူခဲ့၍ ပရိယတ္တိ သာသနဟိတ ဓမ္မာစရိယဘွဲ့ကို ရရှိတော်မူသည်၊

၁၃၁၁–ခုနှစ်သို့ ရောက်သောအခါ တားပမှား ပို့ချရန် ရတနာဘုံမြင့်ဆရာ တော်ဦးနန္ဒမဥ္ဇူတိုက်တွင်းချက်အရ၊ ရတ နာဘုံ နှင့်ကျောင်းသို့ပြောင်းရွှေ့နေထိုင် ကာ စာပေဘိုကိုပို့ချလျက် ပရိယတ္တိသာ သနာတော်ကြီးကို ထမ်းဆောင်လုက်ရှိ သည်၊

ယခု ၁၃၁၅-ခုနှစ် ကျင်းပအပ်ခဲ့သော (၆) ကြိမ်မြောက် တိပိဋကဓရ ရွေးချယ် ပွဲကြီးတွင် အင်္ဂုတ္တရနိကာယ် အာဂုံနှုတ် ရေးဖြေနှစ်ရပ်လုံး အောင်မြင်တော်မူ၍ (အင်္ဂုတ္တရဘာဏက အင်္ဂုတ္တရနိကာယ ကောဝိဒ) ဘွဲ့ကို ရရှိတော်မူလေသည်၊

……….

# သင်္ဂါယနာတင် ပြိုင်ပွဲ ခုဒ္ဒကနိကာယ ပါဠိတော်

## ကျမ်းအမှတ်စဉ်(၃၅) စူဠနိဒ္ဒေသပါဠိတော်

### အာလုံမြို့ ပါဠိဝိသောဓကအဖွဲ့ဝင် ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁* | ဆရာတော်ဦးလက္ခဏ | ၆၀ | မူလဓမ္မာစရိယ | ကွဲခြံကျောင်း ပါဠိတက္ကသိုလ် | အာလုံမြို့ |
| ၂* | ဦးဝါယမ | ၂၆ | ။ | အင်ကြာပင်ကျောင်း | ။ |
| ၃ | ဦးဝါယမဒိန္နာဘိဝံသ | ၂၅ | သိရိပဝရဓမ္မာစရိယ | ရွာတောင်ဆာဝါးကျောင်း | ။ |
| ၄ | ဦးသုန္ဒရ | ၂၄ | မူလဓမ္မာစရိယ | ဆားတည်းကျောင်း | ။ |
| ၅ | ဦးအာစိဏ္ဏ | ၂၃ | ။ | ရန်ကုန်ကျောင်းဟောင်း | ။ |
| ၆ | ဦးဝိဇယ | ၂၂ | ။ | ။ | ။ |
| ၇ | ဦးကောသလ္လ | ၂၁ | စာချတန်းဖြေဆိုဆဲ | တောင်ပေါ်ကျောင်း | ။ |
| ၈ | ဦးသာဂရ | ၂၂ | မူလဓမ္မာစရိယ | ရန်ကုန်ကျောင်းသစ် | ။ |
| ၉ | ဦးဝိပုလ္လ | ၂၀ | ။ | သရက်တောကျောင်းတိုက် | ။ |
| ၁၀ | ဦးမေဃိန္ဒ | ၂၀ | စာချတန်းဖြေဆိုဆဲ | စာချကျောင်း ပါဠိတက္ကသိုလ် | ။ |

## ကျမ်းအမှတ်စဉ်(၃၅) စူဠနိဒ္ဒေသပါဠိတော်

### ရေနံချောင်းမြို့ အဂ္ဂမဟာပဏ္ဍိတ-သာသနာ့တံခွန်ဆရာတော် ကြီးမှူးသော ပါဠိဝိသောဓကအဖွဲ့ဝင်ဆရာတော်များ

| | | | | | |
|---|---|---|---|---|---|
| ၁ | တိုက်အုပ်ဆရာတော် | ၅၁ | မူလစာချ | ဇိန်ပန်းတိုက် | ရေနံချောင်းမြို့ |
| ၂ | ဆရာတော်ဦးသုဇာတာလင်္ကာရ | ၃၃ | ။ | မိုးကောင်းကျောင်း | ။ |
| ၃ | သာစည်ဆရာတော် | ၃၇ | ။ | သာစည်ကျောင်း | ။ |
| ၄ | ဆရာတော်ဦးပညာဝံသ | ၂၁ | ။ | ဇိန်ပန်းတိုက် | ။ |
| ၅ | ရတနာဂီရိဆရာတော် | ၃၀ | | ရတနာဂီရိကျောင်း | ။ |
| ၆ | ကျောက်စာရုံဆရာတော် | ၂၆ | ။ | ကျောက်စာရုံတိုက် | ။ |
| ၇ | ဇေါ်လင်ဆရာတော် | ၂၁ | ။ | ဇေါ်လင်းကျောင်းတိုက် | ။ |
| ၈* | ဆရာတော်ဦးပဏ္ဍိန္ဒ | ၁၈ | သာသနဓဇသိရိပဝရ | ပုပ္ပါရုံကျောင်း | ။ |
| ၉ | နံ့သာရုံဆရာတော် | ၂၉ | မူလဓမ္မာစရိယ | နံ့သာရုံကျောင်း | ။ |
| ၁၀* | ဆရာတော်ဦးပုည | ၁၁ | သာသနဓဇသိရိပဝရ | တောင်ဘီလာကျောင်း | ။ |

## ကျမ်းအမှတ်စဉ်(၃၆)ပဋိသမ္ဘိဒါမဂ်ပါဠိတော်

### ညောင်တုံးမြို့ ရွှေဟင်္သာတောရ ပါဠိဝိသောဓကအဖွဲ့ဝင် ဆရာတော်များ

| | | | | | |
|---|---|---|---|---|---|
| ၁* | ဆရာတော်ဦးဝိမလ | ၂၉ | မူလဓမ္မာစရိယ | ရွှေဟင်္သာတောရတိုက် | ညောင်တုံးမြို့ |
| ၂* | ဦးနန္ဒိယ | ၂၉ | ။ | မဟာဗောဓိကျောင်းတိုက် | မအူပင်မြို့ |
| ၃ | ဦးပဏ္ဍာဝ | ၂၄ | သာသနဓဇဓမ္မာစရိယ | ရွှေဟင်္သာတောရတိုက် | ညောင်တုံးမြို့ |
| ၄ | ဦးကုဝေရ | ၂၂ | မူလဓမ္မာစရိယ | ။ | ။ |
| ၅ | ဦးစန္ဒာဒယ | ၂၀ | သာသနဓဇဓမ္မာစရိယ | ။ | ။ |
| ၆ | ဦးပညာသာမိ | ၁၉ | ။ | ။ | ။ |
| ၇ | ဦးဉာဏဝံသ | ၂၅ | ။ | ။ | ။ |

## ကျမ်းအမှတ်စဉ်(၃၆)ပဋိသမ္ဘိဒါမဂ်ပါဠိတော်{ပဌမ}

### မြောင်းမြမြို့ (ရွှေကျင်နိကာယ)ပါဠိဝိသောဓကအဖွဲ့ဝင် ဆရာတော်များ

| | | | | | |
|---|---|---|---|---|---|
| ၁ | ဆရာတော်ဦးနာယက | ၄၀ | မူလဓမ္မာစရိယ | ရွှေကျင်တိုက်သစ် | ကျွန်းကုန်းရွာဝါးခယ်မ |
| ၂ | ဦးပဏ္ဍိတ | ၃၃ | ။ | ဇေယျာမဒနီကျောင်းတိုက် | ဝါးခယ်မ |
| ၃ | ဦးကုသလ | | ။ | လေးထပ်ကျောင်းတိုက် | လပွတ္တာမြို့ |
| ၄ | ဦးဉာဏိက | ၁၅ | သာသနဓဇဓမ္မာစရိယ | ပဒေ္ဒါတာရုံကျောင်းတိုက် | ဝါးခယ်မ |
| ၅ | ဦးပညာဇောတ | ၁၅ | ။ | ။ | ။ |
| ၆ | ဦးကုမာရ | ၁၂ | ။ | ။ | ။ |
| ၇ | ဦးဣန္ဒဝံ | ၇ | ။ | ။ | ။ |

## ကျမ်းအမှတ်စဉ် { ၃၆ } ပဋ္ဌာန်းပါဠိတော်

### ဝါးခယ်မမြို့ ပါဠိဝိသောဓကအဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| ၁ | ဆရာတော်ဦးပညာဇောတ | ၄၆ | မူလစမ္မာစရိယ | မန္တလေးကျောင်းတိုက် | ဝါးခယ်မမြို့ |
| ၂ | ဦးဝိသုဒ္ဓ | ၃၃ | အစိုးရစမ္မာစရိယ | မင်းကျောင်းတိုက် | ၊ |
| ၃* | ဦးစိန္တာမယာဘိဝံသ | ၃၊ | ပရိယတ္တိစမ္မာစရိယ | သာသနဟိတကာရီကျောင်းတိုက် | ၊ |
| ၄ | ဦးပညာဝံသ | ၄၅ | မူလစမ္မာစရိယ | မန္တလေးကျောင်း | ၊ |
| ၅* | ဦးသုဇာတ | ၂၉ | ၊ | ဇေယျသုခိကျောင်း | မြောင်းမြမြို့ |
| ၆ | ဦးတေဇ | | ၊ | မုံရွာကျောင်း | ဝါးခယ်မ |
| ၇ | ဦးသူရိယ | | ၊ | သာသနဟိတကာရီကျောင်း | ၊ |
| ၈ | ဦးအဂ္ဂိက | | ၊ | မန္တလေးကျောင်း | ၊ |
| ၉ | ဦးဝိသုဒ္ဓါဝါရ | | ၊ | မင်းကျောင်းတိုက် | ၊ |

## ကျမ်းအမှတ်စဉ် { ၃၆ } ပဋ္ဌာန်းပါဠိတော် { ပဌမ }

### ပုသိမ်မြို့ (ရွှေကျင်နိကာယ) ပါဠိဝိသောဓကအဖွဲ့ဝင်ဆရာတော်များ

| | | | | | |
|---|---|---|---|---|---|
| ၁ | ဆရာတော်ဦးသုဝဏ္ဏ | ၅၂ | မူလစမ္မာစရိယ | မောင်းထောင်တိုက် | ပုသိမ် |
| ၂ | ဦးသီရိပဏ္ဍိတ | ၂၉ | သာသနဓဇသိရိပဝရ | ၊ | ၊ |
| ၃ | ဦးဝိသုဒ္ဓ | ၄၁ | မူလစာချ | ၊ | ၊ |
| ၄ | ဦးကုဏ္ဍလ | ၃၇ | ၊ | ၊ | ၊ |
| ၅ | ဦးတိလောက | ၃၇ | ၊ | ခါတော်မှိတိုက် | ၊ |
| ၆* | ဦးပညာဇောတ | ၂၁ | သာသနဓဇသိရိပဝရ | ၊ | ၊ |
| ၇ | ဦးသာဝရ | ၅၂ | မူလစမ္မာစရိယ | ဝေဠုဝန်တိုက် | ၊ |
| ၈ | ဦးပညာဝလ | ၅၂ | ၊ | ၊ | ၊ |
| ၉ | ဦးဇူမြိယ | ၄၁ | ၊ | သန္တာရုံကျောင်း | ၊ |
| ၁၀ | ဦးအာစိဏ္ဏ | ၂၁ | သာသနဓဇသိရိပဝရ | သဒ္ဓမ္မသိတဂူကျောင်း | ၊ |
| ၁၁ | ဦးဝိဓုရ | ၅၀ | ပရိယတ္တိစမ္မာစရိယ | စံမှုသုခကျောင်း | ၊ |
| ၁၂* | ဦးဓမ္မနန္ဒ | ၃၄ | မူလစာချ | မြောင်းမြစကျောင်း | ၊ |
| ၁၃ | ဦးဥတ္တရာဘိဝံ | | ၊ | ဒီပါရုံကျောင်း | ရေကြည် |

## ကျမ်းအမှတ်စဉ် { ၃၆ } ပဋ္ဌာန်းပါဠိတော် { ဒုတိယ }

### ညောင်တုံး (သုဓမ္မာနိကာယ) ပါဠိဝိသောဓကအဖွဲ့ဝင် ဆရာတော်များ

| | | | | | |
|---|---|---|---|---|---|
| ၁ | ဆရာတော်ဦးသုန္ဒရ | ၄၄ | မူလစမ္မာစရိယ | ဈေးကျောင်း | ညောင်တုံး |
| ၂+ | ဦးခေမိန္ဒ | ၃၁ | ၊ | သာသနဇောတိပါလသုံးထပ်တိုက် | ၊ |
| ၃+ | ဦးသုဒဿန | ၂၀ | ၊ | ထုံးဘိုကျောင်း | ၊ |
| ၄ | ဦးဇာဂရ | ၁၁ | ၊ | ပုပ္ပါးတိုက် | ၊ |
| ၅ | ဦးနာယက | ၁၁ | ၊ | ၊ | ၊ |
| ၆ | ဦးအရိယဝံသ | ၂၅ | ၊ | သာသနဇောတိပါလသုံးထပ်တိုက် | ၊ |
| ၇ | ဦးကဝိန္ဒ | ၁၆ | ၊ | မဟာဝိသုဒ္ဓါရာမတိုက်သစ် | ၊ |
| ၈ | ဦးနန္ဒိယ | ၁၁ | ၊ | ၊ | ၊ |
| ၉ | ဦးသုဇာတာလင်္ကာရ | ၂၅ | ၊ | ၊ | ၊ |
| ၁၀ | ဦးသုဘ | | ၊ | မင်္ဂလာရာမ-ခင်မကန်ကျောင်းတိုက် | ဓနုဖြူ |

## ကျမ်းအမှတ်စဉ် { ၃၆ } ပဋ္ဌာန်းပါဠိတော် { ဒုတိယ }

### သုဓမ္မာနိကာယ (မြောင်းမြမြို့) ပါဠိဝိသောဓကအဖွဲ့ဝင်ဆရာတော်များ

| | | | | | |
|---|---|---|---|---|---|
| ၁ | ဆရာတော်ဦးဇူမြိယ | ၄၆ | မူလစမ္မာစရိယ | မင်းကျောင်းတိုက် | မြောင်းမြ |
| ၂ | ဦးသုန္ဒရ | ၄၁ | ၊ | အလယ်တောရကျောင်း | ၊ |
| ၃ | ဦးဇဝန | ၃၇ | ၊ | ကွမ်းခြံကျောင်း | ၊ |
| ၄ | ဦးသုန္ဒ | ၃၁ | ၊ | ညောင်ပိုင်းကျောင်း | ၊ |
| ၅ | ဦးသုဇာတ | ၂၉ | အစိုးရပဌမကြီး | ဇေယျသုခကျောင်း | ၊ |
| ၆ | ဦးအာဒိစ္စ | ၂၀ | မူလစမ္မာစရိယ | တာဝတိံသာကျောင်း | ၊ |
| ၇ | ဦးဝိသုဒ္ဓ | ၂၇ | ၊ | ခါတော်မှိကျောင်း | ၊ |
| ၈ | ဦးတိလောက | ၂၆ | ၊ | ဆင်ကူးကျောင်း | ၊ |
| ၉ | ဦးသောဘိတ | ၂၄ | ၊ | ဝေဠုဝန်ကျောင်း | ၊ |
| ၁၀ | ဦးသာသန | ၂၀ | အစိုးရပဌမကြီး | သဇင်ခြံကျောင်း | ၊ |
| ၁၁ | ဦးသြဘာသရီ | ၂၄ | မူလစမ္မာစရိယ | ဇေယျသုခိကျောင်း | ၊ |

[ ဆက်လက်ဖော်ပြပါမည် ]

# သုညနှင့် အစရင်းတည်ခဲ့သော တိပိဋကစရ

## နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ (ဆဋ္ဌအကြိမ်)တိပိဋကဓရ ရွေးချယ်ပွဲ အခမ်းအနားတွင် နာယက ဘုရားကြီးတိုက်ဆရာတော်ဘုရား မိန့်ကြားတော်မူအပ်သော ဩဝါဒ မိန့်ခွန်းတော်



နာယက
ရန်ကုန်မြို့ ခြောက်ထပ်ကြီး
ဘုရားကြီးတိုက် ဆရာတော်

ဗိနသာသနံ စိရံ တိဋ္ဌတု

ဗုဒ္ဓသာသနံ၊ ငါ၏မြတ်စွာဘုရား၏ ပရိယတ် ပဋိပတ် ပဋိဝေဓဟု သုံးဝသိကွာ သာသနာသည်၊ စိရံတိဋ္ဌတု သာသနာ ငါးထောင်၊ များမြောင်ရှည်ကြာ အခါတိုင်တိုင်၊ မြဲမြံတည်တည် ပ စေသတည်း။

ဆရာတော်များ ဤတိပိဋကဓရ ရွေးချယ်ပွဲကြီးကို ကြီးကြပ် ဆောင်ရွက်လာခဲ့သည်မှာ ယခုအကြိမ်အထိ (၆-ကြိမ်)ရှိခဲ့သေပြီ။ တိပိဋကဓရ ဆိုသော စကား၏ အဓိပ္ပါယ်မှာ ပိဋကတ်သုံးပုံကို နှုတ်လွတ်ရအောင်ဆောင်နိုင်မည့် ပုဂ္ဂိုလ်များ ရွေးထုတ်သည့်ပွဲဟု ဆိုလိုကြောင်း။ ရည်ရွယ်ချက်မှာ ပိဋကတ်သုံးပုံ ဆောင်နိုင်သူတွေ ပေါ်ပေါက် ထွက်ပြူလာအောင် လှုံ့ဆော်ခြင်းပင် ဖြစ်ပါကြောင်း။

### ပရိယတ်သာမူလ

ပရိယတ် ပဋိပတ် ပဋိဝေဓ ဟူ၍ သာသနာသုံးရပ်တွင် ပရိယတ္တိ သာသနာဟု ဆိုအပ်သောပိဋကတ်သုံးပုံသည်သာ အခြေမူလ ဘူတဖြစ်ပေ၏။ ပရိယတ်မကွယ်သေးလျှင် ပဋိပတ္တိသာသနာ ပဋိဝေဓသာသနာ နှစ်ရပ်သည် မကွယ် မပျောက်နိုင်သေးပေ၊ ပရိယတ္တိ သာသနာကွယ်ခဲ့သော်ကား ပဋိပတ္တိသာသနာ ပဋိဝေဓသာသနာတော်များ လုံးလုံးပျောက်ကွယ်သည်မည်၏။ ထို့ကြောင့်သာသနာသုံးရပ်တွင် ပရိယတ္တိသာသနာသည်သာ အခြေမူလဘူတဖြစ်သည်ဟု အဋ္ဌကထာ ဆရာတို့က မိန့်ကြားခဲ့လေသည်။

သည်အကြောင်းကို သတိရှေးရှုနှလုံးမူမိကြသဖြင့် ပဌမဦးစွာ ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့က တိပိဋကဓရ ရွေးချယ်ရေးအဖွဲ့ဟု ဖွဲ့စည်းပြီးလျှင် ပိဋကတ်သုံးပုံအာဂုံဆောင်ပုဂ္ဂိုလ်များကို ရွေးချယ်ခဲ့ကြသည်ဖြစ်ပါကြောင်း၊

### သတိ,ပညာဆုတ်ယုတ်၍

ဘုရားရှင်သက်ထက်တော်အခါကစ၍ တတိယသင်္ဂါယနာတင်ခေတ်, သာသနာတော်နှစ် ၃၀၀-လောက် တိုင်အောင် ပိဋကတ်သုံးပုံကို အာဂုံဆောင်လာကြသည်ချည်းဖြစ်၏၊ နောက်အခါသဒ္ဓါတရားဆုတ်ယုတ်ခြင်း သတိပညာလျော့ပါးခြင်း အကြောင်းခံတို့ကြောင့် တဖြည်းဖြည်းချို့ယွင်းလာကြပြီး စတုတ္ထသင်္ဂါယနာတင်ခေတ် သာသနာနှစ် ၄၅၀-ကျော် ၅၁၀-လောက် တိုင်ရောက်သောအခါ၊ ပိဋကတ်သုံးပုံကို ပေစာပေါ်မှာရေးသားမှတ်ထားခဲ့ကြရသည်၊ ပြုသို့သော်လည်း နောင်နှုတ်ငုံ အာဂုံမဆောင်နိုင်ကြမည့်အရေးကို ရဟန္တာတို့က ကြိုတင်မြင်ကြသဖြင့် ပိဋကတ်သုံးပုံတည်းဟူသော ပရိယတ် ကွယ်ပျောက်သွားမည်ဟု စိုးရိမ်မကင်းကြသောကြောင့်သာ ပေထက်အက္ခရာ တင်ထားရေးသားခဲ့ကြခြင်းဖြစ်သည်သာ သနာတော်စောင့် ရဟန်းသံဃာများကမူ ပိဋကတ်သုံးပုံကို အာဂုံဆောင်ထားလျက်ပင် ရှိနေသေးကြောင်း။

### ၁၂-နှစ်တိုင်တိုင်

စတုတ္ထသင်္ဂါယနာခေတ်မတိုင်မီ သာသနာနှစ် ၄၀၀-လောက်၌ သီဟိုဠ်ကျွန်းမှာ စဏ္ဍာလတိဿ ပုန်ကန်၍ သောင်းကြမ်းမှုဖြင့် နောက်ယှက်ရှိနေခိုက်အခါ မိုးလည်းကောင်းစွာ မရွာသဖြင့် ငတ်မွတ်ခေါင်းပါးခြင်းဘေးဆိုက်၍ သံဃာတော်များ ဆွမ်းခံ၍ပင်, မရရှိခဲ့ချေဘူးသည်၊ ထိုအခါ သိကြားမင်းကိုယ်တိုင်ဆင်းသက်လာကာ အရှင်ဘုရားတို့၊ ဤသီဟိုဠ်ကျွန်းမှာနေလျှင် ပိဋကတ်တော်ကို မပျောက်မပျက်အောင် ဆောင်ထားနိုင်ဘို့ နည်းလမ်း မမြင်တော့ပါ၊ တပည့်တော်လှေ ဖောင် ဖန်ဆင်းပေးပါမည်၊ ထိုလှေဖောင်ဖြင့် တဖက်ကမ်းမဇ္ဈိမဒေသ ဇမ္ဗူဒီပနယ် ပယ်သို့သာ ကူးတော်မူ ကြပါကုန်ဟု လျှောက်ထား လာသဖြင့် သံဃာတော် (၇၀၀) တို့ ဇမ္ဗူဒီပသို့ ကူး သွားကြလေသည် ရဟန်း ခြောက်ကျိပ်မျှကား သမုဒ္ဒရာနားသဘော်သဆိပ်သို့ ရောက်ပြီးမှ မကူးဘဲ သီဟိုဠ်ကျွန်း မလယ ဇနပုဒ်သို့သွား၍ သစ်ဖု-သစ်မြစ် - သစ်ရွက်ကိုသာ စား၍လျက် ၁၂-နှစ်တိုင်တိုင် ပိဋကတ်သုံးပုံကို ဆင်းရဲငြိုငြင်စွာနှင့် နှုတ်ငုံဆောင်ထားကြရသည်၊ ၁၂-နှစ် ကျော်လွန်၍ သောင်းကြမ်းမှုကြီး ငြိမ်းအေးသောအခါမှ ဇမ္ဗူဒီပပြန်သံဃာ ၇၀၀-တို့နှင့် သီဟိုဠ်ကျွန်း၌ နေရစ်သော သံဃာတော်ခြောက်ကျိပ်တို့သည်၊ မဏ္ဍလာရာမကျောင်းတိုက်ကြီးမှာ စုဝေးဆုံစည်းရဝေးကြ၍ ပိဋကတ်တော်ကို တိုက်ဆိုင်ကြရာ ဂင်္ဂါရေနှင့်ယမုနာရေးရာနှော ညီညွတ်သကဲ့သို့၎င်း၊ ဇမ္ဗူရာဇ်ရွှေစင်ကို ဖြတ်ရှိခ်သော် ရောင်လျှံမထူ မပြားသကဲ့သို့၎င်း၊ တသားတည်းကျကြလေသည်ဟူ၏။

### မဟာနိဒ္ဒေသ

သမ္မောဟဝိနောဒနီ အဋ္ဌကထာ၌ဆိုသော ဤအကြောင်းများကို ထောက်သဖြင့် သာသနာနှစ် ၄၅၀- ကျော် စတုတ္ထသင်္ဂါယနာတင်ခေတ်တိုင်အောင်ပိဋကတ်သုံးပုံကို နှုတ်ငုံဆောင်လာကြကြောင်း၊ သိရှိနိုင်ကြပေသည်၊ ထိုခေတ်မှ နောက်တဖြည်းဖြည်းရောက်သောအခါပိဋကတ်သုံးပုံကို အားလုံးမဆောင်နိုင်ကြတော့ဘဲ။ နိကာယ်ငါးရပ်တွင် တခုစီတခုစီ ခွဲခြားပြီး ဆောင်လာကြသဖြင့် တပါးဆောင်သော ပါဠိနှင့်တပါးဆောင်သော ပါဠိမတူထူးခြားနေရကြောင်း၊ အဋ္ဌကထာများ၌ပင် မှတ်ပြားလျက်ရှိပေသည်၊ သီဟိုဠ်မှာပင် ထိုအခါက မဟာနိဒ္ဒေသ ပါဠိတော်ကြီး ပျောက်ပျက်ခါနီးဖြစ်ခဲ့ပေသည်၊ သီဟိုဠ်ကျွန်းတကျွန်းလုံးတွင်မှ မဟာနိဒ္ဒေသနှုတ်တက်ရသူ အလဇ္ဇီ ရဟန်းတပါးသာရှိတော့သဖြင့် အရှင်မဟာ ရက္ခိတထေရ်သည်၊ မဟာနိဒ္ဒေသပြန်ပေါ်ရေးကို မြော်တွေးလျက်ပင်၊ အလဇ္ဇီရဟန်းထံ သင်ယူလိုက်ရကြောင်း သမ္မောဟ ဝိနောဒနီ အဋ္ဌကထာ၌ပင် ပြဆိုထားပေသည်၊

### အဘိဓမ္မာစ,၍ကွယ်မည်

သည်အကြောင်းနှင့်စကားစပ်လျှင်း၍ သမ္မောအဋ္ဌကထာ အင်္ဂုတ္တိုရ်အဋ္ဌကထါတို့မှာ ပြအပ်သော သာသနာ ကွယ်ပုံကိုလည်း သိသင့်၏ ပိဋကတ်သုံးပုံတွင် အဘိဓမ္မာပိဋကတ်သည် လက်ဦးစွာကွယ်မည်၊ ထို့နောက်သုတ္တန်ပိဋကတ်ကွယ်မည်၊ နောက်ဆုံးမှာ ဝိနည်းပိဋကတ်ကွယ်မည်ဟု ဆိုထားပေသည်။

### ဂါထာတပုဒ်ကိုပင်

ဂေါတမ မြတ်စွာဘုရား၊ အလျှင်ပွင့်တော်မူသွားသည့်ကဿပမြတ်စွာဘုရား၏ သာသနာနောက်ဆုံးမှာ တရားဒေသနာ ဂါထာတပုဒ်မျှကိုပင် နှုတ်သွတ်ရထားသူ မရှိလောက်အောင်ရှားပါးခဲ့၏၊ ဂေါတမဘုရားလောင်းသည်ပင်ထိုခေတ်ဆိုးမျိုးကို ရင်ဆိုင်တိုးခဲ့ရ၏၊

သုတသောမမင်းကြီးဖြစ်စဉ်အခါက— ကဿပမြတ်စွာဘုရား ဟောကြားထားတော်မူခဲ့သည့် (သဟဿရသေမာသေ ထ) သော ထေးဂါထာကို နှုတ်တက်ရသူ နန္ဒပုဏ္ဏားကိုတွေ့ပြီးမှ သနံ့စင်စွာရေချိုးပြီးလျှင် နန်းဥယျာဉ်တော်ရောက်တွင်း၌ ရေချိုးခိုက် ပေါ်ရိသာဒ ဖမ်းယူသောရေအုံ့ဆဲဆဲတွင် တရားဂါထာလေးဂါထာကို နာပြီးမှ သေပါရစေဟု တောင်းပန်တိုးလျှို၍ ပြန်လာပြီး ထိုလေးဂါထာကို အသပြာငွေ လေးထောင်ပူဇော်ကြေးပေးကာနာကြားပြီးမှ သေရကျိုးနပ်ပြီဟု ပေါရိသာဒထံအသေခံ ပြန်ခဲ့လေဘူးကြောင်း။ ပါဠိဇာတ်ပါဠိတော်၌ ဟောတော်မူခဲ့လေသည်။

ထိုနောက်ကျသောအခါများမှာတဂါထာရလျှင် အသပြာတထောင်ပေးမည်ဟု အသပြာထောင်ထုပ်ကို ဆင်ပေါ်မှာတင်လျက် လှည့်လည်သည်တိုင်အောင် အသပြာကိုယူမည့်သူမရှိ ဘဏ္ဍာတိုက်သို့သာ ပြန်သွင်းရကြောင်း၊ သောဏဝါဟိနီကျမ်း၌မူသောဣကာဋ္ဌုပြဆိုထားသေးသည်။

### သုညနှင့်အရင်းတည် ’

ဗုဒ္ဓသာသနာနုဂ္ဂဟအဖွဲ့သည် ဤအထက်ပါအကြောင်းများကို မြော်ထင့်ရည်ရွယ်လျက် တိပိဋကဓရ ရွေးချယ်ရေးအဖွဲ့ဖွဲ့စည်း၍ နှုတ်ငုံဆောင်ပုဂ္ဂိုလ်တို့ကို ရွေးချယ်ခဲ့ရာ ပဌမနှစ်၌ အောင်မြင်သူ တပါးမျှမရှိသုညနှင့် အရင်းတည်ခဲ့ရပြီးမှမဆုတ်မနစ်သော လုံ့လဖြင့် ဆက်လက်ကျင်းပခဲ့ရာ ဒုတိယအကြိမ်က၌ နှစ်စဉ်အာဂုံဆောင်နိုင်သူ အနက်အဓိပ္ပါယ်ဖြေဆိုနိုင်သူများ ဆက်ကာဆက်ကာ ပေါ်ထွက်ခဲ့လေသည်၊ ယခုဆဋ္ဌမြောက်နှစ်၌ကား သခင်နှစ်များကထက် ပိဋကတ်သုံးပုံဆောင် အနက်အဓိပ္ပါယ်ဖြေဆိုနိုင်သူများ အာဇာနည်ပုဂ္ဂိုလ်များ၊ တိုးတက်ပေါ်ထွက်လာပါစေဟု ဆရာတော်တို့က ဆုတောင်းပါကြောင်း။

### သိကြားမင်းစောင်မသလို

အာဂုံဆောင်ပုဂ္ဂိုလ်များ ရှားပါးနေသည့်အခါ သိကြားမင်းလာ၍ စောင်မတို့သည့်အလား ဤနိုင်ငံတော်ဗုဒ္ဓသာသနာ့အဖွဲ့က ငွေကုန်ကြေးကျခံကာ ဤတိပိဋကဓရ ရွေးချယ်ရေး စာမေးပွဲကြီးကို ကျင်းပခဲ့သည်ဖြစ်ရာ ရွေးချယ်ပွဲဝင်အာဇာနည် အရှင်တို့လည်း၊ ပရိယတ္တိသာသနာ မကွယ်မပျောက်ရေးကို ကြီးစွာသော သမ္မာဆန္ဒဖြင့် ဆင်ခြင်တုံတရား မြင့်မြတ်စွာ ထားလျက် သာသနာတော်ကို ကိုယ်စီ ပြုစုမျိုးထောင်မည်ဟု သဘောပိုက်ကာ သမ္မာ ဆန္ဒလွန်ကဲသော လုံ့လ မဆုတ်မနစ်သော စိတ်ထားဖြင့် ပြင်သားရှင်းလင်းစွာ ပြန်ဆိုကြ၍ သက်ဆိုင်ရာ ပါဠိ-အဋ္ဌကထာ မေးခွန်းများကိုလည်း၊ အသံဗိရ ဂုဏ်အင်္ဂါနှင့် ပြည့်စုံကြကာ ရေးသားဖြေဆိုတော်မူကြလိမ့်မည်ဟု ဆရာတော်တို့က မြော်လင့်ကြပါကြောင်း။

### တိုက်တွန်းနှိုးဆော်လိုက်သည်

ရွေးချယ်ပွဲ ကြီးကြပ်ရေး ဆရာတော်များနှင့် စာစစ်ဆရာတော် ဆရာများကလည်း ထိုရွေးချယ်ပွဲဝင် အာဇာနည်အရှင်တို့ ကိုယ်တိုင် ပြုစုမျိုးထောင်နေသော သာသနာပြုမှုမဏ္ဍပ်ကြီးကို ရေစင်ရေ ကောင်း သွန်းလောင်း မစသည့်အလား ကြုရားကြည်နှစ်စွာ ဆောင်ရွက်စောင့်ရှောက်ကြရန် ဆရာတော်တို့က ညွှန်ကြားပါကြောင်း။

ဝါမျှတ်စွာ ၁၈ တတိယကော်လံသို့

# သွားတော်ဓါတ်ကို ဌာပနာရာ ရွှေမော်ဓော စေတီတော်



စိန်၊ ကျောက်၊ ပတ္တမြားတို့ဖြင့် မွမ်းမံ တပ်ဆင်ထားသည့် ပဲခူးရွှေမော်ဓော စေတီတော် စိန်ဖူးသစ်ကြီး။

ပုဂံ ရာဇဝင်ဟောပြောသူသည် တုတ်ထမ်းပြီးပြောသည်ဟု ပြောစကား၎ှိကြောင်း ပုဂံ ရာဇဝင်မှာ ၄မှုလောက်သာ ကွဲပြားခဲ့ကြောင်း။ ပဲခူးရာဇဝင်မှာ အားလုံး ၁၆မှုရှိနေ၍ ကျွန်တော်မှာ လက်နက်မျိုးစုံ ထမ်းဆောင်ပြီး ပြောရမလိုဖြစ်နေပါသည် သို့သော်လည်း သစ္စာ လက်နက်ကိုသာ ဆောင်ပြီး ပြောမည်ဟု စကားပလ္လင်ခံပြီး ရွှေမော်ဓော တည်ဆောက်ရေး လက်ထောက် အစိုးရ ကိုယ်စားလှယ် ဦးသက်တင်က တိုက်စေတီအကြောင်းကို တနင်္လာနေ့ ညနေ ၅-နာရီခွဲအချိန်တွင် စာပေ ဗိမာန်ဝင်းအတွင်း၌ ဟောပြောကြောင်း။

## အဘိုးအဘွားများ ပါလာကြခြင်း

ထိုးဟောပြော ပွဲသို့ဝန်ကြီးချုပ်နှင့်ဘဏ္ဍာ ပါလီမန်အတွင်းဝန် ဦးကြင်စောမှစသော ပညာ လိုက်စားသူပေါင်း များစွာနှင့် ရဟန်းတော် အချို့တို့လည်း ကြွရောက်နားထောင် ကြကြောင်း။ တရားပွဲသို့ ကြွလာကြသော ရဟန်းတော်များအား လိမ္မော်ရည်ဖြင့်၎င်း၊ လူများအား ကော်ပြန့်ကြော်ကာဇီတို့ဖြင့်၎င်း ဧည့်ခံကျွေးမွေးကြောင်း ထိုနေ့ညက ဆောင်းလေ တိုက်ခတ်လျက် ချမ်းစိမ့်စိမ့် ရှိသော်လည်း ပရိသတ်များသည် မဟုန်မလှုပ်ဘဲ စူးစိုက်စွာ နားယူနေကြကြောင်း။ အသက် ၂၀ အရွယ်မှ သက်ကြီး အဘိုး အဘွားများသည်၊ တက်ရောက် လာကြသည်ကို ... ရကြောင်း။

## မှုကွဲ ၁၆-စောင်

ဦးသက်တင်က ပဲခူး ရွှေမော်ဓောသ နိုင်း ၁၆-စောင်တွင် ရွှေမော်ဓော စေတီတော်၌ဘုရားဆံတော်ကိုဌာပနာကြောင်း ပါရှိကြောင်း၊ မိမိကမူ ရှင်စောပုကျောက်စာကို အကိုးအကားပြုလျက် ရွှေမော်ဓော၌ ဌာပနာထားသည်မှာ ဘုရားရှင် ကိုယ်တော်မြတ်၏ သွားဓါတ်တော် တဆူ ဖြစ်သည်ဟု ပြောလိုကြောင်း။

## ဓမ္မစေတီ လက်ရာများ

ရှင်စောပု၏ ကျောက်စာကို ရွှေမော်ဓောစေတီ အရှေ့ စောင်းတန်း ထိပ်တွင် တွေ့မြင် နိုင်ကြောင်း။ ၎င်းကျောက်စာကိုလည်း ရှင်စောပု၏ သားတော် ယခုခေါ် ဓမ္မစေတီမင်းက ရေးသားထားခဲ့ကြောင်း။ ဓမ္မစေတီမင်းသည် ဉာဏ်ပညာ ကြီးသူဖြစ် ကြောင်း။ ကလျာဏီ သိမ် တော်၌ ကျောက်စာများသည် ၎င်း၏လက်ရာများပင်ဖြစ်၍ ဓမ္မစေတီ ရေးသားထားသော မှုကိုသာ မိမိက အမှီသဟဲ ပြုရကြောင်း။

## တိုက်စေတီ က အစ

ရှင်စောပု ကျောက်စာအရ မောဓော စေတီသည် ပထမ တိုက်စေတီမှ တဖြည်းဖြည်း ပေါ်လာခြင်း ဖြစ်ကြောင်း။ တိုက်စေတီကိုလွှန်ခဲ့သော သာသနာသက္ကရာဇ် ၂၃၇-ခုက သထုံမင်း စူဠသီရိ မာသောက မင်း တည်ဆောက်ခဲ့ရာ အမြင့် ၈-ပေသာ ရှိကြောင်း။ ၎င်းတိုက်စေတီ၌ ဘုရားရှင်၏ သွား ဓါတ်တော်တဆူကို ဌာပနာ ထားကြောင်း။ တိုက်စေတီ တည်ရာ ဌာနမှာလည်း နှစ်ပေါင်း သန်းချီပြီး တည်ရှိနေသော ကုန်းမြေပေါ်မှာ တည်ခဲ့ခြင်းဖြစ်ကြောင်း။ ရွှေမော်ဓောစေတီ အောက်၌ တူးဖေါ်စဉ်က အဆိုပါ တိုက်စေတီ အုတ်ခုံကို တွေ့မြင်ရကြောင်း။ ရှင်စောပု၏ ကျောက်စာထဲတွင် ပါသော အချိုးအစား အတိုင်းပင် ဖြစ်ကြောင်း၊ ဦးသက်တင်က ပြောပြကြောင်း။

တိုက်စေတီမှ သင်တိုင်းစေတီ ဆိုသော မကိုက်စေတီ ဖြစ်ပေါ်လာပုံကို ဗုဒ္ဓဟူးနေ့ ညနေ ၅-နာရီခွဲအချိန်တွင် ဆက်လက်ဟောပြောဦးမည် ဖြစ်ကြောင်း။ ဦးသက်တင် ဟောပြောပုံမှာ ရာဇဝင်တခုကိုလေ ရှင်းရှင်းနှင့် ပြောပြသွားသလို ဖြစ်၍ ပရိသတ်များ အားလုံး နားလည်ပြီး နားရှင်းသွားကြသည်ဟု ကြားရကြောင်း။

[အထက်ပါ ဦးသက်တင်၏ ဟောပြောချက်အတိုင်း၊ ကျောက်စာ ၂-မျိုးတို့တွင် ရွှေမော်ဓော အဋ္ဌုပ္ပတ္တိ အတွက် ဓမ္မစေတီကျောက်စာပါ အဓိပ္ပါယ်ကို ပြန်ဆိုဖေါ်ပြပါအံ့။ ။အယ်ဒီတာ]

## ကျောက်စာအဓိပ္ပါယ်။

ဟံသာဝတီ ပြည်ကြီး၌၊ ဆက်ကာဆက်ကာ ဆင်ဖြူသခင် မင်းချည်း ဖြစ်ကုန်သော ရှစ်ဆက်သော မင်းတို့တွင် နောက်ဆုံး အဋ္ဌမ ဆင်ဖြူရှင် ဖြစ်သော ဓမ္မစေတီ လောကနာထ မည်သော မင်းမြတ်သည်၊ သာသနာတော် ၁၈၂ ခု၊ သက္ကရာဇ် ၇၁၀-ရောက်သောအခါ၌ ဟံသာဝတီမြို့အနောက်မျက်နှာ၌ ကလျာဏီသိမ်သမုတ်အံ့သော အရပ်၏အနီးအပါး၌ ဘုရားသွားစွယ်တော် ဓါတ်တဆူ ကိန်းဝပ်ရာ၊ မဓဝါ အမည်ရှိသောစေတီတော်ကိုစေတီ သင်တိုင်းမွန်းမံအောင် ထပ်၍တည်လေသည်။

> ထိုမဓဝါ စေတီဟူသည်ကို ၁၃၁၅ ခုနှစ်ဟု ထင်ရသော အမည်မသိ ပုဂ္ဂိုလ်တပါးရေးသော ကလျာဏီ ကျောက်စာနိဿယတွင် မော်ဓော စေတီဟု အနက် ပေးပြီးလျှင်၊ ရွှေမော်ဓော ဘုရားကို ဆိုသည်ဟု မှာထား၏။

ထိုအဋ္ဌမမြောက် ဆင်ဖြူရှင်မင်းသည်၊ သုံးဆဲ့ငါးနှစ် မင်းပြု၍လွန်သော်၊ ထိုမင်း၏ သားတော် သုတသောမ မည်သော မင်းသည် သာသနာတော် ၁၉၂၇-ခု၊ သက္ကရာဇ် ၇၄၅ - ခု၊ ရောက်သော အခါ၌၊ ခမည်းတော် ဆင့်၍ တည်သော စေတီကို ငယ်သေးသည်ဟူ၍ စေတီသင်တိုင်း မွန်းမံအောင် ထပ်၍ တဘန်တည်လေသည်။

ထိုသုတသောမမင်း ၃၀-နှစ် မင်းပြု၍ လွန်သော်၊ ထိုမင်း၏မိဖုရားတို့တွင် သားယော ကျားမ ရှိ၊ သမီး ငယ် သာ ရှိရစ်သတည်း၊ မိဖုရား နောက်တပါး မင်းနှင့်အိမ်ထောင်သင့်ရာတွင်မှ သားယောကျား မွေးမြင်၍၊ မင်းသားငယ်အရွယ်ခရောက်မီ ငါးဆက်သော မင်းတို့သည်၊ မဋ္ဌိခံမသက် တယောက်ကို တယောက် မကြာမတင်မီ ဖျက်ဆီးတိုက်ခိုက်၍ မင်းပြုလကုန်သည်၊ မင်းသားငယ် အရွယ်ရောက်မှ ဘုန်းတော်တောက်၍ ဆင်ဖြူသခင် အရှင် မင်းစစ်ဖြစ်လေသတည်း၊ ထိုမင်းလည်း ဆင်ဖြူရှင်ဖြစ်၍ "တြိဘုဝနာ ဒိတျ ပဝရ ဓမ္မ စေတီ လောကနာထ" ဟူသော အမည်နာမဖြင့်၊ မြတ်သောမင်း၏ ချမ်းသာကို အရှည်လေးမြင့် စံစားပြီး၍၊ အရွယ်ကြီးလာသော်၊ မိဖုရားကြီး သားဖြစ်သော ရာမာဓိပတိ မည်သော သားတော်အိမ်ရှေ့မင်းအား မင်းစည်းစိမ် အလုံးကို နှင်း၍ မင်းပြုစေ၏၊ ထို "မဓဝါ" စေတီကို သင်တိုင်း စွပ်၍ တည်စိမ့် သောငှါ၊ သီဟပ္ပမာဏ အမည်ရှိသော အမတ်စစ်ချီ ပြဟ္မ အမည်ရှိသော အုတ်ပန်းရန်သမားတို့နှင့် သားတော်ကို စေလိုက်၏၊ ငါးနှစ်တိုင်အောင် ရှည်စွာ တည်ရလေ၏၊ သာသနာတော် ၂၀၀၂-ခု၊ သက္ကရာဇ် ၈၂၀ မှစ၍၊ သက္ကရာဇ် ၈၂၄-ခုနှစ်သို့ ရောက်မှ အပြီးသို့ ရောက်လေသည်။

..... .....

စာမျက်နှာ ၁၇ မှအဆက်

တိပိဋကဓရ ရွေးချယ်ပွဲ၌ စာနာပရိသတ်တို့ကလည်း အထက် ပြဆိုခဲ့သော သုတသောမ မင်းကြီးသည် ဂါထာတပုဒ် မျှကိုင်၍ အသပြာ ဘထောင်ပေးကာ နာကြားခဲ့တုံ ဘိသော၏ ငါဘို့မှာကား ထိုခေတ်ဆိုးကို မရောက်သေးသဖြင့်သာ, ပိဋကတ်နှုတ်ငုံဆောင် အာဇာနည်တို့ကို တွေ့ကြုံရသဖြင့် နာကြားကြရသသည်ဟု သဒ္ဓါပသန္နကြီးမားလှသော စေတနာဖြင့်, တနာကြည်ညိုကြရန် ဆရာဘော်တို့က တိုက်တွန်းပါကြောင်း။

ခြောက်ကြိမ်မြောက် ဆဋ္ဌသင်္ဂါယနာ တင်အံ့ဆဲဆဲလပိုင်းမျှလိုနေသေးသော အချိန်အခါ၌ ဤတိပိဋကဓရ ရွေးချယ်ပွဲ စာမေးပွဲကြီး၏ ခြောက်ကြိမ်မြောက်နှင့်တိုက်ဆိုင်ထင်ဒီခြင်းသည်လည်း၊ ကောင်းမြတ်သော သုတညြဘာ မင်္ဂလာနိမိတ်ဟု ကောက်ယူကာ နိုင်ငံတော်ဗုဒ္ဓသာသနာ့ အဖွဲ့ဝင် ဥပါသကာ လူကြီးတို့ကလည်း ကြီးမြတ်သော ကုသိုလ်ထူးကို ဆည်းပူးကြရလေသည်ဟု အနှိုင်းတထောင် ကြာမှ တခါတခါတင့်၍၊ တကြိမ်ပွင့်သည် အာသဝတီနွယ်နီနတ်ပန်းကို ဆင်မြန်းရသည့် အလား ငိတ်ထားငြိမ်သက်စွာဖြင့် တိပိဋကဓရ ရွေးချယ်ရေးစာမေးပွဲကြီး ဆုံးခန်းတိုင် ရောက် ပြီးမြောက်အောင်ဆောင်ရွက်နိုင်ကြစေကြောင်း ထပ်သောင်းနှိုးဆော်လိုက်ပါသတည်း။

..........

(စာမျက်နှာ ၅-အဆက်)

## ပေါ်သီ-ပြော်သီ-ပြာသိုလ်

မြန်မာဘာသာပြာသိုလဟု ခေါ်ဝေါ်သည်မှာ၊ အမရကောသ အဘိဓာန်ကျမ်း၊ သဂ္ဂဝဂ်တွင် "ဖုဿယုဏ္ဏာ ၄ ဏ္ဏမာသီ၊ ပေါသီ" ဟူ၍ လာသည်။ ဖုဿယုဏ္ဏာ၊ ဖုဿနက္ခတ်နှင့် ယှဉ်သော၊ ပုဏ္ဏမာသီ၊ လပြည့်နေ့သည်။ ပေါသီ၊ ပေါသီမည်၏ ဆိုသည်၊ ထို့ပြင်တပါး၊ ရာဇမတ္တက်စုဒ္ဒသမတွဲ၊ မဟာဓေဋ္ဌဒိ အင်္ဂတွင်လည်း ပေါသီ၊ ပြာသိုလ-ဟု အနက် ဆိုသည်၊ ထိုပေါသီပင် သက္ကဋအလို၊ ရရစ်နှင့် ပြော်သီဖြစ်သည်၊ ထိုပြော်သီပင်၊ ကာလရှည်ကြာ၍ မြန်မာဘာသာ ပြာသိုလခေါ်ဝေါ်ကြသည်ယူရမည်။

## ပရသီတလ-ပြာသိုလ်

ထိုပြာသိုလကိုပင် "ပရံ အတိရေကတရံ သီတလံ ဧတ္ထာတိ ပြာသို" ဟူ၍လည်း၊ ပညာရှိတို့ ငြိဟ်ကြသည်၊ ပရံ အတိရေကတရံ၊ တပါးသော လတို့ထက် လွန်ကဲစွာ-ထူးစွာ၊ သီတလံ၊ ချမ်းခြင်းသည်၊ ဧတ္ထ၊ ဤပြာသိုလ၌၊ အတ္ထိ၊ ရှိ၏၊ ဣတိတသ္မာ၊ ထိုကြောင့်၊ သောမာသော၊ ထိုလသည်၊ ပြာသို၊ ပြာသိုမည်၏၊ (ဤကားအနက်)၊ ပရသီတလ ရှည်ကြာ၍ ပြာသိုဟု မြန်မာဘာသာခေါ်သည်ဟူ၏။

ထိုစကားမှာ ကမ္ဘာ့ တန်းဆာ ... ကျမ်းကြီးများအနီးအနားကို သံရိယှဉ်တဲ့၍ သွားသည့်စကား၊ ယုတ္တိတန်စွ၊ ကျမ်းဂန် တိုက်ရိုက်မလာ၊ ပညာ့ပွားများသည်သာ တည်း။

## များသွန်၊ ပြာသွန်-မဟုတ်

ပြာသိုလ ခေါ်ဝေါ်ကြသည့် မြန်မာ့ ဘာသာမှာ၊ သည့်ပြင်ကြံစည်၍မရ၊ မသင့် သေးဒိဆင်လျှင် ပြင်ဆင်ဘော် မှုကြ စေသ တည်း။ များသွန်၊ သောလ၊ မိုးဖိုက ပြာ မသွန်ကောင်းသောလ ဆိုသည် များမှာ၊ မိန်းမစကားနှင့်တူသည်မှတ်ရမည်။ ကျမ်းဂန်မရှိးချ။

.... ၀.....

# နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏

## နိုင်ငံခြားသာသနာပြုလုပ်ငန်းများ

### အင်္ဂလန်မှ မစ္စစ်-ကဲလ်

သီဟိုဠ်ကျွန်း ကိုလံဘိုမြို့ ဘိက္ခုနာရဒထံမှ ထောက်ခံစာနှင့် မြန်မာပြည်သို့ ပဋိပတ္တိအားထုတ်ရန်အတွက် ၄-၁-၅၄ နေ့က အင်္ဂလန်ပြည်မှ ရောက်ရှိလာသူ ဂျာမန်အမျိုးသမီး မစ္စစ်ကဲ(လ်)သည် ယခုအခါ ရန်ကုန်၌ သာသနာ့ရိပ်သာ၌ ဝိပဿနာတရားများကို အားထုတ်လျက် ရှိလေသည်။

### သီဟိုဠ်မှ ဘဒ္ဒကရိရှနား

သီဟိုဠ်ကျွန်း ကိုလံဘိုမြို့တွင် ပညာသင်ကြားနေသူ နီပေါလ်ပြည်သား ဘဒ္ဒကရစ်ရှနားထံမှ မြန်မာပြည်သို့ လာရောက်ခွင့်ပြုပါရန် မေတ္တာရပ်ခံသည့်စာကို ဘတ်ရှုစဉ်းစားကြပြီးလျှင်၊ ထိုစာတွင် ပါရှိသည့်အတိုင်း၊ ထိုပုဂ္ဂိုလ် ယခုနေထိုင်လျက်ရှိသည့် ကိုလံဘိုမြို့ ဝဇိရာရာမကျောင်းတိုက်မှ ဘိက္ခုအရှင်ပိယဒဿီထံသို့ စာဖြင့် လျှောက်ထား၍ ထောက်ခံမည်ဟု ဆိုလျှင် ထိုပုဂ္ဂိုလ်အား အောက်ပါစည်းကမ်းချက်များကို လိုက်နာပါကတလလျှင် ၄၀/ကျပ်နှင့် ပရိယတ္တိ၊ ပဋိပတ္တိများကို သင်ကြား အားထုတ်နေစဉ်အတွင်း ထောက်ပံ့လှူဒါန်းရန် ၃၁-၁-၅၄ နေ့ နိုင်ငံတော် ဗုဒ္ဓသာသနအဖွဲ့ အမှုဆောင်အစည်းအဝေးမှ သဘောတူ ဆုံးဖြတ်လိုက်ကြကြောင်း။

(၁) မြန်မာပြည်သို့ လာရောက်၍ ပရိယတ္တိကို လေ့လာ သင်ကြားသောအခါ ရဟန်းအဖြစ် ခံယူ၍ ဝိပဿနာတရားကို အနည်းဆုံးတလခန့် ကျင့်ကြံအားထုတ်နိုင်ရမည်။

(၂) အကယ်၍ ပရိယတ္တိသင်ကြား တတ်မြောက်သောအခါတွင် မိမိနိုင်ငံ၌ ဗုဒ္ဓ သာသနာ၏ သာသနာပြု လုပ်ငန်းကို ဆောင်ရွက်မည်ဟု ဝန်ခံချက်ပေးရမည်။

ထို့ပြင် လျှောက်ထားသူ၏ (၁)အသက် (၂)ပညာအရည်အချင်းနှင့် (၃) ကိုယ်ရေး အတ္ထုပ္ပတ္တိ များကို လည်း တောင်းယူရန်။

### နီပေါမှ အမျိုးသားများ

နီပေါလ်ပြည်လုံးဆိုင်ရာ ဘိက္ခုမဟာသံဃအဖွဲ့ဥက္ကဋ္ဌဆရာတော် ဦးပညာနန္ဒထံမှ ရန်ကုန်မြို့ ကိုးကားပေါင်းစုံ မဟာသံဃအဖွဲ့ချုပ်မှတဆင့် နီပေါလ်ပြည်သား အမျိုးသား ၅-ယောက် ၆-ယောက်ခန့်ကို မြန်မာပြည်သို့ ဘုရားဟောပိဋကတ်တော်များကို သင်ကြားရန် ပို့လိုကြောင်း မေတ္တာရပ်ခံသည့်ကိစ္စကို စဉ်းစားကြပြီးလျှင်၊ အဆိုပါနီပေါလ်ပြည်တွင် သာသနာပြုရန်အတွက် မြန်မာပြည်သို့ လာရောက်၍ ပရိယတ္တိသင်ကြားလိုသောပုဂ္ဂိုလ်များ၏ (၁)အသက် (၂)ပညာအရည်အချင်း (၃) ကိုယ်ရေးအတ္ထုပ္ပတ္တိများကို တောင်းယူရန်နှင့် ထိုပုဂ္ဂိုလ်များသည် အောက်ဖော်ပြပါအချက်များကိုလိုက်နာနိုင်ပါက၊ စည်းကမ်း သတ်မှတ်ချက်အတိုင်း တယောက်ကို တလလျှင် ၄၀/ကျနှင့် ပရိယတ္တိပဋိပတ္တိများကိုသင်ကြားအားထုတ်နေစဉ်အတွင်း ထောက်ပံ့လှူဒါန်း၊ ရန် ၃၁-၁-၅၄ နေ့ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ အမှုဆောင် အစည်းအဝေးမှ သဘောတူဆုံးဖြတ်လိုက်ကြကြောင်း။

(က) မြန်မာပြည်သို့ လာရောက်၍ ပရိယတ္တိကို လေ့လာ သင်ကြားသောအခါ ရဟန်းအဖြစ်ခံယူ၍ ဝိပဿနာတရားကို အနည်းဆုံး တလခန့်ကျင့်ကြံအားထုတ်နိုင်ရမည်။

(ခ) အကယ်၍ ပရိယတ္တိကို သင်ကြား တတ်မြောက်သောအခါတွင် မိမိ၏ နိုင်ငံ၌ ဗုဒ္ဓသာသနာ၏ သာသနာပြုလုပ်ငန်းကို ဆောင်ရွက် ပါမည်ဟု ဝန်ခံချက်ပေးရမည်။

### ဂျာမနီမှအီဗါအင်ဂယ်

ဂျာမနီပြည် ဘာလင်မြို့ ဂျူးလူမျိုး၊ အီဗါအင်ဂယ်ဆိုသူထံမှ မြန်မာပြည်သို့လာရောက်ပြီးလျှင် သာသနာ့ရိပ်သာတွင် ပဋိပတ္တိသင်ကြား လေ့လာလိုသဖြင့် ခွင့်ပြုပါရန်ဟူသော မေတ္တာရပ်ခံသည့် ကိစ္စကို စဉ်းစားကြပြီးလျှင် အဆိုပါ အီဗါအင်ဂယ်၏အတ္ထုပ္ပတ္တိကိုယခုအခါသာသနာ့ရိပ်သာတွင် ဝိပဿနာတရားများကိုအားထုတ်လေ့လာလျက်ရှိသော ဒေါက်တာကဲ(လ်)ထံ၌ စုံစမ်းအစီရင်ခံရန် အယ်ဒီတာ ဦးအုန်းခိုင်အား တာဝန်လွှဲအပ်ကြပြီ၊ လျှင်၊ အယ်ဒီတာဦးအုန်းခိုင်၏ အစီရင်ခံစာကို ရရှိသောအခါတွင်မှ ထိုကိစ္စကိုပြန်လည်စဉ်းစားရန် ၃၁-၁-၅၄ နေ့ နိုင်ငံတော် ဗုဒ္ဓသာသနအဖွဲ့ အမှုဆောင် အစည်းအဝေးမှ သဘောတူညီကြသည်။



ဂျာမန်အမျိုးသမီး ယောဂီ မစ္စစ် ကဲ(လ်)

# နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏

## ၁၃၁၅ ခုနှစ် အဘိဓမ္မာစာမေးပွဲ

### ၃-ဆင့်လုံးအတွက်

(၁) ၁၃၁၅-ခုနှစ်၊ အဘိဓမ္မာစာမေးပွဲတွင် တပြည်လုံးမှ "၃-ဆင့်လုံး အောင်မြင်ကြသူ" (၆၆၄)ယောက်အနက်၊ ဟင်္သာတ စာဖြေဌာန ခုံအမှတ်၊ ၅၁၇-ဦးကုလား ပဌမရသည်၊ မြိတ်စာဖြေဌာနမှ ခုံအမှတ် ၂၉-မောင်ထွန်းတင် ဒုတိယရသည်၊ မုံရွာစာဖြေဌာနမှ ခုံအမှတ် ၃၆၄-မောင်မျိုးမြင့် တတိယရသည်၊

### တတိယဆင့်အတွက်

(၂) တပြည်လုံး၊ တတိယဆင့်တွင် မုံရွာစာဖြေဌာနမှ ခုံအမှတ် ၃၆၄-မောင်မျိုးမြင့် ပဌမရသည်။ မန္တလေး၊ မြောက်ပြင် စာဖြေဌာနမှ ခုံအမှတ်၁၂၄ မဥာဏ်သာရီဒုတိယရသည်၊ သာယာဝတီ မင်းလှ စာဖြေဌာနမှ ခုံအမှတ် ၄၁၂-မောင်လှထွန်း တတိယရသည်၊

### ဒုတိယဆင့်အတွက်

(၃) တပြည်လုံး၊ ဒုတိယဆင့်တွင် ဟင်္သာတစာဖြေဌာနမှ ခုံအမှတ် ၇၉၂-ဦးအောင်ကျော်ညိန်း ပဌမရသည်၊ ၎င်းဌာနမှပင် ခုံအမှတ် ၅၁၇-ဦးကုလား ဒုတိယရသည်၊ ဝါးခယ်မ စာဖြေဌာနမှ ခုံအမှတ် ၂၄၆-မောင်ကျော်ရှိန် တတိယရသည်၊

### ပထမဆင့်အတွက်

(၄) တပြည်လုံး ပဌမ ဆင့်တွင် မုံရွာစာဖြေဌာနမှ ခုံအမှတ် ၃၆၄-မောင်မျိုးမြင့် ပဌမရသည်။မြိတ်စာဖြေဌာနမှ ခုံအမှတ် ၂၉-မောင် ထွန်းတင် ဒုတိယရသည်၊ဟင်္သာတ စာဖြေဌာနမှ ခုံအမှတ် ၅၁၇-ဦးကုလား တတိယရသည်။

### ဆုနှင်းသဘင်

အထက်ပါစာမေးပွဲ၏ မဟာဆုနှင်းသဘင်ပွဲကို ၁၃၁၅-ခု၊ တပို့တွဲလဆန်း (၁၀)ရက်(၁ -၂-၅၄) စနေနေ့ မွန်းလွဲ(၂)နာရီအချိန်တွင် ကျင်းပရန်စီစဉ်ထားပါသဖြင့် ၃-ဆင့်စလုံး အောင်မြင်သူများမှ ပဌမရရှိသူ၊ ဒုတိယရရှိသူ၊ တတိယရရှိသူတို့သည်၊ ရန်ကုန်မြို့သို့လာရောက်၍ ဆုနှင့်လက်မှတ်များကို ယူကြရပါမည်။ ကုန်ကျမည့် အသွားအပြန် ခရီးစရိတ်ကို နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က ကျခံမည်ဖြစ်ပါ၍ မပျက်မကွက် လာရောက်ကြပြီးလျှင် ၎င်းဆုနှင်းသဘင်ရက် မတိုင်မီအဖွဲ့ရုံးသို့ ရန်ကုန်တွင် ရောက်ရှိနေကြောင်းသတင်းပေးပို့စေလိုပါသည်။ ရန်ကုန်ခရိုင်မှ အောင်မြင်သူများသည်လည်း ၎င်းမဟာဆုနှင်းသဘင်သို့ လာရောက်၍ ဆုတော်ငွေနှင့်လက်မှတ်များကို ယူကြရပါမည်။

### ကျေးဇူးတင်ပါသည်။

အဘိဓမ္မာ သာသနာတော် ပြန့်ပွားရေး အတွက် နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က ကြီးမှူးကျင်းပသည့် အဘိဓမ္မာစာမေးပွဲတွင် စေတနာ့ဝန်ထမ်း ကူညီကြသည့် သက်ဆိုင်ရာနယ်အရာရှိများ၊ ဒေသကိုယ်စားလှယ်များနှင့် သာသနာရေးခေါင်းဆောင်များပါဝင်သော အဘိဓမ္မာစာမေးပွဲ ကြီးကြပ်ရေးအဖွဲ့ဝင် လူကြီးမင်းများအား ဤကဲ့သို့စာမေးပွဲကြီးအထမြောက်အောင်မြင်အောင်ဝိုင်းဝန်းကူညီကြသဖြင့် အထူးပင်ကျေးဇူးတင်ပါကြောင်း။

### တိုင်းဆုနှင်းပွဲများ

ယခုနှစ်စာမေးပွဲအောင်စာရင်းကို ပုံနှိပ်ဆဲဖြစ်ပါကြောင်း၊သက်ဆိုင်ရာစာဖြေဌာနများမှ ဌာနများအလိုက် မြို့နယ်သာသနာရေးအဖွဲ့များမှ အထူးဆုများချီးမြှင့်လိုကြပါက ချီးမြှင့်နိုင်စေရန် စာဖြေဌာနတိုင်း၏ ပဌမဆင့်၊ဒုတိယဆင့်၊ တတိဆင့် အသီးအသီး၌တွင် ပဌမ၊ဒုတိယ၊ တတိယရသူများ စာရင်းကိုရင်း၊၊ သုံးဆင့်လုံး အောင်မြင်သူများအနက် ပဌမ၊ ဒုတိယ၊ တတိယ ရသူများကိုရင်း၊၊အောင်စာရင်းတွင် သီးခြားဖော်ပြထားပါသည်။ ထို့အပြင် အထက်ပါအတိုင်း ခရိုင်နှင့်တိုင်းများမှလည်း အထူးဆုများ ချီးမြှင့်နိုင်စေရန် ခရိုင်အလိုက်၊တိုင်းအလိုက် ပဌမ၊ဒုတိယ၊ တတိယရသူများကိုပါ ရွေးချယ်ဖော်ပြထားပါသည်၊

အထက်ပါအတိုင်း အဘိဓမ္မာစာမေးပွဲအောင်မြင်သူများအနက် တိုင်းအလိုက် ပဌမ၊ဒုတိယ၊တတိယရရှိသူများကို သက်ဆိုင်ရာ တိုင်းမင်းကြီးများက ကြီးမှူး၍ ဆုနှင်းသဘင်များ အသီးအသီး ကျင်းပ၍ အထူးဆုများ ချီးမြှင့်ပါမည့်အကြောင်း လေးမြတ်စွာ မေတ္တာရပ်ခံပါသည်။

စိန်းမောင်
အုပ်ချုပ်ရေးအရာရှိချုပ်

..........

# ဗုဒ္ဓဘာသာ နှင့် လူထုအောင်သံ

## ရတနာသုံးပါး ဦးထိပ်ထား၍ အဘယ်မျှ ကိုးစားယုံကြည်ကြသည်ဟူသော အချက်ကိုအသက်ထွက်တော့မည့်ဆဲဆဲမှာပင်ပြောဆိုပုံများဖြင့် လေးနက်စေခဲ့လေသည်။

### အပြစ်တင် စောမိသည်

လူထု အောင်သံ မြဲဘတ်ကို ကြည့်မည့်ဆဲဆဲ၌ လူထုအောင်သံပြဇာတ်ကို မူလ ရေးသားသူမှာ နိုင်ငံရေး၊ နယ်ပယ်၌ အာဏာလက်၌ အမျိုးသားခေါင်းဆောင်ကြီးတယောက် ဖြစ်သောကြောင့် အခြား အချက်အလက်ဘို့၌ မည်မျှပင်ကောင်းစေကာမူ ဝါဒဖြန့်သည့်ကားတခုဖြစ်ကြောင်းကိုကား ကြည့်ရသူတိုင်းအတွက် ထင်မြင်စရာရှိပေလိမ့်မည်ဟု မဦး မနှောင်း အပြစ်တင်စောခဲ့မိပေသည်၊ သေသေ ချာချာ တော့ဘော့ဆိုင်ဆိုင် ကြည့်ရသည့်အခါမှာ စောစောက အပစ်တင်မိသကဲ့သို့ မဟုတ်ဘဲအဘိုက်အခံဘက်ဘော်သားများ(ဝါ) ကွန်မြူနစ်ပါတီဝင်များ (ဝါ) တောခို၍ ဘော်လှန်သူများဘက်မှ အခဲဘော်များကိုသည်၊ သဘောထားကြီးစွာနှင့် အရေးပေး၍ ဘော်ပြသားပုံများကို တွေ့မြင်ရပါတော့သည်။

### ဇာတ်လမ်းအတိုချုပ်

ဇာတ်လမ်း၏ အတိုချုပ်မှာ တိုင်းပြည်အပေါ်၌ရင်း၊ ပါတီအပေါ်၌ရင်း၊ သစ္စာရှိ ကွန်မြူနစ်တဦးဖြစ်သူ အောင်ဝင်းသည်၊ မိမိ၏ပြင်းထန်သော ယုံကြည်ချက်ကိုချစ်ဇနီးနှင့် ရင်သွေးကလေးထက်ပင် ချစ်အားပိုကာ၊ တောခို၍ သွားခဲ့ပြီးနောက် တောခို တော်လှန်ရေး သမားခေါင်းဆောင်များ၏ ကိုယ်ကျိုးရှာပုံများနှင့် ယုတ်မာရက်စက်ပုံများကိုမြင်ရသောကြောင့် အလင်းသို့ဝင်ရောက်ရန်ထွက်ပြေးခဲ့ရာတွင် ဒဏ်ရာရကာ ဇနီး၏လက်တွင်း၌ သေဆုံးရပုံဖြစ်လေသည်။

### ဝါဒဖြန့်ကား မဟုတ်

ဇာတ်လမ်းကို စလှည့်ခြင်း တောခိုသင့် မခိုသင့်ကိစ္စအတွက် အောင်ငင်းနှင့် အေးမောင်တို့၏ အချီအချပြောဆိုပုံ အပြန်အလှန်ပြုမူပုံများကိုကြည့်ရခြင်းအါးဖြင့် အတိုက်အခံဘက်သို့ တမင်အသားပေး၍ အခွဲ့တိုက်လိုသည့် ဇာတ်လမ်းများ ဖြစ်နေဦးမည်လားဟုပင် ထင်မှားရတော့မလောက်ရှိလေသည်။ အချုပ်အားဖြင့် လူထုအောင်သံ ဇာတ်ကားမှာ သက်သက်ဝါဒဖြန့်သည့် ကားမျိုး မဟုတ်ကြောင်းကိုရင်း၊ မြန်မာနိုင်ငံ၏ လက်ရှိ တိုင်းရေးပြည်ရေး အခြေအနေနှင့် လူထု၏စိတ်နေသဘောထားများကို ထင်ရှားအောင် သရုပ်ဖေါ်၍ထားသည့်ဇာတ်ကားကောင်းတခုမျှသာဖြစ်ကြောင်းကို ငုံးကြည့်မိသူတိုင်းဝန်ခံရပေလိမ့်မည်။

### အကောင်းကိုပင် အဆိုးထင်၍

ကမ္ဘာပေါ်၌ မည်သည့် ဟောပြောချက်မျိုး၊ မည်သည့် စာအုပ်မျိုး၊ မည်သည့် ဇာတ်ကားမျိုးကိုမဆို အမြင် အမျိုးမျိုး အကြိုက်အမျိုးမျိုးတို့ဖြင့် အခြေခံကြည့်ကြရာတွင် လုံးဝ အပြစ်ကင်းသည်ဟု ဆိုရလောက်အောင်ကား ရှာမှရှားပေသည်၊ ထိုကြောင့်ပင် လူထု အောင်သံကိုလည်း စာ-နယ်-ဇင်း အသီးသီးတို့မှ ချီးကျူးချက်များကိုသာ မက ပြစ်တင် ညွှန်ပြချက်ကလေးများကိုလည်း တွေ့ရခြင်း ဖြစ်သေသည်။သို့သော်လည်း လူထုအောင်သံကား အနည်းငယ်မျှသော ချို့ယွင်းချက်ကလေးများကို အကောင်းများစွာတို့ဖြင့် ဖုံးအုပ်သယ်ဆောင်၍ သွားနိုင်သော ဇာတ်ကားကောင်းတခုဖြစ်သည်ဟုဆိုရပေလိမ့်မည်။

ပြစ်တင် ညွှန်ပြသည်ဟု ဆိုရာ၌လည်း အကောင်းကိုပင် အဆိုးထင်၍ ပြစ်တင်မိမည်ကို အရာရာတိုင်းမှာပင် သတိပြုသင့်ကြပေသည်။ ဇာတ်လိုက်ဖြစ်၍ တမင်တကာ ချောပေ့ လှပေ့ ဆိုသော ဗမာမဘွဲ့ကို ရွေးချယ်ထားသည်ဟု ပရိသတ်က ထင်မြင်ခဲ့ပါလျှင် ဇာတ်ကား၏ အရသာကိုပင် လျော့ဘန်သလောက် လျော့၍သွားစေမည် မဟုတ်ပါလော။

### တမလွန်အရေး

မြန်မာလူထု၏စိတ်နေသဘောထားများနှင့်အခြေအနေတို့ကို သရုပ်ဖေါ်ရာတွင်ရတနာသုံးပါး၊ဦး၊ထိပ်ထား၍အဘယ်မျှကိုးစားယုံကြည်ကြသည် ဟူသောအချက်ကို အောင်ဝင်းသည်မရိုမဆန့်စေဒနာခံစားရင်း အသက် ထွက်တော့မည့်ဆဲဆဲမှာပင် ပြောဆိုပုံများဖြင့် လေးနက် စေခဲ့ လေသည်၊ ဗမာလူထုဆိုသည်- ဗုဒ္ဓဘာသာ၊ ဗုဒ္ဓဘာသာ လူထုဆိုလျှင် ဗမာဟုဆိုရလောက်အောင်ပင်လူဘာသာလျှင်ဝရောနိုင်နှံ့၊လောက်မျှရှင်မပြဘူး၊သူ ၅မည်မဟုတ်ချေ၊ ရှင်ပြုခြင်းကိစ္စ ကား တမလွန်အရေး၊ ပါရမီအရေးနှင့် ဆိုင်သည့်အုတ်မြစ် တမျိုးဖြစ်ပေရာမြန်မာလူမျိုးတို့သည်ဗုဒ္ဓဘာသာနှင့်ပတ်သက်၍ ထိုရှင်ပြုကိစ္စတခုကိုပင်၊အဘယ်မျှ လေးလေးစားစား အရေးထားပုံများ၊ သဘာဝကျကျ၊ အကွက်ဖေါ်၍ထားပုံများကို ကြည့်ဘူးသူတိုင်း တွေ့ရပေလိမ့်မည်။

.... ....

စာမျက်နှာ ၂၂ မှ အဆက်

က ပျက်စီးယိုယွင်းကာ ဝမ်းနည်းစွာ ဖူးတွေ့ခဲ့ရတဲ့ စေတီတော်ကြီးကို တနှစ်ကျော်နှင့်နှစ်အတွင်းမှာပင် ပြန်လည်ဘည်ဆောက်ရေးအဖွဲ့ဝင်များ၏ အကူအညီနှင့်တကွ အဘက်ဘက်မှ ဝိုင်းဝန်းကြိုးပန်းမှုတို့ကြောင့်အောင် မြင်ပြီးစီးကာဝမ်းမြောက်ဘွယ်မျက်ဝါးထင်ထင် ဖူးမြင်ကြည်ညိုနိုင်ခြင်းဖြစ်ပါတယ်။

ရွှေမောဓော စေတီတော်ကြီးကိုဘယ်ဘယ်ပုံဘယ်နည်း တည်ဆောက်ခဲ့ရဘယ်၊ ဆိုတဲ့ အသေးစိတ် အချက်ကို‌တော့ ပြန်လည်တည်ဆောက်မှု အုပ်ချုပ်ရေးအဖွဲ့ငါးဦးကော်မီတီကိုယ်စား တာဝန်ကြီးသတိုးသီရိသုဓမ္မ ဦးအေးမောင်ကရဟန်းရှင် လူအများကြားသိခါ အနုမောဒနာပြုနိုင်ကြစေရန် နိုင်ငံတော်သမတကြီးအား အစီရင်ခံပါလိမ့်မယ်၊

### ချမ်းသာကြပါစေ

နောက်ဆုံး ပြောလိုတာကတော့ ယခုရွှေမော်ဓော စေတီတော်ကြီးသည် တည်ဆောက် ပြီးစီး ပြီဖြစ်တဲ့အတိုင်း နိုင်ငံတော်အစိုးရနဲ့ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကြီးရဲ့ ရည်ရွယ်ချက်အရ ပြည်တွင်းပြည်ပ ငြိမ်းချမ်းပါစေ၊မြန်မာပြည်သူပြည် သားများနှင့်တကွ ကမ္ဘာသူ ကမ္ဘာသား အပေါင်းတို့ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာကြပါစေဟူ၍နိဂုံးချုပ်ဆုတောင်းလိုက်ပါတယ် သာ ဓု အနုမောဒနာ ပြုကြပါမည့်အကြောင်းပါခင်ဗျား။

( ပုံ ) ဦးသွင်
ဥက္ကဋ္ဌ
နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့။

.... ....



ဒုလ္လဘ-ကိုရင်ကလေးကလည်း ဘခင်အောင်ဝင်းကို ဤသို့ကြင်နာယုယစွာ



အောင်ဝင်းတောခို၍နေသော်လည်း ဘခင်နှင့်ဇနီးတို့က ဘုရားကို မပေ့ကြသဖြင့် ရွှေတိဂုံ၌ ဤသို့



အောင်ဝင်းတောခို၍နေစဉ် - ဘခင်ကြီးကလည်း မြေးကလေး ရှင်ပြုရေးအတွက် ဘုန်းတော်ကြီးများနှင့် တိုင်ပင်ရှာသည်။

တလတကြိမ်ထုတ်ဝေသည်၊ စောင်ရေ ၁၀၀၀၀၊ အယ်ဒီတာ ဦးသာတင်
တယ်လီဖုံး - မြောက် (၃၉၂)၊ သာသနာ့ရိပ်သာ၊ ကုတ်ကိုင်း၊ ရန်ကုန်မြို့

ဗဦးဘာ-လ-စ ပုံနှိပ်တိုက်တွင် ရိုက်နှိပ်သည်၊

# သံဃာ့ယနာ

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှလစဉ်ထုတ်ဝေသည်၊ ၁၃၁၅-ခု၊ တပို့တွဲလ၊ အတွဲ-၁၊ အမှတ်-၁၁ [တစောင် ၂၅-ပြား]



သြဝါဒါစရိယ သံဃနာယကအဖွဲ့နှင့် ဝန်ဆောင်သံဃအဖွဲ့ နှစ်ဖွဲ့ပေါင်း
အစည်းအဝေးကြီးကျင်းပနေပုံ

၁၉၅၄–ခု၊ ဖေဖော်ဝါရီလ ၁၅–ရက်၊ ၁၆–ရက်နေ့များတွင် ရန်ကုန်မြို့သာသနာ့ရိပ်သာ ဖလ်ယဉ် ဓမ္မာရုံကြီး၌ မြန်မာတပြည်လုံးမှ သြဝါဒါစရိယ သံဃနာယကဆရာတော်ကြီးပေါင်း ၉၂–ပါးနှင့်ဆဋ္ဌသံဂါယနာဝန်ဆောင်သံဃအဖွဲ့ဝင်ဆရာတော်များပူးပေါင်း၍စည်းဝေးနေပုံ ဖြစ်ကြောင်း။

*
***
*

သတင်းအကျယ်ကိုအတွင်း၌ကြည့်ပါ။

# မီးပုံကြီးအတွင်းမှကြာပန်းကြာငုံကြီးလို

## မီးပုံကြီးအတွင်းမှ ကြာပွင့်ကြီးများပေါ်ပေါက်လာသည်

### ဩဝါဒါစရိယနှင့်ဝန်ဆောင်

ဖေဖေါ်ဝါရီလ ၁၅-ရက်နှင့် ၁၆-ရက်နေ့များတွင် ရန်ကုန်မြို့ သာသနာ့ရိပ်သာ ဗလီသဉ်မြေရုံကြီး၌ ကျင်းပခဲ့သွားတဲ့ ဆဋ္ဌသံဂါယနာ ဩဝါဒါစရိယ သံဃနာယကအဖွဲ့နှင့် ဝန်ဆောင် သံဃအဖွဲ့ နှစ်ဖွဲ့ပေါင်း အစည်းအဝေးကြီး အကြောင်းကို အစီရင်ခံလိုပါတယ်။

### ဆဋ္ဌသံဂါယနာအတွက်

ဤအစည်းအဝေးကြီးကျင်းပရခြင်း အကြောင်းမှာ လာမည့် ကဆုန် လပြည့်နေ့တွင် စတင်ကျင်းပတော့မည့် ဆဋ္ဌသံဂါယနာ မဟာသဘင်ကြီးကို ဘယ်လို ကျင်းပမည်၊ ပြည်တွင်း ပြည်ပမှ သံဃာတော်မည်မျှ ပင့်ဆောင်မည်စသော အရေးကြီးတဲ့ကိစ္စရပ်များကို ဆွေးနွေးဆုံးဖြတ်ရန်အတွက် ကျင်းပရခြင်းဖြစ်ပါတယ်။

### ဆရာတော်ကြီး ၉၂-ပါး

အဖွဲ့ဝင် သံဃာတော်ပေါင်း ၁၂၅-ပါးရှိသည်အနက် ရန်ကုန်မြို့ အပါအဝင် မြန်မာပြည် အရပ်ရပ်မှ ဆရာတော်ကြီးပေါင်း ၉၂-ပါး ကြွရောက် လာကြပါတယ်။

အထူးအားဖြင့် မန္တလေးမြို့နှင့် တကွ မန္တလေးမြို့မှအထက်ရှိမြစ်ကြီးနား၊ကသာ ရွှေဘို စသော ဒေသများမှ ဆရာတော်များကို မန္တလေးသို့ သင်္ဘော သို့မဟုတ် မီးရထားဖြင့် ပင့်ဆောင်ခဲ့ပါတယ်။ မန္တလေးမြို့မှတဖန် မန္တလေးမြို့ရှိ အဘိဓဇမဟာရဋ္ဌဂုရု ညောင်ရမ်း ဆရာတော်ဘုရားအမှူးရှိသော အဖွဲ့ဝင် ဆရာတော်များနှင့်အတူ သီးသန့်စီစဉ်ထားသောမီးရထားတွဲများဖြင့် ရန်ကုန်မြို့သို့ ပင့်ဆောင်ခဲ့ပါတယ်။ မန္တလေး ရန်ကုန် မီးရထားလမ်းတလျှောက်ရှိ အဖွဲ့ဝင် ဆရာတော်ကြီးများကိုလည်း ဤ မီးရထားဖြင့်ပင် တခါတည်း ပင့်ဆောင်ခဲ့ပါတယ်၊ ဤကဲ့သို့ ဩဝါဒါစရိယ သံဃနာယကအဖွဲ့ ဆရာတော်ကြီးများအား မီးရထားဖြင့်ပင့်ဆောင်လာတဲ့အခါ ဆိုင်ရာ ဘူတာများမှ ဆွမ်း ကွမ်းသည် ဆက်ကပ်လိုက်ကြတဲ့ ပုဂ္ဂိုလ်များကို နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က ကျေးဇူး တင်ရှိတဲ့အနေနဲ့ ဖော်ပြ အစီရင်ခံလိုပါတယ်။

### ရွှေမန်းမှရွှေကုန်သို့

(၁) ဆရာတော်ကြီးများ စတင်ကြွလာတဲ့ ဖေဖေါ်ဝါရီလ ၁၁-ရက်နေ့ နံနက် ငါးနာရီခွဲ အချိန်မှာ၊ မန္တလေး ဘူတာကြီးမှ ဝေနဆန်စက်ပိုင်ရှင် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ အမှုဆောင် လူကြီး ဦးပ်ဖို ဇနီးဒေါ်မြနှင့်သမီးတို့က ဆရာတော်ကြီးများအား လဘက်ရည် အချိုပေါင်မုန့်များကို ဆိပ်သား ဟင်းနှင့်တကွ ဆက်ကပ်လိုက်ကြပါတယ်။

(၂) ကျောက်ဆည်ဘူတာ ရောက်တဲ့အခါ၊ ကျောက်ဆည်ခရိုင်ဝန်အမှူးရှိတဲ့ ဗုဒ္ဓဘာသာ အသင်းအဖွဲ့များက လဘက်ရည်ကော်ဖီမုန့်ချိုမုန့်နှင့် ကွမ်း ဆေးများ ဆက်ကပ်ကြပါတယ်။

(၃) မြစ်သား ဘူတာ ရောက်ပြန်တော့ ဦးအောင်ဒေါ်အေးနှင့် ဦးစောလှ သားသမီး တစုတို့က ဘီစကွတ် မုန့်များ ဆက်ကပ်ကြပြန်ပါတယ်။

(၄) ကူမဲဘူတာဘွင်ဦးဘရီဒေါ်မမ တို့က ဘီစကွတ်မုန့်များ ဆက်ကပ် ပြန်ပါတယ်။

(၅) သာဇီ ဘူတာ ရောက်တဲ့အခါ မိတ္ထီလာခရိုင်ဝန် ဦးဘထိုက်ကြီးမှူးတဲ့ အသင်းအဖွဲ့ပေါင်းစုံတို့က နေ့ဆွမ်းနှင့် လဘက်ရည်အချိုမုန့်မျိုးစုံတို့ကို ဆက်ကပ်ကြပါတယ်။

(၆) သာစည်ဘူတာကျတော့ မိတ္ထီလာ ခရိုင်ဝန် ဦးဘထိုက်ကြီးမှူးတဲ့ အသင်းအဖွဲ့ ပေါင်းစုံတို့ကပင် ဘိလပ်ရည်များ ဆက်ကပ် ကြပါတယ်။ မွန်းလွဲအချိန် ဖြစ်သွားတဲ့အတွက် လဘက်ရည်နှင့် မုန့်များ မဆက်ကပ်လိုက်ကြရပါ။

(၇) ပျော်ဘွယ်ရောက်ပြန်တော့ အသင်း အဖွဲ့ ပေါင်းစုံတို့က ဘိလပ်ရည်များ ဆက်ကပ်ကြပြန်ပါတယ်။

(၈) ရမည်းသင်း ဘူတာ ရောက်တဲ့ အခါ နယ်ပိုင်ဝန်ထောက် ကြီးမှူးတဲ့ အသင်း အဖွဲ့များက ဘိလပ်ရည်နှင့် ကြံရည်များ ဆက်ကပ်ကြပြန်ပါတယ်။

(၉) ပျဉ်းမနား ဘူတာ ဆိုက်ပြန်တော့ နိုင်ငံတော် အစိုးရ အထက်တန်းကျောင်းသူ ကျောင်းသားများက အင်း အမှုတ်များဖြင့် ကြိုဆို ဖူးမျှော်ပြီး ဘိလပ်ရည်များ ဆက်ကပ် ကြပါတယ်။ ဈေးအဖွဲ့နှင့်တကွ တဦးချင်း ယကာဒါယိကာမ တို့ကလဲ ဘိလပ်ရည်များ အသီးသီး လှူဒါန်း ဘိုက်ကျွေးကြပါတယ်၊ နိုက်ဖိုးရေးဌာနနှင့် စစ်တပ်အဖွဲ့များက ဆရာတော်ကြီးများအားညဥ့်ကျိန်းကျက်ရာကျောင်းသို့ မော်တော်ယဥ်များဖြင့်လှူဒါန်းပင့်ဆောင်ပေးကြပါတယ်။

တဖန် ပျဉ်းမနားဘူတာမှာဘဲ နံနက် အချိန်ရောက်တဲ့အခါဦးစံလှ-ဦးမြ-ဦးဆိပ်-ဦးစံတင်-ဒေါ်လှထွန်း-မငြိမ်းခင် တို့က ဆွမ်းဟင်းလျာ များဖြင့်၎င်း၊ ဦးအလုံးက နို့ဖြင့်၎င်း၊ မီးရထား ဘူတာ အလုပ်သမားများကအိုဗါတင်ဖြင့်၎င်း အသီးသီး လှူဒါန်းကြပါတယ်။

(၁၀) တောင်ငူ ဘူတာ ရောက်တော့ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ဒေသကိုယ်စားလှယ် ဦးညွန့်နှင့်ဦးဘငြိမ်းအမှူးရှိတဲ့အသင်းအဖွဲ့များကကော်ဖီနှင့်မုန့်များ ဆက်ကပ်ကြပါတယ်။

(၁၁) ဇေယျဝတီ ဘူတာမှာတော့ သကြားစက်က ဘိလပ်ရည် ဆက်ကပ်ပြီး ဇလ်ခွက် တဒါဇင်လှူဒါန်း လိုက်ပါတယ်၊ သူကြီးအမှူးရှိတဲ့ လူထု အပေါင်း ကလနိုင် ၁၃-အိုင်မှာ မလိုင်မုန့်လုံး အပြည့် ထည့်ပြီး ငှက်ပျော ၁၃ ချောင်းနှင့်တကွ လှူဒါန်းလိုက်ကြပါတယ်။

(၁၂) ဖြူးဘူတာ ရောက်ပြန်တော့ နယ်ပိုင် ဝန်ထောက် အမှူးရှိတဲ့ အသင်းပေါင်း ၁၄-သင်းတို့က နေ့ဆွမ်း လဘက်ရည်အချို မုန့်နှင့် ကွမ်းဆေးများ ဆက်ကပ်လိုက်ကြပါတယ်၊ ထို့ပြင် ဆေးဆရာ အသင်းက ဆေးပုလင်းများဖြင့်၎င်း၊ သာသနာ့ဝေပုလ္လအသင်းက ဖရဲမုန့် ဖြင့်၎င်း၊ ရွှေမျိုးကုမ္ပဏီက လဘက်ခြောက်ထုပ်များ ဖြင့်၎င်း၊ ပရိယတ္တိသမဂ္ဂ အသင်း က နှမ်းမကင်းများဖြင့်၎င်း၊ မြေပါလအသင်းက ကျောက်ကျောတို့ဖြင့်၎င်း အသီးသီး ဆက်ကပ်လှူဒါန်းလိုက်ကြပါတယ်။

(၁၃) ကညွတ်ကွင်း ဘူတာ မှာတော့ အသင်းအဖွဲ့ပေါင်းစုံတို့က အတီး အမှုတ်များတီးမှုတ်ပြီး ဘိလပ်ရည်များလှူဒါန်းလိုက်ပါတယ်။

(၁၄) ပဲနွယ်ကုန်း ဘူတာကျတော့ နိဗ္ဗာန်ဆော် ဆွမ်းလောင်းအသင်းက ဘိလပ်ရည်များကို ပြွန်တံဆာ ဘူတာအထိ မီးရထားပေါ် လိုက် ပြီး ဆက် ကပ် ကြပါတယ်။

(၁၅) ကျောက်တံခါးဘူတာမှာ အသင်းအဖွဲ့ ပေါင်းစုံတို့က ဘိလပ်ရည်များ ဆက်ကပ် ကြပြန်ပါတယ်။

(၁၆) ညောင်လေးပင်ဘူတာကျတော့မီးသတ်အဖွဲ့နှင့် ဆရာဝန်ကြီး ဦးမြတ်ကျော်၊ ဦးခ အမှူးရှိတဲ့ အဖွဲ့များက ဘိလပ်ရည် ဆက်ကပ်ပြီး ဒေါ်ဝဇီက ရေခဲရည်အပြည့်နှင့် ရေအိုး ၂-လုံး လှူဒါန်းလိုက်ပါတယ်။

(၁၇) ပြွန်တံဆာ ဘူတာ ရောက်တဲ့အခါ ဦးကျင်ငှက်ကြီးမှူးတဲ့ မြို့မကြာ အသင်း၊ လေးအိမ်စု ကျောင်း သားဟောင်း အသင်း၊ ဈေးပိုင်းမြေစကြာအသင်းနှင့် ပွဲစားကြီးဦးအေးမောင်တို့ကဘိလပ်ရည်နှင့် ကွမ်း ဆေးများ ဆက်ကပ် ကြပါတယ်။

(၁၈) ပဲခူးဘူတာ ရောက်တဲ့အခါ၊ ခရိုင်ဝန် ဝည်သူ ဦးမောင်မောင် အမှူးရှိတဲ့အဖွဲ့များကဘိလပ်ရည်နှင့် ယပ်တောင်များ ဆက်ကပ်လိုက်ကြပါတယ်။



၁၃၁၃-ခု ပထမအကြိမ် ဩဝါဒါစရိယ သံဃနာယက အစည်းအဝေးကြီး၊ သာသနာ့ရိပ်သာတွင်ကျင်းပခဲ့စဉ်က

# ဆုတ်ကပ်တွင်ပွင့်တော်မူရတဲ့ဗုဒ္ဓဘုရား

## ခေတ်ဆိုးကြီးအတွင်းမှပေါ်လာတဲ့ဆဋ္ဌသံဂါယနာ

### ကမ္ဘာ့အေးစေတီသို့

(၁၉) ရန်ကုန် ဘုတာရောက်တော့ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ အုပ်ချုပ်ရေး အရာရှိဝဏ္ဏကျော်ထင် ဦးမိုးစိန်က ဘိလပ် ရည်များဆက်ကပ်ပါတယ်၊ အမှုဆောင် အဖွဲ့ဝင် ပုဂ္ဂိုလ်ကြီးများကလည်း အခြား အ သင်းအဖွဲ့များနှင့်အတူ ဘုတာမှာကြိုဆို ဖူး မြော်ပြီးလျှင်၊ ဆရာတော်ကြီး များ အား သီရိမင်္ဂလာကုန်းတော်ရှိ ဆဋ္ဌသံဂါယနာ အာဂန္တုဆောင်ကြီးသို့ပင့်ဆောင်သွားပါ တယ်၊ ပင့်ဆောင်တဲ့အခါ စကြာမောင် တော်ကုမ္ပဏီက ဖါးကိုး မော်တော်ယဉ် ကြီးတစင်းနှင့် အင်းစိန် မော် တော် ယဉ် သမဝါယမ မော်တော်ယဉ်ကြီး ၂-ခင်း လှူ ဒါန်းပါတယ်။

### အစည်းအဝေးကြီး

ထိုနောက် ဖေဖေါ်ဝါရီလ ၁၅-၁၆ ရက်နေ့များတွင်၊ အဆိုပါ ဩဝါဒါစရိယ သံဃနာယကအဖွဲ့နှင့် ဝန်ဆောင် သံဃ အဖွဲ့ ၂-ဖွဲ့ပေါင်း အစည်းအဝေးကို သာ သနာ့ရိပ်သာ ဓလယဉ်မှော်ရုံကြီး၌ကျင်းပ ရာ အဘိဓဇမဟာရဋ္ဌဂုရု ညောင် ရမ်း ဆရာတော်ဘုရားက သဘာပတိ အဖြစ် ဖြင့်၎င်း၊ ဗားကရာတောရ ဆရာတော် ဦးနာဂဝံသနှင့် ပိဋကလက်ာရ ဆရာတော် ဦးဝိသုဒ္ဓတို့က အတွင်းရေးမှူးများ အဖြစ် ဖြင့်၎င်း အသီးသီး ဆောင်ရွက်တော်မူကြ ပါတယ်၊

### အရေးကြီးသောဆုံးဖြတ်ချက်

ထိုအစည်း အဝေးကြီးတွင် ဆုံးဖြတ် တော်မူလိုက်တဲ့ အရေးကြီးသောဆုံးဖြတ် ချက်များမှာ၊ လာမည့် ကဆုန်လပြည့်နေ့ တွင် စတင်ကျင်းပမည့် ဆဋ္ဌသံဂါယနာ မဟာသဘင်ဖွင့်လှစ်ပွဲ အခမ်း အနားကြီးသို့ မြန်မာပြည်တွင်းမှရဟန်းတော် ၂၀၀၀- ပြည်ပထေရဝါဒနိုင်ငံများမှရဟန်းတော် ၅၀၀- ပေါင်း သင်္ဂီတိကာရက ရဟန်း တော် ၂၅၀၀- ပင့်ဆောင်ရန် ဆုံးဖြတ် တော်မူကြပါတယ်။

နောက်တချက်မှာ သံဂါယနာတင် ရန် သတ်မှတ်ထားသော ၂-နှစ် ကာလ အချိန်အတွင်းတွင် ဝါတွင်း သုံး လ နှင့် ကထိန်ခေတ်များကို နုတ်ပယ်၍ သန္နိပါတ ခေါ် အချိန်ပိုင်း ၅-ခုသတ်မှတ်ထားရှိရာ ထိုင်းရပ်သော သန္နိပါတ အသီးသီး သို့ မြန်မာပြည်တွင်းမှရဟန်းတော်၄၂၅-ပါး ပြည်ပထေရဝါဒနိုင်ငံများမှရဟန်းတော် ၇၅-ပါး ပေါင်းသင်္ဂီတိကာရက ရဟန်း တော် ၅၀၀-စီပင့်ဆောင် ရန် ဆုံး ဖြတ် တော်မူကြပါတယ်။

### ဝိနည်းပိဋက

သို့ဖြစ်၍လာမည့် ကဆုန်လပြည့်နေ့မှ ဝါဆိုလပြည့်ဘိုင်အောင် ပဌမ သန္နိပါတ ၂-လအတွင်းဝယ် သင်္ဂီတိကာရကရဟန်း တော်အပါး ၅၀၀-တို့က ဝိနည်း ပိဋက ပါဠိတော်ငါးကျမ်းကို ရွတ်ဘတ်တော် မူ ကြပြီး သံဂါယနာတင်ပါတော့မယ်။

### ပဲခူးသို့ဘုရားဖူး

ရင်းအစည်းအဝေးကြီးမှာ ၁၆-ရက် နေ့တွင် အောင်မြင်စွာပြီးဆုံး သွားတဲ့အ တွက်၊ ဖေဖေါ်ဝါရီလ ၁၇-ရက်နေ့နံနက် တွင် ဆရာတော်ကြီးများအား ပဲခူးမြို့သို့ ဘုရားဖူးရန် စကြာမောင်တော် ကုမ္ပဏီမှ ဖါးကိုး ကားကြီးဘစီး၊ အင်းစိန် မော် တော်သာဉ်သမဝါယမကားကြီး ၂-စီးပေါင်း ဘတ်စ်ကားကြီးသုံးစီးဖြင့် ပင့်ဆောင်ပေး ခဲ့ပါတယ်၊ လှည်းကူးနှင့် ပဲခူးအကြားအ သွားအပြန် လမ်းတလျှောက်တွင် လုံခြုံမှု အတွက် ပဲခူးရဲအဖွဲ့ ဝင်များကလိုက် လံ စောင့်ရှောက် ပေးကြပါတယ်၊ ဘုရားဖူး ကြွရောက်တော်မူသော ဆရာတော်ကြီး များအား စက်ရှင်ဘရားသူကြီး ဦး ထွန်း တင်၊ ခရိုင်ဝန်ကိုယ်စား မြို့ဝန်ထောက် ကြီး ဦးဘင်ဦး အမှူးရှိသောအရာရှိပေါင်း စုံတို့ကလည်း၊ ဂေါပက လူကြီးများကလည်း၊ သီရိမင်္ဂလာ ပရိက်တော်အဖွဲ့ဝင်များက လည်း၊ ရွှေမော်ဓော စေတီတော် စောင်း တန်းဦးမှကြိုဆို၍ ယပ်ပြင်တော် ညွှန်ခံ တန်ဆောင်းကြီးသို့ပင့်ဆောင် သွားကြပါ တယ်။ ထိုညွှန်ခံ တန် ဆောင်း ကြီး တွင် ဆန့်ဝန်ဦးလှထွန်းအမှူးရှိသောစက်ပိုင်ရှင် အသင်းက ဆွမ်းဘောဇဉ်များ ဆက်ကပ် လှူဒါန်းကြပါတယ်။

ဘဏ္ဍာတော်ထိန်းအဖွဲ့ ပင်လုံကြီး များ၊ စက်ရှင်မင်းကြီးရုံးနှင့် ခရိုင်ဝန်ရုံးသူ ရုံးသားများက ဆွမ်းဘောဇဉ် ချက်ပြုတ ရေးစသည့် ဝေယျာဝစ္စ လုပ်ငန်းများကို ဆောင်ရွက် လှူဒါန်းကြပါတယ်၊ ဆရာ တော်ကြီးများသည် ရွှေမော်ဓော စေတီ တော်၊ ဟင်္သာကုန်း၊ ရွှေသာလျောင်းနှင့် ကလျာဏီသိမ်တော်ကြီးကို ဖူးမြော်ကြည် ညိုပြီးနောက် ရန်ကုန်မြို့သို့ ပြန်ကြွလာကြ ပါတယ်။

ဤကဲ့သို့ ဆရာတော်ကြီးများ အတွက် ဆွမ်း ဘောဇဉ်အဖျော်စသည် ဆက်ကပ် ခြင်း၊ ဝေယျာဝစ္စလှူဒါန်းခြင်း စသည်ဖြင့် ဝိုင်းဝန်းကူညီကြသူဖေါ်ပြရာပါပုဂ္ဂိုလ် အ ပေါင်းတို့အား နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့က အထူးကျေးဇူးဥပကာရ တင်ရှိပါ ကြောင်း ဖေါ် ပြ လျက် နိဂုံးချုပ်လိုက်ပါ တယ်ခင်ဗျား။ ။(အုပ်ချုပ်ရေး အရာရှိ ချုပ်ဦးစိန်မောင် အသံလွှင့်ချက်မှ)

***

## သံဃနာယက အစည်းအဝေးကြီး၌

## သဘာပတိညောင်ရမ်းဆရာတော်မိန့်ခွန်း



ညောင်ရမ်း၊ ဆရာတော်ပုံ

### အထင်အရှားတွေ့ရပါသည်

ဆဋ္ဌသံဂါယနာ ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်ကြီး များနှင့် နိုင်ငံတော်ဩဝါ ဒါစရိယ ဆရာတော်ကြီး နှစ်ဖွဲ့ပေါင်း ကျင်းပအပ်သည့် ယခု အစည်းအဝေးကြီး က သဘာပတိ ပြုလုပ် ဆောင်ရွက်ရန် အမိန့်ပေးသည် ဖြစ်သောကြောင့် တပည့် တော် အထူးဝမ်းမြောက်စွာကျေးဇူးတင် ရှိပါသည်ဘုရား၊ ကြွရောက်တော်မူလာ ကြသောဆရာတော်ကြီးများသည် သဗ္ဗညု ဘုရားရှင်၏ သားတော်များပီပီ အဂတိ လေးပါး မလိုက်စားမူ၍ ဆဋ္ဌသံဂါယနာ ကိစ္စကြီးနှင့် တကွ သာသနာတော်အရေး များကို အသက်စွန့်ပြီး ဆောင်ရွက်တော် မူကြရန် ရည်သန်ပြုလုပ် အားထုတ်တော် မူခဲ့ ကြကြောင်း ကို တပည့် တော် များ အထင်အရှားတွေ့မြင်ရပါသည်။

### မီးပုံကြီးလယ်-ကြာပန်းနှယ်

ဆရာတော် ဘုရားကြီးများသိရှိတော် မူပြီး ဖြစ်တဲ့ အတိုင်း၊ တပည့်တော်တို့ မြတ်စွာ ဘုရားရှင်ဟာ၊ မီးပုံထည်းမှ အဆင်းအနံ့အရသာနှင့် ပြည့်စုံတဲ့ ကြာငုံ ကြာပန်းများပွင့်ဘိသကဲ့သို့၊ ယခုလို ကလိ ယုဂ်မှာ ပွင့်တော် မူလာရတာဟာ အင် မတန် ဇုံကြားဖွယ် ကောင်းလှပါတယ်၊ ခေတ်ကာလ မနိုင်မာ မကောင်းမွန်တဲ့ အချိန်အခါထည်းမှာ ပွင့်တော်မူလာတာ ဟာ အင်မတန် အံ့ဩဖွယ် ကောင်းပြီး သတ္တဝါများ အဘို့ အင် မတန်ဘဲ ကံ ကောင်းကြတယ်လို့ဆိုရပေမယ်။

### ယုဂ်လေးပါး

ကတယုဂ် ခေတ်အခါတွင်၊ အခြေ လေးချောင်းရှိသော သတ္တဝါသည် အခြေ လေးချောင်းကို နိုင်မြဲစွာ ထောက်ဘိ သကဲ့သို့ သတ္တဝါအားလုံးတို့ဟာ သီလ သမာဓိစသောသူတော်ကောင်းတရားတို့ နှင့်ပြည့်စုံပြီးသကာလအကျင့်ယုတ်သေါ မသူတော်တို့ လုံးဝ မရှိဖြစ်ကြပါတယ်။ ဒွာပရယုဂ် ခေတ် အခါမှာ ဆိုလျှင်၊ အခြေလေးချောင်းရှိသော သတ္တဝါသည်၊ အခြေသုံးချောင်းသာထောက်ဘိသကဲ့သို့၊ သတ္တဝါတို့ဟာလဲ လေးပုံ ပုံလျှင် သုံးပုံ သော သတ္တဝါများဟာ အကျင့်သီလနှင့် ပြည့်စုံ ငြကြည်ကြပြီးတပုံသော သတ္တဝါ တို့ကတော့ မသူတော်အလုပ်၌ မွေ့ပျော်ကြပေတယ်၊ ဒွါပရယုဂ် ခေတ် အခါမှာ ဆိုလျှင်လဲ၊ အခြေ လေးချောင်း ရှိသော သတ္တဝါသည် အခြေ နှစ်ချောင်းသာ ထောက်ဘိသကဲ့သို့၊တဝက်သောသတ္တဝါ တို့သည်သာလျှင် အကျင့် သီလနှင့် ပြည့်စုံကြ၍ တဝက်သော သတ္တဝါတို့ကတော့ အကျင့်မရှိ သီလမရှိဘဲ ယုတ်ညံ့သော မသူတော် တရားတို့၌သာ တည်ရှိနေကြ ပေတယ်၊ ကလိယုဂ်ခေတ်ကာလအခါမှာ ဆိုလျှင်ဖြင့်၊ အခြေ လေးချောင်းရှိသော သတ္တဝါသည် အခြေ တချောင်းသာ ထောက်ထားဘိ သကဲ့သို့ လေးပုံ ပုံလျှင် တပုံသော သတ္တဝါတို့သာ သူတော် ကောင်း တရားကို ကျင့်ကြံ အားထုတ် ပွားများကြပြီး၊ လေးပုံ ပုံလျှင် သုံးပုံသော သတ္တဝါတို့က သီလကိုလဲမဆောက်တည် သမာဓိတရားလဲမရှိအကျင့်ပျက်ပြီးဖြစ်ချင် တိုင်း ဖြစ်နေကြပေ တယ်၊ အဲသည်လို အင်မတန် ဆိုးဝါးတဲ့ ခေတ်အခါ၊ ကလိ ယုဂ် ဆုတ်ကပ်ထည်းမှာ တပည့်တော်တို့ ဂေါတမ ဗုဒ္ဓ ရှင်တော်ဘုရား ပွင့်တော် မူလာခြင်းသည် မီးပုံအတွင်းမှ ကြာရွယ် ကြာပန်းများပေါက်ရောက်လာဘိသကဲ့သို့ အင်မတန်မှလဲ အံ့ဩဘို့ ကောင်းတယ်၊ သတ္တဝါများ အတွက်လဲ အထူး ကုသိုလ် ကောင်းတယ်လို့ဆိုရမယ်။

### ခေတ်ဆိုးကြီးအကြားမှ

ယခု မြန်မာနိုင်ငံတော်ကြီးမှာ ဆိုလျှင် ခေတ်ကာလကလဲ မကောင်းခြင်း၊ သူပုန် များကလည်း ထကြွ သောင်းကျန်းလျက် ရှိခြင်း၊ ဥစ္စာပစ္စည်းများဆုံးပါးပျက်စီးခြင်း စသောအခြေအနေအကြားမှ၊ နိုင်ငံတော် အစိုးရနှင့် တိုင်းသူ ပြည်သားများဟာ စေတနာ သဒ္ဓါတရား ထက်သန်စွာဖြင့် ဆဋ္ဌသံဂါယနာ ကိစ္စကြီးကို ကြီးကျယ် ခမ်းနားစွာ တင်နိုင်အောင်လို့ အင်မတန် ကြီးကျယ်တဲ့ အဆောက် အဦကြီးတွေ- လိုဏ်ဂူကြီးတွေ- စာပုံနှိပ် တိုက်ကြီး တွေ

ဆောက်လုပ် နေကြ ... သံဂါယနာနှင့် ပတ်သက်၍ ဘုန်းတော်ကြီးတွေ သီတင်းသုံးနိုင်အောင် အာဂန္တုကကျောင်း ဆောင်ကြီးတွေဆောက်လုပ်နေတာကိုလ ဆရာတော်ဘုရားကြီးများ သိတော်မူကြပြီးဖြစ်တဲ့ အတိုင်း အင်မတန် ကြီးကျယ်နိုင်ခန့်လှ ပါပေတယ်၊ ဒါကြောင့် မီးပုံအဘွင်းမှ ကြာပန်းများ ပေါက်ရောက်ဘိသကဲ့သို့၊ အနိုင်အခါ မကောင်းတဲ့ ကာလ ယုဂ် ထည်းမှာ တပည့်တော်တို့ ဗုဒ္ဓ ရှင်တော်ဘုရား ပွင့်တော်မူလာခြင်းသည် အံ့သြဘွယ်ရာကောင်းဘိသကဲ့သို့၊ ထိုနည်းအတူပင် အခါသမယ မငြိမ်မသက်သည့် ကြားထည်းမှ နိုင်ငံတော်အစိုးရနှင့် တိုင်းသူပြည်သား အပေါင်း တို့၏ သဒ္ဓါတရား ထက်သန်စွာဖြင့် ... ပစ္စည်းအာ များ ... သည့်ဆဋ္ဌ သံဂါယနာတင်ပွဲကြီး ကျင်းပ နိုင်အောင် ကြိုးစား ဆောက်လုပ်ကြခြင်းသည်လည်း မီးပုံဘွင်းမှ ကြာပန်းကြာသွယ်များ ငွါးငွါး စွင့်စွင့်ပေါ်ထွက်လာဘိသကဲ့သို့အင်မတန် အံ့သြဘွယ် ကောင်းလှပါတယ် ဘုရား။ ထိုနည်းအားဖြင်းပင်၊ ဆဋ္ဌသံဂါယနာတင်ရန် စီစဉ် ဆောင်ရွက်လုံးပမ်းပြီး ဤရိယ စိုက်ထုတ် နေချိန်မှာ၊ ပိဋကတ် သုံးပုံကို နှုတ်ငုံ ဆောင်နိုင်ဘဲ့ မဗ္ဗ ဘဏ္ဍာဂါရိက ပုဂ္ဂိုလ်အကျော်၊ မင်္ဂွန်က ထွက်ပေါ်လာခြင်း ဟာလဲ အင်မတန်မှ အံ့သြဘွယ် ကောင်းပြီး တတိုင်းတပြည်လုံး ကုသိုလ် ထူးတယ်လို့ဆိုရပေမယ်။

## နွမ်းနယ်မှုကို မငဲ့မူ၍

ယခုကြွရောက်တော်မူလာကြတဲ့ဆရာတော်ဘုရားကြီးများတွင် တချို့ သက်တော် ၆၀-၇၀-၈၀- စသည် အားဖြင့် သိက္ခာတော် ကြီးရင့်ကြပြီ ဖြစ်ကြသော်လည်း သာသနာတော် အရေးကိစ္စနှင့် ပတ်သက်၍ အင်မတန် ထူးကဲသည့် ဆဋ္ဌ သံဂါယနာကို အောင်မြင်စွာ တင်နိုင်ရေး အတွက် ကိုယ်စိတ်နှစ်ပါး၏ နွမ်းနယ်မှုကို ငဲ့ကွက်ခြင်းမရှိ ကြွရောက်ဆောင်ရွက် လုံးပမ်းတော်မူကြခြင်းကို တပည့်တော်ဖြင့် အထူးဘဲကျေးဇူးတင်သည့်ပြင် အင်မတန် ဝမ်းမြောက် ရွှင်လန်းခြင်း ဖြစ်မိ ပါတယ် ဘုရား။

## ပဌမသံဂါယနာ

သံဂါယနာ တင်တော်မူကြရခြင်း၏ ရှေးအကြောင်း များကို ဆင်ခြင် ကြည့်ရှုလိုက်မယ် ဆိုရင် ပဌမ သံဂါယနာကို သုဘဒ္ဒ မည်သော တောထွက် ရဟန်းကြီး အတွက် ရဟန်းတော်များ အကျင့် သီလ မပျက်စီးရန် အရှင်မဟာကဿပ ရဟန္တာ အရှင်မြတ်ကြီးမှူး၍ရဟန္တာပေါင်း-၅၀၀ နှင့် ပဌမ သံဂါယနာ တင်ခဲ့တော် မူကြပေတယ်။

## ဒုတိယ သံဂါယနာ

ဒုတိယ သံဂါယနာကို ဝေသာလီပြည် ဝဇ္ဇီတိုင်းသား ရဟန်းတော်များ၏ သိက္ခာ စောင့်ရှောက်ခြင်း လွဲမှားမှုကို အကြောင်းပြု၍ ရဟန္တာအရှင်မဟာယသ ကြီးမှူးပြီး ရဟန္တာ - ၇၀၀-နှင့် ဒုတိယ သံဂါယနာကို တင်တော်မူခဲ့ကြတယ်။

## တတိယ သံဂါယနာ

တတိယ သံဂါယနာကို သံဃာတော်များဂိုဏ်းကွဲခြင်းကို အကြောင်းပြု၍ အရှင်မဟာမောဂ္ဂလိ ပုတ္တ တိဿ ကြီးမှူးပြီး ရဟန္တာအရှင်မြတ်-၁၀၀၀-နှင့် တတိယ သံဂါယနာကို တင်တော်မူခဲ့ကြပေတယ်။

## စတုတ္ထ သံဂါယနာ

စတုတ္ထ သံဂါယနာကို အရှင်မဟာ ဓမ္မရက္ခိတကြီးမှူးပြီး ရဟန်း တော်ပေါင်း ၅၀၀-ကျော်နှင့် တင်တော် မူခဲ့ကြပေတယ်။

## ပဥ္စမသံဂါယနာ

ပဥ္စမ သံဂါယနာကိုတော့ ပိဋကတ်တော်မူများ ကွဲလွဲနေခြင်းကို အကြောင်းပြု၍ဇာဂရာဘိဝံသ ဘုရားကြီးဆရာတော် အမှူးပြုပြီး သံဃာတော် အရှင်မြတ် ၂၄၀၀ - ကျော်နှင့် မန္တလေး မြို့မှာ ကျောက်ထက်အက္ခရာ တင်တော် မူခဲ့ကြပါတယ်။

## ရှေးမှုကို မပယ်

တပည့်တော်တို့ ယခုလို ဆဋ္ဌသံဂါယနာ တင်ရခြင်း၏ အကြောင်းရင်း ကို လှော်ကြည့်မယ်ဆိုလျှင် တပည့်တော်တို့ တိုင်းပြည်နှင့် လူမျိုးဟာ သူတပါး၏ အုပ်စိုးခြင်းကို နှစ်ကြာရှည်စွာခံရပြီး သာသနာရေး ဘာသာရေးများမှာ သေးသိမ်ဂုဏ်ငယ် ခဲ့ရသည့်ပြင် ပိဋကတ်တော်များဟာလဲ မူအမျိုးမျိုး ကွဲပြားပြီး ချို့ယွင်း လာခဲ့တဲ့အတွက် ထေရဝါဒ ဗုဒ္ဓ ဘာသာ နိုင်ငံများမှာရှိတဲ့ ပိဋကတ်တော် မူအမျိုးမျိုးနှင့် တိုက်ဆိုင်ညှိနှိုင်းပြီး ဘုရားရှင်၏ ပိဋကတ်တော် စင်ကြယ်စွာ တမူတည်း ဖြစ်ရေးအတွက် ဖြစ်ပါတယ်ဘုရား သို့ရာတွင် မူကွဲအမျိုးမျိုးတို့ကို တိုက်ဆိုင်ညှိနှိုင်း ရာမှာ ရှေးပေထက် အက္ခရာ ကျောက်ထက်အက္ခရာများကိုပစ်ပယ်ခြင်း အလျှဉ်းမရှိ ထိုပေထက်အက္ခရာ ကျောက်ထက်အက္ခရာများကို မူတည်ပြီး တည်းဖြတ်ညှိနှိုင်း တိုက်ဆိုင် ခြင်းသာ ဖြစ်ပါတယ် ဘုရား။

## သုတ်သင်ပုံ စံနစ်များ

သည်လို ပိဋကတ်တော်များကို တမူတည်းဖြစ်အောင် တည်းဖြတ် သုတ်သင်ရာမှာ ပဌမ မြန်မာပြည်တဝှမ်းလုံး မြို့နယ် အသီးသီးရှိ ဝိသောဓက ၁၁၅-ဌာနသို့ တာဝန်ယူတဲ့ ပိဋကတ်တော်မူ အမျိုးမျိုး ကိုခွဲဝေပို့ပေးပြီးနောက် သည်ဝိသောဓက အဖွဲ့များက ရှင်းလင်းသုတ်သင် တည်းဖြတ်ပြီး ပိဋကတ်တော်မူများကို သီဟိုဠ်ဆရာတော်-၃-၄-ပါး မြန်မာဆရာတော် ၃-၄-ပါး ယိုးဒယားဆရာတော်များ ပါဝင်တဲ့ ပဋိဝိသောဓက အဖွဲ့များက သည် ဓမ္မာရုံကြီးမှာ တဖန်ထပ်မံညှိနှိုင်း သုတ်သင် တည်းဖြတ် ကြပြန်ပါတယ် အဲသည်လို တည်းဖြတ်တဲ့ အခါမှာ အချို့နေရာတွေအတွက် သီဟိုဠ် ဆရာတော် များနှင့် မြန်မာ ဆရာ တော်များ တော်တော်ကလေး အငြင်းပွားကြရတယ် တခါ တလေ မြန်မာဆရာတော်တွေက လျှော့ပေးရပါတယ် တခါတလေ သီဟိုဠ် ဆရာတော်များက လျှော့ပေးပါတယ် သည်လို မူကွဲအမျိုးမျိုးနှင့် ညှိနှိုင်း တိုက်ဆိုင် လေလေ ပိဋကတ်တော် များဟာ ဘုရားရှင် အလိုတော်ကျသန့်ရှင်းလေလေ ဖြစ်တယ် ဆိုတာ ဆရာတော် ကြီးများ သိရှိတော်မူကြပြီး ဖြစ်ပါတယ်ဘုရား စာတအုပ်ကို တခါတလေ တလလောက်ညှိနှိုင်း တိုက်ဆိုင်ရတာရှိပါတ ... သည်လို ... မှာလဲ ပိဋကတ်သုံးပုံကို အကုန် ပြန်ကြည့်ရသလို ကြည့်ပြီးမှ သုတ်သင် ရပါတယ်။ အဲသည် ပဋိဝိသောဓက အဖွဲ့မှာ ဆရာတော်များ အပါး ——— ရှိပါတယ် သည်ဝိသော ဓက ပဋိဝိသောဓက အဖွဲ့များကို တပည့်တော်တို့ ဝန်ဆောင်သံဃာအဖွဲ့က အာဏာနှင့် အတင်းအကြပ် လုပ်စေတာ မဟုတ်ပါဘူးဘုရား နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော် ကြီးများ၏ အညွှန်အဝေးများတွင် ချမှတ်တော် မူခဲ့ကြသော အခန့်များအရ တပည့်တော်များ ဝန်ဆောင်သံဃာအဖွဲ့က ဆောင်ရွက် ပြုလုပ်ရခြင်း ဖြစ်ပါသည်ဘုရား။

***

## သံဃနာယက အစည်းအဝေးကြီး၌

# ရွှေနေချုပ်ကြီး ဦးချန်ထွန်း လျှောက်ချက်



ရှေ့နေချုပ်ကြီး ဦးချန်ထွန်းမှု

## ဝမ်းသာကြပါသည်ဘုရား

သံဃနာယက ဆရာတော် ဘုရားကြီးနှင့် ဆရာတော်ဘုရား အားလုံးတို့အား တပည့်တော် ရိုသေလေးမြတ်စွာ လျှောက်ထားအသနားတော်မြတ်ခံပါသည်ဘုရား၊ ယခုလိုပင်ပန်းနွမ်းနယ်ခြင်းကိုဂရုမထားပဲ သာသနာတော်ရဲ့ အကျိုးကိုသာ လျှင် ထောက်ထားပြီး သံဂါယနာ ကိစ္စနှင့် ပတ်သက်၍ အရပ်ရပ်မြို့ဘွယ်ရာ အပေါင်း တို့ကို ဆွေးနွေးတိုင်ပင်ဩဝါဒပေးနိုင်ရန် အလို့ငှါ မြန်မာနိုင်ငံ အရပ်ရပ်မှ ကြွလာတော် မူကြတဲ့ ဩဝါဒါစရိယ သံဃနာယကဆရာတော်ဘုရားများ၊ ဆဋ္ဌ သံဂါယနာ ဝန်ဆောင် အဖွဲ့ဝင် ဆရာတော်ဘုရားကြီးများ၊ ပြီးတော့ သီဟိုဠ်ကျွန်းက ခရီးအတန်တန် ဒုက္ခခံ၍ ကြွလာတော်မူကြတဲ့ ဆရာတော်ဘုရားများကို တပည့်တော်တို့ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ဝင်များက ဖူးမြင်ရတဲ့အတွက် အထူးပဲ ဝမ်းမြောက် ဝမ်းသာဖြစ်ကြရပါတယ်ဘုရား။

## အချိန်နီးကပ်နေပါပြီ

ယခုကဲ့သို့ ဆရာတော် ဘုရားကြီးများ ကြွရောက်စုဝေးရတဲ့ အကြောင်းကတော့၊ ဆရာတော်ဘုရားကြီးများ သိရှိတော်မူပြီး ဖြစ်တဲ့ အတိုင်း ဆဋ္ဌသံဂါယနာ တင်ဘို့ ကိစ္စဟာ အချိန်အလွန်ပဲ နီးကပ်လာပါပြီ ဘုရား၊ သည်လို နီးကပ်လာတဲ့ အတွက် ကြောင့်ယခုကတည်းကဆောင်ရွက်ဘွယ် ကိစ္စအဝဝကို စီမံတိုင်ပင်ရေးဆွဲထားရန် လိုသဖြင့်ယခုကဲ့သို့ အစည်းကြီးနှစ်ခုပေါင်းပြီး စည်းဝေးခြင်း ဖြစ်ပါတယ်ဘုရား။

## ဆောင်ရွက်ခဲ့ပါပြီ

ဆရာတော်ဘုရားကြီးများ၏ သုံးကြိမ်မြောက်အစည်းအဝေးက ချမှတ်ခဲ့တဲ့ ဆုံးဖြတ်ချက် ဩဝါဒ များကို တပည့်တော်တို့ ဗုဒ္ဓသာသနာ အဖွဲ့က တတ်နိုင်သမျှ ကြိုးစားပြီး ပြီးမြောက်အောင်ဆောင်ရွက် ခဲ့ပြီးဖြစ်ပါတယ်ဘုရား။

## ဗုဒ္ဓသာသနာ အဖွဲ့ဆိုတာ

ဆရာတော် ဘုရားကြီးများ သိတော်မူတဲ့အတိုင်း တပည့်တော်တို့ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးဟာ နိုင်ငံတော် အစိုးရက တာဝန် လွှဲအပ်ထားတဲ့ အတိုင်း သံဂါယနာကိစ္စကို လုပ်ကိုင်ဒါယကာ အဖြစ် ဆောင်ရွက်ရန် တာဝန်ရှိသမျှ အကြွင်းမဲ့ ထမ်းဆောင်ပြီးနေတဲ့အဖွဲ့ကြီး ဖြစ်ပါတယ်ဘုရား။ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ဆိုတာ ဆရာတော်ဘုရားကြီးများ သိတော် မူပြီး ဖြစ်တဲ့ အတိုင်း ပါလီမန်က အက်ဥပဒေဖြင့် ဖွဲ့စည်းထားတဲ့ အဖွဲ့ကြီး ဖြစ်ပါတယ်ဘုရား၊ ပြီးတော့လဲ သည်အဖွဲ့ကြီးမှာ သံဃာကိုယ်စားလှယ် ၃-ဦး ပါဝင် ပါတယ်ဘုရား၊ ပြီးတော့ အစိုးရ၏ ကိုယ်စားလှယ် အဖြစ်နှင့် သာသနာရေး ဝန်ကြီးနှင့်တကွ အားလုံး ၉-ဦးပါဝင်တဲ့ အဖွဲ့ကြီးဖြစ် ပါတယ်ဘုရား၊ ပြီးတော့လဲ ပြည်ထောင်စုတခုလုံးမှာရှိသမျှ သာသနာရေးဆိုင်ရာ အသင်းအဖွဲ့များရဲ့ ကိုယ်စားလှယ်လဲ ၉-ဦးပါဝင်တဲ့အဖွဲ့ကြီးလဲ ဖြစ်ပါတယ်ဘုရား၊ ဗုဒ္ဓသာသနာ အမှုဆောင်အဖွဲ့မှာကိုယ်စားလှယ်ပေါင်း ၂၇-ဦးပါဝင်ပြီး သံဃာကိုယ်စားလှယ်-အစိုးရကိုယ်စားလှယ်-တိုင်းပြည်ကိုယ်စားလှယ်များဖြင့် ဖွဲ့စည်းထားတဲ့ အဖွဲ့ကြီး ဖြစ်ပါတယ်ဘုရား။

## တည်းဖြတ်ကြပုံ

ဆောင်ရွက်ဘွယ်ကိစ္စများ ယနေ့အထိ ပြီးစုံ အောင်မြင်ခဲ့သမျှ အခြေ အနေကို

(စာမျက်နှာ ၁၇ သို့ ဆက်ကြည့်ပါ)

# တိပိဋကဓရချီးကျူးပွဲကြီး

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့မှ

## ဗုဒ္ဓသာသနတိပိဋကဓရမဟာတိပိဋကကောဝိဒ

နိုင်ငံတော်အစိုးရက

## ဘဒ္ဒန္တဝိစိတ္တသာရတိပိဋကဓရဓမ္မဘဏ္ဍာဂါရိက

ဘွဲ့တံဆိပ်တော်များ ဆက်ကပ်ခြင်း



အရှင်ဝိစိတ္တအား
ဆက်ကပ်သည့် တံဆိပ်တော်



အရှင်ဝိစိတ္တအားဆက်ကပ်သည့် အရိုးဝါကနကဘက်ထီးဖြူ ၃ လက်ပါသည့်
သာသနာ့အောင်လံတော်



အရှင်သောဘိတအား
ဆက်ကပ်သည့် တံဆိပ်တော်

## သမတအိမ်တွင်

၁၉၅၄-ခုနှစ်၊ ဖေဖေါ်ဝါရီလ ၁၃ ရက်၊ စနေနေ့တွင် နိုင်ငံတော်သမတကြီး၏ အိမ်တော်၌၊ ဆဋ္ဌ အကြိမ်မြောက် တိပိဋကရေ ရွေးချယ်ပွဲတွင် အောင်မြင်တော်မူကြသော (၁)အရှင်ဝိစိတ္တသာရဘိဝံသ (တိပိဋကဓရ) နှင့် (၂) အရှင်သောဘိတာဘိဝံသ(အင်္ဂုတ္တရဘာဏက)။

အာဇာနည်ပုဂ္ဂိုလ်ထူးနှစ်ပါးတို့အား ချီးကျူးရန် အခမ်းအနားကို နိုင်ငံတော်သမတကြီး၏ အိမ်တော်၌ ကျင်းပပြုလုပ်ရန်၊ ၁၃၁၅-ခုနှစ်၊ တပို့တွဲလဆန်း ၁၀ ရက်၊ (၁၃-၂-၅၄) စနေနေ့ နံနက် ၈-နာရီနှင့် ၁၅-မိနစ်အချိန်တွင်၊ နိုင်ငံတော် သမတကြီး၏ကိုယ်စား သာသနာရေးဝန်ကြီးက နိုင်ငံတော် သမတကြီး၏ ဆွမ်းစားပင့်စာကို ယူဆောင်၍ အာဇာနည်ပုဂ္ဂိုလ်နှစ်ပါး သီတင်းသုံးရာ၊ သာသနာ့ရိပ်သာသို့ သွားရောက် ပင့်ဆောင်လေသည်။ သာသနာ့ရိပ်သာသို့ ရောက်သောအခါ၊ သာသနာရေးဝန်ကြီးက ဆွမ်းစားပင့်လျှောက်လွှာကို ဘတ်ကြား၍၊ ဆရာတော် အရှင် ဝိစိတ္တသာရာ ဘိဝံသအား ဆက်ကပ်လေသည်။

## ရိပ်သာမှအိမ်တော်သို့

နံနက်၈-နာရီ မိနစ် ၄၀၊အချိန်၌၊ မော်တော်ယာဉ်များသည် အောက်ဖေါ်ပြပါအစီအစဉ်အတိုင်း သာသနာ့ရိပ်သာမှ နိုင်ငံတော် သမတကြီး၏ အိမ်တော်သို့ (က) လမ်းပြ မော်တော်ဆိုင်ကယ်များ။ (ခ) စည်တော်ကား။ (ဂ) သာသနာရေးဝန်ကြီး၏မော်တော်ကား။(ဃ)အရှင်ဝိစိတ္တသာရာဘိဝံသ စီးသော နိုင်ငံတော် သမတကြီး၏ ကက်ဒီလက် မော် တော်ကား (အမိုးချ၍နောက်ထိုင်ခုံတွင်၊ အရှင်ဝိစိတ္တသာရာဘိဝံသအား ထီးဖြူမိုးလျက်၊ ရှေ့ထိုင်ခုံတွင် အိမ်တော်ဝန်)။ (င)အရှင်သောဘိတာဘိဝံသ စီးသော နိုင်ငံတော်ဝန်ကြီးချုပ်၏ မော်တော်ကား (နောက်ထိုင်ခုံတွင် အရှင် သောဘိတာဘိဝံသ၊ရှေ့ထိုင်ခုံတွင် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ အုပ်ချုပ်ရေး အရာရှိချုပ် ဦးစိန်းမောင်။ (စ) ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ ဆာ-ဦးသွင်၏ မော်တော်ကား။(ဆ)မြို့တော်ဝန်၏ မော်တော်ကား။ (ဇ)အစိုးရဌာနဆိုင်ရာ အကြီးအကဲများ၏ မော် တော်ကားများ။ (ဈ) အခြား အရာရှိများ၏ မော်တော်ကားများ။ (ည) အခြားမော်တော်ကားများ စသည်ဖြင့် အစီ အစဉ် ကျနစွာပြုလုပ်၍၊ သာသနာ့ရိပ်သာမှ ကုက္ကိုင်းလမ်း၊ ကိုယ့်မင်း ကိုယ့်ချင်းလမ်း၊ ဗဟန်းလမ်း၊ ကန်လမ်းနှင့် အလုံလမ်းများမှနေ၍၊ နိုင်ငံတော် သမတကြီး၏ အိမ်တော်သို့ပင့်ဆောင်ကြလေသည်။

## မုခ်ဝမှအိမ်တော်သို့

သမတ အိမ်တော်သို့ဝင်ရန် မုခ်ဝမှ ရာဇမတ်ကာရံထားသော လမ်းသို့ရောက်လျှင် နိုင်ငံတော် သမတကြီးသည်သမတ အတွင်းဝန်၊ လက်ထောက် အိမ်တော်ဝန်၊ ကိုယ်ရံတော်ဗိုလ်များ၊ သာသနာရေးဝန်ကြီးဌာန၊ ပါလီမန်အတွင်းဝန် သီရိပျံချီ ဦးသန်းစိန်၊ သာသနာရေး အထူးအရာရှိ ဦးဘဆွေတို့နှင့်အတူ စာအောင်ပုဂ္ဂိုလ်တို့အား ခရီးဦးကြိုဆို၍၊ သမတ အိမ်တော် ပလ္လင် ခန်းမဆောင်သို့ ပင့်ဆောင်ကြလေသည်။

သမတအိမ်တော် ပလ္လင်ခန်းမဆောင်သို့ဆိုက်ရောက်လျှင်၊ ကြွလာကြသောဧည့်သည်တော်များက ဦးချကန်တော့ကြလေသည်။ ၎င်းနောက် စာအောင်ပုဂ္ဂိုလ်များအား သီဟာသနပလ္လင်ရှေ့ရှိ မွေ့သနပလ္လင် ပင့်သံဃာ ၂၈-ပါးအလယ်သို့ပင့်ဆောင်ကြလေသည်။



သမတ အိမ်တော်တွင် ချီးကျူးပွဲကျင်းပနေစဉ်

## ချီးကျူးပူဇော်ပွဲ

ချီးကျူးပူဇော်ပွဲ အခမ်း အနားကို ၉-နာရီ ၁၀ မိနစ်အချိန်တွင် ဇယမင်္ဂလာဂါထာတော်ဖြင့် သုဓမ္မဝတီ ဦးပန်းမောင် ကဖွင့်လှစ်လေသည်။

ထို့နောက် စာအောင်ပုဂ္ဂိုလ်များထိုင်နေသော စာမြေပလ္လင်နှင့် ကနကဘက်ထီးတော်ကိုအောင်သပြေရေချမ်းဖြင့်ရေကြည်တော် ဦးလှစိန်က ဘိသိက်သွန်းလေသည်။

ထို့နောက် စာအောင် ပုဂ္ဂိုလ်များ၏ အတ္ထုပ္ပတ္တိ အကျဉ်းချုပ်ကို သာသနာရေးဝန်ကြီး ဦးဝင်းက ပြောကြားလေသည်။ (အတ္ထုပ္ပတ္တိကို ယခင်အပတ် ဤသံဂါယနာ စာစောင်၌ ဖေါ်ပြခဲ့ပြီး ဖြစ်ကြောင်း။)

ထို့နောက် နိုင်ငံတော်သမတကြီးက ချီးကျူးစကား လျှောက်ထားပြီးလျှင်၊ အောင်လက်မှတ် တံဆိပ်တုံးနှင့် အလံတော်များကို ဆက်ကပ်တော်မူလေသည်။ (သမတကြီး၏ ချီးကျူးချက်ကို သာသနာရောင်ခြည် အတွဲ ၃ အမှတ် ၁ ၌ကြည့်ပါ)

## အောင်လက်မှတ်များနှင့် ဆုတံဆိပ်တော်များ

(၁) အရှင်ဝိစိတ္တသာရာဘိဝံသအား (က) နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့က (၁) ဗုဒ္ဓသာသနဝိသိဋ္ဌဒီဃဘာဏက မဟာဒီဃ နိကာယ ကောဝိဒ ဘွဲ့တံဆိပ်တော်နှင့် (၂) အောင်လက်မှတ်တော်။ (၃) ဗုဒ္ဓသာသန ဝိသိဋ္ဌ တိပိဋကခရ မဟာ တိပိဋကကောဝိဒ ဘွဲ့တံဆိပ်တော်နှင့် (၄) အောင်လက်မှတ်တော်၊ (၅) အရိုးဝါ ကနကဒဏ် ထီးဖြူတော် သုံးလက်တံဆိပ်ပါရှိသောသာသနာ့အောင်လံတော်။

(ခ) ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရက(၁) ဘဒ္ဒန္တ ဝိစိတ္တသာရတိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိကဘွဲ့ပုံတော်။ (၂)ဆင်စွယ်ယပ်တောင်၊ (၃) ဆင်စွယ်တံဆိပ်တုံး၊ (၄) ကုန်း–ရေ–လေ–တို့၌တပည့် ၂–ယောက်နှင့် အတူအခမဲ့ သွားလာခွင့် လက်မှတ်တော်။ ။

(၂) အရှင်သောဘိတာဘိဝံသအား (၁) ဗုဒ္ဓသာသန ဓင်္ဂုတ္တရဘာဏက အင်္ဂုတ္တရနိကာယကောဝိဒဘွဲ့တံဆိပ်တော်နှင့် (၂) အောင်လက်မှတ်တော်တို့ ဖြစ်လေသည်။



အရှင်ဝိစိတ္တသာရာဘိဝံသအားနိုင်ငံတော်သမတကြီး ဆက်ကပ်သည် ဆင်စွယ်ယပ်တောင်



ရိပ်သာချီးကျူးပွဲ ဝန်ကြီး ဦးဝင်း နှုတ်ဆက်ချီးကျူးစကား မိန့်ကြားနေပုံ။



ရိပ်သာချီးကျူးပွဲတွင် ရှေ့နေချုပ်ကြီး ဦးချန်ထွန်း ထောမနာစာတမ်းဘတ်ကြားနေပုံ။

## ဆွမ်းအလှူတော်

ထို့နောက် ချီးကျူးခံ ပုဂ္ဂိုလ်နှင့် ပင့်သံဃာတော်များအား အိမ်တော်အပေါ်ထပ်သို့ပင့်၍၊ နိုင်ငံတော်သမတကြီးက ဆွမ်းဘောဇဉ်တို့ဖြင့်လုပ်ကျွေး လှူဒါန်းလေသည်။

ဧည့်သည်တော်များကိုလည်း ထမင်းစားခန်းမတွင် ဒန်ပေါက်ထမင်းဖြင့်ဧည့်ခံကျွေးမွေးပြီးလျှင် လူစုခွဲလိုက်ကြလေသတည်း။

# သာသနာ့ရိပ်သာတွင်

တပို့တွဲလဆန်း–၁၁–ရက် (၁၄–၂–၅၄) နေ့တွင်လည်း နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ကိုယ်စား ဗုဒ္ဓသာသနာ နုဂ္ဂဟအဖွဲ့မှလည်း ရိပ်သာရှိ ဖလ်ယဉ်ဓမ္မာရုံကြီး၌ ချီးကျူးပွဲကျင်းပလေရာ (က) နံနက် ၈–နာရီမှ ၁၁–နာရီ ၄၅–မိနစ်အထိ သီးမျိုးစုံ ပဒေသာပင်တို့ဖြင့်ကြွရောက်လာကြသော အသင်းအဖွဲ့တို့အား စည်တော်ဖြင့် ဧည့်ခံကြိုဆိုကြလေသည်။ (ခ) နံနက် ၁၀–နာရီအတွင်း ပင့်သံဃာ (၁၀၈) ပါးတို့အား သာသနာ့ရိပ်သာ (ဖလ်ယဉ်) ဓမ္မာရုံတော်ကြီးသို့ အရောက်ရန်ကုန်ရဲ ဗုဒ္ဓဘာသာအသင်းကြီးက ကားများဖြင့် ပင့်ဆောင်ပြီးလျှင်မန္တလေးမြို့ သင်္ကန်းသည်ဦးမြ ဒေါ်ဆင်ဆင်တို့က နေ့ဆွမ်းဆက်ကပ် လေသည် (ဂ) နေ့လည် ၁၁–နာရီ ၄၅–မိနစ်အချိန်တွင် နိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့အုပ်ချုပ်ရေး အရာရှိချုပ် သီရိပျံချီ ဦးစိန်းမောင်က ဆရာတော် သံဃာတော်များကို စံကျောင်းတော်မှမွေ ရုံကြီးသို့ပင့်ဆောင်လာပြီးလျှင်ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ ဆာ ဦးသွင် နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု စသောဝန်ကြီးများနှင့် လူကြီးများက ခရီးဦးကြိုဆိုကြလေသည်။ (ဃ)နေ့လည် ၁၁–နာရီ ၅၅–မိနစ် အချိန်တွင် တိပိဋကဓရ ရွေးချယ်ရေးအဖွဲ့ခွဲအကျိုးဆောင် မင်္ဂလာ ဦးအောင်မြင့်က အခမ်းအနားကို စတင်ဖွင့်လှစ်လေသည်။ (၂)နေ့လည် ၁၂–နာရီတိတိ အချိန်တွင် သာသနာရေးဝန်ကြီး ဦးဝင်းက ၎င်း၏ အတွင်းဝန်များ ခြံရံလျက် သာသနာ့အာဇာနည် အရှင်မြတ်တို့ကို သိမ်တော်ကြီးမှ ဓမ္မာရုံတော်ကြီးသို့ ပင့်ဆောင်လေသည်။ (၃) နေ့လည် ၁၂ နာရီ ၁၀–မိနစ်အချိန်တွင် သာသနာရေးဝန်ကြီး ဦးဝင်းက ကြွရောက်လာကြသောဆရာတော်သံဃာတော်များနှင့် လူပရိသတ် တို့အား နှုတ်ခွန်းဆက် စကား လျှောက်ထား ပြောကြားလေသည်။ (၄) နေ့လည် ၁၂–နာရီ ၃၀–မိနစ်အချိန်တွင် စာထောက် စာမ ဆရာတော်များကိုယ်စား ကျောင်းကြီးတိုက် ဘုံပျံကျောင်း ဆရာတော် ဦးပညာသာမိက ချီးကျူးစကား မိန့်ကြားတော်မူလေသည် (၅) နေ့လည် ၁၁–နာရီ ၃၅–မိနစ် အချိန်တွင် သာသနာရေး အသင်းအဖွဲ့ပေါင်းစုံတို့ ကိုယ်စား နိုင်ငံတော် ဗုဒ္ဓသာသနာ့အဖွဲ့ အကျိုးဆောင် စာချီ နိုင်ငံတော် ရှေ့နေချုပ်ကြီး ဦးချန်ထွန်းက ထောမနာ စာတမ်းကို ဖတ်ကြားလျှောက်ထားလေသည်။(ထိုစာတမ်းကိုသာသနာရောင်ခြည်အတွဲ၊ ၃ အမှတ် ၁ ၌ကြည့်ပါ) (၆) နေ့လည် ၁–နာရီအချိန်တွင် ဗုဒ္ဓသာသနာ နုဂ္ဂဟအဖွဲ့ ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ ဆာ ဦးသွင်က ဝမ်းမြောက်ကျေးဇူးတင်စကား ပြောကြားလေသည်။ (၇) ညနေ ၁–နာရီ ၁၅–မိနစ်အချိန်တွင် သာသနာ့ အာဇာနည် အရှင်မြတ်တို့ထံမှ ငါးပါးသီလ ခံယူ၍ တရားနာကာ ရေစက်သွန်းချကြလေသည်။ (၈) ညနေ ၁–နာရီ ၅၅ မိနစ်အချိန်တွင် အရပ်ပူဇော်ရေး အဖွဲ့ ဦးလှစိန်နှင့် ဦးချစ်ညွန့်တို့က အမှူးပေးဝေ၍ ခရုသင်း ကြေးစည်တီးမှုတ်ခါ အခမ်းအနား ရုတ်သိမ်းလိုက်ကြလေသည်။ (၉) သံဃာတော်အရှင်မြတ်များပြန်လည်ကြွရောက်ပါမည့်အကြောင်း လျှောက်ထားသော အခါ ရန်ကုန်ရဲ ဗုဒ္ဓဘာသာအသင်းကြီးက အသင့်စီစဉ်ထားသောကားများဖြင့်ပင့်ဆောင်ကာလှူဘွယ်ဝတ္ထုပစ္စည်းတို့ကိုတပါတည်း လှူဒါန်းကြလေသည်။ (၁၀) သံဃာတော် အရှင်မြတ်များ ပြန်လည်ကြွရောက် သွားပြီးနောက် ဧည့်ပရိသတ်တို့အား အသင့် ပြင်ဆင်ထားသော မဏ္ဍာပ်တွင် ခေါက်ဆွဲ ကြာဆန်ကြီး ကော်ဖီတို့ဖြင့် ဧည့်ခံ ကျွေးမွေးကြလေသည်။



တိပိဋကဓရအာဇာနည်အရှင်မြတ်၏ မိခင်ကြီး ဒေါ်ဒေါ်ဆင်

## သာသနာ့ရိပ်သာချီးကျူးပွဲ၌ သာသနာရေး ဝန်ကြီး၏ နှုတ်ခွန်းဆက်စကား

တပည့်တော် ရှိသေ လေးမြတ်စွာ လျှောက်ထားပါသည် ဆရာတော် အရှင်သူမြတ်တို့ဘုရား၊ သည်က နေ့ဟာ မြန်မာ့ရာဇဝင်မှာ အင်မတန်မှ ထူးကဲမွန်မြတ်တဲ့

(စာမျက်နှာ ၁၅ သို့ဆက်ကြည့်ပါ)

# အဘိဓမ္မာစာမေးပွဲဆုနှင်းသဘင်

## သာသနာတော်သုံးရပ် ကွယ်ပျောက်တော့မယ်ဆိုယင် ပရိယတ္တိသာသနာတော်ကစပြီး ကွယ်ပျောက်မယ်၊ ပရိယတ္တိဟုဆိုအပ်တဲ့ သုတ် ဝိနည်း အဘိဓမ္မာမှာလဲ အဘိဓမ္မာပဋ္ဌာန်းဒေသနာတော်ကစပြီးကွယ်ပျောက်မယ်။ (ဝေဠုဝန်ဆရာတော်)

### အစီအစဉ်

၁၃၁၅ ခု၊ တပို့တွဲလဆန်း ၁၀ ရက် (၁၃–၂–၅၄)စနေနေ့ မွန်းလွဲ ၂ နာရီ အချိန်တွင် ကုဘ်ကိုင်း သာသနာ့ရိပ်သာ ဓမ္မာရုံကြီး၌ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့မှ ကြီးမှူး ကျင်းပခဲ့သည့် အဘိဓမ္မာ စာမေးပွဲတွင် အောင်မြင်သူများအား ဆုနှင်းသဘင်အခမ်းအနားကျင်းပလေသည်။

(၁) မန္တလေး ဒေသကိုယ်စားလှယ် စစ်ကိုင်း ခရိုင် သာသနာရေး အရာရှိ ဦးမြင့်ဟန်က ဇေယမင်္ဂလာ ဂါထာပါဠိ အနက်ဖြင့် အခမ်းအနားကို စတင်ဖွင့်လှစ်လေသည်။ (၂) ထို့နောက် နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်များ ထံမှ ငါးပါးသီလ ခံယူ ကြလေ သည်။ (၃) ထို့နောက် ဆရာတော်များကမင်္ဂလသုတ် နှင့် မေတ္တသုတ် ပရိတ်တော်များ ရွတ်ဘတ် သရဇ္ဈာယ်တော်မူသည်ကို နာယူကြလေသည်။ (၄) ထို့နောက် နိုင်ငံတော် ဩဝါဒါစရိယ ဆရာတော်များ ကိုယ်စား အဂ္ဂမဟာပဏ္ဍိတ ဗဟန်းဝေဠုဝန် ဆရာတော်ဘုရား၏ဩဝါဒကို နာယူ ကြလေသည်။ (၅) ထို့နောက် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ဒုတိယဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ– ဦးသိမ်းမောင်က အဘိဓမ္မာ စာမေးပွဲအကြောင်းပြောကြားလေသည်။ (၆) ထို့နောက် သာသနာရေး ဝန်ကြီး ဦးဝင်းက အဘိဓမ္မာစာမေးပွဲ အောင်သူများအား ဆုလက်မှတ် ချီးမြှင့်လေသည်။ (၇) ဆုလက်မှတ်များချီးမြှင့်၍ အပြီးတွင် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ ဥက္ကဋ္ဌကြီး သတိုးသီရိသုဓမ္မ ဆာ ဦးသွင်က နိဂုံးချုပ် မိန့်ခွန်း စကား ပြောကြား လေသည်။ (၈) ထို့ နောက် အခမ်း အနား ပြီး ကြောင်း ကြေညာလျက်၊ ဆရာတော်များ နှင့် လူပုဂ္ဂိုလ်များအား ဘီလ်ရည် ဆက်ကပ် တိုက်ကျွေးလေသည် (ထိုအခမ်း အနား၌ အခမ်းအနားမှူး အဖြစ်· အကျိုးဆောင်စာချီ ဦးဘဆွေက ဆောင်ရွက်လေသည်။)

### ဝေဠုဝန်ဆရာတော်၏

## ဩဝါဒမိန့်ခွန်း

### အကြောင်းရင်းကြီး

မြတ်စွာဘုရားသခင်၏ ဘဏ္ဍာတော်ဟု ဆိုအပ်သည့် သာသနာတော် သုံးရပ် ဖြစ်တဲ့ ပရိယတ္တိ သာသနာ–ပဋိပတ္တိ သာသနာ–ပဋိဝေဓ သာသနာများ နေလို လလို ထွန်းလင်းပြီးနေခြင်းဟာ၊ ပရိယတ္တိ သာသနာတော်ပေါ် အခြေမှီပြီးနေတယ် ဆိုတဲ့အကြောင်းကို ကျမ်းဂန်များမှာ အထင်အရှား ပြဆိုထားပေတယ်၊ ပဋိပတ္တိ သာသနာ–ပဋိဝေဓ သာသနာတော်တို့၏ ထွန်းလင်းရာ ထွန်းလင်းကြောင်းတို့ အတွက် အကြောင်းရင်းကြီးဖြစ်ပေတယ်။

### အဘိဓမ္မာ စ၍ကွယ်မယ်

တကယ်လို့ သာသနာ သုံးရပ် ကွယ်ပျောက်တော့မယ်ဆိုရင်လဲ၊ ပရိယတ္တိ သာသနာတော်ကစပြီး ကွယ်ပျောက်မယ်လို့ ကျမ်းဂန်အလာရှိတယ်၊ အဲသည် ပရိယတ္တိဟု ဆိုအပ်တဲ့ သုတ်–ဝိနည်း–အဘိဓမ္မာ မှာလဲ၊ အဘိဓမ္မာ ပဋ္ဌာန်းဒေသနာတော်က စပြီး ကွယ်ပျောက်မယ်။ အဲသည်လို ကွယ်ပျောက်ခဲ့လျှင်၊ မြတ်စွာဘုရားသခင် ကိုယ်တော်မြတ်၏သာသနာတော်သုံးရပ် ဟာ ကွယ်ပျောက်စပြုပြီဆိုတာ သိထားကြရမယ်။



အဘိဓမ္မာစာမေးပွဲ ဆုနှင်းသဘင်တွင် ဒုတိယ ဥက္ကဋ္ဌကြီး လျှောက်ထားနေပုံ

### ပိုမိုထွန်းလင်းမယ်

ယခု လွတ်လပ်တဲ့ ပြည်ထောင်စု မြန်မာ နိုင်ငံတော် အစိုးရ လက်ထက်မှာ ပရိယတ္တိ သာသနာတော်ကို အထူး ချီးမြှောက်ကြလို့၊ ယနေ့ နံနက် ကာလကပဲ ဗိုလ်ကတ် သုံးပုံ အာဂုမ် ဆောင်နိုင်တဲ့ ပုဂ္ဂိုလ် ပေါ်ထွက်လာပါပြီ၊ စာချထန်း– ပထမကျော်–ပထမကြီး–ပထမငယ် ဆိုတာတွေလဲ အများအပြား ပေါ်ထွက်လာပါတယ်။ ယခုမြန်မာနိုင်ငံတော်မှာ ဘုရားသခင်ရဲ့သာသနာတော်ဟာ နေလိုလလို ထွန်းလင်းတောက်ပနေတာကို ထောက်ရှုလိုက်မယ်ဆိုရင်၊ဘုရားရှင်သာသနာတော်ဟာ မကွယ်ပျောက်တဲ့အပြင် ပိုမိုထွန်းလင်းလာတယ်၊ ပိုမို ထွန်းလင်းတောက်ပလာဦးမယ်ဆိုတဲ့ အမိပ္ပါယ် ဖြစ်ပေတယ်။

### နေရောင်နှင့်တူတယ်

အဲဒါကြောင့် သုတ္တန်–ဝိနည်း–အဘိဓမ္မာဟု ဆိုအပ်သော ပရိယတ္တိ သာသနာတော်–ပဋိပတ္တိ သာသနာတော်–ပဋိဝေဓ သာသနာတော် ထွန်းကားနေသမျှကာလ ပတ်လုံး၊ ဘာနှင့် အလားသဏ္ဍာန်တူသလဲ ဆိုတော့၊ လောကမှာ နေထွက်ပြီး နေတာနှင့် တူပါတယ်၊ နေ၏ အလင်းရောင်ကြောင့် လောကမှာရှိတဲ့ အမြဲ–အနီ– အကြောင်–အကြား အစ ရှိသည် တို့ကို ကွက်ကွက်ကွင်းကွင်းမြင်ကြရသလို၊ ဒါဟာ ကုသိုလ်ပဲ–ဒါဟာ အကုသိုလ်ပဲဆိုတာသိနိုင်မြင်နိုင်ကြပြီး၊ ကုသိုလ် တရားများ ပွါးများ အားထုတ်ခါ၊ နိဗ္ဗာန် မဂ်ဖိုလ်ရောက်နိုင်သည်အထိ ကျင့်ကြံ အားထုတ် နိုင်ကြပေတယ်။

### အမိုက်မှောင်ဖုံးသလို

တကယ်လို့သာ ယခုတွင်ကပြောသလို၊ အဘိဓမ္မာ ပဋ္ဌာန်းဒေသနာတော်မြတ်ကြီး က စပြီး သာသနာတော် သုံးရပ်စလုံး ကွယ်ပျောက်ခဲ့လို့ရှိလျှင်၊ လောကမှာရှိတဲ့ သတ္တဝါ အားလုံးဘို့ဟာ နေ၏ အလင်းရောင်မရဘဲ အမိုက်မှောင် ဖုံးအုပ်ပြီး နေသလိုဖြစ်မယ်၊ အမြဲ– အနီ– အကြောင် အကြားမှန်းမသိ ဝမ်းတဝါးဝါးနှင့် ဒုဂ္ဂတိသို့ လားဘို့သာ အကြောင်း တရား ရှိပေတယ်။

### ဆုချီးမြှင့်ခြင်းဟာ

ယနေ့–ယခုလို အခမ်းအနား ကျင်းပရခြင်း ကတော့၊ အဘိဓမ္မာ စာမေးပွဲ အောင်မြင်ကြတဲ့ ပုဂ္ဂိုလ်များကို ဆုငွေ တံဆိပ် စသည်တို့ကို ချီးမြှင့် ပေးအပ်တဲ့ အောင်ပွဲသဘင်ဖြစ်တယ်၊ သည်လိုဆုများ ချီးမြှင့်ခြင်းဟာလဲ အဘိဓမ္မာတရားတော်ကို သင်အံ လေ့လာ အားထုတ်နိုင်ကြဖို့ ဖြစ်တယ်၊ သည်လိုမှိုင်ပုံလေ့လာအားထုတ် လာကြလို့ရှိလျှင် ပရိယတ္တိသာသနာတော်နှင့်တကွ၊ ပဋိပတ္တိ သာသနာတော် ပဋိဝေဓ သာသနာတော်ဟု ဆိုအပ်သော သာသနာတော် သုံးရပ်တို့ဟာ နေကဲ့သို့ ထွန်းလင်း တောက်ပပြီး ဆထက်တန်ဘိုး တိုးတက်ပြောကားလာမယ်။

### ပိုမိုကြိုးစားကြ

ဒါကြောင့် ယခုကြွလာတဲ့ ဒါယကာ ဒါယိကာမ အပေါင်းတို့ ဟာလဲ မိမိတို့ ကိုယ်တိုင် အဘိဓမ္မာတရားတော်ကို လေ့လာ အားထုတ်ကြပြီးလျှင် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရနှင့် အတူတကွ ဘုရားရှင်၏ သာသနာတော်ကို ယခုထက် စည်ပင် ပြန့်ပွား ထွန်းကား လာအောင် ဆောင်ရွက် ကြိုးစားကြရမယ်၊ ယခုလို အဘိဓမ္မာ အစရှိတဲ့ ပရိယတ္တိ သာသနာတော် ထွန်းကား လာခြင်း ဟာလဲ၊ ဘုရားရှင် ၏ သာသနာတော် မြတ်ဟာ ဘယ်တော့မှ မကွယ်ပျောက်နိုင်တော့ဘူး ဆိုတဲ့ အဓိပ္ပါယ် ဖြစ်တယ်၊ ယခုထက် ဘုရားရှင်၏ သာသနာတော် သုံးရပ်ကို ပိုမို ထွန်းကား စည်ပင်အောင် ကြိုးစား ဆောင်ရွက်မယ် ဆိုတဲ့ စေတနာ ရှလုံး ထားပြီး၊ သည်ထူးမြတ်တဲ့ လုပ်ငန်းကြီးကို နှစ်စဉ်နှစ်တိုင်း ပိုမိုကြိုးစား အလုပ်လုပ်ကြဘို့ အကြောင်းကို အားလုံးသော ဩဝါဒါစရိယဆရာတော်များ၏ ကိုယ်စား၊ ဆရာတော်က ဩဝါဒစကား မိန့်ကြားပါတယ်။

## ဒုတိယဥက္ကဋ္ဌကြီး၏ လျှောက်ထားချက်

### ကျေးဇူးတင်ကြောင်း ကြေညာခဲ့ပုံ

တပည့်တော် ရိုသေစွာ လျှောက်ထားပါသည် ဆရာတော် အရှင်မြတ်များ ဘုရား။

လွန်ခဲ့သည့်နှစ်က ဤဓမ္မာရုံကြီးမှာပင် ကျင်းပခဲ့သော အဘိဓမ္မာစာမေးပွဲ ဆုနှင်း သဘင်တွင် တပည့် တော်သည် အောက်ပါ အချက်အလက်များကို ရှင်း၍ ကြေညာခဲ့ပါသည်။

(၁) ဗုဒ္ဓ ဘာသာဝင်တိုင်း မဂ်ဖိုလ် နိဗ္ဗာန်ရေး မဂ်ဖိုလ် နိဗ္ဗာန်ရဘို့မျိုးစေ့ ပါရေးအတွက် အရေးတကြီး သိသင့်သိထိုက်သောနာမ်အကြောင်းရုပ်အကြောင်း

ရှင်းတို့ကို ဖြစ်စေ ပျက်စေ တတ်သော ပစ္စည်းအထောက် အပံ့များ အကြောင်းနှင့် ရှင်းတို့ချုပ်ငြိမ်းရာ နိဗ္ဗာန်အကြောင်းနှင့် နိဗ္ဗာန်ရရန် ကျင့်စဉ် အကြောင်းများကို သိနားလည်ကြအောင် အဘိဓမ္မာ ၇ ကျမ်းကို မတတ်မြောက် နိုင်စေကာမူ အဘိဓမ္မတ္ထသင်္ဂဟ (သင်္ဂြိုဟ်) ကျမ်းကို သင်ကြား လေ့လာ ကြဘို့ အရေးကြီးကြောင်း။

(၂) သို့အရေး ကြီးသည့် အတွက် နိုင်ငံတော် ဗုဒ္ဓသာသန အဖွဲ့က ပြည်ထောင်စု နိုင်ငံတော် တဝှမ်းလုံး ဘွင် သင်္ဂြိုဟ်ကျမ်းကို သင်ကြားလေ့လာမှုတလ ထက်တလ တနှစ်ထက် တနှစ် တိုးတက်များပြားစေရန် အဘိဓမ္မာ စာမေးပွဲကို နှစ်စဉ်နှစ်တိုင်း ကျင်းပကြောင်း။

(၃) နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏ ရည်ရွယ်ချက် အောင်မြင် စေရန် ဗုဒ္ဓဘာသာ ဝင်တိုင်း အားပေး ကူညီကြသင့်ကြောင်း။

(၄) သို့ကူညီ အားပေး ကြလျှင် အဘိဓမ္မာ စာမေးပွဲနှင့် စပ်သမျှ ပုဂ္ဂိုလ်အသင်းအဖွဲ့တို့မှာ မည်ကဲ့သို့ အကျိုးထူးများရနိုင်ကြောင်း။

တပည့်တော် ထိုကဲ့သို့ ရှင်းလင်းကျေညာခဲ့ပြီးသည့်နောက် နိုင်ငံတော် တဝှမ်းလုံးကစိတ်အားထက်သန်စွာနှင့် အားပေးကူညီခဲ့သောကြောင့် အဘိဓမ္မာ စာမေးပွဲမှာ အောက်ပါ အတိုင်း ကြီးပွားတိုးတက်ခဲ့ပါသည်။

## တိုးတက်ခဲ့ပုံ

(၁) လွန်ခဲ့သည့်နှစ်က စာဖြေဌာနပေါင်း ၉၀–ဌာနသာရှိခဲ့ရာ ယခုနှစ်မှာ စာဖြေဌာနပေါင်း ၁၆၅–ဌာနတွင် စာမေးပွဲများ ကျင်းပ နိုင်ခဲ့ပါသည်။ ယခုနှစ်မှာ မနှစ်ကထက် စာဖြေ ဌာနပေါင်း ၇၅–ဌာန တိုး၍လာပါသည်။

(၂) မနှစ်က စာမေးပွဲ ဝင်သူပေါင်း ၁၂၆၈၈–ယောက် မျှသာ ဖြစ်ခဲ့ရာ ယခု နှစ်မှာ စာမေးပွဲ ဝင်သူ ပေါင်း ၂၂၈၀၂–ယောက်ဖြစ်၍ မနှစ်ကထက် ၁၀၁၁၄–ယောက် ပို၍ လာပါသည်။ စင်စစ်အားဖြင့် ယခုနှစ် စာမေးပွဲ ဝင်ရန် စာရင်း သွင်းသူပေါင်းမှာ ၃၄၄၅၈–ယောက် ဖြစ်ခဲ့၍ အကယ်၍သာ နိုင်ငံတော် တဝှမ်းလုံးမှာ ချမ်းသာယာရှိပြီး ခရီး အသွားအလာ လွယ်ကူ ခဲ့ပါလျှင် စာမေးပွဲ ဝင်သူ ဦးရေမှာ ၂၂၈၀၂–ယောက်ထက် များစွာ ပိုမိုခဲ့ တန်ရာပါသေးသည်။

(၃) မနှစ်က စာမေးပွဲ အောင်သူ ဦးရေ ၅၀၅၀–ယောက်သာ ဖြစ်ခဲ့ရာ ယခုနှစ်မှာ စာမေးပွဲ အောင်သူ ဦးရေ ၁၁၇၄၅–ယောက်ဖြစ်၍ မနှစ်ကထက် ၇၁၀၇–ယောက်များပါသည်။

(၄) မနှစ်က စာမေးပွဲ ၃–ဆင့်လုံး (သင်္ဂြိုဟ် ၉ ပိုင်းလုံး) အောင်သောပုဂ္ဂိုလ် ဦးရေ ၂၅၉–ယောက်သာဖြစ်ခဲ့ရာ ယခုနှစ် စာမေးပွဲ ၃–ဆင့်လုံး အောင်သူ ဦးရေမှာ ၆၆၄–ယောက် ဖြစ်ပါသည်။ မနှစ်ကထက် ၄၀၅–ယောက်များပါတယ်။

(၅) ပုဏ္ဏာ ထုတ်ခ အဖြေ စစ်ခ အောင်ဆုများနှင့် အောင်သူ့ ဆရာများ အဘို့ ဥက်ပူဇော်ခအတွက် မနှစ်က ငွေ (၈၁၀၆၄–ကျပ် ၂၁–ပြား) မျှသာ ကုန်ကျရာ ယခုနှစ်မှာ ၁၈၀၇၀၉–ကျပ် အပြား ၅၀–ကုန်ကျပါသည်။ (ဖြေရန် အလွတ်စာအုပ်များအတွက်ရှင်း ခုံနံပါတ်စသည်ဘို့ အတွက်ရှင်း ဝေယျာဝစ္စ အသုံးစရိပ်များလည်း မနှစ်ကထက် သိသိသာသာတိုး၍လာပါသည်)။

## ကူညီမှုများကြောင့်

ဒုတိယ နှစ်မှာပင်လျှင် ဤမျှလောက်တိုးတက်၍ လာခဲ့သည်မှာ မြတ်စွာဘုရား၏ သာသနာတော်အတွက် များစွာအားတက်ဘွယ်ဖြစ်ပါသည်။ ဤကဲ့သို့ တိုးတက်၍ လာခဲ့ခြင်းသည်လည်း တိုင်းမင်းကြီး ခရိုင်ဝန် နယ်ပိုင် မြို့ပိုင် နိုင်ငံတော် ဗုဒ္ဓ–သာသနအဖွဲ့ ဒေသ ကိုယ်စားလှယ်နှင့် ဗုဒ္ဓဘာသာဝင်အခြားအသင်းအဖွဲ့များနှင့် ပုဂ္ဂိုလ်များ၏ ဝိုင်းဝန်း မှုကြောင့် ဖြစ်ပါသည်။ သို့အတွက် ရှင်းတို့ အားလုံးကို နိုင်ငံတော် ဗုဒ္ဓသာသနအဖွဲ့၏ ကိုယ်စား တပည့်တော် များစွာ ကျေးဇူး တင်ပါသည်။ အဘိဓမ္မာ စာမေးပွဲသည် နိုင်ငံတော်တဝှမ်းလုံးတွင် အမြစ်တွယ်ပြီ ဖြစ်၍ အဘိဓမ္မာသင်တန်းများနှင့်စောင့်ရှောက်ရေးအဖွဲ့များသည်လည်းမြို့နယ် အသီးသီးတွင် အမြစ်တွယ်မိကြပြီဖြစ်၍ (၁) အဘိဓမ္မာသင်တန်း မရှိသေးသော အရပ်ဒေသများမှာသင်တန်းသစ်များ ဖွင့်လှစ်ကြလိမ့်မည်ဟု၍ရှင်း (၂) စောင့်ရှောက်ရေးအသင်းမရှိသေးသော အရပ် ဒေသများမှာလည်း စောင့်ရှောက်ရေး အသင်းများ ဖွဲ့စည်းတည်ထောင် ကြလိမ့်မည် ဟု၍ရှင်း၊ (၃) သင်တန်းများကို ဖွင့်လှစ်ကြသည်နှင့် အမျှ အဘိဓမ္မာတရားတော်ကို သင်ကြားလေ့လာ လိုသူများသည် လုံလုံလောက်လောက် ထွက်ပေါ်လာကြလိမ့်မည် ဟု၍ရှင်း (၄) သို့အတွက် အဘိဓမ္မာစာမေးပွဲကို တနှစ်ထက်တနှစ် ပိုမိုများ ပြားသော စာဖြေဌာနများတွင် ကျင်းပနိုင်လိမ့်မည် ထိုဌာန အသီးသီးတွင် ဝင်ရောက် ဖြေဆိုသူများလည်း တနှစ်ထက်တနှစ် ပိုမိုများပြားလိမ့်မည်ဟု၍ရှင်း ယုံကြည်မျှော်လင့်ဘွယ် ရှိပါသည်။

သို့ယုံကြည်မျှော်လင့်သည့်အတိုင်းဖြစ်မြောက်အောင်လည်းဝိုင်းဝန်း ကူညီကြပါရန် တိုင်းမင်းကြီး ခရိုင်ဝန် နယ်ပိုင်များနှင့် မြို့ပိုင်များကိုရှင်း နိုင်ငံတော် ဗုဒ္ဓသာသန အဖွဲ့ဒေသကိုယ်စားလှယ်များနှင့် ဗုဒ္ဓဘာသာဝင်အခြားအသင်းအဖွဲ့များနှင့် ပုဂ္ဂိုလ်များကိုရှင်း၊ တပည့်တော် ယခုထပ်မံ၍ မေတ္တာရပ်ခံပါသည်။

## မနှစ်က လျှောက်ခဲ့ပုံ

မနှစ်ကအဘိဓမ္မာစာမေးပွဲ မဟာဆုနှင်းသဘင်တွင်တပည့်တော်သည်အောက်ပါအတိုင်း ပြောကြားခဲ့ပါသေးသည်။

''စာမေးပွဲ အောင်သူများအားနိုင်ငံတော်ဗုဒ္ဓသာသန အဖွဲ့က ချီးမြှင့်သော ဆုတံဆိပ်များ၊

(စာမျက်နှာ ၁၂ စတုတ္ထ ကော်လံသို့)



### နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့၏ ၁၃၁၅-ခုနှစ် အဘိဓမ္မာစာမေးပွဲ၌ တပြည်လုံးမှသုံးဆင့်လုံး အောင်မြင်ကြသူ ၆၆၄ ယောက်အနက် ပဌမရရှိသူ ဦးကုလား၏ပုံ

# ဦးကုလား၏ အဋ္ဌုပ္ပတ္တိ

သဿန်းအိုင်ဆိပ်ရွာ ဦးစံဖေ ဒေါ်ထွေးတို့၌ သားသမီး ၅–ယောက်ရှိသည့်အနက် ဦးကုလားသည် အကြီးဆုံးဖြစ်၍ ၁၂၆၈–ခု တပို့တွဲ လဆန်း ၈–ရက်နေ့တွင် ဖွားမြင်လေသည်။

ငယ်စဉ်အခါက သဿန်းအိုင်ဆိပ်ရွာရှိ ဘုန်းတော်ကြီးကျောင်းတွင် ပညာသင်ကြားပါသည် အခြားကျောင်းများတွင် မသင်ကြားဘူးပါ အသက် ၁၉–နှစ်အရွယ်သို့ ရောက်သောအခါ အသက် ၁၇ နှစ်ရှိ မသိန်းရင်ဆိုသူ အမျိုးသမီးနှင့် အိမ်ထောင်ပြုကြ၍ ယခုအခါ ရှင်းတို့၌ သားယောကျ်ား ၂–ယောက် သမီးမိန်းမ ၃–ယောက် ရှိကြပါသည်။

ရပ်ရွာ၏ ဝါသနာအလျောက် အဘိဓမ္မာ အာဂုမ်စာပြန်ပွဲ ပြုလုပ်ရာ၌ ကိုးပိုင်းလုံးကို အာဂုမ်ရရှိ ဝင်ရောက်ဖြေဆိုအောင်မြင်ခဲ့ပါသည် ဆရာစံ သူပုန်ကိစ္စ ပေါ်ပေါက်လာသောအခါ အဆိုပါအာဂုမ်စာပြန်ပွဲသည် ဆက်လက်မပြုလုပ်နိုင်တော့ဘဲ မှေးမှိန် ကွယ်ပျောက်ခဲ့လေသည်။

လွန်ခဲ့သော ၁၄–နှစ်ခန့်လောက်က ဟင်္သာတမြို့တွင်ပြုလုပ်သော အမျိုးသမီးများ သံခိပ်စာမေးပွဲတွင် ဝင်ရောက်ဖြေဆိုနိုင်ရန် ရပ်ရွာရှိ အမျိုးသမီးလေးများကို ၄–နှစ်တိုင်တိုင် အဘိဓမ္မာကို သင်ကြားပြသပေးခဲ့ဘူးပါသည် ဒုတိယ ကမ္ဘာစစ်ကြီးနှင့် တွေ့ကြုံသော အခါ အဆိုပါ စာမေးပွဲကို ဆက်လက် မလုပ်နိုင်တော့ဘဲ ကွယ်ပြောက်ခဲ့ပါသည်၊

ကရင်သူပုန်များ နှိပ်စက်မှုကြောင့် အိမ်နှင့် နွားများ ပျက်စီးဆုံးရှုံးခံရ၍ အတော်ပင်စိတ်၌ အနှောက်အယှက် ဖြစ်နေဆဲ အခါတွင် နိုင်ငံတော်အစိုးရ ဗုဒ္ဓသာသနာအဖွဲ့ကြီးက ပြုလုပ်သော အဘိဓမ္မာ စာမေးပွဲ၌ ရပ်ရွာ၏ တောင်းပန်ချက်အရ ကလေး သူငယ်များကို သင်ကြားပြသ၍ ၁၃၁၄–ခု နှစ်တွင် တပည့် ၁၆–ယောက်ကို ဝင်ရောက်ဖြေဆိုစေရာ ၁၂–ယောက် အောင်မြင်ပါသည်၊ ၁၃၁၅–ခု နှစ်တွင် တပည့်များကို ဝင်ရောက်ဖြေဆိုစေသည့်အပြင် ဦးကုလားကိုယ်တိုင်လည်း ဝင်ရောက်ဖြေဆိုခဲ့ပါကြောင်း။

မိရိုးဖလာအတိုင်း လယ်ယာ လုပ်ကိုင် စားသောက်ကြသည့်ပြင် ဝါသနာအလျောက် အဘိဓမ္မာတောင်သာဆေးဆရာအလုပ်ကိုလည်း လုပ်ကိုင်ပါသည်။

# အနောက်နိုင်ငံဗုဒ္ဓသာသနာဝင်အကျဉ်းချုပ်

(ပထမကျော်-ဦးသေဋ္ဌိလ အရှင်မြတ် ရေးသားသည်)

## အကျိုးအများဆုံးစာအုပ်

ဗုဒ္ဓသာသနာတော်သည်(Buddhism) ဟူသော အမည်ဖြင့် ဥရောပတိုက်သို့ ၁၈၅၀-ခု လောက်တွင် စတင်ရောက်ခဲ့လေသည်ဗုဒ္ဓဘာသာအကြောင်းအင်္ဂလိပ်ဘာသာဖြင့်ရေးထုတ်သော စာအုပ်များအနက်-၁၈၆၀-ပြည့်နှစ် Hardy ရေးထုတ်ခဲ့သော Manual of Buddhism ခေါ် စာအုပ်သည်ပဌမဆုံးဖြစ်ကြောင်း သိရ၏၊ ၎င်းစာအုပ်ကို ဘတ်ရသဖြင့် Fausboll သည် ဝိဘ်အား ထက်သန်ပြီးလျှင် ပါဠိစာအုပ်များကို ဥရောပဘာသာသို့ စ၍ပြန်ခဲ့လေသည်နောက်များမကြာမီ Max Muller သည် အရှေ့နိုင်ငံ ဘာသာဝါဒဆိုင်ရာ စာအုပ်ပေါင်းများစွာကို အင်္ဂလိပ် ဘာသာသို့ ပြန်ခဲ့ လေသည်။ ၁၈၇၉ ခုနှစ် အတွင်း Sir Edwin Arnold ရေးသော Light of Asia ခေါ် စာအုပ်ထွက်ပေါ်လာရာ၎င်းစာအုပ်သည် အင်္ဂလိပ် ဘာသာဖြင့် ရေးထုတ်ထားသော ဗုဒ္ဓဘာသာဆိုင်ရာ စာအုပ်များအနက်နာမည် အကျော်ဆုံးအရောင်းရဆုံးဗုဒ္ဓသာသနာ အနောက်နိုင်ငံသို့ ပြန့်ပွားရေးတွင် အကျိုးအများဆုံး ဖြစ်၏၊ Professor Rhys Davids နှင့် Mrs. Rhys Davids တို့သည် ၁၈၈၁ ခုနှစ်တွင် Pali Text Society ကိုတည်ထောင်၍ ပိဋကတ်သုံးပုံ ပါဠိတော်အစုံ နိကာယ်ငါးရပ် အကုန်နီးပါးလောက်နှင့် အဋ္ဌကထာအချို့တို့ကို အင်္ဂလိပ်ဘာသာသို့ ပြန်ခဲ့ကြလေသည်။

၎င်းစာအုပ်များ အနက် အချို့တို့ကို ပြင်သစ်ဘာသာ ဂျာမန်ဘာသာနှင့် အခြားဥရောပဘာသာများသို့ ပြန်ကြောင်းကို သိရပေသည်။ ဤသို့လျှင် ဗုဒ္ဓသာသနာတော်သည် ပဌမအနှစ် (၅၀) အတွင်း ဥရောပ ဘာသာအမျိုးမျိုးတို့သို့ပြန်ထားသော စာအုပ်များ ထဲမှာ အနိုင် အမာ တည်ခဲ့လေသည်။

## ဆေးညွှန်းကောင်းကဲ့သို့

ပဌမအနှစ် (၅၀) အတွင်း ၎င်းစာအုပ်များကို ဘတ်ရ၍ ဗုဒ္ဓဘာသာကို ကြည်ညိုသော ဥရောပ တိုက်သူ တိုက်သားတို့၏ စိတ်သန္တာန်သို့ ဗုဒ္ဓသာသနာ သက်ဝင်သည်ဟု ဆိုရစေကာမူ ၎င်းတို့၏ ဘိုးဘွားဘီဘင် အစဉ် အဆက်က စွဲမြဲလာသော မိရိုးဖလာ ဘာသာ ဝါဒ၏ အမြစ် ခိုင်မြဲမှုကြောင့် ဆေးညွှန်းကောင်းကို ဘတ်ရသော လူမမာသည် ဆေးမစားရသဖြင့် ရောဂါ မပျောက်ဘဲ ဆေးညွှန်းနှင့်သာ လွမ်းနေသကဲ့သို့ စာအုပ် ဗဟုသုတ မျှလောက် အတွေးမျှလောက်နှင့်သာ ဗုဒ္ဓဘာသာကို "ကောင်းသော အယူဝါဒတခု" ဟု သဘောထားခဲ့ပုံ ရကြလေသည်။

၅

## ဗုဒ္ဓဘာသာအသင်းများ

သို့ရာတွင် ပဌမ အနှစ် (၅၀) ကျော်လွန်သောအခါ ဗုဒ္ဓသာသနာတော်သည် စာအုပ်များ ထဲမှာသာမက လူများ၏ စိတ်သန္တာန် အတွင်းမှာပင် တည်လာကြောင်း အထိမ်းအမှတ် ပြသည့်အနေနှင့် ဥရောပတိုက် နိုင်ငံ အရပ်ရပ်တွင် ဗုဒ္ဓဘာသာ အစုများ ပေါ်ပေါက် လာကြလေသည်။

## ပဌမဆုံးအသင်း

၁၉၀၇ ခုနှစ် လန်ဒန်မြို့တွင် Professor Rhys Davids နှင့် Prof. E. T. Mills တို့ ခေါင်းဆောင်၍ တည်ထောင်သော The Buddhist Society of Great Britain and Ireland ခေါ် ဗုဒ္ဓဘာသာ အသင်းကို အင်္ဂလန်ပြည်တွင် ပဌမဆုံး တည်ထောင်ခဲ့လေသည်။



အင်္ဂလန်ပြည်၌ ရုပ်ရှင်သံကြားကြည့်သူပေါင်းလေးသန်းခွဲမျှရှိသည့်အနက် ခရစ်ယန်ငါးသောင်းမျှ ရှိလေသည်။ လေးသန်းခန့်မှာ ဘာသာခေါ်ရှိသူများဖြစ်လေရာ ထိုသူတို့အတွက် ကြိုက်ရာဘာသာတခုခုကို ယူနိုင်ကြစေရန် ဘီဘီစီ၏အရှင်ကြီးတဦးဖြစ်သော ခရစ်စတိုဖါ-မေယူကိုယ်တိုင် ဘာသာကြီးလေးရပ် အကြောင်းကို ရိုက်ကူး ပြသရန် လှည့်လည်ခဲ့ရာ မြန်မာနိုင်ငံသို့အရောက်တွင် အရေးကြီးသော ဗုဒ္ဓဘာသာကိစ္စများ၌ စည်သူ-ဦးစံညွန့်အားဗုဒ္ဓဘာသာတဦးအနေထား၍ရိုက်ကူးသွားလေသည်၊ အထက်ပါပုံမှာ-သာသနာ့ရိပ်သာ၌ မဟာစည် ဆရာတော် တရားဟောနေစဉ် ရိုက်ကူး၍နေပုံဖြစ်ကြောင်း။

သို့ရာတွင် ၎င်းအသင်းသူ အသင်းသားများသည် ဗဟုသုတ အလိုငှာ ပညာရှာဖွေ ဆည်းပူးကြသော ပညာသင်များနှင့် စာတတ်ပညာသည်များ ဖြစ်ကြ၍ စာတွေ့နှင့် ငါတွေ့ စာတတ်နှင့် ငါတတ်သည် သဘောတမျိုးစီ ဖြစ်သည့်အတိုင်း ဆေးနည်းကောင်းကိုသာ ရ၍ ဆေးစပ်နည်း၊ လူမမာ အပေါ်မိုးတို့၏ သဘော အားလျော်စွာ ဆေးသုံးပုံ သုံးနည်း များကို မသိသဖြင့် ကိုယ့်အတွက်လည်း ထိထိရောက်ရောက်အကျိုးမရှိ သူတပါး တို့ကိုလည်း ကျေညီနိုင်သောသူကဲ့သို့ ၎င်းအသင်းသည် ဗုဒ္ဓဘာသာ အကြောင်းကို ဆွေးနွေး၍ ဟောပြောရုံနှင့်သာ ကျေနပ်ပြီး၍ ဗုဒ္ဓဘာသာ တရားတော်အရ ကျင့်ကြံပုံ နေထိုင်ပုံကို ကိုယ်တိုင် လက်တွေ့ မပြနိုင် သူတပါးတို့ကိုလည်း နည်းမပေးနိုင်သဖြင့် ဗုဒ္ဓသာသနာ ပြန့်ရေးတွင် အကျိုးရှိသင့်သလောက် မရှိဖြစ်ခဲ့လေသည်။

## အနန္ဒာမေတ္တေယျ

ထိုသို့ဖြစ်နေရိုက် မြေညံ့၍ မကြီးနိုင် ဖြစ်နေသော သစ်ပင်ကို ရေကောင်းလောင်းပေးလိုက်သော အခါ ထိုသစ်ပင်သည် နေ့ချင်းညချင်း ကြီးပွား လာသကဲ့သို့ ၁၉၀၂-ခု နှစ်တွင် မြန်မာပြည်မှ ရဟန်းပြု၍ ဗုဒ္ဓဘာသာ ကျမ်းဂန်များကို သင်ပြီးလျှင် ၁၉၀၈-ခု နှစ်တွင် အင်္ဂလန်ပြည်သို့ သာသနာပြုရန် ကြွရောက်သော အင်္ဂလိပ်လူမျိုး လူမည် Allan Bennett ရဟန်း ဘွဲ့အာနန္ဒာ မေတ္တေယျ သည် ဗုဒ္ဓဘာသာ တရား ဟောခြင်း၊ မိမိကိုယ်တိုင် တရားတော်နှင့်အညီ နေထိုင်ခြင်း၊ သူတပါးတို့အား ကျင့်ကြံ နေထိုင်နည်းကို ပြခြင်းအားဖြင့် ၎င်းဗုဒ္ဓဘာသာအသင်းကို အားပေးရာ ၎င်းအသင်းသည် နေ့ခြင်းညချင်းပင် ကြီးပွားတိုးတက်လာ၍ လန်ဒန်မြို့တွင် ထင်ရှားသော အသင်းတခု ဖြစ်ပြီးလျှင် ဗုဒ္ဓဘာသာဝင်လူဦးရေလည်း အတော်တိုးခဲ့လေသည်။

အာနန္ဒာ မေတ္တေယျသည် ၆-လမျှနှင့် အင်္ဂလန်ပြည်မှာ သာသနာပြုရာ အတော်ပင် ခရီးရောက်ခဲ့လေသည် ထိုကဲ့သို့ အထမြောက် ခဲ့သည်မှာ ၎င်း၏ အစွမ်းသတ္တိလုံ့လသက်သက် ကြောင့် မဟုတ် Mrs. Hla Oung ခေါ်မင်းကြီးကတော် ဒေါ်မြမေကြီးမှူး၍ မြန်မာပြည်တွင် နိုင်ငံခြားသာသနာပြု အဖွဲ့တဖွဲ့ ဖွဲ့ပြီးလျှင် ဒေါ်မြမေ ကိုယ်တိုင် အာနန္ဒာမေတ္တေယျ နှင့်အတူအင်္ဂလန်ပြည်သို့ လိုက်၍ နေထိုင်စားသောက်ရေးအတွက် ဘာမျှကြောင့်ကြ မရှိရအောင် ငွေအားဖြင့် ကူညီထောက်ပံ့ သောကြောင့် ဖြစ်လေသည်။ ယခုခေတ်တွင် နိုင်ငံခြားသာသနာပြုရာ၌ သာသနာပြုပုဂ္ဂိုလ်ငည်မှ အရည်အချင်းရှိ၏ အင်္ဂါနှင့် ပြည့်စုံစေကာမူ နေထိုင်စားသောက်ရေးအတွက် မကြောင့်ကြရအောင် ကူညီ အားပေးမည့် နောက်ခံအင်အား မရှိလျှင် သာသနာပြု နိုင်မည်ခဲ့၊ ၎င်းသာသနာပြု ပုဂ္ဂိုလ်ခွေတွေတည်းခိုရာ အခန်းတခန်း ရနိုင် ဘို့ပင် ခဲယဉ်းလေသည်။

အာနန္ဒာမေတ္တေယျ သည် အင်္ဂလန်ပြည်မှာ(၆-လ)မျှသာ နေထိုင်၍ ကျန်းမာသဖြင့် အရှေ့နိုင်ငံသို့ပြန်လာခဲ့ရသော်လည်း ဗုဒ္ဓဘာသာအသင်းသည် ၁၉၀၇ ခုမှ ၁၉၂၀-အထိ (၁၃-နှစ်) အတွင်း ဗုဒ္ဓဘာသာ အစည်းအဝေးများ ကျင်းပ၍ တရားဟောခြင်း၊ဆွေးနွေးခြင်း၊စာအုပ်၊ စာတမ်းများထုတ်ခြင်း The Buddhist Review ခေါ် မဂ္ဂဇင်းကို ထုတ် ခြင်းအားဖြင့် တော်တော် ထင်ထင်ရှားရှား ကြီးပွားခဲ့လေသည်။

သို့ရာတွင် မြေဩဇာပျက် ရေအဆက်မရှိသော သစ်ပင်ငယ်သည် တဖြေးဖြေး ခြောက်၍ ပျောက်ပျက် သွားသကဲ့သို့၊ ၎င်းအသင်း သည် ၁၉၂၁- ခုနှစ် တွင် အနိစ္စသဘောသို့ရောက်ခဲ့လေသည်။

## ဓမ္မပါလ- နှင့်- မဟာဗောဓိ

မဟာဗောဓိ အသင်းကို တည်ထောင်သူ သီဟိုဠ်အနာဂါရိက ဓမ္မပါလသည် ၁၉၂၆ ခုနှစ်တွင်လန်ဒန်မြို့၌ အိမ်တအိမ်ဝယ်၍ ဗြိတိသျှ မဟာဗောဓိ ဟူသော အမည်ဖြင့် မဟာ ဗောဓိအသင်းခွဲ တခုနှင့်လျက် အရည်အချင်းနှင့် ပြည့်စုံသော သီဟိုဠ် သာသနာပြု ရဟန်းတော်တပါး အမြဲထားပြီးလျှင်တနင်္ဂနွေနေ့တိုင်း တရားဟောစေခြင်း၊ ဗုဒ္ဓဘာသာကို သင်လိုသူများ အား သင်ကြား ပေးစေခြင်းစသည်ဖြင့် သာသနာ ပြန့်ပွားရေး ကို ရွက်ဆောင်ရာ အရင်မြစ်ပြီး ဗုဒ္ဓဘာသာ ဟောင်းများလည်း အားရှိ၊ နောက်ဖြစ် ဗုဒ္ဓဘာသာ လူဦးရေလည်း တိုးခြင်း အတော်ပင်အကျိုးများခဲ့လေသည်။

သို့ရာတွင် ၁၉၃၃ ခုနှစ်တွင်သစ်ပင်၏ မူလ ရေသောက်မြစ်နှင့် တူသည့် ခေါင်းဆောင်ကြီး အနာဂါရိကဓမ္မပါလ ကွယ်လွန်သည့်နှစ်၍ ၎င်းဗြိတိသျှမဟာဗောဓိ အသင်းတည်းဟူသော ပင်မှိုလည်းတဖြေးဖြေး အားနည်းပြီးလျှင် ၁၉၃၉- ခုနှစ် စစ်ကြီးဖြစ်စ အခါတွင် အနိစ္စသဘောသို့ ရောက်ခဲ့ပြန်လေသည်။

## ဦးသေဋ္ဌိလ

ဤကဲ့သို့ ထေရဝါဒ ဗုဒ္ဓသာသနာဝင် အနောက် နိုင်ငံမှာ အလွန် အားနည်းနေရိုက် ၁၉၄၈-ခုနှစ်မေလတွင် လန်ဒန်မြို့ရှိ မြန်မာဗုဒ္ဓဘာသာများ ရပေါင်းကြ၍ သာသနကာရီ ယာယီဘုန်းကြီး ကျောင်း ဖွင့်ကာ ဤစာကိုရေးသော ဆရာတော် အား ထောက်ပံ့လျက် လစဉ် တရားပွဲ၊ ဆွေးနွေးပွဲများကျင်းပခြင်း၊တနင်္ဂလာနေ့တိုင်းကမ္မဋ္ဌာန်းဘာဝနာပွားရေးအတန်း၊ အင်္ဂါနေ့တိုင်း အဘိဓမ္မာ နှင့် အခြား ပိဋကတ်သင်တန်းများ၊သောကြာနေ့တိုင်း

(စာမျက်နှာ ၁၂ ဒုတိယကော်လံသို့)

# နာလန္ဒတက္ကသိုလ်ကျောင်းကြီး၏

## ရှေးအခါက ပါမောက္ခပေါင်း ၁၅၀၀ ရှိခဲ့ဘူးသည်

### ယခုခေတ်၌လည်းလူမျိုးစုံဆရာဘုန်းကြီးများ၊ ဘာသာမျိုး



နိုင်ငံတော် တရားလွှတ်တော်ချုပ် တရားဝန်ကြီးချုပ်မှူး

## ဘိက္ခုကဿပ

**Nalanda Pali Institute** ၏ ဒါရိုက်တာ ဘိက္ခုကဿပသည်၊ မဟာ ဗောဓိ ကော်မီတီဝင် ပုဂ္ဂိုလ်တဦးဖြစ်သည့် အတိုင်း အိန္ဒိယပြည်ရှိ မြန်မာ သံအမတ်ကြီး မဟာသရေစည်သူ ဦးကြင်က ကျေးဇူးပြု၍ ဘိတ်ခေါ်ထားသော အစည်းအဝေးသို့တက်ရောက်ရန် ၁၉၅၃-ခုနှစ်၊ ဒီဇင်ဘာလ ၁၉ ရက်နေ့ နံနက် ကျွန်တော်များ တည်းခိုနေခဲ့သော မဟာ ဗောဓိ ဗိုလ်တဲသို့ ကြွလာတော်မူပါသည်။ သို့အတွက် မဟာဗောဓိဆိုင်ရာ အစည်းအဝေးကို မကျင်းပမီ၊ ကျွန်တော် နာလန္ဒသို့ထိုလ ၂၁ ရက်နေ့ နံနက် ရာဇဂြိုဟ်မြို့မှ အပြန်တွင် နာလန္ဒသို့ဝင်ရောက်ရန် ချိန်းဆိုလိုက်ပါသည်။

## လူမျိုးစုံဆရာဘုန်းကြီးများ

သို့ ချိန်းဆိုလိုက်သည့် အတိုင်း ထိုနေ့ နံနက် ကျွန်တော်သည်၊ သံအမတ်ကြီး ဦးကြင်နှင့်အတူ နာလန္ဒသို့သွားရောက်ကြပါသည်။ နာလန္ဒ ဘူတာရုံ၏ အနီးတွင်၊ **Nalanda Pali Institute** မှာ စာသင်၍ပေးနေကြသော လူမျိုးစုံ ဆရာဘုန်းကြီးများကိုရင်း၊ စာသင်သား ရဟန်းတော်များကိုရင်း ဘိက္ခုကဿပနှင့် အတူတွေ့၍ ဖူးမြော်ခဲ့ကြရပါသည်။ သို့တွေ့ဆုံဖူးမြော်သောအခါ၊ ဘိက္ခုကဿပက ကျွန်တော်အားပူးတွဲပါ ဓာတ်ပုံစာတမ်းများကိုပေးလိုက်ပါသည်။

## စာရွက်စာတမ်းများ

၎င်းတို့အနက် ‘က’အမှတ် ပြထားသော စာတမ်းမှာ ထိုပါဠိကျောင်းတွင် စာသင်၍ ပေးနေသော ဆရာဘုန်းတော်ကြီးများ၏ စာရင်း သုတေသနအလုပ်ကို ဆောင်ရွက် နေကြသော ပုဂ္ဂိုလ်များစာရင်းနှင့် ဗိဟာ တက္ကသိုလ် ပါဠိဘာသာ မဟာဝိဇ္ဇာဘွဲ့နှင့် ပါဠိဘာသာ အာစရိယဘွဲ့စာမေးပွဲအတွက် သင်ယူ၍နေကြသော ပုဂ္ဂိုလ်များ၏စာရင်းဖြစ်ပါသည်။

‘ခ’အမှတ်ပြထားသော စာတမ်းမှာ ထိုပါဠိကျောင်းအတွက် ပိဋကတ်တိုက်နှင့် အခြား အဆောက် အဦးများအကြောင်း စာတမ်းဖြစ်ပါသည်။

‘ဂ’အမှတ်ပြထားသော စာတမ်းမှာ ထို ပါဠိကျောင်း၌ ပေးထားပြီး ဖြစ်သော စကောလာရှစ်နှင့် ရန်ပုံငွေပေးသော ငွေစာရင်းဖြစ်ပါသည်။

‘ဃ’အမှတ်ပြထားသောစာတမ်းမှာ ထိုကျောင်း၏ အကြောင်းကို ရေးသားသော သတင်းစာများမှ ဖြတ်ယူထားသောသတင်းဝေဖန်ချက်များဖြစ်ပါသည်။

‘င’အမှတ်ပြထားသော စာတမ်းမှာ ထိုကျောင်း၏ ရည်ရွယ်ချက်နှင့် လုပ်ငန်းများကို အကျယ် ဖေါ်ပြထားသော စာတမ်းဖြစ်ပါသည်။

‘စ’အမှတ် ပြထားသော ပုံမှာ၊ ထိုကျောင်းတိုက် အသစ် ဆောက် လုပ်မည့် နာလန္ဒ မဟာဝိဟာရ၏ပုံဖြစ်ပါသည်။

## ဆောက်မည့်ကျောင်းများ

ထို စာတမ်းများတွင် ပါသော အကြောင်းခြင်းရာတို့ကို အကျဉ်း အားဖြင့် အဓိပ္ပာယ်ရသော်၊ ထိုကျောင်းမှာ အိန္ဒိယတိုင်းသား၊ သီဟိုဠ်ကျွန်းသား၊ မြင်သစ်ပြည်သား၊ တိဘက်ပြည်သားနှင့် ဂျပန်ပြည်သား ဆရာဘုန်းတော်ကြီးများ ရှိနေကြပြီဖြစ်ကြောင်း။ စာသင်သား များမှာလည်း သီဟိုဠ်ကျွန်းသား အိန္ဒိယ တိုင်းသား၊ ယိုးဒယားပြည်သားနှင့် ဗီယက်နမ်ပြည်သား စာသင်သားများရှိနေကြပြီဖြစ်ကြောင်း။ ပိဋကတ်တိုက်မှာလည်း ပါဠိတော်များကို မြန်မာအက္ခရာ၊ သီဟိုဠ်အက္ခရာ၊ အင်္ဂလိပ် အက္ခရာ၊ ဒေဝနာဂရီအက္ခရာ၊ ဘင်္ဂါလီ အက္ခရာတို့နှင့် ရှိနေသည်သာမက တိဘက်ပြည် ပိဋက၊ တရုပ်ပြည် ပိဋကများလည်း ရှိနေပြီဖြစ်ကြောင်း။ ယခုကျောင်း အဆောက်အဦမှာ ယာယီမျှသာဖြစ်၍၊ ကျောင်းအသစ်တဆောင်ကို ဗိဟာပြည် အစိုးရက ငွေနှစ်သိန်းအကုန်ခံ၍ ဆောက်လုပ် ပေးမည် ဖြစ်ကြောင်း။ နောက် ကျောင်း အသစ် တဆောင်ကိုလည်း အိန္ဒိယပြည် ဗဟိုရ် အစိုးရက ဆောက်လုပ် ပေးလိမ့်မည်ဟု မျှော်လင့်ရကြောင်း။ တတိယ ကျောင်းအသစ် တဆောင်ကိုလည်းယိုးဒယားပြည်မှဆောက်လုပ်ပေးမည်ဟု ယိုးဒယားအရာရှိများက ပြောကြား သွားကြောင်း။ ထို ကျောင်းဆောင်သုံးဆောင်မှာ တဆောင်လျှင်စာသင်သား ၅၀-ကျော်သာ ဆံ့မည်ဖြစ်၍၊ ၎င်းတို့အပြင်နောက်ထပ် သုံးဆောင် အတွက် တကာများလိုနေသေးကြောင်းဖြစ်ပါသည်။

ထိုပါဠိကျောင်းမှာ မည်ကဲ့သို့သော ဆရာများ ရှိကြောင်း၊ မည်ကဲ့သို့ သော ပုဂ္ဂိုလ်များသင်ယူ၍နေကြကြောင်း။ မည်ကဲ့သို့သော စာပေများကို သင်ကြားလေ့လာလျက်နေကြကြောင်း။ ဗိဟာနယ်အစိုးရနှင့် ဗဟိုရ် အစိုးရတို့သည် မည်မျှအားပေး၍နေကြကြောင်းစသည်တို့မှာ ဗုဒ္ဓဘာသာဝင်အားလုံးသိထိုက်သောအကြောင်းခြင်းရာများဖြစ်ပါသည်။ သို့အတွက်ထိုစာတမ်းများကို အရှည်လိုက်ဖြစ်စေ၊ ၎င်းတို့မှသင့်လျော်ရာတို့ကို ထုတ်နှုတ်၍ ဖြစ်စေ၊ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က ထုတ်ဝေသောသာသနာရောင်ခြည်၊ သံဃါယနာ အစရှိသော စာစောင်များတွင် ထည့်သွင်း ဖေါ်ပြသင့်ကြောင်းပါလိမ့်မည်။

## ရဟန်းတော် ၂-ပါးလွှတ်ပါ

အိန္ဒိယပြည်တွင် သာသနာ ပြုရေးနှင့်စပ်လျဉ်း၍ ဘိက္ခုကဿပက ကျွန်တော်





တူးဖော်ရာမှတွေ့ရှိသော ရှေးဟောင်း နာလန္ဒ



နာလန္ဒကျောင်းတော်ရာဟောင်းတွင် တူး

# ...တိုက်နှင့်ပစ္စုပ္ပန် အခြေအနေများ

## ...ဌ်င် ကျမ်းဂန်ပေါင်း ၅၀ ကျော်သင်ပေးခဲ့ဘူးခြင်း

### ...ရကများရှိနေပြီ၊ မြန်မာနိုင်ငံမှ ရဟန်း ၂ ပါး လွှတ်ပေးပါ




...ဒ်ိုလ်ကျောင်းတိုက်ကြီး၏ အနေအထားများ



...တွေ့ရှိရသော အုဋ္ဌ်စေတီကျောင်းတော်ကြီး

မှတဆင့် နိုင်ငံတော်ဗုဒ္ဓသာသနအဖွဲ့အား မေတ္တာရပ်ခံလိုက်သောအချက် ၂-ခုရှိပါသည်။ ၎င်းတို့မှာ—

(၁) မြန်မာပြည်တွင် ကမ္မဋ္ဌာန်း အလုပ်ကိုအားထုတ်သောပုဂ္ဂိုလ်များအများ အပြားရှိနေရာ၊ အိန္ဒိယပြည်မှာလည်း ကမ္မဋ္ဌာန်းအလုပ်ကို အားထုတ် လိုသူများအားထုတ်နိုင်ကြစေရန် သင်ကြားပြသပေးဘို့ ကမ္မဋ္ဌာန်းဆရာရဟန်းတော်တပါးကို နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က စေလွှတ်ပါရန်။

(၂) မြတ်စွာ ဘုရား၏ အဘိဓမ္မာတရားတော်ကို ပို့ချသင်ကြား၍ ပေးနိုင်သော အာဘိဓမ္မိက ရဟန်းတော်တပါးကို နာလန္ဒ ပါဠိကျောင်းသို့ ပို့ပေးပါရန်။

ဘိက္ခုကဿပ၏ ဝန်ခံချက်အရ၊ သူ၏ ပါဠိ ကျောင်းသည်၊ ယခုအခါ မြတ်စွာ ဘုရားတရားတော်နှင့် သာသနာရေး အတွက်မဟုတ်ဘဲ၊ ပါဠိဘာသာစာပေ လေ့လာရေးအတွက်သာဖြစ်၍ နေသည်။ သူ၏ ကျောင်းရှိ ဆရာများမှာလည်း တိဘက်မှ ဆရာ၊ ဂျပန်မှဆရာနှင့် သင်္သကရိုက် ဆရာများ ပါဝင်၍နေသည်။ သို့အတွက် ထိုကျောင်းကို မြတ်စွာဘုရားတရားတော်နှင့် သာသနာရေးအတွက်ကျောင်းဖြစ်အောင် ထေရဝါဒမှ မဟာယနသို့ ကိုင်းညွတ်၍ မသွားရအောင် ထိန်းသိမ်းစောင့်ရှောက်ဘို့အရေးတကြီးလို၍နေသည်၊ သို့အတွက် ဘိက္ခုကဿပ တောင်းဆိုသည့် အတိုင်း အာဘိဓမ္မိက ရဟန်းတော် တပါးနှင့် ကမ္မဋ္ဌာန်းဆရာရဟန်းတော်တပါး နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က ပို့၍ပေးနိုင်လျှင် ဖို့၍ပေးဘို့ သင့်ပေသည်။

ယခုမျက်မှောက် နာလန္ဒတက္ကသိုလ်ကျောင်းတော်ကြီး၏ အခြေအနေများနှင့် ငိုဘ်ဝင်စားဖွယ်ကောင်းလှသော ခေါ်ဟောင်းမှ နာလန္ဒ အခြေအနေများကို နှိုင်းယှဉ် ကြည့်ရှုကြစေရန် တရုပ်ရဟန်းတော်ခရီးသည်ကြီး ဖါဟီယန်ခေါ် လန်း( LUNG ) မှတ်တမ်း, ဆုယေနကျွံဂ် မှတ်တမ်း ( နာဂရီ အရေးအသားများမှ ) မြန်မာဘာသာသို့ ပြန်ဆို၍ ဇေါ် ပြလိုက်ပါသည်။

အယ်ဒီတာ။

**
*

### ဖါဟီယန်မှတ်တမ်းမှ ရှင်သာရိပုတြာမွေးဖွါးရာ

အနောက်တောင်ဘက်သို့ တယူဇနာသွားပြန်လျှင် လက်ျာတော်ရံအရှင်သာရိပုတြာ အရှင်မြတ် မွေးဖွားတော်မူ၍ ပရိနိဗ္ဗာန် ပြုတော်မူရာ နာလန္ဒ (ယခုအခါ ‘ဘရဂွန်း’) ခေါ် သောရွာသို့ရောက်ကြပါသည်။ ထိုနေရာ၌ ရှေးက တည်ထားကိုးကွယ် ခဲ့ကြသော စေတီတော် တဆူသည် ယခုတိုင်အောင်တည်ရှိလေသည်။

### ဆုယေနကျွံဂ်မှတ်တမ်းမှ နာလန္ဒ-ဟုခေါ်ရပုံ

နာလန္ဒ တက္ကသိုလ်ကျောင်းတိုက် အတွင်း၌ သံဃာရာမ ၆—ခုမျှရှိကုန်၏။ ထို ၆—ခုတို့တွင်၊ ၁—ခုကား ပြို၍နေလေပြီ၊ ကျန် ၅—ခုတို့ကား အထင်အရှား ရှိကြသေး၏။

နာလန္ဒဟု ခေါ်ရခြင်း အကြောင်းနှင့် ပတ်သက်၍ ရှေးအခါက ဘုရားအလောင်းတော်သည်၊ နာလန္ဒဟူသော အမည်ဖြင့် မင်းဖြစ်တော် မူပြီးနောက်၊ ဤအရပ်၌ ကျောင်းအစ်ရိပ်လုပ်တော်မူခဲ့လေသည်၊ နာလန္ဒဘုရင်မင်းမြတ်သည်၊ ဒါနသီလအရာတို့၌ များစွာ မွေ့လျော်တော် မူသော ဘုရင်ဖြစ်သည့်ပြင်၊ အားကိုးရာ မဲ့သူတို့၏ ခံတွင်း အဘို့ကို ပြည့်ဝအောင် ပေးတော်မူတတ်၏။ ထိုကြောင့် နာလန္ဒဟူသော အမည်၏အနက်မှာ၊ န—အလံ—ဒ ဟု ဆိုလိုသည်။ အဓိပ္ပါယ်မှာ မရပ်တန်းပေးသည်ဟု ဆိုလိုခြင်းဖြစ်လေသည်။ ဤနအလံဒဟူသော ပုဒ်မှ၊ နာလန္ဒ ဖြစ်လာသည်ဟု ဆိုလေသည်၊

အချို့သူတို့၏ အဆိုအားဖြင့်၊ နာလန္ဒ အမည်ရှိသော နဂါးကြီး တကောင်သည်၊ ကျောင်းတော်ကြီး၏ တောင်ဘက် အရပ် သရက်ဥယျာဉ်ရှိရာ ရေကန်အတွင်း၌ နေထိုင်ခဲ့သောကြောင့်၊ ထိုနဂါးကြီးကို အစွဲပြု၍ ထိုနေရာ တဒိုက်ကိုလည်း၊ နာလန္ဒ ခေါ်ခြင်းဖြစ်သည်ဟု ဆိုကြသေးသည်။

### ဘုရားရှင်ဝါဆိုဘူးသည်

ဗုဒ္ဓရှင်တော်ဘုရားရှိစဉ်အခါက၊ ဤနေရာ၌ သစ်ပင်အုပ်ကြီး(သရက်ဥယျာဉ်ကြီး) ရှိခဲ့၏။ ထိုသရက်ဥယျာဉ်ကြီးကို သူဌေးတို့သည် ရွှေဆယ်ကုဋေတို့ဖြင့် အုပ်၍ဝယ်ယူပြီးနောက် ဘုရားရှင်အား လှူဒါန်း ခဲ့ကြလေသည်။ ဘုရားရှင်သည် ထိုအရပ်၌ ဝါကပ်တော်မူခြင်းအားဖြင့် သတ္တဝါတို့အား တရားရေအေး အမြိုက်ဆေးကို တိုက်ကျွေးတော်မူလျက် အရဟတ္တမဂ်-အရဟတ္တဖိုလ်သို့ ဆိုက်ရောက်စေတော်မူခဲ့လေသည်။

### သက္ကာဒိစ္စမင်း၏ ကျောင်းတော်

ဗုဒ္ဓ ရှင်တော်ဘုရား ပရိနိဗ္ဗာန် ဝင်စံတော်မူပြီးနောက် နေ့ရက်များစွာ ကုန်လွန်ခဲ့ပြီးလျှင်၊ မဂဓတိုင်း၌ သကြဒိတျ (သက္ကာဒိစ္စ)အမည်ရှိသောဘုရင်မင်းမြတ်သည် အုပ်စိုးတော်မူ၏။ ထိုဘုရင်သည် ဤနာလန္ဒအရပ်၌ သံဃာကျောင်းတော်ကြီး တဆောင်ကို ဆောက်လုပ် ခဲ့ပေရာ၊ အသည်။ ကျောင်းတော်ကြီးပင် ဖြစ်သေသည်၊ ထိုကျောင်းတော်ကြီးသည်၊ မိမိ ဆိုက်ရောက်သည့် အချိန်အထိ ရှိနေသည့်ပြင် သံဃာတော်ပေါင်း ၄၀—ခန့် အမြဲတန်း သုံးနိုင်သည်ကို တွေ့ရလေသည်။

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ ဒုတိယ ဥက္ကဋ္ဌ (နိုင်ငံတော် တရားဝန်ကြီးချုပ်) ဦးသိမ်းမောင်သည်၊ နယူးဒေလီမြို့ အပြည်ပြည်ဆိုင်ရာ တရားဥပဒေညီလာခံသို့ တက်ရောက်ရင်း တွေ့ကြုံရပုံများကို ဗုဒ္ဓသာသနာအဖွဲ့သို့ အစီရင်ခံချက်များ။

သက္ကာဒိတျဘုရင်မင်းမြတ်၏ညီလာခံ၌ နိဂဏ္ဌနေမိတ္တိကဆရာကြီးတဦးရှိပေရာ၊ ထိုဆရာကြီးက စဉ်းစားဆင်ခြင်၍ ဘုရင်မင်းမြတ်အား၊ ဤနာလန္ဒနေရာသည်အားလုံးတို့ထက် အမြတ်ဆုံးနေရာဖြစ်ပါသည်၊ ဤနေရာ၌ သံဃကျောင်းတော်ကြီး လုပ်ခဲ့ပါလျှင်၊ အတတ်ပညာ အရာ၌ ထင်ရှားကျော်စောမည့်ပြင်၊ အနှစ်တထောင်အထိ ဝိညာသင် ဗဟိုဌာနကြီး ဖြစ်ပါလိမ့်မည်၊ ရပ်နီး-ရပ်ဝေးမှ လာရောက်ကြပြီး သကာလ ပညာ သင်ယူမှုကို ပြုကြပါလိမ့်မည်။ ထိုဌာနနှင့်နဂါးကြီးတကောင်ရှိပါသည်ဟု လျှောက်ထားလေသည်။

## ဗုဒ္ဓဂုပတ၏ကျောင်းတော်

သက္ကာဒိတျ ဘုရင်မင်းမြတ် ကွယ်လွန်တော်မူပြီးနောက်၊ သားတော် ဗုဒ္ဓဂုပတနန်းတက်တော်မူလေသည်၊ သားတော်ကလည်း ခမည်းတော် တည်ဆောက်၍ထားခဲ့သည့်ကျောင်းတော်ကြီး၏တောင်ဘက်၌ ကျောင်းတော်ကြီး တဆောင်ဆောက်လုပ်ပြန်လေသည်။

## တထာဂတဂုပတ၏ ကျောင်းတော်

ထိုဗုဒ္ဓဂုပတဘုရင် နတ်ရွာစံပြီးနောက် ထိုမင်း၏ သားတော် တထာဂတဂုပတ နန်းတက်ပြန်လေရာ၊ ဘိုးတော် သက္ကာဒိတျ ဘုရင်မင်းမြတ် ဆောက်လုပ်ခဲ့သည့် ကျောင်း တော် ကြီး ၏ အရှေ့ဘက် ၌ ကျောင်းတော်ကြီး တဆောင် ဆောက်လုပ်ပြန်လေသည်။

## ဗာလာဒိစ္စမင်း၏ ကျောင်းတော်

တထာဂတဂုပတဘုရင်မင်းကြီး နတ်ရွာစံတော် မူပြီးနောက်၊ ဗာလာဒိတျ (ဗာလာဒိစ္စ)မင်းသည် မဂဓဘုရင် အဖြစ်အုပ်စိုးတော် မူလေသည်။ ထိုဘုရင်သည် အရှေ့မြောက်ဘက်၌ ကျောင်းတော်ကြီး တဆောင် ဆောက်လုပ်ပြန်လေသည်။

## ဝဇီရာဒိစ္စမင်း၏ ကျောင်းကြီး

ဗာလာဒိတျမင်း နတ်ရွာ စံပြီးနောက် နန်းတက်သော သားတော် ဝဇြာဒိတျ (ဝဇီရာဒိစ္စ) မင်းသည် ခမည်းတော်၏ ကျောင်းတော်မှ အနောက်နှင့်ဘေးတော် သက္ကာ ဒိတျမင်း ကျောင်းတော်ကြီး၏ မြောက်ဘက်၌ ကျောင်းတော်ကြီး ငါးကျောင်းကို ဆောက်လုပ်ပြန်လေသည်။

## ကျောင်းကြီးခြောက်ကျောင်း

ဝဇီရာဒိစ္စ မင်း၏ နောက်၌၊ ဒက္ခိဏဒေသ (တောင်ပိုင်း)မှ ဘုရင်မင်းတို့သည်၊ ဤကျောင်းတိုက်ကြီး၌ ကျောင်းတော်ကြီးခြောက်ကျောင်းကို တည်ဆောက်ပြန်လေသည်။ အုတ်တံတိုင်းလည်း သီးသန့်ကာပြန်လေသည်။

## မိုးလေတိုင်းသည့်စင်

ထို့ပြင် မိမိရောက်ရှိနေ၌ဝေဒသာလာခေါ် စာသင်ကျောင်း (ဟောလ်) ကြီး၏ အပေါ်ဆုံးထပ်၌၊ လေလာမည့်-မလာမည်။ မိုးရွာမည်-မရွာမည်ကို သိနိုင်ရန် စက်ယန္တရားများ တင်ဆင်ထားသည့်ပြင်၊ နေ လ နက္ခတ်ကြည့်ရှုတိုင်းထွာသည့်အရာများကိုလည်း ပြုလုပ်ထားလေသည်။ စာသင်သား ရဟန်းတော်တသောင်းနှင့် နေရန် အဆောက် အဦများ သီးခြား ရှိကြောင်း၊ ပါမောက္ခ ၁၅၀၀-ခန့် ရှိကြောင်း။ ဟီနယာန-မဟာယာန ဗုဒ္ဓဘာသာများနှင့် နိကာယ တဆယ့်ရှစ်ခုတို့၏ အတတ်များကိုသင်ကြား၍ပေးဘဲ (မိန့်ရှိနေစဉ်) ဝေဒ ပညာများ, ဝေဒင်ပညာများ, ဥပဝေဒ ပညာများ, ဒေသနပညာများ အစရှိသော စာပေကျမ်းဂန်များကိုသာ သင်ကြား ပို့ချကြောင်း ပါမောက္ခချုပ်ကြီးမှာ သီလဘဒြ အရှင်မြတ်ကြီးဖြစ်ကြောင်း၊ ပါမောက္ခ ၁၅၀၀-တို့တွင် ပါမောက္ခ တထောင်ကျော် တို့က ကျမ်းဂန်ပေါင်း ၃၀-ခန့်တို့ကို သင်ကြားပေး၍ ကျန် ပါမောက္ခ ပေါင်း လေးရာကျော်တို့က ကျမ်းဂန်ပေါင်း ၂၀-ကျော်တို့ကို သင်ကြား၍ ပေးကြောင်း ပြဆိုလေသည်။

***



နာလန္ဒကျောင်းတိုက်ကြီးအတွင်း၌တွေ့ရသော အဝလောကိတေဿရခေါ် ဘုရားလောင်းရုပ်ပွားတော်၏ပုံ၊ (ဤဆောင်းပါးနှင့်ဆိုင်သည့် ဓါတ်ပုံ ၃-ခုတို့ကို အင်ဒိ အာရှ ယဉ်ကျေးမှု အတွဲ-၁ အမှတ်၂-မှ ကူးယူသည်။ [အယ်ဒီတာ]

စာမျက်နှာ(၉)မှအဆက်

ပါဠိ သင်တန်းများ ဖွင့်၍ သင်ပေးခြင်း၊ အခြားနေ့များ၌ အရပ်ရပ်က ဘိတ်သော တရားပွဲများတွင် တရားဟောခြင်း စသည်ဖြင့် သာသနာပြု အလုပ်ကို တွင်တွင်ကြီး ရွက်ဆောင်ခဲ့ရာ အတော်ပင် အောင်မြင်ခဲ့ပေသည်။

ဤကဲ့သို့လန်ဒန်မြို့၌ရှိမြန်မာဗုဒ္ဓဘာသာအနည်းငယ် တစုက ယာယီ ကျောင်းကလေးဖွင့်၍ ထောက်ပံ့ကာ သာသနာပြုပုဂ္ဂိုလ် တပါးမျှ နှင့် ဤမျှ အောင်မြင်စွာ နိုင်ငံခြား သာသနာပြု လုပ်ငန်း အတွက် ရွက် ဆောင်နိုင် ခဲ့ သည် ကို ထောက်လျှင် မြန်မာနိုင်ငံတော် ဗုဒ္ဓဘာသာလူထုကြီးက ထာဝရ ကျောင်းကြီး ဖွင့်၍ သာသနာပြု ပုဂ္ဂိုလ် အများ နှင့် ရွက်ဆောင် ပါ လျှင် မည်မျှ အောင်မြင် နိုင် ကြောင်း ကောင်းကောင်းသိနိုင်စရာရှိပေသည်။

အထက်ပါ အနောက် နိုင်ငံ သာသနာရေး အတိုး အဆုတ် အတက် အကျကို ထောက်ခြင်း အားဖြင့် အနောက် နိုင်ငံ သာသနာပြု ရေးတွင် အရှေ့ နိုင်ငံ ဗုဒ္ဓဘာသာများ၏ အကူအညီရမှသာ၊ အထူးသဖြင့် မြန်မာဆရာတော်နှင့်မြန်မာဒကာ, ဒကာမတို့ ကြိုးပမ်း ရွက်ဆောင် ခဲ့သော သာသနာပြု ရေး တွင် မြန်မာနိုင်ငံ ဗုဒ္ဓဘာသာများ၏အကူအညီအထောက်အပံ့ ရမှသာထိထိရောက်ရောက်ကြီးပွားနိုင်မည့် အကြောင်း ဗုဒ္ဓ ဘာသာ အပေါင်းတို့ သိသာရန်ရေးသားအပ်ပေသည်၊

စာမျက်နှာ(၈)မှအဆက်

ဆုငွေများ၊ အောင်လက်မှတ်များ ဖြင့်သာ တင်းမတိမ်စေဘဲ၊ သက်ဆိုင်ရာ ဒေသ၏ အဓိအဘခေါင်းဆောင်များကလည်း မိမိတို့၏ မြို့ရွာ များတွင် ဆုနှင်းသဘင်များ ကျင်းပ၍ မြို့ရွာ ဆုများဖြင့်လည်း ချီးမြှောက်၍ အားပေး ကြလိမ့်မည်ဟု ယုံကြည် မြော်လင့် ပါသည်။’’

သို့ တပည့်တော် ပြောကြားခဲ့သည့်အတိုင်း မြို့နယ်အများမှာပင် ဆုနှင်းသဘင်များ ကျင်းပပြီး၊ မြို့နယ် ဆုများဖြင့်လည်း ချီးမြှောက် ခဲ့ကြကြောင်း တပည့်တော် ကြားသိ ရသည့်အတွက် များစွာ ဝမ်းမြောက်ပါသည်။ ကျေးဇူးလည်း တင်ပါသည်။ ယခုနှစ်အဘို့မှာလည်း မြို့နယ် အလိုက် ဆုနှင်းသဘင်များကျင်းပခြင်း မနှစ်ကထက် ပိုမိုများပြားလိမ့်မည်ဟု တပည့်တော်မြော်လင့်ပါသည်။

## ဆာဦးသွင်၏ ကုသိုလ်

ယခုနှစ်မှစ၍ စာမေးပွဲ ၃—ဆင့်လုံး (သို့ပိုဟ် ၉—ပိုင်းလုံး) တပြိုင်တည်း အောင်မြင်ပြီး၊ ပြည်ထောင်စု နိုင်ငံတော် တဝှမ်းလုံးတွင် ပဌမ ရသော သူအတွက် ဆုငွေ ၃၀၀—နှင့် ၁၅၀—တန်ရွှေတံဆိပ်ကို နိုင်ငံတော် ဗုဒ္ဓသာသနအဖွဲ့ ဥက္ကဋ္ဌ သတိုးသီရိသုဓမ္မ သူဌေးကြီး ဆာဦးသွင် ချီးမြှင့်ပါသည်။ ဆာဦးသွင်က တနိုင်ငံလုံးအတွက် စံနမူနာ ပြုလိုက်သည့် အတိုင်း တိုင်းနှင့်ခရိုင်အသီးသီးတွင် ပဌမ၊ ဒုတိယ၊ တတိယရသောသူများအား တိုင်းဆု၊ခရိုင်ဆုများနှင့် ချီးမြှင့်နိုင်ကြစေရန် နိုင်ငံတော် ဗုဒ္ဓသာသနအဖွဲ့ကြီးက စာမေးပွဲ အောင်စာရင်းများတွင် တိုင်းစာဖြေဌာနနှင့် ခရိုင်စာဖြေဌာနအလိုက် ပဌမ၊ဒုတိယနှင့်တတိယ ရသူများကို အထူး ရွေးချယ်၍ ဖေါ်ပြထားပါသည်၊ နှစ်စဉ် နှစ်တိုင်း တိုင်းအလိုက်၊ ခရိုင်အလိုက် အထူးဆုများပေးနိုင်အောင် ကြိုးစားကြပါရန်လည်း သက်ဆိုင်ရာတို့အား ယခု တပည့်တော် ထပ်မံ၍ မေတ္တာရပ်ခံပါသည်။

## အထောက်အပံ့ဖြစ်ပါစေ

ယခု တပည့်တော်သည် မနှစ်က တောင်းခဲ့သော ဆုအတိုင်းပင် ထပ်၍ တောင်းပြီး နိဂုံးချုပ်ပါတော့မည်ဘုရား။

အဘိဓမ္မာ စာမေးပွဲသည် တနေ့ တခြား ကြီးပွါးတိုးတက် ပါစေသော်။ ထိုစာမေးပွဲသည် နိုင်ငံတော်ဗုဒ္ဓသာသနအဖွဲ့ သာမကႉ ကမ္ဘာပေါ်ရှိ ဗုဒ္ဓဘာသာဝင်အားလုံး ဂုဏ်ယူနိုင်လောက်သော စာမေးပွဲကြီး ဖြစ်ပါစေသော်။ ထိုစာမေးပွဲကြီးသည် မြတ်စွာဘုရား၏ သာသနာတော် ကာလ မြင့်ရှည် တည်စေရန် အကြောင်း အထောက်အပံ့ ဖြစ်ပါ စေသော်။

***

# သံဃာတော်အရှင်မြတ်များအား

# ပွဲလမ်းသဘင်နှင့်စပ်လျဉ်း၍

## သာသနာရေးဝန်ကြီး ဦးဝင်း၏ လျှောက်ထားချက်

### သာသနာရေးဝန်ကြီး ဦးဝင်း၏ လျှောက်လွှာဘုရား

သက္ကရာဇ်ဂါရဝ၊ နိဝါတမာနလာ၊ ပသန္နစေတနာဖြင့် ရှိသေလေးမြတ်စွာ လျှောက်ထားပုံပါသည်၊ မြန်မာပြည် အရပ်ရပ်၌ သီးတင်းသုံးတော်မူကြသော ''အဘိဓဇမဟာရဋ္ဌဂုရု'' တံဆိပ်တော်ရဆရာတော်များ၊ ''အဂ္ဂမဟာ ပဏ္ဍိတ'' တံဆိပ်တော်ရ ဆရာတော်များ၊ နိုင်ငံတော်ဝိနည်းဓိုရ်နှင့် ဩဝါဒါစရိယဆရာတော်များ၊ ခရိုင်ဝိနည်းဓိုရ်နှင့် ဩဝါဒါစရိယ ဆရာတော်များ၊ မြို့နယ် ဝိနည်းဓိုရ်နှင့် ဩဝါဒါစရိယ ဆရာတော်များ၊ ပရိယတ္တိသိုလ် ဗဟိုအဖွဲ့ဝင် ဆရာတော်များ၊ ပရိယတ္တိပညာရေးအဖွဲ့၊ နာယက ဆရာတော်များနှင့် တိုက်ပိုင်၊ ကျောင်းပိုင်၊ တိုက်အုပ်၊ တိုက်ကြပ်ဆရာတော်များဘုရား။

### နေရာသီးသန့်

(၁) မြန်မာပြည် အရပ်ရပ်ရှိ ရဟန်းတော် အချို့တို့သည်၊ အငြိမ့်၊ ဇာတ်ပွဲ၊ ဘောလုံးပွဲ၊ ရုပ်ရှင်ပွဲနှင့် ဘုရားပွဲစသော ပွဲလမ်းသဘင်များကို ကြည့်ရှုခြင်း၊ ထိုသို့ ကြည့် ရှု ရာ၌ ရဟန်း တော် များ နှင့် မလျော်ကန်သော အပြုအမူများပြုကျင့်လျက်ရှိခြင်းတို့ကို၊ အများ အားဖြင့် တွေ့မြင် နေရပါသည်၊ မြန်မာဇာတ်ပွဲ ရုံသွင်းကပြသည့် အခါ များတွင် လည်း ရဟန်းတော်များအတွက် သီးသန့်နေရာပေးထားရသည့်အခြေမျိုးသို့ပင် ဆိုက်ရောက်လျက်ရှိပါသည်၊ ဤကဲ့သို့သီးသန့်နေရာပေးထားရသဖြင့် ဇာတ်ရုံအတွင်းရှိ ၃-ပုံ ၁-ပုံ ပရိသတ်မှာ ရဟန်းတော်များသာ ဖြစ်ရာ ပွဲကြည့် ရဟန်းတော်များမှာ များသောအားဖြင့် ရုံဝင်ကြေးမရှိ ဝင်ရောက်ကြည့်ရသဖြင့်၊ ဇာတ်ရုံပိုင်ရှင်များမှာ နစ်နာလျက်ရှိကြောင်း ကြားသိ ရပါသည်။ အချို့ ရုံပိုင်ရှင် များသည်၊ ရဟန်း တော်များအတွက် သီးသန့်ကပြရန် စီစဉ်ပေးပါမည်ဟုလျှောက်ထား သော်လည်း နာယူခြင်း မရှိကြသဖြင့် ဇာတ်ရုံများ အတွင်း၌ ယခုတိုင်အောင် ရဟန်းတော်များ နေရာကို သီးသန့် သတ်မှတ်ပေးထားရသည့် အဖြစ်မျိုးသို့ရောက်ခဲ့ရပါသည်ဘုရား။

### အမျိုးသမီးများနှင့်

(၂) ဤကဲ့သို့ဇာတ်ရုံအတွင်း သီးသန့်ပေးထားသော နေရာတွင်ပင် ကျေနပ်ခြင်း မရှိသော ပွဲကြည့် ရဟန်းတော် များမှာ လူဝတ်ကြောင် ပွဲကြည့်ပရိသတ်အတွင်းသို့ ပြောင်းရွှေ့၍အမျိုးသမီးများနှင့် ရောရောနှောနှော ကြည့်ရှုကြရာ အချို့ ရဟန်းတော်များမှာ၊ အမျိုးသမီးများအား လက်ထိ လက်ရောက်ကျူးလွန်လျက် ရှိကြောင်း သိရှိရပါသည်၊အချို့ရဟန်းတော်များမှာ အဘိုးအခပေး၍ ရနိုင်သည့်ဇာတ်ရုံတွင်းရှိ ကုလားထိုင်များကိုပင် ရုံပိုင်ရှင် ခွင့်ပြုခြင်းမရှိဘဲ ပွဲလည် ခေါင်ကွင် ကိုယ်တိုင် ယူဆောင်ခင်းကျင်းနေထိုင်ကြသည်ကိုတွေ့ရှိရပါသည်ဘုရား။

### ရာဇဝတ်မှုမကင်း

(၃) အချို့ပွဲကြည့်ရဟန်းတော်များမှာ ရာဇဝတ်မှု မကင်းသည့် တုတ်၊ ဓား စသည့် လက်နက်များကိုပင် ကိုင်ဆောင်လာကြသဖြင့် ဗုဒ္ဓဘာသာဝင် အားလုံး တို့မှာ စိတ်မချမ်းမြေ့ခြင်း ဖြစ်ရပါသည်ဘုရား။



သာသနာရေးဝန်ကြီး၊ ဦးဝင်းပုံ

### ကိုယ်တွေ့ အဖြစ်အပျက်

(၄) ဤကိစ္စနှင့် ပတ်သက်၍ တပည့်တော်ကိုယ်တွေ့ အဖြစ် အပျက် တခု လျှောက်ထားပါရစေဘုရား။

၁၃၁၅-ခုနှစ်၊ သီတင်းကျွတ်လအတွင်း တပည့်တော် မန္တလေး မြို့သို့ ရောက်ရှိ စဉ်က သီတင်းကျွတ် လဆန်း ၁၄ ရက် နေ့ည တွင် သာသနာရေး အတွက် ရင်လေးဘွယ်ရာ ကိစ္စတခုကို ကြုံတွေ့ ခဲ့ရပါသည် ဘုရား။ ထိုသီတင်းကျွတ် လဆန်း ၁၄ ရက်နေ့ည မန္တလေးမြို့ ကျုံးတော်အတွင်း စနေဒေါင့်တွင် ''ကျော်ဝင်းစိန် ဇာတ်အဖွဲ့ ရုံသွင်းကပြနေရာ တပည့်တော်အား ဖိတ်ခေါ်သဖြင့် နိုင်ငံခြား ဧည့်သည်တော်များနှင့် အတူ တနာရီခန့် သွားရောက်ကြည့်ရှုကြပါသည်။ ဇာတ်မင်းသားကျော်ဝင်းစိန်က မင်း သမီး များ မြိ ရုံ ၍ လွှာ် လပ် ရေး မောင်ကွန်းတိုင်အောင်ပရာအက ကပြပြီးဆုံးသည့်အခါ၊ ဇာတ်ရုံအတွင်း သီးသန့်ထားသည့် ရဟန်းတော်များ နေရာမှ ရဟန်းတော် ၄ ပါးက ကျော်ဝင်းစိန် ကပြသည့် ဇာတ်ခုံပေါ်သို့တက်၍အကအဆိုကောင်းသည်ကို နှစ်မြိုက် သဘောကျ၍ ပွဲကြည့်စသင်သား ရဟန်းတော်များ အနေဖြင့် မင်းသား ကျော်ဝင်းစိန်အား အဆိုပါ ရဟန်းတော်များ ကိုယ်တိုင်ဆုတံဆိပ်များဖြင့် ချီးမြှင့်ပေးအပ်သည်ကို တပည့်တော် ကိုယ်တိုင် မိုင်းခြား ဧည့်သည်တော်များ ရှေ့တွင် တွေ့မြင်ခဲ့ရပါသည်ဘုရား၊ ဤကိစ္စမျိုးတွင် ဇာတ်မင်းသား ကျော်ဝင်းစိန်နှင့် ဇာတ်ပိုင်ရှင်တို့မှာ ၎င်းတို့၏ စီးပွားရေးအတွက် ရဟန်းတော် များအား ခုတုံးသဘွယ်ပြုလုပ်၍ တနည်းတလမ်းအားဖြင့် ဂုဏ်ယူ ကြသည် ဟု ဆိုနိုင် သော်လည်း တပည့်တော် အမြင်အားဖြင့် ဆုတံဆိပ် ချီးမြှင့်သည့် ရဟန်းတော်များမှာလဲ ဂုဏ်မရှိ၊ ချီးမြှင့်ခြင်းခံရသည့် ဇာတ်မင်းသားနှင့် ဇာတ်ပိုင်ရှင်တို့မှာလဲ ဂုဏ်မရှိသဖြင့် နောက်ဆုံးတွင်သာသနာတော်ကို ထိခိုက် ညှိုးနွမ်းစေသည့် အကျိုးကိုသာ ဝမ်းနည်းကြေကွဲ ဘွယ်ရာ တွေ့ရှိရပါသည် ဘုရား။ တပည့်တော်နှင့် အတူပါလာကြသည့်နိုင်ငံခြားဧည့်သည် တော် တို့၏ စိတ် မှာ လည်း ရဟန်းတော် များက ယခု ကဲ့သို့ ပွဲ လည် ခေါင် တွင် မဖွယ် မရာ ပြုလုပ် နေသည်ကို မြင်ရခြင်း အားဖြင့်၊ ဗုဒ္ဓဘာသာတရပ်လုံး အပေါ်မှာ အထင် အမြင် သေး သိမ်မည် ဟု ယူဆပါသည်ဘုရား။

### တိုင်တန်းကြပါသည်

(၅) ထို့နောက် မန္တလေး တောင်ခြေရင်း ကျောက်တော်ကြီးဘုရားပွဲတော်တွင်လည်း ရဟန်းတော် အမြောက်အမြားမှာ၊ ပရိသတ်အတွင်းသို့ စည်းမဲ့ကမ်းမဲ့တိုးဝှေ့လျက်၊ အချို့ ရဟန်းတော် များမှာ၊ တုတ်၊ ဓား စသည့် လက်နက် များကို သင်္ကန်းကြားထဲတွင် ကိုင်ဆောင်၍အမျိုးသမီး အုပ်စုထဲသို့တိုးဝှေ့၍ မဖွယ်မရာ ပြုလုပ်နေသည်ကို တွေ့ရသည့်ပြင်၊ နယ်အရာရှိများကလည်း ထိုကိစ္စနှင့် ပတ်သက်၍ တပည့်တော်အား တိုင်တန်း ကြပါသည်ဘုရား၊ ဥပဒေ အရ အရေး ယူလို သော်လည်း သင်္ကန်းကို ရိုသေလေးစားသည့် အတွက် အရေး ယူရန် ဝန်လေးလျက် ရှိပါသည်ဘုရား။

### ကုန်စင်အောင်သိကြမည် မဟုတ်

(၆) ကျောင်း ထိုင်၊ ကျောင်း ပိုင်၊ တိုက်အုပ်၊ တိုက်ကြပ် ဆရာတော်ကြီးများမှာ လဇ္ဇီပေသလ သိက္ခာကာမ ဂုဏ်နှင့် ပြည့်စုံတော်မူကြသည့်အလျောက် သာသနာတော်ရေး ဆိုင်ရာကိစ္စမှတပါး အခြားကိစ္စများအတွက် မိမိတို့ သီတင်း သုံးရာ ကျောင်းဝိုက်မှပြင်ပသို့ ထွက်ကြွတော်မူလေ့မရှိကြ၍ ဤကဲ့သို့သောဝမ်းနည်းဘွယ်ရာ အဖြစ် အပျက်များကို ကုန်စင်အောင် သိရှိတော်မူကြမည်မဟုတ်သဖြင့် ဤကိစ္စရပ်များကိုလျှောက်ထားရခြင်းဖြစ်ပါသည်ဘုရား။

### တံထွေးခွက်တွင် ပက်လက်မျောဖွယ်

(၇) ထိုပြင် ရွှေလာမည့် ၁၃၁၆-ခုနှစ်၊ ကဆုန်လပြည့် ဗုဒ္ဓနေ့မှ စတင်၍ ဆဋ္ဌသင်္ဂါယနာတင် ပွဲတော်ကြီးကို ဆင်ယင်ကျင်းပမည်ဖြစ်ရာ အဆိုပါ ပွဲတော်ကြီးသို့ ထေရဝါဒနိုင်ငံများ ဖြစ်ကြသည့် သီဟိုဠ်၊ ယိုးဒယား၊ ကမ္ဘောဒီးယား၊ လာအို စသည့် တိုင်းပြည် အသီးသီးမှ ရဟန်းရှင်လူ အများအပြား ကြွရောက်တော်မူကြမည်ဖြစ်ပါသည်၊ ထိုသို့ကြွလာကြသည့် အခါ၊ ရန်ကုန်မြို့ တွင်သာမက၊ မြန်မာပြည်အရပ်ရပ်ရှိထင်ရှားသည့်ဒေသများသို့လှည့်လည်၍ တန်ခိုးကြီး ဘုရားပုထိုးများ၊ စာသင်တိုက်ကြီးများနှင့် တိုက်အုပ်၊ တိုက်ကြပ်၊ စာချ အကျော် အမော် ဆရာတော်များထံသို့ဝင်ရောက်ဖူးမျှော်ကြမည်ဖြစ်ပါသည်၊ ဤကဲ့သို့လှည့်လည် ဖူးမျှော်ရာ၌၊ ပွဲလမ်းသဘင်ကြည့်ရှုနေသည့် ရဟန်းတော်များ၊ အကြောင်းမဲ့ လမ်းသလားနေသည့် ရဟန်းတော်များ၊ ကိုယ်တိုင်ငွေကြေးကိုကိုင်တွယ်၍၊ ဝိနည်းတော်နှင့် မအပ်စပ်သည့် ရောင်းဝယ်မှုကိုပြုလုပ်နေသည့်ရဟန်းတော်များ၊ အမျိုးသမီးများအားတိုးဝှေ့ နေသော ရဟန်းတော်များနှင့် ရာဇဝတ်မှုမကင်းသည့် လက်နက်များကိုကိုင်ဆောင်နေသည့် ရဟန်းတော်များကိုတွေ့မြင်သိရှိသွားပါလျှင်၊ ထေရဝါဒ ဗုဒ္ဓဘာသာနိုင်ငံများအနက် ဦးစီး ခေါင်းဆောင်နိုင်ငံအဖြစ် ထင်ရှားလျက်ရှိသော မြန်မာနိုင်ငံ၏ဂုဏ်သတင်းမှာ ကမ္ဘာ့ အလယ် ညှိုးငယ်သိမ်ဖျင်းလျက်၊ ထေရဝါဒနိုင်ငံများ၏ တံထွေးခွက်တွင် ပက်လက်မျောဖွယ်ရာသာရှိမည်ကိုတွေးတော မှုပန်မိပါသည်ဘုရား။

ဤကဲ့သို့ သာသနာတော်တွင် မဖွယ်မရာဖြစ်ပျက်နေသည့် ကိစ္စများကို ဆရာတော် အရှင်မြတ်များ သိရှိတော် မူရန် တပည့်တော်လျှောက်ထားရခြင်း ဖြစ်ပါသည်ဘုရား။

မောင်ဝင်း

သာသနာရေးဝန်ကြီး။

## နိုင်ငံတော် အတွင်းရှိ ဗုဒ္ဓဘာသာ အသင်းအဖွဲ့များနှင့် ဗုဒ္ဓဘာသာဝင်လူကြီးမင်းများထံ သာသနာရေး ဝန်ကြီး၏ မေတ္တာရပ်ခံချက်

ဗုဒ္ဓသာသနာတော်ကြီး ကြီးပွါး ထွန်းကားရေးကို ရှေ့ရှုလျက်မေတ္တာရပ်ခံအပ်ပါသည်။

ပူးတွဲပါဆရာတော်များအားလျှောက်ထားအပ်သော စာလွှာအရ၊ သုံးလူ့ထွတ်ထား၊ ရှင်တော်ဘုရား၏ သုံးပါးသော သာသနာတော်ကြီးကား စောင့်ရှောက် ချီးမြှောက်ခြင်းရှိပါမှ တည်တံ့ခိုင်မြဲလျက် ကြီးပွါး ထွန်းကား နိုင်ပါသည်။ ထိုသို့ စောင့်ရှောက် ချီးမြှောက်ရာ၌လည်း၊ ရဟန်းတော်များချည်း သက်သက်ရင်း၊ လူဒါယကာများချည်းသက်သက်ရင်း စောင့်ရှောက် ချီးမြှောက်ခြင်းငှါ မတတ်နိုင်ပါ၊ ရဟန်းတော်များနှင့် လူဒါယကာများ တွဲဘက်၍ စောင့်ရှောက် ချီးမြှောက်မှသာ တည်တံ့ခိုင်မြဲလျက်ကြီးပွါးထွန်းကား နိုင်ပါသည်။

မြတ်စွာဘုရား လက်ထက်တော်အခါ၊ ဗုဒ္ဓသာသနာတော်ကြီးကို စောင့်ရှောက် ချီးမြှောက်ရာဝယ် အရှင်သာရိပုတ္တရာ၊ အရှင်မဟာမောဂ္ဂလာန်၊ အရှင်အာနန္ဒာ စသော ရဟန်းတော်များနှင့် ဝိသာခါ၊ အနာထပိဏ်၊ ကောသလမင်း စသော လူဒါယကာများ တွဲဘက်ကာ စောင့်ရှောက် ချီးမြှောက်ခဲ့ကြပါသည်။

ကောသမ္ဗီပြည်ဝယ်၊ သုတ္တန်ဆောင် ရဟန်းများနှင့် ဝိနည်းဆောင် ရဟန်းများ ကွဲပြား၍ အဓိကရုဏ်းကြီးဖြစ်ခဲ့ရာ မြတ်စွာဘုရား ကိုယ်တော်တိုင် ဆုံးမ မြန်မြေ၍ မရသဖြင့်(ပါလေလေးတော)သို့ကြွသွားရာ၊ လူဒါယကာများတဦးနှင့်တဦး တိုင်ပင် ညှိနှိုင်းကာ အဓိကရုဏ်း ဖြစ်သော ရဟန်းတော်တို့အား(ရှိသေကိုင်းညွှတ်ခြင်းမပြုရ၊ ဖူးညှိလေးပါး မလှူဒါန်းရ) စသည်ဖြင့် ကတိကဝတ်ပြုလုပ်၍ ရဟန်းတော်များနှင့် မဆက်ဆံဘဲ နေကြသောအခါ ရဟန်းတော်များမှာ လူဒါယကာတို့၏ အရိုအသေလည်းမခံရ၊ဆွမ်းလည်း မစားရသဖြင့် (အဓိကရုဏ်း ငြိမ်းအေး၍ တဘက်နှင့်တဘက် ညီညွတ်ပါတော့မည်)ဟု လူဒါယကာများထံဝန်ခံကာ၊လူဒါယကာများ အကူအညီဖြင့် အဓိကရုဏ်း ငြိမ်းအေး၍ ညီညွတ်ဘူးသောထုံးရှိပါသည်။

၎င်းပြင်မြတ်စွာဘုရားပရိနိဗ္ဗာန်စံလွန်တော်မူပြီးနောက်၊ နှစ်ပေါင်း (၂၅၀၀) အတွင်း၊ သင်္ဂါယနာ ငါးတန်တင်၍ ဗုဒ္ဓသာသနာတော်ကြီးကို စောင့်ရှောက် ချီးမြှောက်ခဲ့ရာ၌လည်း အရှင်မဟာကဿပ စသော ရဟန်းတော်များနှင့် အဇာတသတ်မင်း စသော လူဒါယကာများ တွဲဘက်၍ စောင့်ရှောက် ချီးမြှောက်ခဲ့သော ထုံးရှိပါသည်။

ယခုအခါ ရဟန်းတော်များမှာ၊ ကပွဲ၊ ရုပ်ရှင်၊ ဇာတ်ပွဲသဘင်တို့ကို ကြည့်ရှုခြင်း၊ ဘောလုံးပွဲ၊ လက်ဝှေ့ပွဲတို့ကို ကြည့်ရှုခြင်း၊ မြို့တွင်းရွာတွင်းနှင့်လှည့်လည်ခြင်း၊ ရွှေ၊ ငွေ၊ ဒိုက်ဆံ ကိုင်ခြင်း၊ ဈေးသို့၍ ကိုယ်တိုင် ဝယ်ခြမ်းခြင်း စသောရဟန်းတော်များနှင့် မလျောက်ပတ်သောအပြုအမူတို့ မြင်မှုရှိနေကြသဖြင့်၊ သာသနာတော်ကြီး မသန့်ရှင်းဘဲ တဖြည်းဖြည်း ဆုတ်ယုတ်လျက် နေသည်မှာ မျက်မြင်ကိုယ်တွေ့ဖြစ်ပါသည်။

သို့အတွက် ဗုဒ္ဓဘာသာဝင် ဖြစ်သော လူကြီးမင်းများသည်၊ မိမိတို့ကိုးကွယ်သော ဆရာရဟန်းတော်များနှင့် မိမိတို့ အိမ်သို့ ဆွမ်းခံ ကြွရောက်သည့် သံဃာတော်တို့အား ရဟန်းတော်များနှင့် မလျောက်ပတ်သော အပြုအမူတို့ကိုရှောင်ကြဉ်၍၊ တပည့်ရဟန်းငယ်တို့အားလည်း ဆုံးမ တားမြစ်တော်မူကြရန် အသီးသီး တောင်းပန်လျှောက်ထားကြရန် လေးလေး နက်နက် မေတ္တာရပ်ခံအပ်ပါသည်။

ထိုသို့မေတ္တာရပ်ခံရခြင်းမှာ၊ ရှေ့လာမည့် ၁၃၁၆-ခုနှစ်၊ ကဆုန်လပြည့် ဗုဒ္ဓနေ့မှစတင်၍ ဆဋ္ဌသင်္ဂါယနာတင်ပွဲတော်ကြီးကိုဆင်ယင်ကျင်းပသည့်အခါ၊ အဆိုပါ ပွဲတော်ကြီးသို့ ကမ္ဘာ့ပေါ်ရှိ ဗုဒ္ဓဘာသာ နိုင်ငံအသီးသီးမှ ရဟန်း၊ ရှင်၊ လူ အမြောက်အမြား ကြွရောက် လာရာ၌ ပွဲလမ်းသဘင် အမျိုးမျိုးကိုကြည့်ရှုနေသောရဟန်းတော်များနှင့်၊ မြို့တွင်း၌အကြောင်းမဲ့ လှည့်လည်သွားလာနေသော ရဟန်းတော်များအား တွေ့မြင်သိရှိသွားပါလျှင်၊ ဗုဒ္ဓဘာသာ အစစ်အမှန်နိုင်ငံအဖြစ် ထင်ရှားလျက်ရှိသော မြန်မာ နိုင်ငံ တော်သည်၊ ကမ္ဘာ့ လူမျိုးပေါင်းစုံတို့၏အလည်တွင် ပြစ်တင်ရှုံ့ချခြင်းကို မုချ ခံယူရမည်ဖြစ်၍ ရှက်ဘွယ်လိလိ ဖြစ်ပေလိမ့်မည်။

သို့ဖြစ်သောကြောင့် ထေရဝါဒ ဗုဒ္ဓဘာသာ မြန်မာနိုင်ငံတော်ကြီးသည်၊ ဘိုင်းအသီးသီး၊ ပြည်အနှံ့ရှိမှ ကြွရောက်လာကြသော ကမ္ဘာ့ပရိသတ်အလယ် တင့်တယ်ခန့်ညား၍ မားမားမတ်မတ် ရပ်တည်နိုင်အောင် လူဒါယကာ၊ ဒါယိကာမများဘက်ကလည်း အစွမ်းကုန် ကူညီအားပေး ဆောင်ရွက်ကြပါရန် ထပ်လောင်းမေတ္တာ ရပ်ခံအပ်ပါသည်။

မောင်ဝင်း

သာသနာရေးဝန်ကြီး

---

## လန်ဒန်ပါဠိအသင်းကြီးမှ မစ္စ-အိုင်-ဘီ-ဟောနား



မစ္စ-အိုင်-ဘီ-ဟောနား,ဒေါက်တာ-ဘတ္တလာတို့နှင့် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ အကျိုးဆောင်စာချီ ဦးချန်ထွန်းတို့ ဆွေးနွေး၍နေစဉ်

### ရည်ရွယ်ချက်

များ မကြာ သေးမီက အင်္ဂလန်ပြည် လန်ဒန် မြို့တော်မှ **Pali Text Society** ခေါ် ပါဠိတော် စာပေ အသင်းကြီးရဲ့ အတွင်းရေးမှူး ဖြစ်သူ မစ္စစ်- အိုင်ဘီ ဟောနားသည် ရန်ကုန်မြို့သို့ ရောက်ရှိလာခဲ့ပါတယ်။ လာရင်း အကြောင်းမှာတော့ မြန်မာပြည်မှာရှိတဲ့ ထေရဝါဒ ဗုဒ္ဓသာသနာတော်ရဲ့ အခြေအနေကို မျက်မြင်လေ့လာ သိရှိလိုသည် တကြောင်း၊ ဆဋ္ဌသံဂါယနာအတွက် ထေရဝါဒနိုင်ငံများမှ ပဋိပတ္တိသောမာ ဆရာတော်များ ပိဋကပါဠိတော်များ သုတ်သင် တည်းဖြတ် နေပုံသည် **Pali Text Society** မှ အင်္ဂလိပ်အက္ခရာဖြင့်ထုတ်ဝေလျက်ရှိတဲ့ ပါဠိတော်ကျမ်းစာများကို စစ်ဆေး တည်းဖြတ်စဉ် အခါကနဲ့မည်ကဲ့သို့ထူးခြားပါသလဲဆိုတဲ့ အချက်ကို သိရှိလိုတာလ တကြောင်း၊ ဒါကြောင့်မြန်မာပြည်သို့လာရောက်ခဲ့ခြင်း ဖြစ်ပါတယ်။ မစ္စစ် အိုင်ဘီဟောနားနဲ့ အတူ အင်္ဂလန်ပြည် မန်ချက်စတာ ယူနီဗါစီတီမှ ဂုဏ်ထူးဘာသာပါမောက္ခဖြစ်သူ မစ္စစ်မာဂရက် ဘတ္တလာလဲ လိုက်ပါလာပါတယ်။ ယခုကမ္ဘာအေး ဟိုတယ်မှာ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ရဲ့ဧည့်သည်တော်များအဖြစ် တည်းခိုလျက်ရှိကြပါတယ်။

### အနှစ်တရာခန့်ရှိပြီ

၎င်းတို့ မြန်မာပြည်မှာ ရှိတဲ့အခိုက် တည်းခိုစရိတ် စားစရိတ် စသည်များကို ကျွန်တော်များ နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ကြီးက တာဝန်ယူထားပါတယ်။ အင်္ဂလန်ပြည်မှာ ရှိတဲ့ **Pali Text Society** ခေါ်တဲ့ ပါဠိတော် စာပေ အသင်းဟာ နှစ်ပေါင်း တရာခန့်မျှကြာပါပြီ တည်ထောင်တဲ့ ရည်ရွယ်ချက် ကတော့ ဂေါတမ ရှင်တော်မြတ်ဘုရားရဲ့ဟောတော်မူခဲ့တဲ့ပါဠိတော်များကိုသေချာစွာတည်းဖြတ်ပြီး အင်္ဂလိပ်အက္ခရာနဲ့ စာအုပ်များ ထုတ်ဝေရန်နှင့် ထိုပါဠိတော်များကို အင်္ဂလိပ်ဘာသာပြန် ဆိုပြီး စာအုပ်များထုတ်ဝေရန် အတွက်ရည်ရွယ်ပြီး တည်ထောင်ခဲ့ပါတယ်။ အဲဒီ ရည်ရွယ်ချက်အရ မြတ်စွာ ဘုရားဟောပါဠိတော် များကို ကျမ်း စာ အုပ်များအဖြစ် ပုံနှိပ်ထုတ်ဝေခဲ့ရာ ထိုစာအုပ်များမှာ စံနစ်တကျ အပင်ပန်းခံပြီး သုတ်သင် တည်းဖြတ်ထားတဲ့အတွက် အတော်ဘဲ ကောင်းမွန် သန့်ရှင်း လှပါတယ် ဒါ့ကြောင့် ဆဋ္ဌ သံဂါယနာတင် အတွက် ပါဠိတော်များကို တည်းဖြတ်တဲ့ အခါမှာ အဆိုပါ **Pali Text Society** မှ ထုတ်ဝေတဲ့ ပါဠိတော် စာအုပ်များကိုလဲ လန်ဒန်မူအဖြစ်နဲ့ နှိုင်းယှဉ်ရာတွင် ထည့်သွင်း အသုံးပြုလျက်ရှိပါတယ်။

မစ္စစ် အိုင်ဘီဟောနားဟာ သူ့ရဲ့ရည်ရွယ်ချက်အတိုင်း တမြန်နေ့ကမွန်းလွဲ ၂-နာရီခွဲအချိန်မှာ သာသနာ့ရိပ်သာသို့ လာရောက်ပြီး ပဋိပတ္တိသောမာ ဆရာတော်များ ပိဋကပါဠိတော်နှင့် ပိဋကပါဠိတော် မြန်မာပြန်များ သုတ်သင် တည်းဖြတ်နေသည်ကို လာရောက်ကြည့်ရှုပါတယ်။

### အံ့ဩသွားခြင်း

ဒီအချိန်မှာပဋိပတ္တိသောမာဆရာတော်ဘုရားများကလဲ အဖွဲ့လိုက်အဖွဲ့လိုက်လေးဖွဲ့ခွဲပြီးတော့ မန္တလေးမြို့ရှိ ပဉ္စမ သံဂါယနာတင်ဘဝရှင်မင်းတုန်းမင်းတရားကြီး၏ ကုသိုလ်တော် ကျောက်စာမူနှင့် တိုက်ဆိုင်ထားတဲ့ပါဠိတော်မူကို ပင်ကိုယ်ထားပြီးသီဟိုဠ်မူ၊ ယိုးဒယားမူ၊ ကမ္ဘောဒီးယားမူ၊ လန်ဒန်မူများနဲ့ ညှိနှိုင်းခါ တည်းဖြတ်တော်မူလျက် ရှိကြပါတယ်။ ရံဖန်ရံခါဆိုသလို မူကွဲပုဒ်များတွေ့ရှိကြတဲ့အခါ ဘယ်မူမှာရှိတဲ့ပုဒ်က မှန်ကန်ကြောင်းကို ဆိုင်ရာအဖွင့်ဖြစ်တဲ့ အဋ္ဌကထာ၊ ဋီကာကျမ်းများနှင့်၎င်း၊ သဒ္ဒါကျမ်း အမျိုးမျိုးတို့နှင့်၎င်း၊ တိုက်ဆိုင် စိစစ်၍ အဆုံးအဖြတ် ပေးခါ တည်းဖြတ်နေကြသည်ကို ကိုယ်တိုင် တွေ့မြင်ရတဲ့ မစ္စစ် အိုင်ဘီဟောနားမှာ အထူးဘဲ အံ့ဩ ဝမ်းမြောက်ခြင်း ဖြစ်ခါ ဆရာတော်ဘုရားများမှာ ပရိယတ္တိတွင် အထူးကျွမ်းကျင်၍ တည်းဖြတ်ရာတွင် စည်းစနစ်ကျလှကြောင်းဖြင့် လျှောက်ထား ပြောဆိုတဲ့အပြင် ဆဋ္ဌသံဂါယနာတင်ပွဲ ကျင်းပတဲ့အခါမှာလဲ မရောက်ရောက်အောင်လာဦးမည် ဖြစ်ကြောင်း ကြေကြေ နပ်နပ်ကြီး လျှောက်ထားသွားပါတယ်။

(စာမျက်နှာ ၆ မှ အဆက်)

နေ့ကြီး ဖြစ်ပါတယ်ဘုရား။ ဘာဖြစ်လို့လဲ ဆိုလို့ ရှိလျှင်၊ သည်နေ့ဟာ ပိဋကတ် သုံးပုံး ကို အာဂုံ ဆောင် နိုင် သော အာဇာနည်အရှင်မြတ်ကို ချီးကျူးပူဇော် ရသောနေ့ ဖြစ်တဲ့အတွက်ကြောင့် ဖြစ်ပါ တယ်ဘုရား။

## ဗုဒ်-၃-ဗုဒ်

သာသနာ ဝင် တလျှောက် လုံး မှာ ကြည့်လိုက်မယ်ဆိုလို့ရှိလျှင်လဲ၊ ရှေးပညာရှိကြီးများ အမိန့်ရှိတော်မူတဲ့ စကားတရပ် ရှိပါတယ်၊ ဗုဒ်အစ— ဗုဒ်အလယ်— ဗုဒ် အဆုံးလို့ ရှေး ပညာရှိကြီးများ အထင် အရှား ချီးကျူး အသိအမှတ် ပြုထားတာ ရှိပါတယ်၊ ဗုဒ်အစဆိုတာက၊ သဗ္ဗညုတ ရွှေဉာဏ်တော်နှင့်တကွတရားအားလုံးကို သိတော် မူတဲ့ ရွှေဉာဏ်တော်ရှင် ဖြစ် တော်မူတဲ့ တပည့်တော်တို့ ဗုဒ္ဓမြတ်စွာ ဘုရားသခင် ကိုယ်တော်မြတ်ကို ချီးကျူး ပူဇော် ကာ ဆိုလိုခြင်း ဖြစ်ပါတယ်၊ ဗုဒ်အလယ် ဆိုတာကတော့၊ ရှေးအခါက အနောက် မဇ္ဈိမ ဒေသ အိန္ဒိယပြည် သီဟိုဠ်ကျွန်းများမှာ၊ ဘုရားရှင် ပိဋကတ် တော်များကို ချောက်ချား ပေါက်ရောက် တတ် မြောက် တော် မူပြီး၊ အဋ္ဌကထာ ကျမ်းများကိုစတင်ပြုစုတော်မူခဲ့တဲ့ အရှင် မဟာဗုဒ္ဓဃောသကိုရည်ရွယ်ပြီးဆိုလိုခြင်း ဖြစ်ပါတယ်၊ ဗုဒ် အဆုံးကတော့၊ ရှေး မြန်မာမင်းများ လက်ထက်တော် အခါက ပိဋကတ်တော် အရာမှာ သူမတူအောင် ကျွမ်းကျင်တတ်မြောက်တယ်လို့အင်မတန် ထင်ရှား ကျော်စော ခဲ့တဲ့ ညောင်ကန် ဆရာတော်ဦးဗုဒ်ကို ရည်ရွယ်ပြီးဆိုလိုခြင်း ဖြစ်ကြပါတယ်ဘုရား။

## လူဖြစ်ကျိုးနပ်ပါပြီ

မြန်မာ ရာဇဝင် တလျှောက် လုံးမှာ၊ ဗုဒ္ဓရှင်တော် ဘုရားနှင့် အရှင်မဟာ ဗုဒ္ဓ ဃောသ— ညောင်ကန် ဆရာတော်ဦးဗုဒ် တို့ကို၊ ဗုဒ်အစ—ဗုဒ်အလယ်—ဗုဒ်အဆုံးလို့ ဆိုတဲ့ စကားမှာ ပါဝင်တော် မူတဲ့ ညောင်ကန်— ဆရာတော် ဦးဗုဒ်ဟာ ပိဋကတ် ၃—ပုံကို ချောက်ချား တတ် မြောက်တယ်လို့ စာပေ ကျမ်းဂန်ထဲမှာ တွေ့မြင် ဘတ်ရှုရသော်လည်း၊ ကိုယ်တွေ့ အားဖြင့် မဖူးမြော်ခဲ့ရပါ၊ ယခုအခါမှာ ပြည်ထောင်စု လူထု အစိုးရ ခေတ် မှာ အင်မတန်မှ ထူးကဲသည့် ပိဋကတ် ၃—ပုံ ဆောင် သာသနာ့အာဇာနည်ပေါ်ပေါက် လာပြီ ဖြစ်တဲ့ အတွက် တပည့်တော်တို့ ပြည်ထောင်စုမြန်မာနိုင်ငံတော်တဝှမ်းလုံး လူဖြစ်ကျိုး နပ်ကြပြီလို့ ယုံယုံ ကြည်ကြည် ယူဆပါတယ်ဘုရား။

## ၆-ဂဏန်းနိမိတ်

ဇမ္ဗူဒိပ် နိမိတ် ထွန်းတယ်လို့ တပည့် တော်တထစ်ချ ယုံကြည် ယူဆ ပါတယ် ဘုရား၊ တပည့် တော်တို့ ခြောက်ကြိမ် မြောက် လွတ်လပ်ရေး အောင်ပွဲသဘင် ကိုလဲ မကြာမြင့်မီကဘဲ ကျင်းပ ပြီးစီးခဲ့ ပါတယ်၊ သည်တော့ လွတ်လပ်ရေး အောင်ပွဲ ကျင်းပခဲ့တာက ခြောက်နှစ်ပတ် လည်၊ သံဃါယနာတင်မှာကလဲ ခြောက်



မလ္လကုန်းရပ် နန္ဒဝန်ဇာတ်ရုံတွင် ချီးကျူးပွဲကျင်းပစဉ်

ကြိမ်မြောက် ဖြစ်တဲ့၊ ဆဋ္ဌသံဃါယနာ၊ ယခု ပေါ် ပေါက် ခဲ့တဲ့ တိပိဋကဓရ ဆရာတော် တို့ ဟာလဲ၊ တိပိဋကဓရ ရွေးချယ်ပွဲကျင်းပခဲ့တဲ့ ခြောက်နှစ်မြောက် နှစ်မှာ ပေါ်ပေါက်ခဲ့တဲ့ အတွက် သည် ခြောက်ဂဏန်းဟာဖြင့် တပည့်တော်တို့ အဘို့ရာမှာ အင်မတန် ထူးကဲတဲ့၊ ဆဋ္ဌ သံဃါယနာနဲ့ဒွန်တွဲပြီး နေတဲ့ ဂဏန်းလို့ တပည့်တော် ယူဆ ပါတယ်ဘုရား၊ ယခု ကျင်း ပ ရ တဲ့ ချီးကျူး ပူဇော်ပွဲကို၊ ဘယ်အခါတုံးကနှင့်မှမတူအောင်အရသာ အရှိဆုံးလို့ယူဆပါတယ်။

## ပရိယတ်မှ-ပဋိပတ်သို့

တပည့် တော် တို့ ဟာ ဘာ ဖြစ် လို့ ဒါလောက် ဝမ်းမြောက်ဝမ်းသာ ဖြစ်ရပါ သလဲဆိုတာကို အားလုံးကြွရောက်တော် မူလာကြတဲ့ ဆရာတော် အရှင်သူမြတ် များနှင့် တကွ၊ ဥပါသကာ— ဥပါသိကာ အပေါင်း တို့ သိသာ ထင်ရှား အောင် နဲ့နဲ အဓိရင် ခံလိုပါတယ်၊ ဟိုလွန်ခဲ့တဲ့ ခုနစ်နှစ် လောက်တုံး က ဟော သည် သူဌေးကြီး သတိုးသီရိသုဓမ္မ ဆာ ဦးသွင် ပိုင်တဲ့ (သာသနာ့ရိပ်သာ) မြေပေါ်မှာ စစ်ဘေး စစ်ဒါဏ်ကြောင့် တောအတိ ဖြစ်နေပါတယ်၊ ဆာဦးသွင်ဟာသာသနာ တော်အရေးမှာ အင်မတန်မှ ကြည်ညို လေးစားတဲ့ ဥပါသကာကြီးဖြစ်လေတော့ သူ့မြေနေရာကို သာသနာတော်အတွက် အသုံးပြုမယ် ဆိုပြီး အမိန့်ရှိတဲ့ အတွက်၊ နိုင်ငံတော်ဝန်ကြီးချုပ်နှင့်သာသနာတော် အရေးမှာ အားပေး အားမြှောက် ပြုလုပ် နေကြတဲ့ ပုဂ္ဂိုလ်တွေ တိုင်ပင်ကြပါတယ်၊ တပည့် တော် တို့ ပဌမ စိတ် ကူး ဟာ ကတော့၊ ယခုအခါ သာသနာတော် နှစ်ထောင့်ငါးရာ ပြည့်ဘို့လဲ နီးလာပြီ၊ လူတိုင်း လူတိုင်းဟာလဲ ပရိယတ္တိတွင်သာ မဟုတ်ဘဲ၊ ပဋိပတ္တိလုပ်ငန်းများကို လုပ်ကြ လျှင်ကောင်းမယ်၊ ဒါကြောင့် ပဋိပတ္တိကို ကျွမ်းကျင် တတ်မြောက်တဲ့ ဆရာတော် အရှင်မြတ်များကို ပင့်ပြီး ရန်ကုန်မှာရှိတဲ့ ပုဂ္ဂိုလ်တွေကို သမထ ဝိပဿနာ အလုပ် များကို အားထုတ် စေရလျှင် သိတ်ပြီး သင့်လျော်မှာဘဲ ဆိုပြီး သည်ပဌမစိတ်ကူး နှင့်လွန်ခဲ့တဲ့ ခုနစ်နှစ်လောက်က သည် နေရာမှာရှိတဲ့ တောခြုံပိတ်ပေါင်းတွေကို ရှင်းလင်းပြီး အဆောက်အဦတခု ဆောက် လုပ်ခဲ့ ပါ တယ်၊ အဲသည် အဆောက် အဦးဟာ ယခု မဟာစည် ဆရာတော် သီတင်းသုံးနေတဲ့ ကျောင်း ဖြစ်ပါတယ်၊



သိမ်ကြီးဈေးသမဂ္ဂမှ တိပိဋကဓရအရှင်မြတ်အား [illegible]ရထားဖြင့် ပင့်ဆောင်လှည့်လည်စဉ်

အမှန်ကတော့ ဒီကုန်းမြေ အရပ်ကို သီရိ သုဓမ္မကုန်းလို့ ခေါ်ဘို့ ကောင်းပါတယ် ဘာဖြစ်လို့လဲဆိုလျှင် သာသနာ တော်မှာ တကယ်ကြည်ညိုပြီး သာသနာရေး ကိစ္စ များကို အားပေးကူညီတဲ့ ပုဂ္ဂိုလ်များကို ကြည့်မယ်ဆိုရင်၊ သတိုးသီရိသုဓမ္မ ဆာ ဦးသွင်ထို့နောက်မဟာသီရိသုဓမ္မ ဦးမြတို့ ပါဝင်လေတော့ သည်ကုန်းကို နာမည် ပြောင်းကြဘို့ တပည့်တော်တို့ စေတနာ ထားမိပါတယ်။အဲသည် သာသနာ့ရိပ်သာ လုပ်ဘို့နေရာမှာဘဲဆဋ္ဌသံဃါယနာတင်ဘို့ စိတ်ကူးဖြစ်ပေါ်လာပါတယ်။

## သံဃါယနာတင် ကောလာဟလ

အဲသည်အချိန်ကစပြီး တပည့်တော်တို့ ဟာ သံဃါယနာကို တင်ချင်တဲ့အတွက် သာသနာတော်ကို စောင့်ရှောက် နေကြ တဲ့ သာသနာစောင့် နတ်များ, ကမ္ဘာ စောင့် နတ်များကိုတိုင်တယ်ပြီး သံဃါယ နာ တင်နိုင်ပါစေသားလို့ ဆုတောင်းခဲ့ကြ ပါတယ်။ အဲသည် အချိန်ကစပြီးတော့လဲ သံဃါယနာ တင်လိမ့်မယ်လို့ ကောလာ ဟလဖြစ်ပေါ် လာပါတယ်ဆိုရင် လွန်မယ် မဟုတ်ပါဘူး။ ဘာဖြစ်လို့လဲဆိုတော့ မြတ် စွာဘုရား ပွင့်တော်မူမယ် ဆိုရင် အနှစ် ၁၀၀၀—က ကောလာဟလဖြစ်ပြီး ကြွေး ကြော်လာရသလို ဆဋ္ဌသံဃါယနာတင်ဘို့ ကိစ္စကိုလဲ အဲသည် သာသနာ့ရိပ်သာမှာ စပြီး တိုင်ပင်တဲ့ နေ့က စပြီး (၇) နှစ် လောက်ကတဲက ကောလာဟလ ဖြစ်ပေါ် လာပါတယ်။ ဘယ်သူက စတင်ဖြစ်ပေါ် လာတယ်လို့တော့ မပြောတတ်ဘူး။ လူ တိုင်းဘဲ အားတက်သရောရှိပြီး ဆဋ္ဌသံဃါ ယနာကိုတင်လိုတဲ့ စိတ်ဆန္ဒများ ပြင်းပြင်း ပြပြ ဖြစ်ပေါ်နေကြပါတယ်။ ဒါပေမဲ့ဖြစ် နိုင်ပါ့မလားလို့ သို့လော သို့လော တွေး တောမိကြပါတယ်။

## ဖြစ်ပါ့မလား

အချို့က သံဃါယနာဆိုတာ ဒီလိုလူ တွေ တင်လို့ လုပ်လို့ဖြစ်မလား, မဖြစ်နိုင် ပါဘူး၊ တကဲ့ကို သာသနာတော်ကို ကြည် ညိုပြီး ဘုန်းရှိတဲ့ မင်းများလုပ်မှဖြစ်နိုင်တဲ့ ကိစ္စဘဲလို့ပြောကြတယ်။ တပည့်တော်တို့ စိတ်ထဲမှာလဲ ဖြစ်နိုင်ပါ့မလားလို့ သံသယ ရှိနေမိသေးပါတယ်။ သံဃါယနာ တင်ရင် ကိုးရိုး ကားယားများ ဖြစ်မလားလို့ စိုးရိမ် မိပါသေးတယ်။ ဟိုအခါတုံးက တပည့် တော်တို့စိတ်ထဲမှာ သာသနာတော်ကို အ ဋ္ဌမ်းကုန် ပြုချင်တဲ့ စိတ်ကလွဲလို့ ဘာမျှ မရှိ ပါဘူး။ အဲဒါနှင့် နိုင်ငံတော်မှာရှိတဲ့ ကျမ်း တတ် အကျော် ဆရာတော်တွေကိုပင့်ဖိတ် ပြီး ဩဝါဒကို ခံယူတဲ့အခါမှာ နှစ်နှစ် ကာကာ ဝမ်းသာစရာစကား ကြားရပါ တယ်။ ဆရာတော်ဘုရားများက ဘယ်လို အမိန့်ရှိသလဲဆိုတော့ သံဃါယနာတင်တဲ့ ကိစ္စဟာ မင်းကတင်တာမဟုတ်ဘူး လူက တင်တာလဲမဟုတ်ဘူး။ ငါဘို့ရဟန်းတော် များကတင်ရတာ၊ သံဃါယနာကို လူတင် တာမဟုတ်ဘဲ၊ မင်းတို့လူတွေက ပစ္စည်း လေးပါး ဒါယကာအဖြစ်နှင့်ကူညီထောက် ပံ့လှူဒါန်းပြီး၊ သံဃါယနာတင်တဲ့ရဟန်း တော်များကို မငြိုငြင်အောင် ထောက်ပံ့

လျှင် ပြီးတာဘဲလို့ အမိန့်ရှိတော် မူကြပါတယ်။ အဲသည်တော့ တပည့်တော်တို့ အင်မတန် နှစ်ထောင်းအားရ ဖြစ်မိကြပြီး၊ တပည့်တော်တို့ သံဃါယနာ တင်လို ပါတယ်၊ အရှင်ဘုရားတို့ သံဃါယနာ တင်ခြင်းအားဖြင့် ချီးမြှင့်တော် မူကြပါ။ တပည့်တော်တို့က လိုသမျှကို လှူပါရစေ ဆိုပြီး လျှောက်ထားကြပါတယ်၊ သံဃါယနာ တင်နိုင်တယ် ဆိုတဲ့အတွက် စိတ်ထည်းမှာ ကြေနပ်သွားပြီး ဝမ်းမြောက်ဝမ်းသာ ဖြစ်ကြပါတယ်၊ ဒါပေမဲ့အောင်မြင်ပါ့မလားဆိုတဲ့ သံသယနှင့် သို့လောသို့လော ရှိနေပါသေးတယ်။

## သံသယမရှိပါပြီ

သည်လိုတိပိဋကဓရ ဆရာတော်အရှင်မြတ်ကို ဖူးမျှော် ကံတော့ရတဲ့ နေ့မှာ သည်ဖြစ်ပေါ်လာခဲ့မိတဲ့ သံသယစိတ်တွေဟာ ကင်းရှင်းသွားပါပြီ တပည့်တော်တို့ လိုလို လားလားနှင့် မျှော်လင့်တဲ့ ပုဂ္ဂိုလ်ကျော် ပေါ်ထွက်လာပါပြီ အဲဒါကြောင့် တပည့်တော်တို့ အင်မတန်မှ နှစ်ထောင်းအားရခြင်း ဖြစ်ပါတယ်လို့ လျှောက်ထားရခြင်း ဖြစ်ပါတယ်ဘုရား။

## အမိန့်၃ ၃-ချက်

တပည့်တော်တို့ဟာ သာသနာတော်ကို အလွန်အကျူး ထူးထူးကဲကဲ ပြုပြင်ချင်တဲ့စိတ် ရှိကြပါတယ်၊ ဒါပေမဲ့ တပည့်တော်တို့ဟာ အာသဝေါတရား ကင်းတဲ့ ပုဂ္ဂိုလ်-တမင်-တမိုလ်ကို ရတဲ့ ပုဂ္ဂိုလ်တွေ မဟုတ်ကြပါဘုရား၊ တကယ် တရားတော်ကို အားထုတ် ချင်တယ် ဆိုလျှင်၊ သာသနာတော်ကိစ္စကိုပြီးမြောက်အောင်မြင်ချင်တယ်ဆိုလျှင်၊ မိမိကိုယ်ကို သီလဖြင့် စင်ကြယ်ရမယ်ဆိုတဲ့ ကျမ်းဂန်စကားအတိုင်း တပည့်တော်တို့ဟာ၊အတတ်နိုင်ဆုံး သီလကိုဆောက်တည်ကြပါတယ်။ တတ်နိုင်သလောက် သမာဓိ လုပ်ငန်းကို လုံခြုံအောင် ကြိုးကြိုးစားစား ထိန်းသိမ်းကြပါတယ်။ တတ်နိုင်သလောက်မြဘုစိုရတရား ပွါးများပြီး သံဃါယနာ တင်နိုင်အောင် အဓိဋ္ဌာန် ပြုကြပါတယ်။ နိုင်ငံတော် တဝှမ်းလုံးမှာလဲ ပဋ္ဌာန်းဒေသနာတော်မြတ်နှင့် ပရိတ်တော်များကိုရွတ်ပြီး သာသနာတော်စောင့် နတ်တွေကို တိုင်တယ်ကာ၊ သံဃါယနာကို တင်ထိုက်လို့ ရှိလျှင်ဖြင့်၊ မြတ်စွာဘုရား သခင်၏ ဓါတ်တော်-ဆံတော်-အံတော်-မွေတော်တွေဟာ ပလုပ်ုံသလိုကွန့်မြူးပြီးကြွရောက်ပါစေသားလို့ အဓိဋ္ဌာန် ပြုကြပါတယ်။ ဒါဟာ (ပဌမ) အဓိဋ္ဌာန်ချက် ဖြစ်ပါတယ်။ (ဒုတိယ) မိဋ္ဌာန်ချက်ကတော့ တပည့်တော်တို့ သံဃါယနာ တင်ထိုက်လို့ရှိလျှင်၊ သံဃါယနာကို တင်နိုင်အောင် ချီးမြှင့်ပေးမဲ့ သာသနာကို စောင့်ရှောက်တဲ့ အရှင်အာနန္ဒာ-အရှင် ဥပါလိတို့လို ပုဂ္ဂိုလ်ထူး-ပုဂ္ဂိုလ်မြတ်များ ပေါ်ပေါက်ပါစေသားလို့ အဓိဋ္ဌာန် ပြုကြပါတယ်။ (တတိယ) ကတော့ သံဃါယနာကိုတင်ထိုက်တယ်ဆိုရင်၊ သံဃါယနာတင်မဲ့ခေတ်ကြီးထည်းမှာဝိပဿနာ တရားပွါးများပေါက်မြောက်တဲ့ အရိယာတွေ ပေါ်ထွက်ပါစေသားလို့ အဓိဋ္ဌာန် ပြုကြပါတယ်။

## အရိယာပုဂ္ဂိုလ်တွေ

သည်အဓိဋ္ဌာန်ချက်များဟာ အလုံးစုံ ပြည့်ဝပါပြီ ဆိုတာ တပည့်တော် သည်ကနေ့ ရဲရဲဝံ့ဝံ့ အာမခံရဲပါပြီ၊ ဆုတောင်း မိဋ္ဌာန်ချက် အတိုင်း ပြည့်ဝ ပါပြီ ဘုရား။ ယနေ့ ကြွရောက်တော် မူလာကြတဲ့ ဆရာတော် အရှင် သူမြတ်များနှင့် တကွ၊ ပရိသတ် အပေါင်းတို့ဟာ၊ တပည့်တော်တို့ရဲ့ အမိဋ္ဌာန်ချက် မည်မျှပြည့်ဝခဲ့တယ် ဆိုတာ သိရှိတော်မူပြီး ဖြစ်ပါလိမ့်မည် ဘုရား။ နိုင်ငံတော် ဝန်ကြီးချုပ်နှင့် တပည့်တော်တို့ဟာ အနယ်နယ် အရပ်ရပ်မှ ရန်ကုန်မြို့ကို ပင့်ဆောင်လာတဲ့ ဓါတ်တော်တွေ၊ အိန္ဒိယပြည်မှ ကြွရောက်လာတဲ့ အဋ္ဌသာဝက နှစ်ပါး၏ ဓါတ်တော်တွေကို ထောက်ရှုမယ် ဆိုရင် ထင်ရှားပေါ်လွင် နေပါပြီ ဘုရား။ နောက်ပြီး မြန်မာပြည် အနယ်နယ် အရပ်ရပ်ရှိ စေတီ ပုထိုးများမှ ဓါတ်တော်မွေတော်များ ရန်ကုန်မြို့ကို ကြွရောက်လာတာဟာ အထင်အရှားပင် ဖြစ်ပါတယ်ဘုရား၊ ဒုတိယ အချက်၊ သမထဝိပဿနာ ကိစ္စမှာ ပြီးမြောက်အောင်မြင်တဲ့ အရိယာ ရဟန္တာ ပုဂ္ဂိုလ်တွေ ပေါ်ထွက်ပါစေသား ဆိုတဲ့ မိဋ္ဌာန်ချက်အတိုင်း တပည့်တော်တို့ ဖူးတွေ့ရတာ အကြိမ်ကြိမ် အဖန်ဖန် ရှိပါပြီ သတင်းစာတွေထဲမှာလဲ အနယ်နယ် အရပ်ရပ်မှာ အရိယာအရှင် သူမြတ်များကို တိုင်းသူ ပြည်သားများ ယုံယုံကြည်ကြည်နှင့် ဖူးတွေ့နေကြရကြောင်း အထင်အရှား ပါပြီးနေပါတယ်ဘုရား၊ နောက်သံဃါယနာ တင်ထိုက်လို့ရှိလျှင် ပိဋကသုံးပုံကို အာဂုံ ဆောင်နိုင်တဲ့ ပုဂ္ဂိုလ်ပေါ်ထွက်ပါစေသားဆိုတဲ့ အမိဋ္ဌာန် ချက်အတိုင်း ယခုအခါမှာ စင်ကြယ်စွာ ဓိုက်ပျိုးခဲ့တဲ့ ပဒေသာမှ လိုရာကိုဆွတ်ယူသုံးစွဲနိုင်သလို ပိဋကတ် သုံးပုံကို စင်ကြယ်စွာ နှုတ်ငုံ ဆောင်ပြန်ဆိုနိုင်တဲ့ ပုဂ္ဂိုလ်ကျော် ပေါ်ထွက်၍လာပါပြီဘုရား။

## ကျွတ်တမ်းတူတူ

ယနေ့ ကြွရောက်တော် မူလာကြတဲ့ ဆရာတော် အရှင် မြတ်များနှင့် တကွ ဥပါသကာ ဥပါသိကာ အပေါင်း တို့ဟာ တစိမ်းသွင်သွင်တွေ မဟုတ်ကြတော့ပါ၊ ညီအစ်ကို မောင်နှမ အရင်းတွေ သဖွယ် ဖြစ်လာပါပြီ တိပိဋကဓရ ရွေးချယ်ကျင်းပတဲ့ ပွဲကြီးကို ယခု တနှစ်ထဲ လုပ်တာမဟုတ်ဘဲ နှစ်စဉ် ကျင်းပလာခဲ့တာ ခြောက်နှစ် ရှိလာပါပြီ ကျင်းပတဲ့ အခါတိုင်း ယခုကြွရောက်လာတဲ့ ပရိသတ်ကြီးဟာလဲ အမြဲပါဝင်ပြီး အတူ တကွလာရောက်ပူဇော်ကြတဲ့အတွက် သည်ပုဂ္ဂိုလ်တော် ပရိသတ် လူပရိသတ် တွေဟာ အရိမေတ္တေယျ မြတ်စွာဘုရား သခင်ပွင့်တော်မူလာတဲ့ အခါမှာ ရဟန်းတော်အရှင်မြတ်များကလဲ အဂ္ဂသာဝက မဟာသာဝက ပကတိ သာဝကတွေ ဖြစ်ပြီး တပည့်တော်တို့ လူပရိသတ် များကလဲ ဝိသာခါ အနာထပိဏ် ဇောတိက ဇဋိလ တို့လို ဖြစ်ပြီး ကျွတ်တမ်း ဝင်နိုင်ကြရမယ်လို့ ယုံကြည်ပါတယ်ဘုရား။

## မချီးကျူးဝံ့ပါ

သည်ကနေ့ တိပိဋကဓရ အာဇာနည် ပုဂ္ဂိုလ်ကျော်ကို ပူဇော်သက္ကာရ ပြုရခြင်းဟာ၊ "ပူဇာစ ပူဇနေယျာနံ" ဟူသော မင်္ဂလာ တရားတော် အရ ပူဇော်ရခြင်း ဖြစ်ပါသည်ဘုရား၊ ဒါပေမဲ့ တပည့်တော်တို့ဟာ သည်ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်များနှင့် ထိုက်တန်လျှော်ညီအောင် မချီးကျူးတတ်တော့ပါဘူး ဘုရား၊ ချီးကျူးထိုက်သူကို ထိုက်တန် လျှော်ညီအောင် မချီးကျူးတတ်လျှင်အန္တရာယ်ရှိတယ်လို့ မြတ်ဗုဒ္ဓဘုရားသခင်တော်မှာ အထင်အရှား ပြဆိုထားတာလဲ ရှိပါတယ်ဘုရား၊ ဒါကြောင့် တပည့်တော် အားရပါးရ မချီးကျူးရဲပါဘုရား၊ မချီးကျူးဝံ့ပါဘုရား၊ ရိုရိုသေသေ လေးလေး စားစား ကြည်ကြည်ညိုညိုနှင့် ပူဇော်ခြင်းမျိုးကိုသာ ရဲရဲဝံ့ဝံ့ ပြုလုပ်တတ်ပါသည်ဘုရား။

## အဖွဲ့အသီးသီးနှင့်ရပ်ကွက်များမှချီးကျူးကြခြင်း

၁၆-၂-၅၄ နေ့တွင် တာမွေတိုက်နယ်လုံးဆိုင်ရာ အသင်း အဖွဲ့များက သာသနာ့ရိပ်သာသို့ ကားများဖြင့် လာရောက် ပင့်ဆောင်ကာလှည့်လည်၍ နန္ဒဝန်ရုံကြီး၌ ချီးကျူးပွဲကို ကျင်းပကြလေသည်။

၁၈-၂-၅၄ နေ့တွင် ကုတ်ကိုင်း, ဗဟန်းနှင့် ရွှေတောင်ကြားရပ်ကွက်များမှ လူထုကြီး၏ ချီးကျူးပွဲကို သာသနာ့ ရိပ်သာတွင် ခမ်းနား သိုက်မြိုက်စွာကျင်းပကြလေသည်။

၂၀-၂-၅၄ နေ့တွင် ရန်ကုန်မြို့ အလုံတိုက်နယ်လုံးဆိုင်ရာ တိပိဋကဓရ သာသနာ့ အာဇာနည် ချီးကျူး ပူဇော်ရေး အဖွဲ့မှ ကားများဖြင့် သာသနာ့ ရိပ်သာသို့ လာရောက် ပင့်ဆောင်ကာ လှည့်လည်၍ အလုံလမ်းမှာရုံကြီး၌ချီးကျူးပွဲကိုကျင်းပကြပြန်လေသည်။

၂၁-၂-၅၄ နေ့တွင် သိမ်ကြီးဈေး သမဂ္ဂမှ ကြီးမှူး၍နံက် ၈-နာရီတွင် သိမ်ကြီးဈေးမှ သာသနာ့ရိပ်သာသို့ အရောက် ပင့်ဆောင်ဆွမ်းကပ်ပြီး ပူဇော်သည့် အခမ်းအနားနှင့် ၁၀-နာရီမှ ၁၂-နာရီ အထိ သာသနာ့ ရိပ်သာ၌ ဆွမ်းကပ်ပြီး ပူဇော်ပွဲနှင့် တရားတော်နာ ပွဲများကို ခမ်းနား သိုက်မြိုက်စွာ ကျင်းပ ပြုလုပ်ကြလေသည်။

***

# ဆဋ္ဌသံဃါယနာလိုက်ဂူကြီးအတွက် ကုသိုလ်ပါဝင်ကြသူများ

### ဖြတ်ပိုင်းစာအုပ် ၇-မှအဆက်

၈၀။ ရန်ကုန် တာမွေ ဦးဘိုးထွေး ငွေနာရီကြီး ၁-ကုံး။
၈၁။ ရန်ကုန် ဒေါ်ငွေဟန်၊ ဒေါ်တင် ၁ဝိ။
၈၂။ ရန်ကုန် အလုံ ဦးဘခင် ၃ိ။
၈၃။ ရန်ကုန် ရွှေကိုလေး ဆေးတိုက် ပိုင်ရှင် ဦးဟုတ်စိန်၊ ဒေါ်သန်းစိန်၊ ၁၀ိ။
၈၄။ ရန်ကုန် ကုန်သည် ဦးပိုင်၊ ဒေါ်ဆန်းတင်၊ ၅ိ။
၈၅။ ရန်ကုန် မိုလ်လှထွန်းဦး ၅ိ။
၈၆။ မြေနီကုန်း ကိုရှိ၊ မသန်းရှင် သားသမီးတစု ၈ိ။
၈၇။ ရန်ကုန် မရပ်မြ ၁ိ။
၈၈။ ရန်ကုန် ဦးဇင်၊ ဒေါ်သဲဝါ သားသမီးမြေးတစု ၅၀ိ။
၈၉။ လှည်းတန်းမြို့ ဦးစိန်ဘိုး၊ ဒေါ်ကျင် ၂၀ိ။
၉၀။ ရန်ကုန် ဦးအုန်းလှိုင်၊ မသိန်းဆွေ ၅ိ။
၉၁။ မော်လမြိုင်ကျွန်း ဦးတိုး ၂ိ။
၉၂။ ရန်ကုန် ရွှေအိုးကြီး ဆေးတိုက်ရှင် ဒေါ်ဝန် ၅၀၀ိ။
၉၃။ ဘိလပ်မြေ ဂိုဒေါင် အလုပ် သမားများ၏နေ့စားခမှ အလှူငွေ ၃ိ။
၉၄။ နေပြည်မြို့ သိဂ်ိနဂရ ကျောင်း ခင်မကာန် ဦးဇာရိန္ဒ ၂၅ိ။
၉၅။ နေပြည် သိဂ်ိနဂရကျောင်း ခင်မကာန် ဦးငွေ ၅ိ။
၉၆။ နေ[illegible] ဒေါ်သင်းမေ ၂ိ။
၉၇။ နေ[illegible] ဦးမောင်ညို၊ ဒေါ်သိန်းညွန့် ၁ိ။
၉၈။ မနေ့မြို့ ဒေါ်သိန်းသိန်း ၅ိ။
၉၉။ မနေ့မြို့ မသိန်းတင် ၅ိ။
၁၀၀။ မနေ့မြို့ သိဂ်ိနဂရ ကွက်သစ်-ဦးပိုက်စိန် ၅ိ။

### ဖြတ်ပိုင်းစာအုပ်အမှတ် (၈)

၁။ မနေ့မြို့ ဒေါ်လှအေး ၅ိ။
၂။ မနေ့မြို့ ဦးဘိုးစော၊ဒေါ်ကြည် ၅ိ။
၃။ မနေ့မြို့ ဒေါ်ကျွေ ၂ိ။
၄။ မနေ့မြို့ ဦးဘိုးထိန်၊ဒေါ်လှိုင် ၂ိ။
၅။ မနေ့မြို့ ဦးတင်အေး၊ဒေါ်တင်ကြည်၊ ဒေါ်ငွေခိုင်၊ ဒေါ်ဆိုင်၊ မလှရင်၊ မလှသင် ၅ိ။
၆။ မနေ့မြို့ဒေါ်လုံး၊ဒေါ်သီလှ၊ဒေါ်တင် ၅ိ။
၇။ မနေ့မြို့ ဦးသစ်၊ဒေါ်စိန်တင် ၅ိ။
၈။ မနေ့မြို့ဒေါ်စိန်ခက်၊ဒေါ်မြသင် ၂ိ။
၉။ မနေ့မြို့ မရမ်းချောင်းရွာ ဦးကျော်ဇော၊ ကိုတင်၊ ဒေါ်မွှံ ၅ိ။
၁၀။ မနေ့မြို့ မရမ်းချောင်းရွာ ဦးမောင်နှစ်၊ဦးတော၊ဒေါ်အုံးတင် ၅ိ။
၁၁။ မနေ့မြို့ မရမ်းချောင်းရွာဒေါ်မသေး၊ ဒေါ်အုံးမြ၊ဒေါ်ကျောက်ပု ၅ိ။
၁၂။ မနေ့မြို့ ခင်မကန်ကွက်သစ်၊ ဦးမြတ်ထွန်း၊ ဒေါ်အေးခင် ၅ိ။
၁၃။ မနေ့မြို့ ဒေါ်ငွေရင်၊ဒေါ်မြင့် ၅ိ။
၁၄။ မနေ့မြို့ အုံးပင်ရွာ၊ ဦးမောင်စိန် ဒေါ်စိန်ရင် ၅ိ။
၁၅။ မနေ့မြို့ ပြင်ကသာရွာ ဦးဘမောင်၊ ဒေါ်တင်ညွန့် ၅ိ။
၁၆။ မနေ့မြို့ ကျွဲ တော တန်း ရပ်၊ ဒေါ်အေးခင် ၁ိ။

(ဆက်လက်ဖော်ပြပါဦးမည်)

(စာမျက်နှာ ၄-မှ အဆက်)

တပည့်တော် လျှောက်ထား လိုပါတယ်ဘုရား။

ပဌမဦးဆုံး ပိဋကတ်ပါဠိတော် စာမူပြင်ဆင်ချေးဆိုင်ရာပိဋကတ်တော်စာမူကို သံဃနာယကဆရာတော်ဘုရားကြီးအမိန့်ရှိတော်မူတဲ့ အတိုင်း၊ ဗုဒ္ဓဘာသာ-ဗုဒ္ဓသာသနာ လောက တခုလုံးက တညီတညွတ်တည်း သုခ်သင်ဘည်းဖြတ်ပြီးတဲ့ သည့်ပိဋကတ်တော်မူများကိုသက်ခံနိုင်ရန် အလို့ငှါ ဆောင်ရွက်ရန် ကိစ္စကို ဆရာတော်ဘုရားကြီးများ အားလုံး သိပြီးဖြစ်ပါတယ်ဘုရား၊ တပည့်တော်တို့ ဗုဒ္ဓသာသနာအဖွဲ့က တာဝန်ယူပြီးထောက်ပံ့မှုကိစ္စများကို ဆောင်ရွက်လုက်ရှိပါတယ်၊ ယခု အချိန် ထိအောင် တပည့်တော်တို့ ဗုဒ္ဓသာသနာ အဖွဲ့ကြီး တည်ရာဌာနမှာ သံဃ အဖွဲ့ကြီး သုံးဖွဲ့ ရှိပါတယ် ဘုရား၊ ပဋိဝိသောဓက အဖွဲ့- သောဓေယျပါဌက အဖွဲ့- ဩဝါဒသောဓေယျပါဌက အဖွဲ့များ ဖြစ်ပါတယ်ဘုရား၊ မြန်မာပြည် အရပ်ရပ်မှာရှိတဲ့ ၁၃၀-နီးပါးရှိတဲ့ ဝိသောဓကအဖွဲ့များကသုခ်သင်ရှင်းလင်းလိုက်တဲ့ စာမူများ၊ သီဟိုဠ်ကျွန်းမှာ အစိုးရနှင့် သံဃာ ဘိုင်းသူ ပြည်သားများ ပူးပေါင်းညီညွတ်စွာ ပါဝင်ဖွဲ့စည်းထားတဲ့ သံဃာ့ထောက်ပံ့ရေး အဖွဲ့ကြီးမှတဆင့် သီဟိုဠ်ဝိသောဓကအဖွဲ့များဖွဲ့စည်းပြီး သုခ်သင်ပြင်ဆင်လိုက်တဲ့စာမူများ၊ ယိုးဒယားပြည်က သူ့ဘို့ ရှင်ဘုရင် ကိုယ်ဘိုင် ပါဝင်ရှိ ကမ္မကဋ္ဌပြီး သံဃရာဇာ သာသနာပိုင်ကြည့်ကြပ် လျက် ပြင်ဆင်ထားတဲ့ ယိုးဒယားရဲ့ ဝိသောဓက ကိစ္စပြီး မြန်မာပြည်ကို ပို့အပ်ထားတဲ့စာမူ၊ ကမ္ဘောဒီးယား ပြည်က မကြာမြင့်မီ မြန်မာပြည်ကို ကြွရောက်တော်မူလာတဲ့ သာသနာပိုင်ဆရာတော်ဘုရားကိုယ်ဘိုင် ကြည့်ကြပ်ပြင်ဆင်ထားတဲ့ကမ္ဘောဒီးယားစာမူ အဲသည်လို ဝိသောဓကအဖွဲ့အသီးသီးက သုခ်သင်ပြင်ဆင်ထားတဲ့ မူများကို တဖန် ပြန်ပြီး စုပေါင်းစိစစ် ဆွေးနွေး တည်းဖြတ်ဘို့ရန် အလို့ငှါ ပဋိဝိသောဓက အဖွဲ့များ ဖွဲ့စည်း ဆောင်ရွက် ခဲ့ပါတယ်။ အဲသည်လို အထူးဝါယာမ ဝိုက်ဆုတ်၍ပါဝင်ဆောင်ရွက်တော်မူကြတဲ့ ဆရာတော် ဘုရားကြီးများကို တပည့်တော်ဘို့ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့က ကျေးဇူးဥပကာရတင်ရှိလှပါတယ်ဘုရား။

## သောဓေယျ၊ ဩဝါဒသောဓေယျ

အဲသည်လို ပဋိဝိသောခန ကိစ္စများပြီးစီးပြီးတဲ့နောက်မှာ စက်တင်ပုံနှိပ်ဘို့ရာအတွက် သောဓေယျပါဌကကိစ္စကို ပြုလုပ်ဆောင်ရွက်ရန်ဖြစ်ပါတယ်။ စာပုံနှိပ်တိုက်က ရလာတဲ့ စာမူများကို ပြင်ဆင်ရန် အတွက် ဖြစ်ပါတယ်ဘုရား။ တပည့်တော်တို့ ဗုဒ္ဓသာသနာအဖွဲ့ကဆရာတော်ဘုရားကြီးများ၏ ဩဝါဒကိုခံယူပြီး ဆောင်ရွက်စေရန် လူဘက်က လုံလုံ လောက်လောက် သည့်အဖွဲ့ထည်းမှာ ဖွဲ့စည်းပေးထားတာ ရှိပါတယ်ဘုရား။

လက်ထောက် စာပြင်ဆရာ- စာပြင်ဆရာများနှင့်စာပြင်မှူးချုပ်-လက်ထောက်စာပြင်မှူးချုပ် ပါဠိပညာရှင် မြောက်မြားစွာပါဝင်ပြီး ဖွဲ့စည်း ထားပါတယ်ဘုရား။ ပြီးတော့မှ ရဟန်းတော်များ ဘက်က သောဓေယျပါဌက ဆရာတော်များပါဝင်ကူညီ ဩဝါဒပေးပြီး သန့်ရှင်းစင်ကြယ်အောင် သုခ်သင်ပြင်ဆင်လျက် ရှိပါတယ်၊ ပြီးတော့ နောက်ဆုံး မူကြမ်းကိုပြန်ကြည့်ဘို့ရာ ကိစ္စအတွက် ဩဝါဒ သောဓေယျပါဌက အဖွဲ့မှာ ဆရာတော်ကြီး ငါးပါး ပါဝင်တဲ့အဖွဲ့ရှိပါတယ်၊ ဆရာတော်ဘုရားကြီးများမှာ သိတော်မူကြတဲ့ အတိုင်း၊ သည်အဖွဲ့များရဲ့ တာဝန်များဟာ အလွန်ဘဲ ကြီးလေးခက်ခဲတာကို တွေ့ရပါတယ်ဘုရား၊နေ့စဉ်နံနက် ဂ-နာရီက ၁၀-နာရီအထိ၊နေ့လည် ၁-နာရီကညနေ ၄-နာရီ ၅-နာရီအထိ စာပုံနှိပ်တိုက်က နေ့စဉ်ရိုက်နှိပ် ပြီးစီးတာတွေကို နေ့စဉ်ပြင်သွားပြင်သွား နိုင်အောင် အထူး ကြိုးစားဆောင်ရွက်တော် မူလျက် ရှိကြရပါတယ်ဘုရား၊ အမှန်က မနက် ဂ-နာရီကပြီး စာပုံနှိပ်တိုက်က ရိုက်နှိပ်ရာတွင်၊ ညနေ ၄-နာရီအချိန်အထိ စာမျက်နှာ ၃၂-မျက်နှာပါဝင်တဲ့ တဖေါင်-နှစ်ဖေါင်-သုံးဖေါင် စသည်တို့ကိုဩဝါဒ သောဓေယျပါဌက အဖွဲ့ဝင် ဆရာတော်များက ပြင်ဆင်ရန်ရှိသမျှကိုကြည့်ရှုထားပြီးနောက်တနေ့မှာ စည်းဝေးလျက် ဆောင်ရွက် ရပါတယ်ဘုရား၊ အကြိမ်ကြိမ် အဖန်ဖန် အမြန်မြန် အလှန်လှန် စိစစ်ပြီး အမှား လုံးဝမရှိနိုင်အောင် အင်မတန် သန့်ရှင်းတဲ့မူ အဘက်ဘက်က အထက်တန်းအကျဆုံးမူရနိုင်ဘို့ ဆောင်ရွက်လျက် ရှိပါတယ်၊ ဆရာတော်ဘုရားကြီးများ မြင်တွေ့တော် မူပါလိမ့်မည်၊ပုံနှိပ်ရေးနှင့်ပတ်သက်၍သည်လောက်ကောင်းအောင် သည်လောက်စနစ်တကျဖြစ်အောင် မဆောင်ရွက်ခဲ့ဘူးဘူး ဆိုတာ ဝန်ခံကြရပါလိမ့်မယ်ဘုရား၊ပုံနှိပ်စက်များနှင့် ပတ်သက်၍လည်း စက်များ လုံလုံ လောက်လောက် ရောက်နေပါပြီ ဆရာတော် ဘုရားကြီးများ မြင်တော် မူပါလိမ့်မယ်၊ ပုံနှိပ်စက်ကြီး သုံးလုံးနှင့် ရိုက်နှိပ်လျက် ရှိပါတယ်ဘုရား၊ ပုံနှိပ်တိုက်ဘက်က အထူးဘိုးတက်လျက်ရှိပါတယ်ဘုရား၊ ယခု ပါရာဇိကဏ် ပါဠိတော်- ပါစိတ် ပါဠိတော်နှင့် မဟာဝါ ပါဠိတော်များ အပြီးဘိုင် ပြီးစီးသွားပါပြီ ဘုရား။ စူဠဝါ ပါဠိတော်မှာ စာစီလို့ ပြီးပါပြီဘုရား၊ ပြင်ဆင်ဘို့ လုပ်ငန်း များကို ဆောင်ရွက်လျက်ရှိပါတယ်ဘုရား။

## မြန်မာပြန်များ

ပြီးတော့ မြန်မာပြန် ကိစ္စကအကြမ်းအားဖြင့်နိကာယ်ငါးရပ်အါးလုံးအကြမ်းမှပြီးစီးလို့ တည်းဖြတ် နေဆဲ ဖြစ်ပါတယ်ဘုရား ပါဠိ မြန်မာပြန် ဖဋိဝိသောဓက အဖွဲ့က တည်းဖြတ်စိစစ်ဆောင်ရွက်လျက်ရှိရာမှာယခုအခါဝိနည်းငါးကျမ်းနှင့် ဒီဃနိကာယ်တချို့ပြီးစီးနေပြီ ဖြစ်ပါပြီဘုရား။

## ၂၅၀၀-ခံမည့်စဏ္ဍ။

နောက်တခု ဝမ်းမြောက်စရာ စကား တပည့်တော် လျှောက် ထား လိုတာက ဆဋ္ဌသံဂါယနာတင် ပိဋကတ်တော်များ ရိုက်နှိပ်ပြီးစီးတဲ့အခါမှာ၊ ယခုသံဂါယနာ တွင်ပါဝင်ပူးပေါင်းဆောင်ရွက်တဲ့ ထေရဝါဒ နိုင်ငံကြီး ငါးနိုင်ငံကို တနိုင်ငံလျှင် အထူး စက်တင် ပုံနှိပ်ထားတဲ့ ကျမ်း တစောင်စီပေးနိုင်ရန်အလို့ငှါ၊ အင်မတန် ကောင်းမွန်တဲ့ အနှစ်နှစ်ထောင်- နှစ်ထောင်ငါးရာကြာရှေ့ခံတဲ့စက္ကူကို အမေရိကန်ပြည်က စက္ကူငါးထုတ် လေယာဉ်ပျံနှင့်တနေ့က ရောက်လာပါတယ်၊ အဲသည်စက္ကူများ ပေါ်မှာ အထူး စာအုပ်များအနေနှင့် ရိုက်နှိပ်ပြီး၊ တတိုင်းပြည်လျှင် တကျမ်းစီမူရင်းသဘောဖြင့် ပေးအပ်ထားရန် ဖြစ်ပါတယ်၊ မြန်မာပြည် အတွက် အဲသည်လိုအထူးပုံနှိပ်တဲ့ကျမ်းတကျမ်းကို နောက် ဆောက် လုပ် မည် ဖြစ်တဲ့ ဗုဒ္ဓဘာသာ ကမ္ဘာလုံးဆိုင်ရာ ပိဋကတ်တိုက်တော်ကြီးတွင် ထားရန် တဖေါင်လျှင် ခြောက်ထောင် ရိုက်နှိပ်ရန် စီစဉ်ထားပါသေးတယ်၊ အဲသည်စာရွက်များလဲ ရောက်ရှိလာပါပြီဘုရား။

## ပိဋကတ်ပုံနှိပ်တိုက်

သံဂါယနာ အဆောက်အဦများ ဆိုင်ရာလုပ်ငန်းများ အကြောင်းကိုတပည့်တော် လျှောက်ထား လိုပါသေးတယ်၊ ဆရာတော် ဘုရားကြီးများ သိတော်မူတဲ့ အတိုင်း၊သီရိမင်္ဂလာကုန်းမြေမှာယခုအခါ အဆောက်အဦ များဟာ တနေ့တခြား အံ့ဩ လောက်အောင် တိုးတက် လျက် ရှိပါတယ်၊ ဆောင်ရွက် ပြုလုပ်ရန် ရှိတဲ့ အချိန်နှင့် ပြီးမြောက်နေတဲ့ အချိန်ထောက် စာကြည့်မယ် ဆို လျှင်၊ ရှေး က လူများ ပြောသလို လူတရစ်- နတ်တရစ် ဆောက်လုပ်သလို ဖြစ်တယ်လို့တောင် လူတိုင်း ပြောနေကြပါတယ်၊ အဲသည် အဆောက်အဦတွေ ထည်းမှာ စာပုံနှိပ်တိုက် အဆောက်အဦကြီးကတော့လွန်ခဲ့တဲ့ ငါးလ လောက်ကတည်းက ပြီးနေလို့ အသုံးပြုလျက်အလုပ်လုပ်လျက်ရှိပါတယ်။

## လိုဏ်ဂူတော်ကြီး

ဆဋ္ဌသံဂါယနာ ကျင်းပရန် ဖြစ်တဲ့ လိုဏ်ဂူတော်ကြီးဟာ ဆရာတော်ဘုရားကြီးများမြင်တော်မူတဲ့အတိုင်း အင်မတန်ထူးဆန်းအံ့ဩလောက်အောင် ကြီးကျယ်ခမ်းနားတဲ့အတွက် အနောက် နိုင်ငံက လူများလာတဲ့အခါမှာ အံ့ဩဒိုးလက်ဖျားခါရတဲ့ အဆောက်အဦ ကြီးဟာ ပြီးလှနီးပါး အခြေကို ရောက်နေပါပြီ ဘုရား၊ တာဝန်ယူ ဆောင်ရွက်ခဲ့တဲ့အဖွဲ့က ခဲခဲယဉ်းယဉ်း တာဝန်ခံ လျက် ရှိပါတယ်ဘုရား၊ သံဂါယနာတင်အမှီ ပြီးမြောက်အောင်ဆောက်လုပ်ပေးပါမယ်လို့မနေ့က ထပ်မံပြီး အကြောင်းကြားပါတယ်ဘုရား။

## အာဂန္တုဆောင်များ

ဆရာတော်-သံဃာတော်များ တည်းခိုရန်အတွက် ကျောင်းဆောင်များဟာလဲ ယခု ဆရာတော် ဘုရားများ တည်းခိုရင်း မြင်တော်မူကြဘဲ့အတိုင်း အချိန်မီပြီးစီးရန် ဖြစ်နိုင် လိမ့်မည်လို့ တပည့်တော်တို့ ယုံကြည်ပါတယ်ဘုရား၊ အဲသည်အာဂန္တုကျောင်းဆောင်ကြီး ၄- ဆောင်ဟာလဲ ဆရာတော် ဘုရားကြီးများ မြင်တော်မူတဲ့ အတိုင်း အင်မတန်ကြီးကျယ် ခမ်းနားတဲ့ ခဲခဲယဉ်းယဉ်း ဆောက်လုပ်ရတဲ့ အဆောက်အဦကြီးတွေ ဖြစ်သော်လဲ စေတနာကြောင့် ယခုလောက် ပြီးစီး အောင်မြင်လာတယ်လို့ တပည့်တော် လျှောက်ထားလိုပါတယ်ဘုရားပြီးစီးတဲ့အခါမြန်မာနိုင်ငံတွင်မက ကမ္ဘာပေါ်မှာ သည်လောက် ကျကျနန ခမ်းခမ်းနားနား ဆောက်လုပ်ထားတဲ့ အဆောက် အဦများဟာ မရှိသလောက် ရှားမယ်ဆိုတာ တွေ့မြင်ရပါတယ်ဘုရား။

## ဆွမ်းစားကျောင်း

ပြီးတော့ ဆွမ်းစား ကျောင်းဆောင်ကြီးဟာ အချိန်မှီ ပြီးမြောက်ပါလိမ့်မည်ဟု သည်အဆောက်အဦများကို တာဝန်ယူထားတဲ့ မဟာသီရိသုဓမ္မ ဦးမြကြ ယခုထက်ထိ ခဲခဲယဉ်းယဉ်း တာဝန် ခံလျက်ရှိပါတယ် ဘုရား၊ အဲသည် ဆွမ်းစားကျောင်းကြီးမှ လိုဏ်ဂူတော်ကြီး အထိ တဆက်ထည်း အမိုးနှင့် စင်္ကြံကြီးလည်း အချိန်မှီ ပြီးစီးလိမ့်မည်ဟု တပည့်တော် ယုံကြည်ပါတယ်ဘုရား ရဟန်းတော်များအတွက် သိမ်တော်ကြီးဟာလည်း ပြီးစီးလိမ့်မယ်လို့ တပည့်တော်တို့ မျှော်လင့်ပါတယ်ဘုရား ဆေးရုံအဆောက်အဦကြီးလည်း အချိန်မှီ ပြီးစီး ပါလိမ့်မည်ဘုရား ပြီးတော့ သံဃာတော်ဘက်ဆိုင်ရာ အဖွဲ့များနှင့် နိုင်ငံတော် ဗုဒ္ဓသာသနာ အဖွဲ့ရုံးအဖြစ် အသုံးပြုဘို့ အဖွဲ့ရုံးအဆောက်အဦဟာလည်း ပုံနှိပ်တိုက် အနီးမှာ တော်တော်ဘဲ ဘိုးတက်လျက်ရှိပါတယ် အချိန်မှီ ပြီးစီးနိုင်လိမ့်မည်ဟု တပည့် တော်တို့ ယုံကြည်မျှော်လင့်လျက်ရှိပါတယ်။

## ပိဋကတိုက်တော်ကြီး

ပြီးတော့ ပိဋကတ်တိုက်တော်ကြီးကို ယခုတဘို့ရာ စိုင်းပြင်းဆဲ ဖြစ်ပါတယ် ပိဋကတ် တိုက်ကြီးအတွက်ပဌမစီစဉ်တုန်းက ကမ္ဘာပေါ်မှာ ရှိသမျှ ဗုဒ္ဓဘာသာဆိုင်ရာ စာပေ ပိဋကတ်တော်များကို လိုအင်သမျှ ရနိုင်သမျှ တို့ကို ရှိနိုင်အောင် ထားနိုင်အောင် ပိဋကတ်တိုက်ကြီးတခု ဆောက်လုပ်ဘို့ တပည့်တော်တို့ ရည်မှန်း ခဲ့ပါတယ်၊ပဌမဘုံးကအဆောက်အဦအတွက် ၅-သိန်း ဂ-သိန်း အလွန် အကုန်အကျခံပြီး ဆောက်လုပ်ဘို့ ရည်မှန်း ပါတယ်ဘုရား ယခုဆောက်လုပ်မဲ့ ပိဋကတ်တိုက်တော်ကြီးကတော့ အနည်းဆုံး ၁ိန်း ၃၀-လောက်ကုန်ကျပါလိမ့်မယ် ဘုရား၊ ဘယ်လိုတည်ဆောက်မယ် ဘယ်လို ပုံစံမျိုးနှင့် တည်ဆောက် သင့်တယ်ဆိုတာ ပုံစံမူများကို အမေရိကန်ပြည်နှင့် အိန္ဒိယပြည်က ဗိသုကာ ပါရဂူများက ရေးဆွဲလို့ ပြီးပါပြီ အလုပ်စ-နိုင်ဘဲ လိုပါတော့တယ် ဘုရား အဲသည်ကိစ္စအတွက်ငွေ ၁၀-သိန်း ထုတ်ပေးထားပြီးဖြစ်လို့ မကြာမီ စပါလိမ့်မည် သည်ပိဋကတ် တိုက်ကြီး မှာ ရှေးက ရည်ရွယ်တဲ့ အတိုင်း မဟုတ်ဘဲ ပိုကြီးကျယ်ခမ်းနားတဲ့ အဆောက်အဦ ဖြစ်သဖြင့် သံဂါယနာ စ-တင်သည့်နေ့မှ နောက်တနှစ်လောက် အခါမှပြီးလိမ့်မယ် လို့ တပည့်တော်တို့ မျှော်မှန်း ပါတယ်ဘုရား။

## ပရိဘောဂ

ပရိဘောဂ ကိစ္စနှင့်ပတ်သက်၍ ဧည့်ခံရေး အစရှိသည်ဘို့ကို တပည့်တော် အနည်းငယ် လျှောက်ထားလိုပါတယ်ဘုရား ဆိုင်ရာအဆောက် အဦးများမှာ ထားရှိဘို့ မှန်းမံဘို့ ပရိဘောဂစသည့် ကိစ္စများကိုလဲ ဆောင်ရွက်ဆဲ ရှိပါထယ်၊ သည်ကိစ္စများကို သံဂါယနာအမှီ ကဆုန်လပြည့်အမှီ အားလုံးအသင့် မှန်းမံ ချယ်လှယ်ပြီး ဖြစ်လိမ့်မည်လို့ တပည့်တော်တို့ ယုံကြည်မြှော်လင့်လျက် လုပ်ဆောင် နေပါတယ်ဘုရား ဧည့်ခံဘို့ကိစ္စ ကြိုဆိုဘို့ကိစ္စများကို ဆောင်ရွက်ဆဲ ရှိနေပါတယ်ဘုရား။

## ယာဉ်များပြည့်စုံရေး

ဆဋ္ဌ သံဂါယနာ ကိစ္စ အတွက် ကြွရောက်တော်မူကြတဲ့ သံဃာ တော်များ သွားလာရေးအတွက် ယာဉ်များ အပြည့်အစုံ ရှိအောင်လဲ မှာယူပြီး ဖြစ်ပါတယ်။ မော်တော်ကားအကြီးစား ၂၀-နှင့်အားလုံး မော်တော်ကား အစင်း-၃၀-ကျော်ကျော်ရှိပါလိမ့်မည် မော်တော်ကားများ အတွက် လုံလုံလောက်လောက် သုံးနိုင်အောင် ငွေ-၆-သိန်း ကျော်လောက် သုံးထားပါတယ်၊ ယခုအချိန် အခါမှာတော့ တပည့်တော်တို့မှာ မော်တော်ကားလုံလုံလောက်လောက် မရှိသဖြင့် ဆရာတော်ဘုရားကြီးများ သွားလာ ဆောင်ရွက်တော် မူနိုင်မှုအတွက် အတော်ပင် ခဲခဲယဉ်းယဉ်း စီမံဆောင်ရွက် နေရပါတယ်၊ ဆရာတော် ဘုရား ကြီးများ ယခုလိုသည်းခံပြီး မငြိုမငြင် ဆောင်ရွက်တော်မူခြင်းကိုလဲ တပည့် တော်ဘို့ အင်မတန်ကျေးဇူး ဥပကာရတင်ရှိ ပါတယ် ဘုရား၊ ယခုအစည်းအဝေးသို့ ဆရာတော် ဘုရားများကြွရောက်တော်မူနိုင်ရန်အသုံးပြုသည့် မော်တော်ယာဉ်ကြီး သုံးစင်း ကတော့ သက်ဆိုင်ရာပိုင်ရှင်များက စေတနာသဒ္ဓါတရားထက်သန်စွာဖြင့်ပါဝင်ကူညီခြင်းဖြစ်ပါတယ်ဘုရား၊ တစီးကသီရိစကြာကုမ္ပဏီမှဖြစ်၍၊ နောက် ၂-စီးကတော့၊ ရန်ကုန်နှင့်အင်းစိန်လူစီးမော်တော်ယာဉ်ကြီးများကို သက်ဆိုင်ရာမော်တော်ယဉ် အစည်းအရုံးက ကူညီလှူဒါန်းခြင်း ဖြစ် ပါ တယ် ဘုရား၊ အဲသည်ယာဉ်တွေလောက် နီးနီးအစီး ၂၀ တပည့်တော်ဘို့မှာယူထားပါတယ်၊ မကြာမီရောက်လာလိမ့်မည်လို့ထင်ပါတယ်ဘုရား။

## နိုင်ငံခြားမှလာမည့် ပရိသတ်

ဆဋ္ဌသံဂါယနာကို ကြွရောက်တော်မူလာကြမည့်ပုဂ္ဂိုလ်အရေအတွက်ကိုတပည့်တော်များမြှော်လင့်ခန့်မှန်း တာကတော့၊ သီဟိုဠ်ကျွန်းမှ ရဟန်းတော် ၂၀၀-လူပုဂ္ဂိုလ် ၃၀၀ ပေါင်း ၅၀၀- ကျော်ကျော် ၅၀၀-ခန့်လာရောက်နိုင်ကြလိမ့်မယ်လို့ခန့်မှန်းပါတယ်ဘုရား၊ သည်လို လာရောက်နိုင်ရန် ပင်လယ်ကူးသင်္ဘောကြီးတစင်းကို ငှါးပြီးလာဘို့ စီစဉ် နေတယ်လို့ တပည့်တော်ဘို့ကြားသိရပါတယ်ဘုရား၊ ဒါပေမဲ့ အတော်ကလေးအခက်အခဲ ရှိနေတယ်လို့ သိရှိရပါတယ်၊ သင်္ဘော ကုမ္ပဏီက သုံးသိန်းတောင်းတယ်လို့သိရပါတယ်ဘုရား၊ မည်ကဲ့သို့အခက်အခဲရှိစေကာမူဆဋ္ဌသံဂါယနာကိစ္စကြီးကို အင်မတန်စိတ်ထက်သန်လွန်းလို့ မဖြစ်မနေ လာရောက်ရန် စီစဉ်ဆောင်ရွက်လျက် ရှိသည်ဆိုတာ တပည့်တော်တို့ကြားသိရပါတယ်ဘုရား၊ ယိုးဒယားပြည် ကလည်း၊ သီဟိုဠ်ကျွန်းထက်မနည်းကြွရောက်တော် မူလာကြလိမ့်မည်လို့တပည့်တော် တို့ မြှော် လင့် ပါ တယ် ဘုရား၊ ကမ္ဘောဒီးယားနှင့် လာအိုပြည်များအတွက်ကိုတော့ တ ပည့်တော်များ အတိအကျမခန့်မှန်းနိုင်သဖြင့် မလျှောက်ထားဝံ့အောင်ဖြစ်နေပါသေးတယ်၊ သူတို့ဘိုင်းပြည်မှာ နိုင်ငံရေးကိစ္စက ရှုပ်ထွေးနေလို့ များများ စားစား လာ နိုင် ဘို့ ရာ တပည့်တော်တို့မြှော်လင့်ချက်မရှိသလိုဖြစ်နေပါတယ်၊ ဒါပေမဲ့ သာသနာရေး အတွက်အထူးအရေးကြီးတဲ့ကိစ္စ ဖြစ် နေ လို့ အနည်းနှင့်အများတော့လာရောက်တော်မူကြလိမ့်မယ်လို့ ယူဆရပါတယ် ဘုရား၊ အိန္ဒိယပြည်အတွက်ကိုတော့အိန္ဒိယအစိုးရရဲ့ကိုယ်စားလှယ်များနှင့်ထင်ရှားတဲ့သာသနာရေးဆိုင်ရာ အသင်းအဖွဲ့ကြီးများဖြစ်တဲ့ မဟာဗောဓိအသင်း ဘင်္ဂါလီ ဗုဒ္ဓဘာသာအသင်းစသည်တို့က၊ ရဟန်းဘက်ဆိုင်ရာကိုယ်စားလည်တော်များနှင့် လူပုဂ္ဂိုလ်ဘက်ဆိုင်ရာ ကိုယ်စားလှယ်တော်များကို စေလွှတ်ဘို့အတွက် ဘိတ်မန္တက ပြုဘို့ရာ တပည့်တော် များ စီ စဉ် ထား ပါ တယ် ဘုရား၊ ပြီးတော့ အိန္ဒိယ ပြည် မှ ကြွရောက်သီတင်းသုံးနေတော်မူကြတဲ့မြန်မာရဟန်းတော်များအထည်းမှ သံဂါယနာမှာပါဝင်ဆောင်ရွက်တော်မူနိုင်တဲ့ ပုဂ္ဂိုလ်များကိုပင့်ဘိတ်ဘို့ရာ တ ပည့် တော် တို့ စီစဉ်ထားပါတယ်ဘုရား၊ဗုဒ္ဓဘာသာနိုင်ငံဖြစ်တဲ့ နီပေါလ်ပြည်အတွက်ကိုလည်း၊ နီပေါလ်ဘုရင်၏ ကိုယ်စားလှယ်တော်အဖွဲ့ကို ဘိတ်မန္တကပြုဘို့ရာ စီစဉ်ထားပါတယ်ဘုရား၊ ပါကစ္စတန် ပြည် မှ လည်း အစိုးရကိုယ်စားလှယ်တော် သံဃာ ကိုယ်စားလှယ်တော်များနှင့် ဗုဒ္ဓဘာသာ အသင်းအဖွဲ့များ၏ ကိုယ်စားလည်တော်များကိုပင့်ဘိတ်ရန် အစီအစဉ်ပြုလုပ်ပြီး ဖြစ်ပါ တယ် ဘုရား၊ ကျန် တဲ့ ထေရဝါဒနိုင်ငံမဟုတ်တဲ့ မဟာယန နိုင်ငံများကလည်း အစိုးရကိုယ်စားလှယ်တော် သံဃာ ကိုယ်စားလည်တော် ဘာသာရေးဆိုင်ရာ အသင်းအဖွဲ့များရဲ့ ကိုယ်စားလည်တော်များကို ဘိတ်မန္တကပြု ဘို့ရာ စီ စဉ် ထား ပါ တယ်ဘုရား။

## ဧည့်ခံရေး

ကြွရောက် တော်မူလာကြတဲ့ သင်္ဂီတိကာရကဆရာတော် ရဟန်းတော် များနှင့် ဧည့်သည် ရဟန်းသံဃာတော် အရှင်မြတ်များကို အာဂန္တုကျောင်းဆောင်ကြီးများမှာထားပြီး၊ တပည့်တော်တို့ ဗုဒ္ဓသာသနာအဖွဲ့နှင့်အတူ အစိုးရနှင့် ဘာသာရေးဆိုင်ရာ အသင်းအဖွဲ့များက နေရေး ထိုင်ရေးကျန်းမာရေးများပါမကျန် အကြွင်းမဲ့တာဝန်ယူဆောင်ရွက်ရန် အသင့်စီစဉ်ပြီးဖြစ်ပါတယ် ဘုရား၊ ဆရာတော် သံဃာတော် ရဟန်းတော်များ နှင့် အတူ တကွ လိုက်ပါလာကြပြီး သံဂါယနာကိုကြည်ညိုကြမဲ့လူ ပုဂ္ဂိုလ်များ ကိစ္စကတော့အတော်ကလေး အခက်အခဲ ရှိနေပါတယ် ဘုရား၊ သံဃာတော် အရှင်မြတ်များ အတွက်က ဒါလောက်မခဲယဉ်းပါ၊ မြန်မာပြည်အရပ်ရပ်မှ သံဂါယနာကို လာရောက်ကြည်ညိုကြမဲ့ လူပုဂ္ဂိုလ်များအတွက်ကတော့ သိန်းနှင့်ချီပြီး လာရောက် ပူဇော်ကြလိမ့်မယ်လို့ တပည့်တော်တို့မြှော်လင့် ယုံကြည် တဲ့ အတွက်၊ ရန်ကုန်မြို့ မှာ ရှိတဲ့ ဘာ သာ ရေး သာသနာရေးဆိုင်ရာအသင်း အဖွဲ့ များ မှ ကိုယ်စားလှယ်တော်များကိုတပည့်တော်တို့အဖွဲ့မှပင့်ဘိတ်ပြီး အစည်း အဝေး အကြိမ်ကြိမ်ပြုလုပ်လျက်၊ သည်ကိစ္စများ အတွက်ဆွေးနွေး တိုင်ပင် လျက် ရှိပါတယ်၊ သံဂါယနာစတင်ကျင်းပပူဇော်တဲ့ အချိန်မှာဆိုလျှင်၊ ကျောင်းများ ပိတ်နေပြီဖြစ်တဲ့ အတွက်၊ ရန်ကုန်မြို့ မှာ ရှိတဲ့ တက္ကသိုလ် ကျောင်းဆောင်များနှင့် အစိုးရ ကျောင်းများ၊ မြူနီစီပါယ်ကျောင်းများ၊ ပြီးတော့ ဟိန္ဒူကျောင်းများ၊ နောက် သီရိမင်္ဂလာ ကုန်းမြေမှာရှိတဲ့ လူထုပညာရေးစခန်းများကို တပည့်တော်တို့ ဗုဒ္ဓသာသနာအဖွဲ့က ခေတ္တသိမ်းယူထားဘို့စီစဉ်ပြီးဖြစ်ပါတယ် သက်ဆိုင်ရာဌာနများကလည်း သည်ကိစ္စကို စေတနာ သဒ္ဓါတရားနှင့် သဘောတူ ခွင့်ပြုပြီးဖြစ်ပါတယ်ဘုရား။

တပည့်တော် ယခုလျှောက်ထားသည့် အဆောက်အဦးများနှင့်မလုံလောက် ပါက သီရိမင်္ဂလာကုန်းမြေအနီးမှာ တည်းခိုလိုကြတဲ့ ပုဂ္ဂိုလ်များအတွက် ယာယီတဲကြီး အလုံး ၂၀-ခန့် ဆောက်လုပ်ဘို့ တပည့်တော်တို့ စီစဉ်လျက်ရှိပါတယ်ဘုရား၊ တတဲလျှင် ဧည့်သည် ၅၀၀-ကျ တည်းနိုင်ရန် ဖြစ်ပါတယ်ဘုရား။

ပြီးတော့ သံဂါယနာ တင်ကို လာရောက်ကြည်ညိုကြမဲ့ပြည်တွင်းပြည်ပမှဧည့်သည်တော်များအတွက်အစားအသောက် အသုံး အဆောင်များကို လွယ်လင့်တကူ ဝယ်ယူစားသုံးနိုင်ရန်အတွက် အသင်းဆိုင် သဘော မျိုး နှင့် ဆိုင်များ ဖွင့် လှစ် ရန် တပည့်တော်များ စီစဉ် ဆောင်ရွက်လျက် ရှိပါတယ်ဘုရား၊ နောက်ပြီး သီရိမင်္ဂလာကုန်းမြေရှိ ယာယီ အဆောက်အဦးများမှာ တည်းခိုကြတဲ့ပုဂ္ဂိုလ်များအတွက် ငွေကြေး အကုန်အကျမရှိဘဲနှင့်နေထိုင်စားသောက်ရေးကိစ္စများကို ပြည့်စုံနိုင်စေရန် ဒေသက ဘာသာရေးဆိုင်ရာ အသင်းအဖွဲ့ များနှင့် လူမျိုးစုအသင်းအဖွဲ့များက ကူညီလှူဒါန်းကြလိမ့်မည်လို့လဲ တပည့်တော်ဘို့ မြှော်လင့်ယုံကြည်ပါတယ်ဘုရား၊ ဥပမာ ဟိန္ဒူအသင်းအဖွဲ့များကလူ ၂၀၀၀-က ၃၀၀၀ အထိ နေထိုင်ရန် အဆောက် အဦးများ ဆောက်လုပ်ရန် တိုင်ပင်လျက် ရှိနေကြပါတယ်ဘုရား၊ အစားအသောက် အတွက် လည်း လူပေါင်း ၅၀၀၀-အတွက်တာဝန်ယူထားပါတယ် ဘုရား၊ ပြီးတော့ သက်သတ်လွတ်အစားအသောက်ဆိုင်များ ဖွင့်ဘို့ရာ၊ အဲသည် ဟိန္ဒူဗုဒ္ဓဘာသာအသင်းကြီးက တာဝန်ယူပြီး ဖြစ်ပါတယ်ဘုရား၊ သံဂါယနာကို ကြည်ညို့ပူဇော်ရအောင် လာရောက်ကြသူ မှန်သမျှ အသင့်ဝယ်ယူ စားသုံးနိုင်ရန် ကောင်းမွန် လင်ဆော်ပြီး အဟာရနှင့်ပြည့်စုံတဲ့ အစား အသောက် များကို အသင်းဆိုင်များ ဖွင့်လှစ် ရောင်းချဘို့အတွက် တပည့်တော်များစီစဉ်ထားပါ တယ်ဘုရား။

## ဆရာနှင့် ဒကာ

ယနေ့အထိ တပည့်တော်များ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က စီမံ ဆောင်ရွက်လျက်ရှိသော ကိစ္စများဟာ၊ တပည့်တော်တို့မှာရှိတဲ့ အင်အားနှင့် နှိုင်းစာကြည့်မယ်ဆိုလျှင် အင်မတန် အားတက် ဝမ်းမြောက်ရွှင်လန်း ဖြစ် လောက် အောင် တိုးတက်လျက်ရှိပါတယ်ဘုရား၊ နှိုင်းချင့် အားဖြင့် တပည့်တော်ရိုသေလေးမြတ်စွာ လျှောက်ထားလိုတဲ့စကားရှိပါတယ်ဘုရား၊ အဲဒါက ဘာလဲဆိုလျှင် ဆရာနှင့်ဒကာ နှစ်ဦးသားဘို့သည် အချင်းချင်း ညီညီညွတ်ညွတ် အမှီပြုလုက်ရှိမှသာလျှင်၊ ပရိယတ္တိသဒ္ဓမ္မ- ပဋိပတ္တိသဒ္ဓမ္မ- ပဋိဝေဓသဒ္ဓမ္မများ ပြည့်စုံပြီးမြောက် စေနိုင်ကြောင်းကို ဗုဒ္ဓဘုရားရှင်တော်ဘုရား ဟောကြားတော်မူတဲ့ အတိုင်း ဒကာနှင့် ဆရာ ဆရာနှင့် ဒကာ အမှီသဟဲပြုပြီး ဆဋ္ဌသံဂါယနာကိစ္စကြီးကို ပြီးမြောက် အောင်မြင်အောင် ဆောင်ရွက်တော်မူကြရန် ဖြစ်ပါတယ်ဘုရား၊ ဒကာဘက် ဆိုင် ရာ ပြုမှု ဆောင် ရွက်ဘွယ် ကိစ္စ အရပ်ရပ် တို့ဟာ အင်မတန် နှစ်ထောင်းအားရ ဖြစ်လောက်အောင် တိုးတက်လျက် ရှိသည်ကို ဆရာတော်ဘုရားကြီးများ သိရှိတော်မူပြီးဖြစ်တဲ့ အတိုင်းပါဘုရား၊ ဒကာဘက်က ဆိုလျှင် ရွှေဘုရင် မင်းမြတ်တို့ ဆောင်ရွက်တော် မူသကဲ့သို့၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရနှင့်တကွ နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့နှင့် သာသနာရေးဆိုင်ရာအသင်းအဖွဲ့များက ကျရောက်တဲ့တာဝန်များကို လစ်ဟင်းခြင်း မရှိစေရအောင် အထူးကြိုးစားဆောင်ရွက်လျက်ရှိပါသည်ဘုရား၊ ဒါယကာဘက် ဆိုင်ရာက အထူး ကြိုးစား ဆောင်ရွက်နေသကဲ့သို့၊ ဆရာတော်ဘုရားများဘက်ကလည်း ပင်ပန်း နွမ်းနယ်မှုကို ဖမာမပြုပဲ အင်ဘုက်အားတိုက်ဆောင်ရွက်တော်မူကြသည်ကို တပည့်တော်များ ရှိသေစွာ ဖူးမြင်ရပါသည် ဘုရား။ သည်လို အထူးကြိုးစား ဆောင်ရွက်တော် မူသည်များကိုလည်း အထူး ကျေးဇူး ဥပကာရတင်ရှိပါသည်ဘုရား။ ရှေ့အဘို့လည်း ဆဋ္ဌသံဂါယနာကိစ္စကြီး ပြီးမြောက်သည် တိုင်အောင် ဆရာတော်ဘုရားများက ဆောင်ရွက်ပြီး သွားကြလိမ့်မယ်ဆိုတာ တပည့်တော်များ အကြွင်းမဲ့ ယုံကြည်လျက် ရှိပါတယ်ဘုရား။ အထူးအားဖြင့်တပည့်တော် လျှောက်ထား လိုတာ ကတော့ သံဂါယနာတင်ရန် စီစဉ်ဆောင်ရွက်ဘို့ အချိန်ဟာ အလွန်ပင်နီးကပ်လာပြီဖြစ်သဖြင့် ဆရာတော်များဘက်က ကျရောက်တဲ့ တာဝန်များကို အချိန်မှီဆောင်ရွက်တော်မူနိုင်ရန် ပဌမ သံဂါယနာ- ဒုတိယ သံဂါယနာ- တတိယ သံဂါယနာ-စတုတ္ထ သံဂါယနာ စသည်တို့ကို အဆင့် အတန်း မှီအောင်၊ ဆရာတော်ဘုရားများအစွမ်းရှိသမျှ-တတ်နိုင်သမျှ စီမံဆောင်ရွက်ပြီး သာသနာတော်အရေးကို အထူးချီးမြှင့်တော် မူကြပါမည့် အကြောင်း တပည့်တော် ရိုသေလေးမြတ်စွာ [illegible] လျှောက်ထားပါသည် ဆရာတော် အရှင်မြတ်တို့ဘုရား။

## သံဃနာယက အစည်းအဝေး ဒုတိယအကြိမ်နေ့

# ညောင်ရမ်းဆရာတော် ဩဝါဒ မိန့်ခွန်း

(၁) ပဌမ သံဂါယနာတင်ရောက် စာမူကို အချင်းအား၍၊ ပါဠိတော် အဋ္ဌကထာဋီကာ မှအမျိုးမျိုးမပေါ်ပေါက်ရန် နှင့်မိန္တာဥာဏာဖရဝါဒီ ပုဂ္ဂိုလ်များမလှုပ် ချောက်ချားနိုင်ရန် ပါဠိ ပိဋကတ်ကြီး ဆဋ္ဌသင်္ဂါယနာ ဒိဝေါဗြဟ္မာ မဟာသဘင်ကြီး ကို ဆင်ယင်ကျင်းပ ပြုလုပ်ကြရမည်ဖြစ် ပါသည်၊

(၂) ဤပါဠိဒေသနာ သံဂါယနာ တင်ခြင်းကိစ္စဖြင့်သာလျှင်သာသနာတော် ၏ ထွန်းလင်းတောက်ပခြင်း၊ ဝုဋ္ဌိ ဝိရူဠှိ ဝေပုလ္လ ဖြစ် ခြင်း သို့ ရောက် နိုင် ရန် အ ကြောင်းပြည့်စုံလုံလောက်နိုင်မည် မဟုတ် သေးပါ။

(၃) စင်စစ်အားဖြင့် ယခုအခါ၌၊ အ ယူဝါဒ အမျိုးမျိုး စာအုပ်ငယ်ကလေးများ ပေါ်ထွက်လျက်ရှိခြင်း၊အယူတပါးရှိသော မင်းဘိုအုပ်ချုပ်သည့်နိုင်ငံမင်းမရှိသောတိုင်း ပြည်၊ အသိန်းမရှိသောရည်ကဲ့သို့၊ ရဟန်း ရှင်လူတို့ အကျင့်စာရိတ္တ ပျက်စီးခြင်းများ ကို မြင်နေရကြောင်း ပင်ဖြစ်ပါသော ကြောင့်၊ ပါဠိဒေသနာ ပြုပြီးဖြစ်သော၊ ပါဠိ အဋ္ဌ ကထာ ဋီကာတို့နှင့်ညီညွတ်စွာ အယူဝါဒ ခြောင့်မှန်၍ လာ အောင် အ ယူ ဝါ ဒ ပိဋကနေ သံ ဂါ ယ နာ တင် ခြင်း ကိစ္စ၊ အကျင့်စာရိတ္တ ကောင်းမွန် စင်ကြယ်၍ လာအောင် ပဋိပတ္တိ ပိဋကနေ သံဂါ ယနာတင်ခြင်းကိစ္စကိုလည်းမှုချရဦးမည် ဖြစ်ပါကြောင်း။

(၄) မြတ်စွာဘုရားလက်ထက်တော် ၌၊ အရှင် သာရိပုတ္တရာ၊ အ ရှင် မ ဟာ မောဂ္ဂလာန် အစရှိသော မဟာထေရ်မြတ် တို့သည်၊ မြတ်စွာဘုရားနှင့် အလားတူစွာ ကျင့်ခြင်း တ ရား ဟော ခြင်း ကို ပြုလုပ် ပါ သောကြောင့် သဗ္ဗညုကပ္ပ-သာဝက များ ဖြစ်ပါသည်။

(၅) မြတ်စွာဘုရား မရှိသည့်နောက် ပဌမသံဂါယနာတင်အရှင်မဟာကဿပ၊ ဒုတိယ သံဂါ ယနာတင် အရှင်မဟာ ယသ၊ တတိယ သံဂါယနာတင် အရှင် မဟာ မောဂ္ဂလိပုတ္တတိဿ မဟာထေရ် အမှူးရှိကုန်သော သံဂါယနာတင် မဟာ ထေရ်မြတ်တို့သည် ဘုရားဟော ပါဠိတော် များကို ဇိုဇရဲ ကြံ၍ မပျောက်ပျက် ရ အောင် ပေါင်းစု၍ သံဂါယနာတင်တော် မူကြ သောကြောင့် ဘုရားနှင့် တူသော သဗ္ဗညုကပ္ပ [illegible]ဝကများ ဖြစ်ကြ ပါကုန် သည်။ ထို့ကြောင့် ပဌမသံဂါယနာတင် အရှင် မဟာ ကဿပ ကို သဗ္ဗညုကပ္ပေါ မဟာထေရော၊ ပထမာနည့္တိ ညှိုးနိုးသော၊ ဟူ၍ ဒီပဝင်ကျမ်း၌ ရဟန္တာ မဟာထေရ် မြတ်တို့သည် ချီးမွမ်းထောမနာပြုကုန်၏။

(၆) သို့ဖြစ်ပါ၍ ပြည်ထောင်စု မြန် မာနိုင်ငံတော် [illegible] နိုင်ငံ တော် အတွင်း၌ သံဃာ [illegible] ပေါင်း (၈၀၀၀၀) ရှင်သောင်းခန့် ရှိပါသော် လည်း ယခု ကြွရောက် လာ[illegible] ဆရာ တော်ဘို့ကိုတရားဟောချင်း၊သီလသမာဓိ ပညာ အစ ရှိသည်ဖြင့် မြတ်စွာဘုရား နှင့် တစိတ်တဒေသ တူမှုသော သဗ္ဗညုကပ္ပ မဟာထေရ်များဟူ၍ ယုံကြည် ကြည်ညိုလျှင် ဆဋ္ဌ သံဂါယနာတင်ရန်နှင့် ဩဝါဒပေး ရန် ရွေးချယ်၍ ပင့်လျှောက် ထားခြင်းဖြစ် ပါကြောင်း။

(၇) သို့ဖြစ်ပါ သောကြောင့် ဘုရား နှင့်တူစွာ အယူဝါဒ ပိဋကနေ ပဋိပတ္တိ ပိဋကနေမြှရာတို့၌-

အညာနမေဝ ပဌမံ။
ပဋိရူပေ နိဝေသယေ။
အထညာ မနုသာသေယျ။
န ကိလိဿေယျ ပဏ္ဍိတော။

ဟူ၍၎င်း။

အတ္တနာ စောဒယတ္တာနံ ပဋိမံသေထ အတ္တနာ ကတ္တာ။ အတ္တနာစ သီလ သမ္ပန္နော သီလသမ္ပဒါကထဉ္စ ဘိက္ခုနံ ကတ္တာ။

အစ ရှိသည်ဖြင့်၎င်း။ ဟောတော်မူ အပ်သော ပါဠိတော်များနှင့် အညီ ငါတို့ သည် ဘုရားဟော ဒေသနာတော်အတိုင်း မိစ္ဆာဉာဏ မိစ္ဆာဝါဒတို့ကို ပယ်ရှား၍ သမ္မာဉာဏ- သမ္မာဒိဋ္ဌိ- အယူရှိကြပါကုန် ၏။ ငါ့ရှင်တို့လည်း သမ္မာဒိဋ္ဌိ အယူရှိကြ ပါကုန်လော။

(၈) ငါတို့သည် စတုပါရိသုဒ္ဓိသီလ နှင့်ပြည့်စုံစွာ ကျင့်ကြံနေထိုင်ကြပါကုန်၏။ ငါ့ရှင် တို့လည်း စတုပါရိသုဒ္ဓိ သီလနှင့် ပြည့်စုံအောင် ကျင့်ကြံ နေထိုင် ကြပါ ကုန်လော။

၉။ ငါတို့သည် မိစ္ဆာ- အာဇီဝကို မစင်ဘင်ပုပ်ကဲ့သို့ ရွံရှာစက်ဆုပ်၍ ပယ်စွန့် ပြီးလျှင် သမ္မာအာဇီဝဖြင့် အသက်မွေးကြ ပါကုန်၏၊ ငါ့ရှင်တို့သည်လည်း သီလကို ဖြည့်ကျင့်၍ သမ္မာအာဇီဝဖြင့် အသက် မွေးကြပါကုန်လော။

(၁၀) ငါတို့သည် ပွဲလမ်း သဘင် အပျော် အရွှင်ကို လိုက်စား၍ ရဟန်းတု ရဟန်းယောင် တို့၏ အလေ့-အကျင့်ကို မပြု မလုပ် ကြပါ၊ ငါ့ရှင် တို့သည်လည်း ပွဲလမ်းသဘင် အပျော်အရွှင်ကိုလိုက်စား၍ ရဟန်းတု-ရဟန်းယောင်တို့၏ အကျင့်ဆိုး အကျင့်ယုတ်ကြီးတို့ကို မပြုမလုပ်ကြပါနှင့်။

(၁၁) ငါတို့သည် သာသနာတော် ၏ အညစ်- အကြေးဖြစ်သော ရွှေငွေကို ကိုင်ခံခြင်း ရေး ဝယ်ခြင်း ရောင်းခြင်း အကျိုး ကိုယ်ကျိုး ဝက်ခြင်း၊ မြို့တွင်း ရွာတွင်းသို့ သင်္ကန်းကို မရုံဘဲ လှည့်လည် သွားလာခြင်း စသည် တို့ကို မပြုမလုပ် ကြပါ၊ ငါ့ရှင်တို့လည်း လူ ဒါယကာ တို့၏ သဒ္ဓါတရားကို ပျက်ပြားစေတတ် သော ၎င်းအမှုမျိုးတို့ကို မပြုမလုပ် ကြဉ် ရှောင်ကြပါကုန်လော၊

(၁၂) ငါတို့သည် အနာဂတ္တိ ယာမ ကာလိက် သတ္တာဟကာလိက်- ယာဝ ဇီဝကံ၊ သတိ ပစ္စယေ ဘုဉ္ဇိတုံ ဥမ္မတ္တကဿအာဒိကမ္မိကဿ၊ ဟူသော ပါဠိတော်နှင့်အညီ အနာရောဂါစသော အကြောင်း မရှိဘဲ ယာမကာလိက သတ္တာဟကာလိက ယာဝ ဇီဝက ဆေး တို့ကို မသောက်ကြပါကုန်။ ငါ့ယင်တို့ သည်လည်း အနာရောဂါ တည်းဟူသော အကြောင်းမရှိဘဲ ဆေးသောက်ခြင်းတို့ကို ကြဉ်ရှောင်ကြပါကုန်လော။

ဤသို့ သဗ္ဗညုကပ္ပ ဘုရားနှင့် တူစွာ ဆုံးမ-ဩဝါဒ ပေး၍ ပဋိပတ္တိပိဋကနေ ပြုလုပ်ရမည်ဖြစ်ပါကြောင်း။

(၁၃) သို့ဖြစ် ပါ သော ကြောင့် ရဟန်းသံဃာတော်များနှင့်တကွ တိုင်းသူ ပြည်သားလူများအပေါင်းတို့သည်၊ ကြည် ညိုလေးစား၍၊ အတုယူပြီးလျှင် လိုက်နာ ကျင့်ကြံ အား ထုတ် ကြ ရန်၊ သဗ္ဗညုကပ္ပ ဘုရားနှင့်အလားတူစွာ၊ ဆဋ္ဌသံဂါယနာ တင်ကြမည့် မဟာထေရ်များ ဖြစ်ကြသည် အားလျော်စွာ၊ တိပိဋကဓိုလ်ဆောင်ခြင်းကို အစပြု၍၊ စတုပါရိသုဒ္ဓိသီလဥပစာရ- သမာဓိ အပ္ပနာသမာဓိ တို့နှင့် ပြည့်စုံ အောင် ကျင့်ကြံအားထုတ်ရန် သင့်လျော် ပါကြောင်းသတိပေးစကားလျှောက်ထား တောင်းပန်ပါသည်ဘုရား။

***

## သံဃနာယက အစည်းအဝေးကြီးမှ

# ဆုံးဖြတ်တော်မူချက်များ

(၁) တတိယအကြိမ် ကျင်းပပြီးစီးခဲ့ သော ဩဝါဒါစရိယ သံဃနာယကအဖွဲ့ ၏အစည်းအဝေးမှတ်တမ်းကိုဘတ်ရှုကြား နာ၍ထပ်မံအတည်ပြုတော်မူကြသည်။

(၂) အကျိုးဆောင်ဆရာတော်များ က ဘတ်ကြား တင်သွင်းအပ်သော ဆဋ္ဌ သံဂါယနာဆိုင်ရာ သံဃ ကိစ္စ အဝဝကို [illegible] အဓိရင်ခံစာကိုကြားနာတော်မူကြသည်။

(၃) ဆဋ္ဌသံဂါယနာဆိုင်ရာဝိသော ကေ စသောအဖွဲ့များတွင် မပါဝင်သေးဘဲ ကြွင်းကျန်နေသေးသည့် ထင် ရှား ကျော် စောသော ဆ[illegible]တော်များနှင့် ကြွင်းကျန် နေသော မြို့နယ်အသီးသီးမှ တပါးကျစီ တို့ကို ဆဋ္ဌသံဂါယနာ မဟာ ဓမ္မသဘင် ကြီးသို့ ရွေးချယ်ပင့်ဆောင်ရန် သဘော တူညီတော်မူကြသည်။

(၄) (က)—ဆဋ္ဌသံဂါယနာဖွင့်လှစ် ပွဲအခမ်းအနားကို ပြည်တွင်းမှ ဓမ္မသင်္ဂါဟ [illegible] ပေါင်း ၂၅၀၀-ပင့်ဆောင်ရန်သဘောတူ ညီတော်မူကြသည်။

(ခ) ပဌမနေ့မှပါဘာသောသဒ္ဓပါဌ ငါးရပ်အသီးသီးသို့ ပြည်တွင်းမှ ဓမ္မသင်္ဂါ ဟာက ပုဂ္ဂိုလ် ၄၂၅-ပါးနှင့် ပြည်ပ ၇၅ ပါး၊ ပေါင်း ၅၀၀-စီ ပင့်ဆောင် ရန် သ ဘောတူညီတော်မူကြသည်။

(၅) (က)—ဆဋ္ဌသံဂါယနာ မဟာ ဓမ္မသဘင် ဆိုင်ရာ အဒိအစဉ်များ ရေးဆွဲ သတ်မှတ်ရေးကိစ္စကို ဆဋ္ဌ သံ ဂါ ယ နာ သံဃအဖွဲ့ဥပဒေ ပုဒ်မ ၉-(ဃ)တွင် ရည် ညွှန်းထားသည့်အတိုင်း ဖွဲ့စည်းထားအပ် သော သံဂါယနာ စီစဉ်ရေး (သင်္ဂီတိ ဝိဓါယက) အဖွဲ့သို့လွှဲအပ်တော် မူရန် သ ဘောတူညီတော်မူကြသည်၊

(ခ) အထက်တွင်ဖော်ပြသည့်အပိုဒ် ၃-၄ ပါ ဓမ္မသင်္ဂါဟက ပုဂ္ဂိုလ်များ ပင့် ဆောင်ရေးကိစ္စကိုလည်း၎င်း (သင်္ဂီတိဝိဓါ ယက)အဖွဲ့သို့လွှဲအပ် ဆောင်ရွက် စေ ရန် သဘောတူညီတော်မူကြသည်။

(၆) သတ်မှတ်ထားသော သံဂါ ယနာတင် မဟာဓမ္မသဘင်ကြီး၏ စတင် ဖွင့်လှစ်မည့် ရက်-လကို ထပ်မံစဉ်းစား သင့် မသင့်ကိစ္စနှင့် စပ်လျဉ်း၍ ဆွေးနွေး တော်မူကြရာ၊ သံဂါယနာတင်မည့် ရက် လတို့ကို ပဌမအကြိမ်ကျင်းပခဲ့သောဩဝါ ဒါစရိယ သံဃ နာယက အဖွဲ့ အစည်း အဝေးကြီးက မြွက်ဆိုသတ်မှတ်ထားသည့် အတိုင်းသာ စ-တင်ဖွင့်လှစ်ကျင်းပရန် သ ဘောတူညီတော်မူကြသည်။

(၇) ငန်ဆောင်သံဃအဖွဲ့၏ လွှဲအပ် ချက်အရ ဥက္ကဋ္ဌနှင့် အကျိုးဆောင် ဆရာ တော်များက ဆဋ္ဌသံဂါယနာသံဃဥပဒေ ပုဒ်မ ၉-(င) (စ) (ဆ) (ဇ) တို့တွင် ရည်ညွှန်းထားသည့်အတိုင်း—

[၁] သိက္ခာဝိဓါယကအဖွဲ့
[၂] ကထာဝိသဇ္ဇကအဖွဲ့
[၃] ဝေယျာဝစ္စကာရကအဖွဲ့-နှင့်
[၄] မြန်ကြားရေးနှင့် ဖြန့်ချိရေး

(ပဋ္ဌာဘယ်) အဖွဲ့ အသီးသီးတို့ အတွက် ရွေးချယ်ဖွဲ့စည်းထားသောအဖွဲ့ဝင်သံဃာ တော်များ စာရင်းကို ကြားနာ အတည် ပြုတော်မူကြပြီးလျှင် "သိက္ခာဝိဓာယက" ဟူသော အဖွဲ့အမည်အစား "အာရက္ခ" အဖွဲ့ဟု ပြင်ဆင်တော်မူကြသည်။

(၈) ဩဝါဒါစရိယ သံဃနာယက အဖွဲ့ကြီးက ဆဋ္ဌ သံဂါယနာ ဆိုင်ရာ ဆောင်ရွက်ဖွယ် [illegible]ကို ဆောင် ရွက်တော် မူကြ[illegible] ဝန်ဆောင် [illegible] လွှဲအပ်ရန် သဘော တူညီ တော်မူကြသည်။

(၉) ဆဋ္ဌ သံဂါယနာနှင့် စပ်လျဉ်း [illegible]ချက်များ ရှိခြင့်လိုသော ဩဝါ ဒါစရိယ သံဃနာယက အဖွဲ့ဝင် ဆရာ တော်ကြီးများအား [illegible]ချက်များရှိမြင့် [illegible] အကျိုးဆောင် ဆရာတော် များ[illegible] တောင်းပန် လျှောက်ထားချက် [illegible] ဆရာတော် [illegible] နာတင် [illegible] အကြံဉာဏ် [illegible]မိန့်ကြားတော်မူသည်ကို သဘော တူညီတော်မူကြသည်။

***

# သုတ်သင်ပြီး ခုဒ္ဒကနိကာယ် ပါဠိတော်

အတွဲ (၁) အမှတ် (၈) မှအဆက်။

## ကျမ်းအမှတ်စဉ်(၂၆)ခုဒ္ဒကနိကာယ် ဓမ္မပဒပါဠိတော်

### တောင်ငူ (ရွှေကျင်နိကာယ) ပါဠိဝိသောဓကအဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| (၁) | ဦးသံဝရ | ၅၃ | မူလဓာရ | မြို့ထောင့်ကျောင်း | တောင်ငူ |
| (၂) | ဦးကုဏ္ဍလ | ၅၁ | 〃 | မြို့ခံဂူမင်းကျောင်း | 〃 |
| (၃) | *ဦးကုဏ္ဍလ | ၃၉ | 〃 | လောကုတ္တရာသိမ်ဦးတိုက် | 〃 |
| (၄) | *ဦးဝိဇယ | ၄၀ | 〃 | မဟာဝိဇယာရာမတိုက် | 〃 |
| (၅) | ဦးသဥ္စန | ၃၃ | 〃 | အသောကာရုံကျောင်းတိုက် | 〃 |

အတွဲ (၁) အမှတ် (၁၀) မှအဆက်

## ကျမ်းအမှတ်စဉ် (၃၆) ပဋိသမ္ဘိဒါမဂ်ပါဠိတော် (ဒုတိယ)

### ပုသိမ်မြို့ (သုဓမ္မာနိကာယ) ပါဠိဝိသောဓက အဖွဲ့ဝင်ဆရာတော်များ

| အမှတ်စဉ် | ဘွဲ့တော် | သိက္ခာ | အရည်အချင်း | ကျောင်းတိုက် | မြို့နယ် |
|---|---|---|---|---|---|
| (၁) | ဦးပညာနန္ဒာဘိဝံသ | ၄၆ | ပရိယတ္တိဓမ္မာစရိယ | ရွှေရေးဆောင်တိုက် | ငါးသိုင်းချောင်း |
| (၂) | ဦးကောသလ္လ | ၄၇ | မူလဓမ္မာစရိယ | ရွှေတောင်ကျောင်းသစ် | ပုသိမ် |
| (၃) | *ဦးပဏ္ဍိတ | ၃၅ | 〃 | ကံလျားကျောင်းတိုက် | 〃 |
| (၄) | ဦးသူရိယ | ၃၅ | 〃 | မှန်ကျောင်းတိုက် | ငါးသိုင်းချောင်း |
| (၅) | *ဦးစန္ဒိမာ | ၂၈ | 〃 | ကျောက်ချောင်းကြီးတိုက် | ပုသိမ် |
| (၆) | ဦးဂန္ဓိရာနန္ဒာဘိဝံသ | ၂၀ | သာသနဓဇဓမ္မာစရိယ | ကံလျားကျောင်းတိုက် | 〃 |

## ပိဋကသုံးပုံ နှုတ်တက်ပွဲ

### ရက် ၂၇-ရက် နာရီ-၆၅၀ နှုတ်တက်ပူဇော်မည်

သုံးကြိမ်မြောက် ရွှေမြေး ဆဋ္ဌသံဂါယနာ နိကာယ်ငါးရပ် ပိဋကတော် သုံးပုံ နှုတ်တက်ပွဲကြီးကို ဆဋ္ဌသံဂါယနာ တင်ရာ သိမ်ကြီးလှိုဏ်ဂူ ကုန်းတော်ကြီး၌ ၁၃၁၅-ခု၊ တပေါင်းလဆန်း(၁၀)ရက် (၁၃-၃-၅၄) တနင်္ဂနွေနေ့ နံနက် ၆ နာရီအချိန်မှ စ၍၊ မဟာသီရိသုဓမ္မ ဟာသာတ ဦးနု၊ နိုင်ငံတော်ဝန်ကြီးချုပ် ဦးနု၊ သာသနာရေးဝန်ကြီး ဦးဝင်းတို့ ကြီးမှူးသော သံဃာရုံးကြီးတော်အဖွဲ့ ဝင်ဆရာ ၂၄-ဦးတို့သည်၊ ပဌမ သံဂါယနာတင်စဉ်အခါ ရှေးဦးစွာ တင်တော်မူသော ဝိနည်းပိဋကတော်မှ အစပြု၍၊ ရက်ပေါင်း ၂၇-ရက် နာရီပေါင်း ၆၅၀-ဖြင့် နိကာယ်ငါးရပ် ပိဋကသုံးပုံ အလုံးစုံ ပြီးဆုံးအောင် ၁-နာရီ လျှင် ဆရာ တယောက်ကျ တာဝန်ယူ၍ ၂၇-ရက် ဆက်လုံး နေ့ည ၂၄-နာရီ အသံမပြတ် အမြဲ မပြတ် နှုတ်တက် ပူဇော်ကြလေသည်။ ထိုနိကာယ်ငါးရပ် ပိဋကသုံးပုံမှာ စာအုပ်အရေအတွက်အားဖြင့်(၃၈) ကျမ်းစောင် အရေအတွက်အားဖြင့် (၅၄)စာမျက်နှာ အရေအတွက်အားဖြင့် (၁၃၄၆၉) ရှိလေသည်၊ ဤမျှလောက် များပြားကျယ်ဝန်းလှသော မြတ်စွာဘုရား၏ သာမုက္ကံသိက ဒေသနာ ပိဋကတ်တော် တို့ကို ၁၃၁၅-ခု နှောင်းတန်ခူး လဆန်း ၇-ရက် ၁၀-၄-၅၄ စနေနေ့နံနက် ၈-နာရီ အချိန်တွင် ပြီးဆုံးအောင်မြင် ပါလိမ့်မည်၊ သာသနာတော် နှစ်ပေါင်း ၂၅၀၀-အတွင်းဝယ် တကြိမ် တခါမျှ မကြုံစဖူး သေးသည့်အတွက် အစ္ဆရိယ၊ အဗ္ဘုတ အတိဒုလ္လဘ ဖြစ်သည့် မဖြစ်ဘူး မဖြစ်စဖူး ကြုံကြိုက်ခဲ့သော (ပွဲထူးပွဲမြတ်ကြီး)ကို တ သက်နှင့် တကိုယ် ကံကြုံလိုက်ထောက်မ၍ ကြုံကြိုက်ရသည့်အခါ နေ့စဉ်ကြွရောက်နာ ယူကြ၍ ကောင်းမြတ်သော စေတနာဖြင့် ဖိတ်ကြားအပ်ပါသည်။ (အထူးအားဖြင့် ထိုနိကာယ်ငါးရပ်ပိဋကတ်သုံးပုံ နှုတ်တက် ပူဇော်ပွဲကြီးကို နိုင်ငံတော် ဝန်ကြီးချုပ် ကိုယ်တိုင် စတင်နှုတ်တက်ဖွင့်လှစ်ပြီးလျှင် အဆုံးသတ်၌လည်း နိုင်ငံတော်ဝန်ကြီးချုပ် ကိုယ်တိုင်ပင် နှုတ်တက် အဆုံးသတ်ကာ အောင်ပွဲကျင်းပပါလိမ့်မည် )

နှုတ်တက်ပူဇော်မည့် နေရာမှာ ဆဋ္ဌသင်္ဂီတိ မဟာပါသာဏဂုဟာ လိုဏ်ဂူ တော်ကြီး ဖြစ်၍၊ နှုတ်တက် ပူဇော်မည့် အချိန်မှာ နံနက် ၆-နာရီဖြစ်၍၊ အစနေ့မှာ နိုင်ငံတော် ဝန်ကြီးချုပ်က ဝိနည်းပိဋကတ် ပါရာဇိကဏ်ပါဠိတော်ကို စတင်နှုတ်တက် ပူဇော်၍ အခမ်းအနား ဖွင့်လှစ်ပြီး သာသနာရေးဝန်ကြီးကဆက်လက်၍နှုတ်တက် ပူဇော်ပြီးလျှင် အလှည့်ကျ ဆရာများ နှုတ်တက်ပူဇော်သွားလိမ့်မည်ဖြစ်ပါကြောင်း.

## နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့ အုပ်ချုပ်ရေး အရာရှိချုပ်ရုံး ကမ္ဘာအေးသို့ ရွှေ့မည်။

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ အုပ်ချုပ် ရေးအရာရှိချုပ်ရုံး (ပိဋက မြန်မာပြန် ဌာန၊ ဗုဒ္ဓဝင်ဌာနများ အပါအဝင်) ကို ဧပြီလပထမပတ်အတွင်း သာသနာ့ရိပ်သာ မှ ကမ္ဘာအေးသို့ ရွှေ့မည်ဖြစ်ကြောင်း။ ပါဠိဝိသောဓက ဆရာတော်များမှာမူ ၂၁-၃-၅၄ နေ့တွင် တောင်ရွှေပြောင်း တော်မူကြလိမ့်မည်ဖြစ်ကြောင်း။

## သံဂါယနာ စာစောင် ကမ္ဘာပြန့်ပွဲ

သံဂါယနာမြန်မာ စာစောင် အတွဲ-၁ အမှတ်(၁၁) တွင် ထည့်သွင်းရန် ပေးပို့ ထားသည့် ဆဋ္ဌသံဂါယနာဘွဲ့-ဂဝ ပေါ် တေးထပ်ကဗျာများကို အတွဲ-၁ အမှတ် (၁၁)တွင် ထည့်သွင်းရန်မူလကစီစဉ် ထားသော်လည်း၊ စာတည်း အဖွဲ့ဝင် လူကြီးများမအားလပ်သည့်အကြောင်း၊ စာစောင်များကိုအဖွဲ့ စာပုံနှိပ်စက် သို့ ပြောင်းရွှေ့ ရိုက်နှိပ်ရန် စီမံနေရသည့်က တကြောင်းတို့ကြောင့်၊ နောက်လာမည့် အတွဲ-၁ အမှတ်(၁၂)အထူးထုတ်တွင်မ ဖေါ်ပြနိုင်တော့မည် ဖြစ်ကြောင်းကို ဖွင့်ဆိုဝင် ကဗျာရှင်များအား သိစေ အပ် ပါသည်။ အယ်ဒီတာ။

## နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့တွင် ရနိုင်သော ကျမ်းစာများနှင့်ဈေးနှုန်းများစာရင်း

| | | ကျပ်။ | | ပြား။ |
|---|---|---|---|---|
| (၁) | ပဋိသမ္ဘိဒါမဂ် ဘာသာပြန် (ခံကျောင်း) | ၆ | — | ၀၀ |
| (၂) | ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ မြန်မာပြန် (ပဌမတွဲ) | ၆ | — | ၀၀ |
| (၃) | ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ မြန်မာပြန် (ဒုတိယတွဲ) | ၅ | — | ၅၀ |
| (၄) | မူလပဏ္ဏာသဋီကာ (ပဌမတွဲ) | ၆ | — | ၀၀ |
| (၅) | မူလပဏ္ဏာသဋီကာ (ဒုတိယတွဲ) | ၅ | — | ၅၀ |
| (၆) | မဇ္ဈိမနှင့် ဥပရိပဏ္ဏာသဋီကာ | ၆ | — | ၅၀ |
| (၇) | ဗါးကရာသဘိုဟ်အဓိပ္ပါယ်ကောက် | ၂ | — | ၅၀ |
| (၈) | မြို့ပြင်ကြီးသဘိုဟ်အဓိပ္ပါယ်ကောက် | ၂ | — | ၅၀ |
| (၉) | အဘိဓမ္မာသရူပဒီပနီ | ၂ | — | ၅၀ |
| (၁၀) | ဆုတောင်းခန်းပျို့ | ၁ | — | ၇၅ |
| (၁၁) | ပါရမီတော်ခန်းပျို့ | ၁ | — | ၇၅ |
| (၁၂) | နေမိငနဲ့ခန်းပျို့ | ၁ | — | ၇၅ |
| (၁၃) | အဘိဓမ္မာနေ့အရေးတော်ပုံ | ၁ | — | ၅၀ |
| (၁၄) | သာသနာ့ရောင်ခြည်စာစောင် | ၁ | — | ၀၀ |
| (၁၅) | ဓမ္မရောင်ခြည် (အင်္ဂလိပ်) စာစောင် | ၁ | — | ၅၀ |
| (၁၆) | သံဂါယနာ (မြန်မာ) စာစောင် | | — | ၂၅ |
| (၁၇) | သံဂါယနာ (အင်္ဂလိပ်) စာစောင် | | — | ၂၅ |

ဝိသုဒ္ဓိမဂ္ဂ အဋ္ဌကထာ မြန်မာပြန် တတိယတွဲမှာ ပုံနှိပ်နေပြီ ဖြစ်ပါ၍ မကြာမီ ရက်အတွင်း ထွက်ပေါ်လာတော့မည်ဖြစ်ပါကြောင်း၊

( ဝိန်းမောင် )
အုပ်ချုပ်ရေးအရာရှိချုပ်
နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့
သာသနာ့ရိပ်သာ၊ ကဘာ်ကိုင်း၊ ရန်ကုန်၊

တလတကြိမ်ထုတ်ဝေသည်၊ စောင်ရေ-၁၁၀၀၀၊ အယ်ဒီတာ-ဦးသာတင်
တယ်လီဖုံး မြောက်-၃၉၂၊ သာသနာ့ရိပ်သာ-ကုတ်ကိုင်း၊ ရန်ကုန်မြို့

နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့ စာပုံနှိပ်တိုက်။